THE

# NEW TESTAMENT,

## IN BURMESE.



ကယ်တင်တော်မူသော

# အရှင်သခင်ယေရှုခရစ်၏

# ဓမ္မသစ်ကျမ်း

နှစ်ဆယ်ခုနှစ်ကျမ်းကို ဟောသော ပါဠိတော်မှ မြန်မာ ဘာသာ အားဖြင့်

အနက်ပြန်၍ ပုံနှိပ်သော စာစောင်။

Maulmein.

1832.

## ။ဓမ္မသစ်ကျမ်း ၂၇ ကျမ်း၏အမည်ကား။

| | |
|---|---|
| ရှင်မဿဲခရစ်ဝင် | မဿ |
| ရှင်မာကုခရစ်ဝင် | မာ |
| ရှင်လုကာခရစ်ဝင် | လု |
| ရှင်ယောဟန်ခရစ်ဝင် | ယော |
| တမန်တော်ဝတ္ထု | တ |
| ရောမဩဝါဒစာ | ရော |
| ကောရိန္သုဩဝါဒစာပဌမစောင် | ၁ ကော |
| ကောရိန္သုဩဝါဒစာဒုတိယစောင် | ၂ ကော |
| ဂလာတိဩဝါဒစာ | ဂ |
| ဧဖက်ဩဝါဒစာ | ဧ |
| ဖိလိပ္ပိဩဝါဒစာ | ဖိ |
| ကောလောသဲဩဝါဒစာ | ကော |
| သက်သာလောနိတ်ဩဝါဒစာပဌမစောင် | ၁ သက် |
| သက်သာလောနိတ်ဩဝါဒစာဒုတိယစောင် | ၂ သက် |
| တိမောသေဩဝါဒစာပဌမစောင် | ၁ တိ |
| တိမောသေဩဝါဒစာဒုတိယစောင် | ၂ တိ |
| တိတုဩဝါဒစာ | တိ |
| ဖိလေမုန်မေတ္တာစာ | ဖိလေ |
| ဟေဗြဲဩဝါဒစာ | ဟေ |
| ရှင်ယာကုပ်ဩဝါဒစာ | ယာ |
| ရှင်ပေတရုဩဝါဒစာပဌမစောင် | ၁ ပေ |
| ရှင်ပေတရုဩဝါဒစာဒုတိယစောင် | ၂ ပေ |
| ရှင်ယောဟန်ဩဝါဒစာ | ၁ ယော |
| ရှင်ယောဟန်မေတ္တာစာပဌမစောင် | ၂ ယော |
| ရှင်ယောဟန်မေတ္တာစာဒုတိယစောင် | ၃ ယော |
| ရှင်ယုဒဩဝါဒစာ | ယု |
| ဗျာဒိတ်ကျမ်း | ဗျာ |

။ ရှင်မဿဲခရစ်ဝင် ။

၁ အာဗြဟံနှင့်ဒါဝိဒ်တို့မှဆင်းသက်တော်မူသောယေရှုခရစ်၏ဆွေတော်
၂ စဉ်မျိုးတော်ဆက်စာရင်းဟူမူကား။ ။အာဗြဟံသားဣဇာက်။
၃ ဣဇာက်သားယာကုပ်။ယာကုပ်သားယုဒမှစ၍ညီနောင်တစု။ ယုဒ
သည် မိမိ ခင်ပွန်း သာမာတွင် မြင်သောသားဖာရက် နှင့်ဇာရ။ ဖာ
၄ ရက်သားဟေဇရုံ။ဟေဇရုံသားအာရံ။ အာရံသားအမိနဒပ်။အမိနဒပ်သား
၅ နာရှုန်။နာရှုန်သားစလမုန်။ စလမုန်သည်မိမိခင်ပွန်းရာခပ်တွင်မြင်
သောသားဗောဇ။ ဗောဇသည် မိမိ ခင်ပွန်း ရုသ တွင်မြင်သောသား
ဩဗက်။ဩဗက်သားယေရှဲ။ယေရှဲသားဒါဝိဒ်မင်းကြီးတည်း ။
၆ ဒါဝိဒ်မင်းကြီးသည်ဥရိယ၏ခင်ပွန်းဖြစ်ဘူးသောမိန်းမတွင်မြင်သော
၇ သားရှောလမုန်။ ရှောလမုန်သားရောဗောင်။ရောဗောင်သား
၈ အဘိယ။အဘိယသားအာသ။ အာသသား ယောရှဖတ်။ယောရှဖတ်
၉ သားယောရံ။ယောရံသားဩဇိ။ ဩဇိသားယောသံ။ယောသံသား
၁၀ အာခတ်။အာခတ်သားဟေဇကိ။ ဟေဇကိသားမနာရှေ။မနာရှေ
၁၁ သားအာမုန်။အာမုန်သားယောရှိ။ ယောရှိသားယောကိန်မှစ၍ညီ
နောင်တစု။ ယောကိန် သည် ဗာဗုလုန် မြို့ သို့ နေရာပြောင်း ခါနီးတွင်
၁၂ မြင်သောသားယေခေါနိတည်း။ ။ဗာဗုလုန်မြို့သို့နေရာပြောင်း
သောနောက်။ ယေခေါနိသားရှလသေလ။ ရှလသေလသားဇောရောဗ
၁၃ ဗေလ။ ဇောရောဗဗေလသားအဗျုဒ်။ အဗျုဒ်သားဧလျာကိမ်။ ဧလျာ
၁၄ ကိမ်သားအာဇော်။ အာဇော်သားဇာဒုတ်။ဇာဒုတ်သားအာခိမ်။အာ
၁၅ ခိမ်သားဧလျုဒ်။ ဧလျုဒ်သားဧလာဇာ။ဧလာဇာသားမဿန်။မဿန်
၁၆ သားယာကုပ်။ ယာကုပ်သားမာရိ၏ခင်ပွန်းယောသပ်တည်း။ ထို
မာရိသည်ခရစ်ဟုခေါ်ဝေါ်အပ်သောယေရှု၏မယ်တော်ဖြစ်၏။
၁၇ ။ဤသို့လျှင်မျိုးစဉ်ဆက်ပေါင်းကား။အာဗြဟံမှသည်ဒါဝိဒ်
တိုင်အောင်တဆယ်လေးဆက်။ ဒါဝိဒ်မှ သည် ဗာဗုလုန် မြို့ သို့ နေရာ
ပြောင်းသည်တိုင်အောင်တဆယ်လေးဆက်။ ဗာဗုလုန် မြို့သို့ပြောင်း
ပြီးမှသည်ခရစ်တော်တိုင်အောင်တဆယ်လေးဆက်ဖြစ်သတည်း။
၁၈ ။ယေရှုခရစ်သည် ဖွားမြင်တော်မူသည်အကြောင်းအရာဟူ

မှုကား။မယ်တော်မာရိသည်ယောသပ်နှင့်ထိမ်းမြားဆောင်နှင်း၍မ
ရှက်တင်မှီတွင်သန့်ရှင်းသောဝိညာဉ်တော်ပေးတော်မူ‌သောပဋိသ
၁၉ န္ဓေစွဲခဲ့၏။ သူ၏ခင်ပွန်းယောသပ်သည်သူတော်ကောင်းဖြစ်၍မာ
ရိအသရေကိုမပျက်စေချင်သောကြောင့်တိတ်ဆိတ်စွာစွန့်ပယ်မည်
၂၀ အကြံရှိ၏။ ထိုသို့ကြံစည်၍နေစဉ်အိမ်မက်ကိုမြင်လေသည်မှာ။ထာ
ဝရဘုရားစေလွှတ်တော်မူသောကောင်းကင်တမန်သည်ကိုယ်ထင်ရှား
ရှိ၍ ဒါဝိဒ်အမျိုး ယောသပ်။ သင်၏ခင်ပွန်းမာရိကိုထိမ်းသိမ်းရမည်
အခွင့်ကိုမစိုးရိမ်နှင့်။ပဋိသန္ဓေစွဲယူသည်ကားသန့်ရှင်းသောဝိညာဉ်
၂၁ တော်ပေးတော်မူသတည်း။ သားသောကျား ကို ဖွားမြင်လိမ့်မည်။
ထိုသားသည်မိမိလူတို့ကိုအပြစ်မှကယ်ချွတ်မည်သူဖြစ်သောကြော
င့်ယေရှုဟူသောအမည်ဖြင့်မှည့်ရမည်ဟုကောင်းကင်တမန်ဆို၏။
၂၂ ။ဤအကြောင်းအရာကား။ထာဝရဘုရားသည်ပရောဖက်
ဖြင့်ထားတော်မူသောဗျာဒိတ်တော်ပြည့်စုံမည့်အကြောင်းတည်း။
၂၃ ဗျာဒိတ်တော်အချက်ဟူမူကား။ကြည့်ရှုလော့။သတို့သမီးကညာတယော
က်သည်ပဋိသန္ဓေစွဲယူ၍သားယောကျ်ားကိုဖွားမြင်လတံ့။ ထိုသား
ကိုလည်းဧမာနွေလအမည်ဖြင့်မှည့်ကြလတံ့ဟုလာသတည်း။ ဧမာနွေ
လအနက်ကားငါတို့တွင်နေသောဘုရားသခင်ဟုဆိုလိုသတည်း။
၂၄ ယောသပ်သည်အိပ်ပြော်ရာမှနိုးလျှင်ထာဝရဘုရား၏ကောင်းကင်
တမန်မှာထားသည်အတိုင်းပြု၍မိမိခင်ပွန်းကိုထိမ်းသိမ်းလေ၏။
၂၅ သို့ရာတွင်သားဦးကိုဖွားမြင်သည်တိုင်အောင်သံဝါသမပြုဘဲနေ
၏။ထိုသားကိုလည်းယေရှုဟူသောအမည်ဖြင့်မှည့်လေ၏။

**

၁ ယုဒပြည်ဗက်လင်မြို့၌ဟေရုဒ်မင်းကြီးလက်ထက်ယေရှုဖွားမြင်တော်
မူပြီးမှမာဂုပညာရှိတို့သည် အရှေ့ပြည်ကယေရုရှလင်မြို့သို့ရောက်
၂ လာလျှင် ယခုဖွားမြင်သောယုဒရှင်ဘုရင်သည်အဘယ်မှာရှိတော်
မူသနည်း။ အရှေ့ပြည်၌သူ၏ကြယ်နက္ခတ်ကိုငါတို့သည်မြင်ရသည်
ဖြစ်၍ဖူးတွေ့ပူဇော်ခြင်းငှါရောက်လာပြီးဟုမေးမြန်းပြောဆိုကြ၏။
၃ ထိုစကားကိုကြားလျှင်ဟေရုဒ်မင်းကြီးသည်ယေရုရှလင်မြို့သူများ
၄ အပေါင်းတို့နှင့်တကွစိတ်ပူပန်ခြင်းသို့ရောက်သဖြင့် ယဇ်ပရောဟိ
တ်အကြီးတို့နှင့် လူထဲ၌ ကျမ်းပြုဆရာရှိသမျှတို့ကိုစုဝေးစေ၍ခရစ်
တော်သည်အဘယ်အရပ်မှာဖွားမြင်ရအံ့နည်းဟုမေးမြန်းတော်မူ

၅ ၏။ ထိုဆရာတို့လည်း ပရောဖက်တပါး ရေးထားသောအချက် ဟူ
၆ မူကား။ အိုယုဒပြည် ဗက်လင်မြို့။ အစိုးရသောယုဒမြို့တို့တွင်သင်
သည်မြို့ငယ်မြို့ယက်မဟုတ်။အဘယ်ကြောင့်နည်းဟူမူကား။ငါ့လူ
ဣသရေလအမျိုးကို အုပ်စိုးရသော သခင် သည်သင်ထဲမှာပေါ်ထွန်း
လတ္တံ့ဟုကျမ်းလာရှိပါ၏။ထိုကြောင့်ယုဒပြည်ဗက်လင်မြို့၌ခရစ်တော်
ကော်သည် ဖွားမြင်ရမည် ဟု မင်းကြီး အားပြန် ကြားလျှောက်ထား
၇ ကြ၏။ ။ထိုအခါဟေရုဒ်မင်းကြီးသည်မာဂုပညာရှိတို့ကိုမ
ထင်မရှားခေါ်၍ ကြယ်နက္ခတ် ပေါ်ထွန်းသော အချိန် ကာလ ကို စေ့စေ့
၈ မေးမြန်းပြီးမှ သင်တို့သွား၍ ထိုသူငယ်ကိုကျိုးစားရှာကြ။ တွေ့ပြီး
လျှင်ငါလည်းသို့ပြန်၍ငါသည်လည်း ထိုသူငယ်ကိုဖူးတွေ့ပူဇော်ရအောင်
ကြားပြောကြပါဟုမှာထားတော်မူ လျှက်ဗက်လင်မြို့သို့စေလွှတ်လေ
၉ ၏။ ထိုသူတို့သည်မင်းကြီးစကားကိုနားခံပြီးလျှင် ထွက် သွားကြ၍
အရှေ့ပြည်၌မြင်ရသောနက္ခတ်သည် သူတို့ရှေ့ရှုသွား သဖြင့် သူငယ်
၁၀ တော်ရှိရာအရပ်အပေါ်သို့ရောက်၍တည်လျက်နေ၏။ ထိုနက္ခတ်ကို
၁၁ မြင်ပြန်လျှင်အလွန်ဝမ်းမြောက်ဝမ်းသာခြင်းသို့ရောက်၍ အိမ်သို့ဝင်
လေသော်မယ်တော်မာရိနှင့်တကွသူငယ်တော်ကိုတွေ့မြင်ပြီးမှညွှတ်
ပျပ်ပူဇော်၍မိမိဘဏ္ဍာဥစ္စာတို့ကိုဖွင့်သဖြင့်လောဗန်နှင့်မုရန်တည်း
၁၂ ဟူသောနံ့သာမျိုးကိုရွှေကိုရင်ဆက်ကပ်ကြ၏။ နောက်မှာဟေ
ရုဒ်မင်းကြီးအထံသို့မပြန်ရမည်အကြောင်း။ဗျာဒိတ်တော်ကိုရ၍မိမိ
၁၃ တို့ပြည်သို့အချားသောလမ်းဖြင့်ပြန်သွားကြ၏။ ။ထိုသူတို့
သည်သွားကြသောနောက်ယောသပ်သည်အိပ်မက်ကိုမြင်သည်တွင်
ထာဝရဘုရား၏ကောင်းကင်တမန်သည်ကိုယ်ထင်ရှား၍ သင်ထ
တော့။ မယ်တော်နှင့်သူငယ် တော်ကို ဆောင်ယူသဖြင့်အဲဂုတ္တုပြည်
သို့ပြေး၍ငါကတဖန်ပြောဆိုသည်တိုင်အောင်ထိုပြည်၌နေတော့။ဟေ
ရုဒ်မင်းကြီးသည်သူငယ်တော်ကိုသတ်အံ့သောငှါရှာလိမ့်မည် ဟုဆို
၁၄ လေ၏။ ထိုအခါယောသပ်ထ၍မယ်တော်နှင့် သူငယ်တော်ကိုညဉ့်
၁၅ အချိန်တွင်ဆောင်ယူသဖြင့် အဲဂုတ္တုပြည်သို့ ထွက် သွား၍ ဟေရုဒ်
မင်းကြီးအနိစ္စရောက် သည် တိုင် အောင် ထိုပြည် ၌ နေလေ၏။ ဤအ
ကြောင်းအရာကားငါသားကိုအဲဂုတ္တုပြည် မှ ငါ ခေါ် ခဲ့ပြီးဟုထာဝရ
ဘုရားသည်ပရောဖက်ဖြင့်ထားတော်မူ သော ဗျာဒိတ် တော် ပြည့်စုံ
၁၆ မည်အကြောင်းတည်း။ ။ထိုအခါဟေရုဒ်မင်းကြီးသည်မာဂု

ပညာရှိတို့လှည့်ဖျားသည်ကိုသိလျှင်ပြင်းစွာအမျက်ထွက်၍ လူကို
စေလွှတ်သဖြင့်မာဂုပညာရှိတို့၌စေ့စေ့မေးမြန်းခဲ့ပြီးသောနက္ခတ်၏
အချိန်ကာလကိုထောက်၍ဗက်လင်မြို့မှစသောကျေးလက်ရှိသမျှတို့၌
နှစ်နှစ်အရွယ်မှစ၍ထိုအရွယ်အောက်ယုတ်သောသူငယ်ယောကျ်ား
၁၇ အပေါင်းတို့ကိုသတ်စေ၏။ ပရောဖက် ယေရမိ ဟောဘူး သည်
၁၈ ကား။ ရာမအရပ်၌သည်းစွာသောညည်းတွားငိုကြွေး မြည်တမ်
ခြင်းအသံကိုကြားရ၍ရာခေလသည်မိမိသားတို့မရှိသော့ကြောင့်ငို
၍စိတ်မပြေနိုင်ဟူသောစကားသည်ထိုအခါ၌အမှန်ဖြစ်သတည်း။
၁၉ ။ဟေရုဒ်မင်းကြီးသည်အနိစ္စရောက်သောနောက်ယောသပ်
သည်အဲဂုတ္တုပြည်၌ အိပ်မက်ကိုမြင်ပြန်သဖြင့်ထာဝရဘုရား၏
၂၀ ကောင်းကင်တမန်သည်ကိုယ်ထင်ရှားရှိ၍ သင်ထတော့။မယ်တော်
နှင့်သူငယ်တော်ကိုဆောင်ယူသဖြင့်ဣသရေလတိုင်းသို့သွားတော့။
သူငယ်တော်ကိုသတ်အံ့သောငှါရှာသောသူတို့သည်သေကြပြီးဟုဆို
၂၁ လေ၏။ ထိုအခါယောသပ်သည်ထ၍မယ်တော်နှင့်သူငယ်တော်ကို
ဆောင်ယူသဖြင့်ဣသရေလတိုင်းသို့သွား၍ရောက်သည်ရှိသော်
၂၂ ဟေရုဒ်မင်းကြီး၏အရာ၌သားတော်အာခေလသည်ယုဒပြည်ကိုမင်း
ပြုကြောင်းကိုကြားရလျှင်ထိုပြည်သို့မသွားဝံ့၍အိပ်မက်၌ဗျာဒိတ်
၂၃ တော်ကိုရပြန်ပြီးမှဂါလိလဲပြည်သို့သွား၍ ခရစ်တော်ကိုနာဇရက်
လူဟုခေါ်ဝေါ်ကြလတ့ံ ဟူသောပရောဖက်တို့၏နှုတ်ထွက်နှင့်အညီ
နာဇရက်အမည်ရှိသောမြို့သို့ရောက်၍အမြဲနေလေ၏။

**

၁။၂ ထိုကာလအခါရေနှစ်ခြင်းကိုပေးသောဆရာယောဟန်သည်ပေါ်လာလျှင်ကော
င်းကင်နိုင်ငံတော်သည်တည်လုနီးပြီ။ထိုကြောင့်နောင်တရကြလော့ဟု
၃ ယုဒတော၌ဟောလေ၏။ ပရောဖက်ဟေရှာယသည်ဟောဘူးသည်
ကား။ ဟစ်ကျော်သောသူ၏အသံမှာ။ ထာဝရဘုရားကြွတော်မူ
ရာလမ်းကိုတော၌ပြင်ကြလော့။ လမ်းခရီးတော်ကိုဖြောင့်စေကြလော့
၄ ဟူသောအချက်၌ထိုယောဟန်ကိုဆိုလိုသတည်း။ ယောဟန်သည်
ကုလားအုတ်အမွေးနှင့်ရက်သောအဝတ်ကိုဝတ်လျက်ခါး၌သားရေ
ခါးပန်းကိုစည်းလျက်ကျိုင်းကောင်နှင့်ပျားရည်ကိုစားလျက်နေ
၅ ၏။ ထိုအခါယေရုရှလင်မြို့မှစ၍ယုဒပြည်သူပြည်သားယော်ဒန်မြစ်
၆ နားမှာနေသောသူအပေါင်းတို့သည်ယောဟန်ထံသို့ထွက်သွား၍မိမိ

တို့အပြစ်များကို ဖော်ပြလျက်ယော်ဒန်မြစ်၌ရေနှစ်မင်္ဂလာကိုခံကြ
၇ ၏။ ။ဖာရိရှဲလူ။ဇဒ္ဒုကဲလူအများတို့သည်ရေနှစ်မင်္ဂလာကိုခံ
လိုသော၍လာကြသည်ကိုယောဟန်သည်မြင်လျှင်အချင်းမြွေဆိုးအ
မျိုးတို့။ရောက်လုသောဘေးဒါဏ်မှပြေးသွားစိမ့်သော၍အဘယ်သူ
၈ သည်သင်တို့ကိုသတိပေးဘိသနည်း။ နောင်တရခြင်းနှင့်ထိုက်တန်
၉ သောအကျင့်ကိုကျင့်ကြလော့။ အာဗြဟံသည်ငါတို့အဖဖြစ်သည်ဟူ
၍စိတ်ထဲ၌မအောင်းမေ့ကြနှင့်။ဘုရားသခင်သည် ဤကျောက်ခဲတို့မှ
အာဗြဟံသားတို့ကိုထုပ်ဖော်ဖန်ဆင်းနိုင်တော်မူသည်ဟုငါအမှန်
၁၀ ဆို၏။ သစ်ပင်အမြစ်နားမှာ ပေါက်ဆိန်ထားလျက်ရှိသည်ဖြစ်၍
ကောင်းသောအသီးမသီးသောအပင်ရှိသမျှတို့ကိုခုတ်လှဲ၍ထင်းဖြစ်
၁၁ ရ၏။ နောင်တရခြင်းအလို၍ငါသည်သင်တို့အားရေ၌သာနှစ်ခြင်း
ကိုပေး၏။ငါနောက်ကြွလာသောသူသည်ငါထက်တတ်စွမ်းနိုင်ပေ၏။
သူ၏ခြေနင်းတော်ကိုမျှကိုင်ခြင်း၍ငါမထိုက်။ ထိုသူသည်သန့်ရှင်း
၁၂ သောဝိညာဉ်တော်၌၎င်မီး၌၎င်သင်တို့ကိုနှစ်တော်မူမည်။ လက်
တော်တွင်စံကောပါလျက်မိမိကောက်နယ်တလင်းကိုရှင်းလင်းစေသ
ဖြင့်ဂျုံစပါးကိုကားကျီ၌စုသိမ်းသွင်းထား၍အဖျင်းကိုကားမငြိမ်း
နိုင်သောမီးနှင့်ရှို့တော်မူလတ့ံဟုယောဟန်ဟောပြော၏။ ။
၁၃ ထိုအခါယေရှုသည်ရေနှစ်မင်္ဂလာကိုခံလိုသော၍ဂါလိလဲပြည်မှယော်
၁၄ ဒန်မြစ်နား။ယောဟန်ထံသို့ကြွတော်မူ၏။ ယောဟန်ကလည်းအ
ကျွန်ုပ်သည် ကိုယ်တော်ထံရေနှစ်မင်္ဂလာကိုခံရသည်အကြောင်းရှိ
သည်ဖြစ်၍ ကိုယ်တော်သည်အကျွန်ုပ်ထံသို့ကြွလာတော်မူပါသ
၁၅ လောဟူ၍ယေရှုကိုမြစ်တားလေ၏။ ယေရှုကလည်းအလုံးစုံသော
တရားတို့ကိုအကုန်အစင်ကျင့်သင့်သည်ဖြစ်၍အခွင့်ပေးပါတော့
၁၆ ဟုပြန်ပြောတော်မူ၏။ထိုအခါယောဟန်သည်ဝန်ခံလေ၏။ ယေရှု
သည်ရေနှစ်မင်္ဂလာကိုခံတော်မူပြီးလျှင်ရေမှပေါ်ထစည်တွင်ကောင်း
ကင်ဖွင့်လှစ်သဖြင့် ဘုရားသခင်၏ဝိညာဉ်တော်သည်ချိုးငှက်ကဲ့
၁၇ သို့ဆင်းသက်၍ကိုယ်တော်အပေါ်၌နားတော်မူသည်ကိုမြင်ရ၍ ဤ
သူကား ငါနှစ်သက်မြတ်နိုးရာ ငါ၏ချစ်သားပေတည်းဟုကောင်း
ကင်ကအသံတော်ဖြစ်လေ၏။



၁ ထိုအခါယေရှုသည်မာရ်နတ်၏စုံစမ်းသွေးဆောင်ခြင်းကိုခံအံ့သော

၂ ဝိညာဉ်တော်သည်တောသို့ပို့ဆောင်တော်မူ၏။ နေ့ညဉ့်မပြတ်
အရက်လေးဆယ်ပတ်လုံးအစာအာဟာရကိုမသုံးဆောင်ဘဲနေပြီးမှ
၃ မွတ်သိပ်တော်မူ၏။ ထိုအခါစုံစမ်းသွေးဆောင်သောသူသည်ချဉ်း
ကပ်၍ကိုယ်တော်သည်ဘုရားသခင်၏သားတော်မှန်လျှင် ဤကျော
က်ခဲတို့သည်မုန့်ဖြစ်အောင်အမိန့်ရှိတော်မူပါဟုလျှောက်လေ၏။
၄ ယေရှုကလည်းလူသည်မုန့်တခုအားဖြင့်သာအသက်ကိုမွေးရသည်မ
ဟုတ်။ ဘုရားသခင်မိန့်တော်မူသမျှအားဖြင့်အသက်ကိုမွေးရ၏ဟု
၅ ကျမ်းစာလာသည်ဟုပြန်ပြောတော်မူ၏။ ။ထိုအခါမာရ်နတ်
သည်ကိုယ်တော်ကိုသန့်ရှင်းသောမြို့တော်သို့ယူဆောင်၍ဗိမာန်
၆ တော်၏အထွဋ်ချွန်တင်ထားပြီးလျှင် ကျမ်းစာလာသည်ကား။ကောင်း
ကင်တမန်တို့ကိုသင်အတွက်မှာထားတော်မူသည်ဖြစ်၍ သင်၏ခြေ
နှင့်ကျောက်ကိုမျှမထိမခိုက်ရအောင်သူတို့သည်သင်ကို လက်နှင့်မစ
ချီပင့်ကြလိမ့်မည်ဟုလာ၏။ ထိုကြောင့်ဘုရားသခင်၏သားတော်မှန်
လျှင်အောက်သို့ကိုယ်ကိုကိုယ်ချလိုက်တော်မူပါဟုလျှောက်လေ၏။
၇ ယေရှုကလည်းသင်၏ဘုရားသခင်တည်းဟူသောထာဝရဘုရားကို
သင်သည်အစုံအစမ်းမပြုရဟုကျမ်းစာလာပြန်သည်ဟုမိန့်တော်မူ၏။
၈ ။တဖန်တုံ။မာရ်နတ်သည်ကိုယ်တော်ကိုအလွန်မြင့်လှစွာသော
တောင်ပေါ်သို့ယူဆောင်၍ ဤလောက၌ရှိသမျှသောတိုင်းနိုင်ငံတို့ကို
၉ ၎ထိုတိုင်းနိုင်ငံတို့၏ဘုန်းစည်းစိမ်ကို၎ပြညွှန်၍ကိုယ်တော်သည်ငါကို
ညွှတ်ပျပ်ကိုးကွယ်လျှင်ယခုပြလေသမျှတို့ကိုငါပေးမည်ဟုဆိုလေ၏။
၁၀ ယေရှုကလည်းအချင်းစာတန်။ငါနောက်သို့ဆုတ်တော့။သင်၏ဘုရား
သခင်တည်းဟူသောထာဝရဘုရားကိုကိုးကွယ်ရမည်။ ထိုဘုရားသ
၁၁ ခင်ကိုသာဝတ်ပြုရမည်ဟုကျမ်းစာလာသည်ဟုမိန့်တော်မူ၏။ ထိုအ
ခါမာရ်နတ်သည် အထံတော်မှထွက်သွား၍ ကောင်းကင်တမန်တို့
၁၂ သည်ချဉ်းကပ်လျက်လုပ်ကျွေးကြ၏။ ။ယောဟန်
သည်ထောင်ထဲသို့ရောက်ကြောင်းကို ယေရှုကြားလျှင်ဂါလိလဲပြည်
၁၃ သို့ကြွတော်မူ၍ နာဇရက်မြို့ကိုရှောင်လျက်ဇဗုလုန်ခရိုင်။ နဿလိ
ခရိုင်စပ်ကြားတွင်အိုင်နှင့်နီးစပ်သော ကပေရနောင်မြို့သို့ရောက်၍
၁၄ နေတော်မူ၏။ ဤအကြောင်းအရာကားပရောဖက်ဟေရှာယ၏နှုတ်
၁၅ ထွက်ပြည့်စုံမည်အကြောင်းတည်း။ နှုတ်ထွက်အချက်ဟူမူကား။အိုင်
နားရှောက်သောလမ်း။ယော်ဒန်မြစ်၏အနား။ဇဗုလုန်ခရိုင်။နဿလိခ

၁၆ ရိုင်တည်းဟူသောတပါးအမျိုးသားနေရာဂါလိလဲပြည်၌ မှောင်မိုက်
ထဲတွင်ရှိနေသောလူများတို့သည်ကြီးစွာသောအလင်းကိုမြင်သည်
ဖြစ်၍သေမင်း၏နိုင်ငံအရိပ်တွင်ရှိနေသောသူတို့၌အလင်းပေါ်ထွန်း
၁၇ လျက်ရှိ၏ဟုဟောထားသတည်း။ ထိုအခါမှစ၍ယေရှုကနောင်တရ
ကြလော့။ကောင်းကင်နိုင်ငံတော်သည်တည်လုနီးပြီးဟူသောတရား
၁၈ ကိုဟောစပြုတော်မူ၏။ ။ဂါလိလဲအိုင်နားမှာကြွတော်မူစဉ်
ပေတရုဟူ၍ခေါ်ဝေါ်သောရှိမုန်နှင့်အန္ဒြေ။ ညီအစ်ကိုနှစ်ယောက်တံ
၁၉ ငါ ဖြစ်၍အိုင်တွင်ပိုက်ကွန်ဖြန့်ချသည်ကိုမြင်တော်မူလျှင် ထိုသူတို့
အားငါနောက်သို့လိုက်ကြလော့။သင်တို့သည်လူကိုမျှားသောတံငါဖြစ်
၂၀ အောင်ငါပြုမည်ဟုအမိန့်တော်ရှိလေသော် ထိုသူတို့သည်ချက်ချင်း
၂၁ ပိုက်ကွန်ကိုစွန့်ပြစ်၍နောက်တော်သို့လိုက်ကြ၏။ ထိုမှလွန်ပြန်လျှင်
အချားသော ညီအစ်ကို နှစ်ယောက်။ ဇေဗေဒဲ၏သား။ ယာကုပ်နှင့်
ယောဟန်တို့သည်သူတို့အဖ နှင့် အတူလှေပေါ်မှာပိုက်ကွန်ပြင် နေ
၂၂ သည်ကိုမြင်၍ခေါ်တော်မူ၏။ ထိုသူတို့သည်လည်းချက်ချင်းအဖနှင့်
လှေကိုစွန့်ပြစ်၍နောက်တော်သို့လိုက်ကြ၏။

❋❋

၂၃ ယေရှုသည်တရားဇရပ်တို့၌ဆုမ္မဩဝါဒပေးလျက်နိုင်ငံတော်နှင့်ဆိုဉ်
သောဧဝံဂေလိတရားကိုဟောလျက် လူတို့တွင်အနာရောဂါအမျိုးမျိုး
တို့ကိုညိမ်းစေလျက်ဂါလိလဲပြည်တပြည်လုံးကိုဒေသစာရီလှည့်လည်
၂၄ တော်မူ၏။ သိတင်းတော်သည်လည်းရှုရိပြည်၌အနှံ့အပြားကျော်စော
သည်ဖြစ်၍နတ်ဝင်သောသူ။ဝက်ရူးစွဲသောသူ။လက်ခြေသေသောသူ
မှစသောအထူးထူးအပြားပြား သော အနာရောဂါစွဲ ၍ မကျန်းမာ
သောသူရှိသမျှတို့ကိုအထံတော်သို့ဆောင်ခဲ့၍သူတို့၏အနာရောဂါ
၂၅ ကိုညိမ်းစေတော်မူ၏။ ဂါလိလဲပြည်။ဒေကပေါလိပြည်။ယေရုရှလင်
မြို့မှစသောယုဒပြည်။ယော်ဒန်မြစ်နားမှလာသောလူများအပေါင်းတို့
၁ သည်နောက်တော်သို့လိုက်ကြ၏။ ။ထိုလူအပေါင်းတို့ကိုမြင်လျှင်
ကိုယ်တော်သည်တောင်ပေါ်သို့တက်၍ထိုင်တော်မူသောအခါတပည့်
၂ တော်တို့သည်ကိုယ်တော်ရင်းသို့ချဉ်းကပ်ကြ၏။ ထိုအခါနှုတ်တော်
၃ ကိုဖွင့်၍တပည့်တော်တို့အားဆုမ္မဩဝါဒပေးတော်မူသည်မှာ။ စိတ်
နှလုံးနှိမ့်ချသောသူတို့သည်မင်္ဂလာရှိ၏။ အဘယ်ကြောင့်နည်းဟူ
၄ မူကား။ကောင်းကင်နိုင်ငံတော်သည်ထိုသူတို့၏နိုင်ငံဖြစ်၏။ စိတ်မ

• သာညည်းတွားသောသူတို့သည် မင်္ဂလာရှိ၏။ အဘယ်ကြောင့်နည်း
၅ ဟူမူကား။ ထိုသူတို့သည်သက်သာခြင်းသို့ရောက်လတ့ံ။ စိတ်နူးညံ့
သိမ်မွေ့သောသူတို့သည်မင်္ဂလာရှိ၏။ အဘယ်ကြောင့်နည်းဟူမူကား။
၆ ထိုသူတို့သည်ပြည်တော်ကိုအမွေခံလတ့ံ။ ဖြောင့်မတ်ခြင်းပါရမီကို
ဆာငတ်ခင်မွတ်သောသူတို့သည် မင်္ဂလာရှိ၏။ အဘယ်ကြောင့်နည်း
၇ ဟူမူကား။ ထိုသူတို့သည်ဝပြောခြင်းသို့ရောက်လတ့ံ။ သနားစုံမက်
တတ်သောသူတို့သည်မင်္ဂလာရှိ၏။ အဘယ်ကြောင့်နည်းဟူမူကား။
၈ ထိုသူတို့သည်သနားစုံမက်ခြင်းကိုခံစားလတ့ံ။ စိတ်နှစ်လုံးဖြူစင်
သောသူတို့သည်မင်္ဂလာရှိ၏။ အဘယ်ကြောင့်နည်းဟူမူကား။ ထိုသူ
၉ တို့သည်ဘုရားသခင်ကိုမြင်ရလတ့ံ။ သူတပါးချင်းခိုက်ရန်ဖြိုခြင်း
ကိုညိမ်းစေတတ်သောသူတို့သည်မင်္ဂလာရှိ၏။ အဘယ်ကြောင့်နည်း
ဟူမူကား။ ထိုသူတို့သည်ဘုရားသခင်၏သားတော်ဟုခေါ်ဝေါ်ခြင်း
၁၀ ကိုခံရလတ့ံ။ ဖြောင့်မတ်ခြင်းတရားကြောင့်နှောင့်ရှက်ညှဉ်းဆဲခြင်း
ကိုခံရသောသူတို့သည်မင်္ဂလာရှိ၏။ အဘယ်ကြောင့်နည်းဟူမူကား။
၁၁ ကောင်းကင်နိုင်ငံတော်သည်ထိုသူတို့၏နိုင်ငံဖြစ်၏။ ငါကြောင့်သင်
တို့ကိုကဲ့ရဲ့ညှဉ်းဆဲ၍ မမှန်ဘဲလျှက်အပြစ်တကာတင်ကြသောအခါ
၁၂ သင်တို့သည်မင်္ဂလာရှိ၏။ ဝမ်းသာရွှင်မြူးခြင်းရှိကြလော့။ အကြောင်း
မူကား။ ကောင်းကင်ဘုံ၌သင်တို့၏အကျိုးသည်ကြီးလှပေ၏။ သင်တို့
ရှေ့ကပေါ်ထွန်းသောပရောဖက်ဆရာတို့ကိုထိုနည်းတူညှဉ်းဆဲ
၁၃ ကြပြီ။ ။ သင်တို့သည်ဤလောက၏ဆားဖြစ်ကြ၏။ ဆားမူ
ကားအငန်ကင်းပျောက်လျှင်ငန်သောအရသာကိုအဘယ်သို့ရပြန်
မည်နည်း။ ပြင်သို့ပြစ်လိုက်၍ကျော်နင်းခြင်းမှတပါးအဘယ်အသုံး
၁၄ မဝင်။ သင်တို့သည်ဤလောက၏အလင်းဖြစ်ကြ၏။ တောင်ထိပ်၌တည်
၁၅ သောမြို့ကိုမကွယ်နိုင်။ ဆီမီးထွန်း၍တောင်းဇလားအောက်၌ဖုံး
ထားလေ့မရှိ။ အိမ်သူအိမ်သားအပေါင်းတို့သည်အလင်းကိုရ
၁၆ အောင်ဆီမီးခုံပေါ်မှာတင်ထားလေ့ရှိ၏။ ထိုနည်းတူ။ သူတပါးတို့
သည်သင်တို့၏ကောင်းသောအကျင့်ကိုမြင်၍ကောင်းကင်ဘုံ၌ရှိ
တော်မူသောသင်တို့အဖ၏ဂုဏ်တော်ကိုချီးမွမ်းစေခြင်းငှါ သူတပါး
၁၇ ရှေ့၌သင်တို့အလင်းကိုလင်းစေကြလော့။ ။ ပညတ်ကျမ်း။ အနာ
ဂတ္တိကျမ်းများကိုဖျက်ပယ်အောင်ငါလာသည်ကိုမထင်ကြနှင့်။ ဖျက်
ပယ်အောင်ငါလာသည်မဟုတ်။ ပြည့်စုံစေအောင်ငါလာသတည်း။

၁၈ ငါအမှန်ဆိုသည်ကား။ကောင်းကင်နှင့်မြေကြီးပျက်စီးသော်လည်း ပ
ညတ်ကျမ်း၌အငယ်ဆုံးသော စာလုံး ဗိန္ဒုတလုံး မျှ ပြည့်စုံ ခြင်း သို့မ
၁၉ ရောက်မှီ၍ပျက်စီးရာ။ ထိုကြောင့်အကြင်သူသည် အငယ်ဆုံးသော
ပညတ်တခုကို လွှန်ကျူး၍သူတပါးလွှန်ကျူးအောင် သွန်သင်၏။ ထို
သူသည်ကောင်းကင်နိုင်ငံတော်၌အသရေမရှိ။ အကြင်သူသည်ကိုယ်
တိုင်ကျင့်၍သူတပါးတို့အားသွန်သင်၏။ထိုသူသည်ကောင်းကင်နိုင်
၂၀ ငံတော်၌အသရေရှိလိမ့်မည်။ သင်တို့အကျင့်သည်ဖာရိရှဲလူ။ ကျမ်း
ပြုဆရာတို့အကျင့်ထက်မလွန်မသာလျှင်ကောင်းကင်နိုင်ငံ တော်သို့
မဝင်ရာဟုငါအမှန်ဆို၏။

**

၂၁ လူအသက်ကိုမသတ်ရ။သတ်သောသူသည် ရုံး၌အပြစ်စီရင် ခြင်းကိုခံ
၂၂ ထိုက်ပေ၏ဟုရှေးပညတ် စကားကိုသင် တို့ကြားရပြီ။ ငါပညတ်
သည်ကား။ညီအစ်ကိုအထောက်မတန်အမျက်ထွက် သောသူသည်ရုံး
၌အပြစ်စီရင်ခြင်းကိုခံထိုက်ပေ၏။ ညီအစ်ကိုကိုကဲ့ရဲ့သောသူ သည်
လွှတ်တော်၌အပြစ်စီရင်ခြင်းကိုခံထိုက်ပေ၏။ ညီအစ်ကိုကိုကျိန် ဆဲ
၂၃ သောသူသည်ဂေဟန်္နာအရပ်၌မီးရှို့ခြင်းကိုခံထိုက်ပေ၏။ ထိုကြော
င့်သင်သည်ပူဇော်သကာကိုယဇ်ပလ္လင်သို့ဆောင်ယူခဲ့လျက်သင် ညီ
အစ်ကိုသည်သင်၌အပြစ်တင် ခွင့်တစုံတခု ရှိသည် ဟု အောင်းမေ့ သ
၂၄ တိရလျှင် ယဇ်ပလ္လင်ရှေ့မှာပူဇော်သကာကိုထား၍ သွားလော့။ ညီ
၂၅ အစ်ကိုနှင့်သင့်တင့်ပြီး မှပြန်၍ ပူဇော်သကာကိုတင်လော့။ တရား
တွေ့ဘက်နှင့်အတူလမ်း၌သွားစည်ပင်သူ၏စိတ်ပြေအောင်အလျင် အ
မြန်ပြုလော့။ သို့မဟုတ်။ဘရားတွေ့ဘက် သည်တရားသူကြီး၌အပ်
မည်။ တရားသူ ကြီးသည်လည်း လုလင် ခေါင်း ၌ အပ်၍ထောင်ထဲ၌
၂၆ လှောင်ထားမည်။ ရေ်ပြာ်ငွေရှိသမျှကိုမရော်မှီကိုင်အောင်ထောင်
၂၇ ထဲကမထွက်ရဟုငါအမှန်ဆို၏။ ။သူမယားကိုမပြစ်မှားရ
၂၈ ဟူသောပညတ်စကားကိုသင်တို့ကြားရပြီ။ ငါပညတ်သည် ကား။
ကိလေသာစိတ်နှင့်သူမယားကိုကြည့်ရှုသောသူသည် စိတ်နှလုံးထဲ
၂၉ ၌ထိုမိမ္မနှင့်ပြစ်မှားလေပြီ။ ထိုကြောင့်လက်ျာမျက်စိဖြစ်သော်လည်း
သင်ကိုလဲ စေ လျှင် ထုတ်ပြစ် လော့။ တကိုယ်လုံးငရဲ ၌ ချ ခြင်းကို ခံရ
၃၀ သည်ထက်အင်္ဂါတခုသာပျက်သော်သာ၍ကောင်း၏။ ထိုနည်းတူ။
လက်ျာလက် ဖြစ်သော်လည်းသင်ကိုလဲစေလျှင်ဖြတ်ပြစ်လော့။ တကို

ယ်လုံးငရဲ၌ချခြင်းကိုခံရသည် ထက် အင်္ဂါတခုသာပျက်သော် သာ၍
၃၁ ကောင်း၏။ ။တဖန်တုံ။မယားနှင့်ကွာလိုလျှင်ဖြတ်စာကိုအပ်
၃၂ ပေးစေဟူသောပညတ်စကားရှိပြီး။ ငါပညတ်သည်ကား။ မှားရှင်း
ခြင်း အကြောင်း မှတပါး အခြား သော အကြောင်း ဖြင့် မိမိ မယား နှင့်
ကွာသောသူသည်မိမိမယားကိုမှားရှင်းစေ၏။ကွာသောမိန်းမနှင့်အိမ်
ထောင်ဖက်ပြုသောသူသည်လည်းသူမယားကိုပြစ်မှား၏။ ။
၃၃ တဖန်တုံ။မဟုတ်မမှန်ဘဲလျက်ကျိန်ဆိုခြင်းကိုမပြုရ။ကျိန်ဆိုခြင်းကို
ပြုသည်အတိုင်းထာဝရဘုရားရှေ့ကည်စေလော့ဟူသောရှေးပညတ်
၃၄ စကားကိုသင်တို့ကြားရပြီး။ ငါပညတ်သည်ကား။ကျိန်ဆိုခြင်းကို
အလျှင်းမပြုရ။ ကောင်းကင်ဘုံကိုတိုင်တည်၍မကျိန်ရ။ ကောင်းကင်
၃၅ ဘုံကားဘုရားသခင်၏ပလ္လင်တော်ဖြစ်သတည်း။ မြေကြီး ကိုတိုင်
တည် ၍ မကျိန်ရ။ မြေကြီးကားဘုရားသခင် ၏ခြေ စက် တော်တင်ခုံ
ဖြစ်သတည်း။ယေရုရှလင်မြို့ကိုတိုင်တည်၍မကျိန်ရ။ မဟာမင်းကြီး
၃၆ ၏မြို့တော်ဖြစ်သတည်း။ ကိုယ်ဦးခေါင်းကိုတိုင်တည်၍မကျိန်ရ။ဆံ
၃၇ ချည်တပင်မျှဖြူအောင်မည်းအောင် မတတ်နိုင်။ သင်၏စကား မှာ
ဟုတ်သည်ကိုအဟုတ်။မဟုတ်သည်ကိုမဟုတ် ဖြစ်စေလော့။ ဤထက်
၃၈ လွန်သောစကားသည်မကောင်းရာနှင့်စပ်ဆိုင်ပေ၏။ ။သူ
မျက်စိကိုဖျက်လျှင်ကိုယ်မျက်စိဖျက်ခြင်းကိုခံစေ။သူသွားကိုချိုးလျှင်
ကိုယ်သွားချိုးခြင်းကိုခံစေဟူသောပညတ်စကားကိုသင် တို့ ကြားရ
၃၉ ပြီး။ ငါပညတ်သည်ကား။နှောင့်ရှက်သောသူကိုသည်းခံလော့။ သင်
၏ပါးတဖက်ကိုသူတပါးပုတ်လျှင်ပါးတဖက်ကိုလှည့်၍ပေးဦးလော့။
၄၀ သင်အင်္ကျီကိုယူလို၍တရားတွေ့သောသူအားသင်ဝတ်လုံကိုလည်း
၄၁ ယူရသောအခွင့်ပေးဦးလော့။ အကြင်သူသည်သင်ကိုအနိုင်ပြု၍ခရီး
၄၂ တတိုင်သွားစေ၏။ ထိုသူနှင့် တကွ နှစ် တိုင် သွားဦး လော့။ တောင်း
သောသူအားပေး သော့။ ချေး ငှါးလို သောသူ ကိုလည်း မငြင်း မပယ်
၄၃ နှင့်။ ။ကိုယ်နှင့်စပ်ဆိုင်သောသူကိုချစ်လော့။ရန်သူကိုမုန်း
၄၄ လော့ဟူသောပညတ်စကားကိုသင်တို့ကြားရပြီး။ ငါပညတ်သည်
ကား။သင်တို့၏ရန်သူတို့ကိုချစ်ကြလော့။ သင်တို့ကိုကျိန်ဆဲသောသူ
တို့အားမေတ္တာပို့ကြလော့။သင်တို့ကိုမုန်းသောသူတို့အားကျေးဇူးပြု
ကြလော့။သင်တို့ကိုနှောင့်ရှက်ညှဉ်းဆဲသောသူတို့အဖို့ဘုရားသခင်
၄၅ ကိုဆုတောင်းကြလော့။ ကောင်းကင်ဘုံ၌ရှိတော်မူသောသင်တို့ အဖ

၏သားဖြစ်ရအောင်ဤသို့ပြုကြလော့။ ကောင်းကင်ဘုံ၌ ရှိတော်မူ
သောအဖသည်ကားကောင်းသောသူ။မကောင်းသောသူတို့အပေါ်၌
နေထွက်စေတော်မူ၏။ဖြောင့်မတ်သောသူ။ မဖြောင့်မတ်သောသူတို့
၄၆ အပေါ်၌မိုးရွာစေတော်မူ၏။ သင်တို့ကိုချစ်သောသူတို့အားသာ
ချစ်တုံ့ပြုလျှင်အဘယ်ကျေးဇူးတင်သနည်း။ အခွန်ခံသူတို့ပင်ဤမျှ
၄၇ လောက်ပြုကြသည်မဟုတ်လော။ အဆွေအမျိုးတို့အားသာလောက
ဝတ်ပြုလျှင်အဘယ်သို့ထူးမြတ်သနည်း။သာသနာပလူတို့ပင်ထိုအ
၄၈ တူပြုကြသည်မဟုတ်လော။ ထိုကြောင့်ကောင်းကင်ဘုံ၌ရှိတော်မူ
သောသင်တို့အဖသည်စုံလင်တော်မူသကဲ့သို့သင်တို့သည်လည်းစုံ
လင်ခြင်းသို့ရောက်ကြလော့။

**

၁ လူများတို့သည်မြင်စေခြင်းငှါကိုယ်သီလအကျင့်ကိုသူရှေ့မှောက်၌မ
ကျင့်မည်အကြောင်း။သတိပြုကြလော့။သို့မဟုတ်။ကောင်းကင်ဘုံ၌ရှိ
၂ တော်မူသောသင်တို့အဖထံမှအကျိုးကိုမခံမရကြ။ ထိုကြောင့်အလှူ
ဒါနကိုပေးသောအခါလျှို့ဝှက်သောသူတို့သည်လူများအချီးအမွမ်းကို
ခံလို၍ပွဲသဘင်လမ်းခရီး၌မိမိတို့ရှေ့မှာတံပိုးခရာမှုတ်စေသည်နည်း
တူသင်သည်မပြုနှင့်။ငါအမှန်ဆိုသည်ကား။ထိုသူတို့သည်မိမိအကျိုး
၃ ကိုရကြပြီ။ သင်သည်အလှူဒါနကိုပေးသောအခါပေးကြောင်းမထင်
ရှားစေခြင်းငှါလက်ျာလက်ပြုသည်အမှုကိုလက်ဝဲလက်မျှမသိစေနှင့်။
၄ မထင်ရှားသောအရာကိုမြင်တော်မူသောသင်၏အဖသည်အကျိုး
၅ ကိုထင်ရှားစွာပေးတော်မူလတ္တံ့။ ။သင်သည်ဆုတောင်းပဌနာ
ပြုသောအခါလျှို့ဝှက်သောသူတို့နည်းတူမပြုနှင့်။ ထိုသူတို့သည်လူ
များတို့ရှေ့မှာထင်ရှားစေခြင်းငှါပွဲသဘင်လမ်းဆုံးလမ်ဝ၌ရပ်နေ
လျက်ဆုတောင်းခြင်းငှါအလိုရှိကြ၏။ငါအမှန်ဆိုသည်ကား။ ထိုသူတို့
၆ သည်မိမိအကျိုးကိုရကြပြီ။ သင်သည်ဆုတောင်းသောအခါဆိတ်
ညံရာအခန်းသို့ဝင်၍တံခါးပိတ်ပြီးမှမထင်ရှားသောအရပ်၌ရှိတော်
မူသောသင်၏အဖကိုဆုတောင်းလော့။ မထင်ရှားသောအရာကိုမြင်
တော်မူသောသင်၏အဖသည်အကျိုးကိုထင်ရှားစွာပေးတော်မူလတ္တံ့။
၇ သင်တို့သည်ဆုတောင်းသောအခါသာသနာပလူနည်းတူ။အချည်း
နှီးစကားဘာဝနာစီးဖြန်းခြင်းကိုမပြုကြနှင့်။ထိုသူတို့သည်များစွာ
၈ သောစကားအားဖြင့်မိမိတို့အလိုပြည့်စုံမည်ဟုထင်မှတ်ကြ၏။ ထို

သူတို့ခုည်းတုမပြုကြနှင့်။အကြောင်းမူကား။သင်တို့၌ရှိသမျှသောအ
၉ လိုတို့ကိုသင်တို့မတောင်းမှီသင်တို့အဖသိတော်မူ၏။ ထိုကြောင့်
ဆုတောင်း လေသည့်အရာမှာ။ ကောင်းကင်ဘုံ၌ရှိတော်မူသောအ
ကျွန်ုပ်တို့အဖ။ကိုယ်တော်၏နာမတော်အားရိုသေလေးမြတ်ခြင်းရှိပါ
၁၀ စေသော။နိုင်ငံတော်တည်ထောင်ပါစေသော။ အလိုတော်သည်ကော
၁၁ င်းကင်ဘုံ၌ပြည့်စုံသကဲ့သို့မြေကြီး ပေါ်မှာပြည့်စုံပါစေသော။ အ
သက်မွေးလောက်သောအစာကို အကျွန်ုပ်တို့ အားယနေ့ပေးသနား
၁၂ တော်မူပါ။ သူတပါးသည်အကျွန်ုပ်တို့ကိုပြစ်မှားသောအပြစ်များ
ကိုအကျွန်ုပ်တို့သည်လွှတ်သကဲ့သို့အကျွန်ုပ်တို့၏အပြစ်များကိုလွှတ်
၁၃ တော်မူပါ။အပြစ်သွေးဆောင်ရာသို့မလိုက်စေဘဲမကောင်းသောအ
မှုအရာနှင့်ကင်းလွတ်ပါမည်အကြောင်း။ကယ်မသနားတော်မူပါဟု
၁၄ ဆုတောင်းကြလော့။ သင်တို့သည်သူအပြစ်ကိုလွှတ်လျှင်ကောင်းကင်
ဘုံ၌ရှိတော်မူသောသင်တို့အဖသည် သင်တို့၏အပြစ်ကိုလွှတ်တော်
၁၅ မူမည်။ သင်တို့သည်သူအပြစ်ကိုမလွှတ်လျှင်သင်တို့အဖသည် သင်
၁၆ တို့၏အပြစ်ကိုလွှတ်တော်မမူ။ ။သင်တို့သည်အစားရှောင်ခြင်း
အကျင့်ကိုကျင့်သောအခါလျှို့ဝှက်သောသူတို့ခုည်းတုမျက်နှာညှိုးငယ်
ခြင်းမရှိကြနှင့်။ ထိုသူတို့သည်မိမိတို့အစားရှောင်သည်ကိုလူများတို့
ရှေ့မှာထင်ရှားစေခြင်းငှါမိမိတို့မျက်နှာကိုပျက်စေတတ်ကြ၏။ ငါအ
၁၇ မှန်အကန်ဆိုသည်ကား။ထိုသူတို့သည်မိမိအကျိုးကိုရကြပြီး။ သင်
၁၈ သည်အစားရှောင်သောအခါအစားရှောင်သည်ကိုလူများတို့ရှေ့မှာမ
ထင်ရှားစေဘဲမထင်ရှားသောအရပ်၌ရှိတော်မူသောသင်တို့အဖရှေ့
တော်၌သာ ထင်ရှားစေခြင်းငှါခေါင်းကိုလိမ်းကျံလော့။ မျက်နှာကို
လည်းသစ်လော့။ မထင်ရှားသော အရာကိုမြင်တော်မူသောသင်တို့
အဖသည်အကျိုးကိုပေးတော်မူလတံ့။

**

၁၉ သိုးချေး။ပိုး ရွှ ဖျက်ဆီး၍သူခိုးထွင်းဖောက်ခိုးယူရာ မြေကြီး ပေါ်မှာ
၂၀ ဘဏ္ဍာကိုမဆည်းဘူးကြနှင့်။ သိုးချေး။ပိုးရွှမဖျက်ဆီး၍သူခိုးမထွင်း
မဖောက်မခိုးမယူရာကောင်းကင်ဘုံ၌သာဘဏ္ဍာကိုဆည်းဘူးကြ
၂၁ လော့။ အကြောင်းမူကား။အကြင်အရပ်၌သင်တို့၏ဘဏ္ဍာရှိ၏။ထို
၂၂ အရပ်သို့သင်တို့၏စိတ်နှလုံးရောက်တတ်၏။ မျက်စိကားကိုယ်၏
ဆီမီးဖြစ်၏။ ထိုကြောင့်မျက်စိကြည်လင်လျှင်တကိုယ်လုံးလင်းလိမ့်

၂၃ မည်။ မျက်စိမြွေး၍ကျလျှင်တကိုယ်လုံးမိုက်လိမ့်မည်။သင်၏အလင်း
သော်ကားမှောင်မိုက် ဖြစ်လျှင်ထိုအမိုက်သည်ဘယ်မျှလောက်မိုက်
၂၄ စွတကား။ ။အဘယ်သူသည်သခင်နှစ်ဦးအစေကိုမခံနိုင်။သ
ခင်တဦးကိုမုန်းမည်။တဦးကိုချစ်မည်။သခင်တဦးကိုမှီခိုမည်။တဦးကိုမ
ခန့်မညားပြုမည်။သင်တို့သည်ဘုရားသခင်၏အစေကိုၡ်လောကီစည်း
၂၅ စိမ်၏အစေကိုၡ်မခံနိုင်ကြ။ ထိုကြောင့်ငါဆိုသည်ကား။ အဘယ်သို့စား
သောက်ရမည်ဟုအသက်အဖို့မစိုးရိမ်ကြနှင့်။အဘယ်သို့ဝတ်ရမည်ဟု
ကိုယ်အဖို့မစိုးရိမ်ကြနှင့်။ အစားထက်အသက်မြတ်သည်မဟုတ်လော။
၂၆ အဝတ်ထက်ကိုယ်မြတ်သည်မဟုတ် လော။ မိုဃ်းကောင်းကင်၌ကျင်
လည်သော ငှက်များကိုကြည့်ရှုဆင်ချင်ကြလော့။ ထို ငှက်တို့သည်မျိုး
စေ့ကို မစိုက်မကြဲ။ စပါးကိုမရိတ်။ ကျီ၌မစုမသွင်း။ သို့သော်လည်း
ကောင်းကင်ဘုံ၌ရှိတော်မူသောသင်တို့အဖသည်သူတို့ကို ကျွေးမွေး
တော်မူ၏။ ထို ငှက် တို့ထက် သင် တို့ သည် အလွန် မြတ် သည်မဟုတ်
၂၇ လော။ အဘယ်သူသည်စိုးရိမ်ခြင်းအားဖြင့်မိမိအသက်အ ရွယ်ကို
၂၈ တခုခရိမျှတိုးပွားစေနိုင်သနည်း။ အဝတ်အဖို့၌အဘယ် ကြောင့်စိုး
ရိမ်ရသနည်း။ တောနှင်းပင်တို့သည်အဘယ် သို့သောအားဖြင့် ကြီး
ပွားသည်ကိုဆင်ချင်အောင်းမေ့ကြလော့။ ထိုအပင် တို့သည် အလုပ်
၂၉ လည်းမလုပ်။ ချည်ကိုလည်း မငင် မဝင့်။ သို့သော်လည်း ဘုန်းကြီး
သောရှောလောမုန်မင်းကြီးအဝတ်သည် ထိုအပင်တပင် မျှ၏အဝတ်
၃၀ ကိုမမှီဟု ငါဆို၏။ ရုံကြည် အားနည်းသောသင်တို့။ ယနေ့ရှင်လျက်
နက်ဖန် မီးဖိုထဲသို့ရောက်သောတောမျက်ပင်ကိုဘုရားသခင်သည်
ထိုသို့သောအဝတ်နှင့်ဖုံးလွှမ်တော်မူလျှင်ထိုမျှမကသင်တို့ကိုအဝတ်
၃၁ နှင့်ဖုံးလွှမ်တော်မူမည်မဟုတ်လော။ ထိုကြောင့်အဘယ်သို့စားသော
က်ရအံ့နည်း။အဘယ်သို့ဝတ်ရအံ့နည်းဟူ၍မစိုးရိမ်ကြနှင့်။ထိုအရာ
၃၂ များကိုသာသနာပလူတို့သည်ရှာဖွေတတ်၏။ ထိုအရာများကိုသင်
တို့သည်အသုံးလိုကြောင်းကိုကောင်းကင်ဘုံ၌ ရှိတော်မူသော သင်တို့
၃၃ အဖသိတော်မူ၏။ ဘုရားသခင်၏နိုင်ငံတော်ကိုငင်သူ၏ဖြောင့်
မတ်ခြင်းတရားကိုငင်ရှေဦးစွာရှာကြလော့။ နောက်မှာထိုအရာများ
၃၄ ကိုထပ်၍ပေးတော်မူလတ့ံ။ ထိုကြောင့်နက်ဖန် အဖို့မစိုးရိမ်ကြနှင့်။
နက်ဖန်နေ့သည်မိမိအဖို့စိုးရိမ်လိမ့်မည်။ယခုနေ့၌ရှိသောမကောင်းမ
သင့်သောအရာသည်ယခုနေ့အဖို့လောက်ပေ၏။

❋❋

၁ သင်တို့သည်စစ်ကြောဆုံးဖြတ်ခြင်းနှင့်ကင်းလွတ်ရအောင် သူတပါး
၂ အမှု၌စစ်ကြောဆုံးဖြတ်ခြင်းကိုမပြုကြနှင့်။ အကြင်တရားအတိုင်း
သင်တို့သည်သူတပါးကိုစီရင်ကြ၏။ ထိုတရားအတိုင်းသင်တို့သည်
စီရင်ခြင်းကိုခံရကြမည်။အကြင်ချိန်။တင်း။ ပမာဏနှင့်သူတပါးအား
၃ ပေး၏။ထိုပမာဏအတိုင်းကိုယ်ခံရကြမည်။ ကိုယ်မျက်စိ၌ရှိသော
တံကျင်ကိုမအောင်းမေ့ဘဲညီအစ်ကိုမျက်စိ၌ရှိသောညောင့်ငယ်ကို
၄ အဘယ်ကြောင့်ကြည့်ရှုသနည်း။ ကိုယ်မျက်စိ၌တံကျင်ရှိလျက်ပင်
ညီအစ်ကိုအားသင်မျက်စိ၌ရှိသောညောင့်ငယ်ကိုထုပ်ပါရစေဟု
အဘယ်သို့ဆိုသနည်း။ လျှို့ဝှက်သောသူ။ ကိုယ်မျက်စိ၌ရှိသောတံ
ကျင်ကိုရှေဦးစွာထုတ်တော့။ နောက်မှာညီအစ်ကိုမျက်စိ၌ရှိသော
၆ ညောင့်ငယ်ကိုထုတ်ရအောင်ရှင်းလင်းစွာမြင်လိမ့်မည်။ ။မြွ
စင်သောအရာကိုခွေးတို့အားမပေးကြနှင့်။ပုလဲရတနာတို့ကိုဝက်တို့
ရှေ့မှာမချမထားကြနှင့်။သို့ပြုလျှင်ထိုအရာတို့ကိုကျော် နင်းသဖြင့်
၇ သင်တို့ဆီသို့လှည့်၍ကိုက်ပက်လိမ့်မည်။ ။တောင်းကြလော့။
တောင်းလျှင်ရမည်။ ရှာကြလော့။ ရှာလျှင်တွေ့မည်။ တံခါးကိုခေါက်
၈ ကြလော့။ခေါက်လျှင်ဖွင့်မည်။ တောင်းသောသူမည်သည်ကားရ၏။
ရှာသောသူလည်းတွေ့၏။ ခေါက်သောသူအားလည်းတံခါးဖွင့်၏။
၉ သားသည်မုန့်ကိုတောင်းလျှင်အဖသည်ကျောက်ကိုပေးမည်လော။
၁၀ ငါးကိုတောင်းလျှင်မြွေကိုပေးမည်လော။ သင်တို့တွင်ထိုသို့ပေးမည်
၁၁ သူတယောက်မျှရှိသလော။သင်တို့သည်အဆိုးဖြစ်လျက်ပင်ကိုယ်သား
တို့အားကောင်းသောအရာကိုပေးတတ် လျှင်ထိုမျှမကကောင်းကင်
ဘုံ၌ရှိတော်မူသောသင်တို့အဖသည်ဆုတောင်းသောသူတို့အား
ကောင်းသောအရာကိုသာ၍ပေးတော်မူမည်မဟုတ်လော။ ။
၁၂ သင်တို့သည်ကိုယ်၌သူတပါးပြုစေလိုသည်အတိုင်းသူတပါး၌အစဉ်
ပြုကြလော့။ ဤပညတ်ကားပညတ္တိကျမ်း။အနာဂတ္တိကျမ်းတို့၏အချုပ်
၁၃ အချာပင်ဖြစ်သတည်း။ ကျဉ်းသောတံခါးကိုဝင်ကြလော့။ ပျက်စီး
ခြင်းသို့ရောက်သောလမ်းနှင့်တံခါးသည်ကျယ်ဝန်းသည်ဖြစ်၍ဝင်
၁၄ သောသူများများရှိကြ၏။ အသက်ရှင်ခြင်းသို့ရောက်သောလမ်းနှင့်
တံခါးသည်ကျဉ်းမြောင်းသည်ဖြစ်၍တွေ့ဝင်သောသူနည်းနည်းရှိ
၁၅ ကြ၏။ အတွင်း၌ကြမ်းတမ်းသောတောခွေးဖြစ်လျက်သိုးရေကိုခြုံ၍

၁၆ သင်တို့ဆီသို့လာသောမိစ္ဆာဆရာတို့ကိုသတိနှင့်ရှောင်ကြလော့။ ထို
သူတို့၏အကျင့်ကိုထောက်၍သူတို့၏သဘောကိုသိကြလိမ့်မည်။ ဆူး
ပင်၌စပျစ်သီးကိုဆွတ်တတ်သလော။ ဆူးလေပင်၌တည်းသီးကိုဆွတ်
၁၇ တတ်သလော။ ကောင်းသောအပင်ကောင်းသောအသီး။ မကောင်း
သောအပင်မကောင်းသောအသီးကိုသီးတတ်၏။ ကောင်းသောအပင်
၁၈ မကောင်းသောအသီး။ မကောင်းသောအပင်ကောင်းသောအသီးကို
၁၉ မသီးနိုင်။ ကောင်းသောအသီးမသီးသောအပင်ရှိသမျှတို့ကိုခုတ်
၂၀ လှဲ၍ထင်းဖြစ်စေတတ်၏။ သို့ဖြစ်လျှင်ထိုဆရာတို့၏အကျင့်ကို
၂၁ ထောက်သဖြင့်သူတို့၏သဘောကိုသိကြလိမ့်မည်။ ။သခင်။
သခင် ဟု ငါကိုလျှောက်သောသူအားလုံးတို့သည်ကောင်းကင်နိုင်ငံ
တော်သို့ဝင်ရည်မဟုတ်။ ကောင်းကင်ဘုံ၌ရှိတော်မူသော ငါ့ခမည်း
၂၂ တော်၏အလိုကိုဆောင်သောသူသာလျှင်ဝင်ရ၏။ ထိုနေ့၌ကား သ
ခင်။သခင်။အကျွန်ုပ်တို့သည်ဒုဗ္ဗုဒ္ဓိတ္တ... ဟောခြင်း။နတ်ဆိုးတို့ကို နှင်
ထုတ်ခြင်း။များစွာသောတန်ခိုးတို့ကိုပြုခြင်းအမှုတို့ကိုကိုယ်တော်အ
ခွင့် နှင့်ပြုပါပြီးမဟုတ်လောဟုအများသောသူတို့သည် လျှောက်ကြ
၂၃ လိမ့်မည်။ ထိုသို့လျှောက်ကြသောအခါသင်တို့ကိုငါအလျှင်းမသိ။ မ
တရားသောအမှုကိုပြုသောသူတို့။ငါထံမှဖယ် ကြ ဟု ထိုသူတို့အား
၂၄ အတည့်အလင်းငါပြောမည်။ အကြင်သူသည် ငါ စကား ကို ကြား၍
နားထောင်၏။ ထိုသူ ကို ကျောက် ပေါ်မှာ အိမ်ဆောက်သော ပညာ ရှိ
၂၅ နှင့်ငါပုံပြမည်။ မိုဃ်း ရွာ၍ ရေစီးသည်နှင့်လေလာ၍ထိုအိမ်ကိုတိုက်
၂၆ သည်ရှိသော်ကျောက် ပေါ်မှာတည်သောကြောင့် မပြိုမလဲ နေ၏။ အ
ကြင်သူသည်ငါစကားကိုကြား၍နားမထောင်ဘဲနေ၏။ ထိုသူကိုသဲ
၂၇ ပေါ်မှာအိမ်ဆောက်သော လူမိုက်နှင့် ငါ ပုံပြမည်။ မိုဃ်း ရွာ ၍ ရေစီး
သည်နှင့်လေလာ၍ထိုအိမ်ကိုတိုက်သောအခါကြီးစွာသောပြိုလဲခြင်း
၂၈ သို့ရောက်လေ၏ဟုဟောတော်မူ၏။ ။ဤဒေသနာတော်ကို
ယေရှုသည်ကုန်စင်အောင်ဟောတော်မူပြီးလျှင် ပရိသတ်အပေါင်း
၂၉ တို့သည်ဒုဗ္ဗုဒ္ဓိတ္တ ဩဝါဒပေးတော်မူခြင်းကိုအလွန်အံ့ဩကြ၏။ အ
ဘယ်ကြောင့်နည်းဟူမူကား။ ကျမ်းပြုဆရာနည်းတူမဟုတ်။ အစိုးရ
သောသူနည်းတူဩဝါဒပေးတော်မူ၏။

**

၁ ကိုယ်တော်သည်တောင်ပေါ်ကဆင်းကြွတော်မူလျှင်များစွာသောလူ

၂ အပေါင်းတို့သည်နောက်တော်သို့လိုက်ကြ၏။ ထိုအခါနူနာစွဲသော
သူတယောက်သည်ညွတ်ပျပ်လျက် သခင်။ အလိုတော်ရှိလျှင်ကျွန်
၃ တော်ကိုသန့်ရှင်းစေနိုင်တော်မူ၏ဟုလျှောက်လေ၏။ ယေရှုကလည်း
ငါအလိုရှိ၏သန့်ရှင်းခြင်းသို့ရောက်စေဟုမိန့်တော်မူလျက်လက်တော်
ကိုဆန့်၍ထိုသူကိုတို့တော်မူ၏။ထိုခဏချင်းတွင်နူနာပျောက်၍ သန့်
၄ ရှင်းခြင်းသို့ရောက်လေ၏။ ယေရှုကလည်းသင်သတိပြု။ဤအကြော
င်းကိုအဘယ်သူအားမပြောနှင့်။ယဇ်ပုရောဟိတ်ဆီသို့သွား၍ကိုယ်
ကိုကိုယ်ပြတော့။သူတပါး၌သက်သေဖြစ်စေခြင်းငှါမောရှေကိရင်မှာ
၅ ထားသောအလှူကိုလှူတော့ဟုမိန့်တော်မူ၏။ ။ထိုနောက်မှာ
ကပေရနောင်မြို့သို့ကြွဝင်တော်မူလျှင်တပ်မှူးတယောက်သည်အထံ
၆ တော်သို့လာ၍သခင်။ ကျွန်တော်ငယ်သားတယောက်သည်လက်ခြေ
သေသည်အနာနှင့်ပြင်းစွာခံ၍အိမ်တွင်တုံးလုံးနေရပါသည်ဟုတော
၇ င်းလျှောက်လေ၏။ ယေရှုကလည်းငါလာ၍ချမ်းသာပေးမည်ဟုမိန့်
၈ တော်မူလျှင် တပ်မှူးကသခင်။ကျွန်တော်အိမ်မိုးအောက်သို့ကြွဝင်
တော်မူသောကျေးဇူးတော်ကိုကျွန်တော်မခံထိုက်ပါ။ အမိန့်တော်တ
၉ ခွန်းရှိလျှင်ကျွန်တော်၏ငယ်သားသည်ချမ်းသာပါလိမ့်မည်။ ဥပမါ
ကား။ ကျွန်တော်သည်မင်းအောက်၌ကျွန်ခံသောသူဖြစ်သော်လည်း
စစ်သူရဲများကိုအုပ်စိုး၍တဦးကိုသွားချေဟုဆိုလျှင်သွား၏။ တဦး
ကိုလာခဲ့ဟုဆိုလျှင်လာ၏။ ကျွန်ကိုလည်းဤအမှုကိုလုပ်တော့ဟုဆို
၁၀ လျှင်လုပ်၏ဟုတပ်မှူးလျှောက်လေ၏။ ထိုစကားကိုယေရှုသည်ကြား
လျှင်အံ့ဩခြင်းရှိ၍ငါအမှန်ဆိုသည်ကား။ဤမျှလောက်သောရုံကြည်
၁၁ ခြင်းကိုဣသရေလအမျိုး၌ပင်ငါမတွေ့ဘူးသေး။ ငါဆိုပြန်သည်ကား။
လူအများတို့သည်အရှေ့အရပ်။ အနောက်အရပ်မှ လာ၍ကောင်းကင်
နိုင်ငံတော်၌အာဗြဟံ။ ဣဇာက်။ ယာကုပ်တို့နှင့်ဘကွနေရာပိုင်ရာ
၁၂ ကိုရကြလတံ့။ နိုင်ငံတော်သားတို့သည်လည်းငိုကြွေးခြင်း။အံသွားခဲ
ကြိတ်ခြင်းရှိရာ။ ပြင်အရပ်။ မှောင်မိုက်ထဲသို့နှင်ချခြင်းကိုခံရကြ
၁၃ လတံ့ဟုနောက်တော်သို့လိုက်သောသူတို့အားမိန့်တော်မူပြီးမှ တပ်
မှူးအားသင်သွားတော့။ ရုံကြည်သည်နှင့်အညီသင်၌ဖြစ်စေဟုမိန့်
တော်မူ၏။ ထိုခဏချင်းတွင်သူ၏ငယ်သားသည်အနာရောဂါကင်း
၁၄ ၍သက်သာခြင်းသို့ရောက်လေ၏။ ။ထိုနောက်မှာယေရှုသည်
ပေတရုအိမ်သို့ကြွ၍ပေတရု၏ယောက္ခမဖျားနာစွဲလျက်တုံးလုံးနေ

၁၅ သည်ကိုတွေ့မြင်တော်မူလျှင် သူ၏လက်ကိုတို့တော်မူသဖြင့်အဖျား
ပျောက်၍ထိုမိန်းမသည်ထလျက်ပြုစုသည့်ဝတ်ကိုပြုလေ၏။ ။
၁၆ ညဦးယံ၌နတ်ဆိုးစွဲသောသူအများတို့ကိုအထံတော်သို့ဆောင်ခဲ့၍
နှုတ်တော်ထွက်ကာမျှနှင့်နတ်တို့ကိုနှင်ထုတ်တော်မူ၏။နာသောသူရှိ
၁၇ သမျှတို့ကိုချမ်းသာစေတော်မူ၏။ ထိုအကြောင်းအရာမှကား။ သူ
သည်အကျွန်ုပ်တို့အနာရောဂါဝေဒနာများကိုယူတင်ဆောင်ရွက်လေ
၏ဟုပရောဖက်ဟေရှာယဟောဘူးသောစကားပြည့်စုံခြင်းအကြော
၁၈ င်းဖြစ်သတည်း ။များစွာသောလူအပေါင်းတို့သည်ကိုယ်
တော်ကိုဝန်းရံလျက်နေကြသည်ကိုမြင်တော်မူလျှင်ကမ်းတဖက်သို့
၁၉ ကူးမည်အကြောင်း။ အမိန့်တော်ရှိ၏။ ထိုအခါကျမ်းပြုဆရာတယော
က်သည်လာ၍အရှင်ဘုရား။ကိုယ်တော်ကြွလေရာရာအကျွန်ုပ်လိုက်
၂၀ ပါမည်ဟုလျှောက်လေ၏။ ယေရှုကလည်းမြေခွေးမှုကားမြေတွင်းရှိ
၏။ မိုဃ်းကောင်းကင်၌ကျင်လည်သောငှက်မှုကားအသိုက်ရှိ၏။ လူ
၂၁ သားမှုကားခေါင်းထားရာမျှမရှိဟုမိန့်တော်မူ၏။ အချို့သောတ
ပည့်တော်ကလည်းသခင်။အကျွန်ုပ်အဖကိုရှေ့ဦးစွာသွား၍သင်္ဂြိုဟ်
၂၂ ရအောင်အခွင့်ပေးတော်မူပါဟုလျှောက်လေ၏။ ယေရှုကလည်းငါ
နောက်သို့လိုက်တော့။လူသေတို့သည်မိမိလူသေတို့ကိုသင်္ဂြိုဟ်ပါ
လေစေဟုမိန့်တော်မူ၏။

❋❋

၂၃ ထိုအခါလှေထဲသို့ဝင်တော်မူ၍တပည့်တော်တို့သည်လိုက်ကြ၏။
၂၄ အိုင်၌လှိုင်းတံပိုးပြင်းစွာထ၍လှေကိုလွှမ်းလေ၏။ ကိုယ်တော်သည်
၂၅ ကျိန်းစက်၍နေတော်မူ၏။ တပည့်တော်တို့သည်ချဉ်းကပ်၍ကိုယ်
တော်ကိုနှိုးပြီးလျှင်သခင်။ အကျွန်ုပ်တို့သည်ပျက်စီးခြင်းသို့ရောက်
၂၆ ပါ၏။ကယ်မတော်မူပါဟုလျှောက်လေသော် ကိုယ်တော်ကရုံကြည်
အားနည်းသောသူတို့။အဘယ်ကြောင့်ကြောက်တတ်သနည်းဟုမေး
တော်မူပြီးလျှင်ထ၍လေနှင့်ပင်လယ်ကိုဆုံးမတော်မူသဖြင့်အလွန်
၂၇ သာယာလေ၏။ ထိုလူတို့ကလည်း၊ဤသူကားအဘယ်သို့သောသူနည်း။
လေနှင့်ပင်လယ်သည်သူ၏စကားကိုနားထောင်ပါသည်တကားဟု
၂၈ အံ့ဩ၍နေကြ၏။ ။ကမ်းတဖက်ဂါဒရပြည်သို့ရောက်တော်
မူပြီးမှနတ်ဆိုးစွဲသောလူနှစ်ယောက်တို့သည်ထိုလမ်းကိုအဘယ်သူ
မျှမသွားနိုင်အောင်အလွန်ကြမ်းကြုတ်စွာပြုလျက်သင်္ချိုင်းတစပြင်

၂၉ မှထွက်လာ၍ကိုယ်တော်ကိုဆီးကြို၍လျှင် ဘုရားသခင်၏သားတော်။
ကိုယ်တော်သည်အကျွန်ုပ်တို့နှင့်အဘယ်သို့ဆိုင်သနည်း။ အချိန်မရောက်
မှီအကျွန်ုပ်တို့ကိုညှဉ်းဆဲမည်ကြွလာတော်မူသလောဟုအော်ဟစ်၍
၃၀ လျှောက်ကြ၏။ ထိုသူတို့နှင့်မနီးမဝေးသော်အရပ်၌ များစွာသော
၃၁ ဝက်အုပ်သည်ကျက်စားလျက်ရှိ၏။ နတ်ဆိုးတို့လည်းကိုယ်တော်သည်
အကျွန်ုပ်တို့ကိုနှင်ထုတ်လျှင်ထိုဝက်အုပ်ထဲသို့ဝင်စေခြင်းအခွင့်ပေးတော်မူပါဟု
၃၂ တောင်းလျှောက်သော် သွားကြဟုမိန့်တော်မူ၏။ နတ်ဆိုးတို့သည်
ထွက်၍ဝက်ထဲသို့ဝင်သဖြင့်ဝက်အုပ်အားလုံးတို့သည်အိုင်ကမ်းစော
၃၃ က်ကိုတဟုန်တည်းပြေးဆင်း၍ရေ၌သေလေ၏။ ဝက်ကျောင်းသောသူ
တို့သည် လည်း ပြေး ၍ မြို့ ထဲ သို့ ဝင်သဖြင့်နတ်ဆိုးစွဲသောသူတို့၏အ
၃၄ ကြောင်းမှစ၍ဖြစ်လေသမျှတို့ကိုကြားပြောလျှင် တမြို့လုံးသည်ယေ
ရှုကိုကြိုဆိုအံ့သောငှါထွက်လာကြ၏။ ကိုယ်တော်ကိုတွေ့မြင်လျှင်မိမိ
တို့ပြည်ကထွက်သွားတော်မူမည်အကြောင်း။ တောင်းလျှောက်ကြ၏။
၁ ။ ထိုအခါကိုယ်တော်သည်လှေစီး၍ကူးပြန်သဖြင့်မိမိမြို့သို့
၂ ရောက်တော်မူ၏။ လက်ခြေသေ၍အိပ်ရာပေါ်မှာတုံးလုံးနေသောသူ
တယောက်ကိုအထံတော်သို့ဆောင်ခဲ့ကြ၏။ ယေရှုသည်ထိုသူတို့၏ယုံ
ကြည်ခြင်းကိုမြင်လျှင် လက် ခြေ သေ သော သူ အား ငါသား။ မစိုးရိမ်
၃ နှင့်။ သင်၏အပြစ်လွှတ်ခဲ့ပြီးဟုမိန့်တော်မူ၏။ ကျမ်းပြုဆရာအချို့တို့
က ဤသူသည်ဘုရားကိုပြစ်မှားသောစကားကိုပြော၏ဟုနှစ်လုံးမူ
၄ ကြ၏။ ယေရှုသည်ထိုသူတို့၏စိတ်ကိုသိမြင်တော်မူလျှင်သင်တို့သည်
၅ အဘယ်ကြောင့်ညစ်ညူးသောစိတ်ရှိသနည်း။ ဘယ်သင်းသာ၍ပြော
လွယ်သနည်း။ သင်၏အပြစ်လွှတ်ခဲ့ပြီးပြောလွယ်သလော။ သင်ထ၍
၆ လှမ်းသွားတော့ပြောလွယ်သလော။ လူသားသည်မြေကြီးပေါ်မှာအပြ
စ်လွှတ်ပိုင်သည်ကိုသင်တို့သိစေခြင်းငှါထတော့။ ကိုယ်အိပ်ရာကိုဆော
င်၍ကိုယ်အိမ်သို့သွားတော့ဟုလက်ခြေသေသောသူအားမိန့်တော်မူ၏။
၇။၈ ထိုသူသည်ထ၍မိမိအိမ်သို့သွားလေ၏။ လူအစုအဝေးတို့သည်မြင်လျှ
င်အံ့ဩခြင်းရှိ၍လူတို့အား ဤသို့သောအခွင့်အပ်ပေးတော်မူသော
၉ ဘုရားသခင်ဂုဏ်တော်ကိုချီးမွမ်းကြ၏။ ။ ယေရှုသည်ထိုအရပ်မှ
ကြွတော်မူစဉ်မဿဲအမည်ရှိသောသူတယောက်သည်အခွန်ခံရာတဲ
၌ထိုင်နေသည်ကိုမြင်လျှင်ငါနောက်သို့လိုက်လော့ဟုသူကိုမိန့်တော်မူ
၏။ သူသည်လည်းထ၍နောက်တော်သို့လိုက်လေ၏။ ထိုနောက်အိမ်

တွင်စားပွဲ၌ထိုင်နေတော်မူစဉ်အခွန်ခံသူအများ။ ဆိုးသူအများတို့
သည်လာ၍ယေရှုနှင့်တပည့်တော်တို့နှင့်တကွစားပွဲ၌ထိုင်နေကြ၏။
၁၁ ဖာရိရှဲလူတို့သည်မြင်လျှင်တပည့်တော်တို့အားသင်တို့ဆရာသည်
အခွန်ခံသူ။ဆိုးသူတို့နှင့်အတူအဘယ်ကြောင့်စားသနည်းဟုဆိုကြ
၁၂ ၏။ ယေရှုသည်ကြားတော်မူလျှင်ကျန်းမာသောသူတို့သည်ဆေးသ
မားကိုအလိုမရှိ။နာသောသူတို့သာလျှင်ဆေးသမားကိုအလိုရှိ၏။
၁၃ ယဇ်ပူဇော်ခြင်းအကျင့်ထက်သနားခြင်းကရုဏာအကျင့်ကိုငါနှစ်
သက်၏ ဟူသော ကျမ်းစကားကို နားလည်ရအောင်သင်တို့သွား၍
သင်ကြလော့။ ဖြောင့်မတ်သောသူတို့ကိုခေါ်ရအောင်ငါလာသည်မ
ဟုတ်။ဆိုးသောသူတို့ကိုခေါ်ရအောင်ငါလာသတည်းဟုမိန့်တော်မူ
၏။

**

၁၄ ထိုအခါယောဟန်၏တပည့်တို့သည်အထံတော်သို့ချဉ်းကပ်၍အကျွ
န်ုပ်တို့နှင့်ဖာရိရှဲလူတို့သည်အဖန်တလဲလဲအစားရှောင်ကြသည်ဖြစ်
၍အဘယ်ကြောင့်ကိုယ်တော်၏တပည့်တို့သည်အစားမရှောင်ဘဲနေ
၁၅ ပါသနည်းဟုလျှောက်ကြ၏။ ယေရှုကလည်းမင်္ဂလာဆောင်လုလင်
သည်မိမိအပေါင်းအဖော်တို့နှင့်အတူရှိစဉ်တွင်သူတို့သည်စိတ်မ
သာညည်းတွားတတ်သလော။မင်္ဂလာဆောင်လုလင်သည်မိမိအပေါ
င်းအဖော်တို့နှင့်ခွာ၍ယူသွားသောအချိန်ကာလရောက်လိမ့်မည်။ထို
၁၆ အခါသူတို့သည်အစားရှောင်ကြလိမ့်မည်။ အဝတ်ဟောင်းကိုအထည်
သစ်နှင့်ဖာလေ့မရှိ။ထိုသို့ဖာလျှင်ဖာသောအထည်သည်အဝတ်ဟော
၁၇ င်းကိုစား၍အပေါက်သာ၍ကျယ်တတ်၏။ ဝှင်နည်း။ဟောင်းသော
သားရေဘူး၌အသစ်သောစပျစ်ရည်ကိုထည့်လေ့မရှိ။ ထိုသို့ထည့်
လျှင်သားရေဘူးစုတ်ကွဲသဖြင့်စပျစ်ရည်လည်းယို၍ သားရေဘူး
လည်းပျက်စီးတတ်၏။ အသစ်သောစပျစ်ရည်ကိုအသစ်သောသား
ရေဘူး၌ထည့်လေ့ရှိ၏။ ထိုသို့နှစ်ပါးစလုံးမပျက်စီးဘဲနေသည်ဟု
၁၈ မိန့်တော်မူ၏။ ။ထိုစကားကိုမိန့်တော်မူစဉ်အရာရှိတယော
က်သည်လာ၍ပျပ်ဝပ်လျက်အကျွန်ုပ်သမီးယခုပင်သေဆဲဖြစ်ပါ၏။သို့
သော်လည်းကိုယ်တော်ကြွ၍သူ့အပေါ်၌လက်တင်တော်မူလျှင်အ
၁၉ သက်ရှင်ပါလိမ့်မည်ဟုလျှောက်၏။ ယေရှုသည်ထ၍တပည့်တော်
၂၀ တို့နှင့်အတူထိုသူနောက်သို့လိုက်တော်မူ၏။ ထိုအခါတဆယ်နှစ်နှစ်
၂၁ ပတ်လုံးသွေးယွန်အနာစွဲသောမိန်းမတယောက်ကငါသည်အဝတ်တော်

ကိုသာတို့လျှင်ချမ်းသာရမည်ဟုစိတ်ထင်နှင့် နောက်တော်သို့ချည်း
၂၂ ကပ်၍အဝတ်တော်စွန်းကိုတို့လေ၏။ ယေရှုသည် လှည့်၍ ထိုမိန်းမကို
မြင်တော်မူလျှင်ငါ့သမီး။မစိုးရိမ်နှင့်။ သင်၏ယုံကြည်ခြင်း သည် သင်အ
နာကိုညိမ်းစေပြီးဟုမိန့်တော်မူ၏။ ထိုခဏမှစ၍ထိုမိန်းမသည် အနာ
၂၃ ကင်းပျောက်လေ၏။ အရာရှိအိမ်သို့ရောက်တော်မူ၍တီးမှုတ်သော
သူတို့နှင့်များစွာသောလူတို့သည်အုန်းအုန်းသဲသဲပြုကြသည် ကို မြင်
၂၄ လျှင် ရှားကြလော့။ မိန်းမငယ်သေသည်မဟုတ်။အိပ်ပျော်နေသည်ဟု
၂၅ မိန့်တော်မူသည်ကိုထိုသူတို့သည်ပျက်ရယ်ပြုကြ၏။ ထိုလူများကို
ပြင်သို့ထွက်စေပြီးမှအတွင်း သို့ဝင်၍ မိန်းမငယ်လက်ကိုကိုင်တော်မူ
၂၆ သည်တွင်သူသည်ထလေ၏။ ထိုသိတင်းစကားသည် တပြည်လုံးနှံ့
၂၇ ပြားကျော်စောလေ၏။ ။ထိုအရပ်မှယေရှုသည်ကြွတော်မူ
စဉ်မျက်စိကန်းသောသူနှစ်ယောက်တို့သည်နောက်တော်သို့လိုက်၍
ဒါဝိဒ်၏သားတော်။ကျွန်တော်တို့ကိုသနားတော်မူပါဟု ဟစ်ကျော်
၂၈ ၏။ အိမ်သို့ဝင်တော်မူပြီးလျှင်မျက်စိကန်းသောသူတို့သည်အထံတော်
သို့ချည်းကပ်၍ကိုယ်တော်ကဤအမှုကိုငါတတ်နိုင်သည်ကိုယုံသလော
၂၉ ဟုမေးတော်မူလျှင်ယုံပါ၏သခင်ဟုလျှောက်ကြ၏။ ထိုအခါသူတို့၏
မျက်စိကိုတို့တော်မူ၍သင်တို့ယုံခြင်းရှိသည်အတိုင်းသင် တို့၌ ဖြစ်စေ
၃၀ ဟုမိန့်တော်မူသဖြင့် သူတို့မျက်စိသည်ပွင့်လင်းလေ၏။ယေရှုကလည်း
အဘယ်သူမျှမသိရအောင်သတိပြုကြလော့ဟုမြွက်တားတော်မူ၏။
၃၁ သို့သော်လည်းသူတို့သည်သွား၍သိတင်းတော်ကိုတပြည်လုံးနှံ့ပြား
၃၂ ကျော်စောစေ၏။ ။ထိုသူတို့သည်ထွက်သွားသည်နောက်နတ်
၃၃ ဆိုးစွဲသောလူအတယောက်ကိုအထံတော်သို့ဆောင်ခဲ့ကြ၏။ နတ်ဆိုး
ကိုနှင်ထုတ်တော်မူပြီးမှ အ သောသူသည် စကားပြော၏။ လူအပေါင်းအ
ဝေးတို့သည်လည်းအံ့ဩ၍ဣသရေလအမျိုး၌ဤကဲ့သို့မမြင်ရစဖူး
၃၄ ဟုပြောဆိုကြ၏။ ဖာရိရှဲလူတို့လည်းနတ်ဆိုးအကြီးကိုအမှီပြု၍နတ်
၃၅ ဆိုးတို့ကိုနှင်ထုတ်သည်ဟုပြောဆိုကြ၏။ ။ယေရှုသည်တ
ရားဇရပ်တို့၌ဆုံးမဩဝါဒပေးလျက်နိုင်ငံတော်နှင့်ဆိုင်သောဧဝံဂေ
လိတရားကိုဟောလျက်အနာရောဂါအမျိုးမျိုးတို့ကိုညိမ်းစေလျက်
၃၆ မြို့ရွာအားလုံးတို့ကိုဒေသစာရီကြွတော်မူ၏။ လူအပေါင်းအဝေးတို့ကို
မြင်တော်မူလျှင်သနားခြင်းစိတ်ရှိတော်မူ၏။ အဘယ်ကြောင့်နည်း
ဟူမူကား။ထိုသူတို့သည်ပင်ပန်းသည်ဖြစ်၍ထိန်းသူမရှိဘဲပြစ်ထား

၃၇ သောသိုးကဲ့သို့ဖြစ်ကြ၏။ ထိုအခါတပည့်တော်တို့အားစပါးရိတ်စ
၃၈ ရာများများရှိ၏။ရိတ်သောသူနည်းနည်းရှိ၏။ ထိုကြောင့်လုပ်ဆော
င်သောသူတို့ကိုစပါးရိတ်စေခြင်းငှါစေလွှတ်တော်မူမည့်အကြောင်း။
စပါးရှင်ကိုဆုတောင်းကြလော့ဟုမိန့်တော်မူ၏။

❋❋

၁ တကျိပ်နှစ်ပါးသောတပည့်တော်တို့ကိုခေါ်တော်မူပြီးမှညစ်ညူးသော
နတ်တို့ကို နှင်ထုတ်ခြင်းငှါ ၎င်း အနာရောဂါအမျိုးမျိုးတို့ကိုညှိမ်းစေ
၂ ခြင်းငှါ၎င်းအခွင့်ပေးတော်မူ၏။ တကျိပ်နှစ်ပါးသော တပည့်တော်
တို့၏အမည်ကား။ပေတရုဟူ၍ခေါ်ဝေါ်သောရှိမုန်နှင့်သူညီအန္ဒြေ။ဇေ
၃ ဗေဒဲ၏သားယာကုပ်နှင့်သူညီယောဟန်။ဖိလိပ္ပုနှင့်ဗာသောလမဲ။
သောမနှင့်အခွန်ခံမဿဲ၊အာလဖဲ၏သားယာကုပ်နှင့်သဒ္ဒဲ အမည်သစ်
၄ ကိုရသောလေဗဲ။ ကာနနိတ်လူ ရှိမုန် နှင့် ကိုယ်တော်ကိုအပ်နှံသော
၅ ယုဒရှကာရုတ်ပေတည်း။ ထိုတကျိပ်နှစ်ပါးသောသူတို့ကိုယေရှုသည်
စေလွှတ်တော်မူလျက်သင်တို့သည်တပါးအမျိုးသါးထံသို့မသွားကြနှင့်။
၆ ရှမာရိမြို့ရွာထဲသို့မဝင်ကြနှင့်။ ဣသရေလအမျိုး။ပျောက်လွှင့်သော
၇ သိုးတို့ဆီသို့အရင်သွားကြလော့။ သွားစဉ်တွင်ကောင်းကင်နိုင်ငံတော်
၈ တည်လုနီးပြီးဟုသိတင်းကြားပြောကြလော့။ နာသောသူတို့အားချမ်း
သာပေးကြလော့။သေသောသူတို့ကိုထမြောက်စေကြလော့။နူသောသူ
ကိုသန့်ရှင်းစေကြလော့။နတ်ဆိုးကိုလည်းနှင်ထုတ်ကြလော့။သင်တို့သည်
အဖိုးမပေးဘဲကျေးဇူးတော်ကိုခံရကြပြီးဖြစ်၍ အဖိုးမခံဘဲပေးကမ်း
၉။၁၀ ကြလော့။ ရွှေ။ငွေ။ကြေးတို့ကိုခါးပန်းထဲ၌မသိုမှီကြနှင့်။ လမ်းခရီးဘို့
လွယ်အိပ်။အင်္ကျီနှစ်ထည်။ ခြေနင်း။ တောင်ဝေးကိုမသိုမှီကြနှင့်။ အ
ကြောင်းမူကား။ လုပ်ဆောင်သောသူသည်ကျွေးမွေးခြင်းကိုခံထိုက်ပေ
၁၁ ၏။ ။ခပ်သည်မြို့။မည်သည်ရွာသို့ဝင်လျှင်ထိုမြို့ရွာ၌အဘယ်
မည်သောသူသည်ထိုက်တန်သနည်းဟုမေးမြန်း၍ ထိုမြို့ရွာမှထွက်
၁၂ မသွားမှီတိုင်အောင်ထိုသူ၏အိမ်တွင်နေကြလော့။ အိမ်ကိုဝင်သော
၁၃ အခါမင်္ဂလာရှိပါစေသောဟုနှုတ်ဆက်ခြင်းကိုပြုကြလော့။ ထိုအိမ်
သည်ထိုက်တန်လျှင်သင်တို့မြွက်သောမင်္ဂလာရောက်စေသတည်း။ မ
၁၄ ထိုက်တန်လျှင်သင်တို့ဆီသို့ပြန်လာစေသတည်း။ အကြင်သူသည်
သင်တို့ကိုလက်မခံ။သင်တို့စကားကိုနားမထောင်ဘဲနေ၏။ ထိုသူနေ
သောအိမ်မှင်မြို့မှင်ထွက်သွားစဉ်သင်တို့၏ခြေဖဝါးမှမြေမှုန့်ကိုခါ

၁၅ လိုက်ကြလေ့။ ငါအမှန်ဆိုသည်ကား။တရားဆုံးဖြတ်သောနေ့၌သော
၁၆ ဒုံမြို့နှင့်ဂေါမောရမြို့ထက်ထိုမြို့သည်သာ၍ခံရလတံ့။ ။တောခွေး
ရထဲသို့သိုးတို့ကိုစေလွှတ်သကဲ့သို့သင်တို့ကိုငါစေလွှတ်၏။ထိုကြော
င့်မြွေကဲ့သို့လိမ္မာလျက်ချိုးငှက်ကဲ့သို့အဆိပ်ကင်းလျက်သင်တို့ရှိကြ
၁၇ လေ့။ လူတို့ကိုသတိပြုကြ။အကြောင်းမူကား။ သင်တို့ကိုလွှတ်ရုံးသို့
၁၈ အပ်နှံလိမ့်မည်။တရားဇရပ်တို့၌ရိုက်လိမ့်မည်။ ထိုသူတို့မှစ၍ တ
ပါးအမျိုးသားတို့အားသက်သေဖြစ်မည်အကြောင်း။ မြို့ဝန်မင်း။ ရှင်
၁၉ ဘုရင်ထံသို့ငါ့ကြောင့်သင်တို့ကိုပို့ဆောင်ကြလိမ့်မည်။ သင်တို့ကို
အပ်နှံသောအခါ အဘယ်သို့ပြောရမည်ဟု မစိုးရိမ်ကြနှင့်။ ပြောရ
၂၀ သောစကားကိုထိုခဏတွင်ပင်သင်တို့ရကြလိမ့်မည်။ အဘယ်ကြော
င့်နည်းဟူမူကား။သင်တို့အလိုအလျောက်ပြောကြသည်မဟုတ်။ သင်
၂၁ တို့အဖ၏ဝိညာဉ်တော်သည်သင်တို့အားဖြင့်ပြောတော်မူ၏။ ထိုအ
ခါညီအစ်ကိုချင်း တယောက်ကို တယောက် သေစေခြင်းငှါအပ်ကြ
လိမ့်မည်။ အဖသည်လည်းသားကိုအပ်လိမ့်မည်။ သားသမီးတို့သည်
၂၂ လည်းမိဘကိုရန်ဘက်ပြု၍သေစေကြလိမ့်မည်။ လူအပေါင်းတို့သည်
လည်းငါ့နာမကြောင့်သင်တို့ကိုမုန်းကြလိမ့်မည်။ အကြင်သူသည်အ
ဆုံးတိုင်အောင်မြဲမြံ၏။ထိုသူသည်ကယ်တင်ခြင်းသို့ရောက်လိမ့်မည်။
၂၃ ။တမြို့၌သင်တို့ကိုညှဉ်းဆဲလျှင်တမြို့သို့ပြေးကြလေ့။ငါ
အမှန်ဆိုသည်ကား။ဣသရေလမြို့ရွာအားလုံးတို့ကိုသင်တို့လှည့်လည်
၂၄ ၍မကုန်မှီလူသားသည်ကြွလာလိမ့်မည်။ တပည့်သည်ဆရာထက်
၂၅ မသာ။ကျွန်သည်သခင်ထက်မသာ။ တပည့်သည်ဆရာကဲ့သို့၎င်
ကျွန်သည်သခင်ကဲ့သို့၎င်ဖြစ်လျှင်သင့်လောက်ပေ၏။အိမ်ရှင်ကိုဗေ
လဇေဗုလဟုခေါ်ဝေါ်ကြလျှင်အိမ်သူအိမ်သားတို့ကိုသာ၍ခေါ်ဝေါ်ကြ
၂၆ လိမ့်မည်။ ထိုကြောင့်သူတို့ကိုမကြောက်ကြနှင့်။ဖုံးထားလျက်ရှိသမျှ
သောအရာတို့ကိုဖွင့်လိမ့်မည်။ ဆိတ်ကွယ်ရာ၌ရှိသမျှတို့သည်လည်း
၂၇ ထင်ရှားလိမ့်မည်။ ငါသည်မှောင်မိုက်၌သင်တို့အားပြောသောအရာ
များကိုသင်တို့သည်အလင်း၌ကြားပြောကြလေ့။ သင်တို့နားအပါး၌
ပြော၍ ကြားသောအရာများကို အိမ်မိုးပေါ်မှာဟစ်ကျော်ကြလေ့
ဟုမိန့်တော်မူ၏။

**

၂၈ တနည်းကား။ကိုယ်ခန္ဓာကိုသာသတ်၍စိတ်ဝိညာဉ်ကိုမသတ်နိုင်သော

သူတို့ကိုမကြောက်ကြနှင့်။ ကိုယ်ခန္ဓာစိတ်ဝိညာဉ်နှစ်ပါးစလုံးတို့ကို
၂၉ ငရဲ၌ဖျက်ဆီးနိုင်သောသူကိုသာကြောက်ကြလော့။ စာငှက်နှစ်ကောင်
ကိုအသပြာတပြားအဖိုးနှင့်ဝယ်ရသည်မဟုတ်လော။ သင်တို့အဘ၏အ
၃၀ ခွင့်မရှိဘဲထိုစာငှက်တကောင်မျှမြေသို့မကျရ။ သင်တို့ဆံပင်လည်း
၃၁ အကုန်အစင်ရေတွက်လျက်ရှိ၏။ ထိုကြောင့်မကြောက်ကြနှင့်။ သင်
၃၂ တို့သည်စာငှက်အများတို့ထက်သာ၍မြတ်ကြ၏။ အကြင်သူသည်လူ
တို့ရှေ့မှာငါ့ကိုဝန်ခံအံ့။ ကောင်းကင်ဘုံ၌ရှိသောငါ့ခမည်းတော်ရှေ့
၃၃ မှာထိုသူကိုငါဝန်ခံမည်။ အကြင်သူသည်လူတို့ရှေ့မှာငါ့ကိုငြင်း
ပယ်အံ့။ ကောင်းကင်ဘုံ၌ရှိသောငါ့ခမည်းတော်ရှေ့မှာထိုသူကိုငါ
၃၄ ငြင်းပယ်မည်။ ။မြေပေါ်မှာငြိမ်သက်ခြင်းကိုဆောင်ခဲ့ခြင်း
ငှါငါလာသည်ကိုမထင်ကြနှင့်။ ငြိမ်သက်ခြင်းကိုဆောင်ခဲ့ခြင်းငှါငါ
၃၅ လာသည်မဟုတ်။ ဓားကိုပင်ဆောင်ခဲ့ခြင်းငှါငါလာသတည်း။ အဖ
နှင့်သား။ အမိနှင့်သမီး။ ယောက္ခမနှင့်ချွေးမအချင်းချင်းကွဲပြားစေခြင်း
၃၆ ငှါငါလာသတည်း။ ကိုယ်အိမ်သူအိမ်သားတို့သည်လည်းကိုယ်ရန်
၃၇ သူဖြစ်ကြလိမ့်မည်။ အကြင်သူသည်ငါ့ကိုချစ်သည်ထက်မိဘကိုသာ
၍ချစ်၏။ ထိုသူသည်ငါနှင့်မထိုက်မတန်။ အကြင်သူသည်ငါ့ကိုချစ်
သည်ထက်သားသမီးကိုသာ၍ချစ်၏။ ထိုသူသည်ငါနှင့်မထိုက်မတန်။
၃၈ အကြင်သူသည်မိမိလက်ဝါးကပ်တိုင်ကိုထမ်း၍ငါ့နောက်သို့မလိုက်။
၃၉ ထိုသူသည်ငါနှင့်မထိုက်မတန်။ မိမိအသက်ကိုတွေ့သောသူကားအ
သက်ရှုံးလိမ့်မည်။ ငါ့ကြောင့်မိမိအသက်ရှုံးသောသူကားအသက်ကို
၄၀ တွေ့လိမ့်မည်။ သင်တို့ကိုလက်ခံသောသူသည်ငါ့ကိုလက်ခံ၏။ ငါ့ကို
၄၁ လက်ခံသောသူသည်ငါ့ကိုစေလွှတ်တော်မူသောသူကိုလက်ခံ၏။ ပ
ရောဖက်၏အကြောင်းကိုထောက်၍ပရောဖက်ကိုလက်ခံသောသူ
သည်ပရောဖက်၏အကျိုးကိုခံလတ္တံ့။ ဖြောင့်မတ်သောသူ၏အကြော
င်းကိုထောက်၍ဖြောင့်မတ်သောသူကိုလက်ခံသောသူသည်ဖြောင့်
၄၂ မတ်သောသူ၏အကျိုးကိုခံလတ္တံ့။ အကြင်သူသည်ငါ့တပည့်၏အ
ကြောင်းကိုထောက်၍တစုံတယောက်သောဤသူငယ်အားရေတခွက်
ကိုမျှပေး၏။ ထိုသူသည်အကျိုးကိုမရဘဲမနေရ။ ငါအမှန်ဆိုသည်ဟု
၁ မှာထားတော်မူ၏။ ထိုသို့တကျိပ်နှစ်ပါးသောတပည့်တော်တို့ကို
ကုန်စင်အောင်မှာထားတော်မူပြီးလျှင်မြို့ရွာများတို့၌ဆုံးမဩဝါဒ
ပေးခြင်းငှါနိသိတင်းကြားပြောခြင်းငှါရှင်ထိုအရပ်မှကြွတော်မူ၏။

၂ ။ယောဟန်သည်ထောင်ထဲမှာနေစဉ်ခရစ်တော်၏အမှုအ
၃ ရာတို့ကိုကြားရလျှင်မိမိတပည့်နှစ်ယောက်ကိုစေလိုက်၍ ကိုယ်
တော်သည်ကြွလာသောသူမှန်သလော။သို့မဟုတ်။အခြားသောသူကို
၄ မျှော်လင့်ရပါမည်လောဟုကိုယ်တော်အားလျှောက်လေ၏။ ယေရှုက
လည်းသင်တို့သွားကြလော့။ ကြားရသမျှ။ မြင်ရသမျှတို့ကိုယောဟန်
၅ အားကြားလျှောက်ကြလော့။ မျက်စိကန်းသောသူတို့သည်မျက်စိမြင်
ပြန်ရ၏။ ခြေဆွံ့သောသူတို့သည် လှမ်းသွားရ၏။ နူနာစွဲသောသူတို့
သည်သန့်ရှင်းခြင်းသို့ရောက်ရ၏။ နားပင်းသောသူတို့သည်နားကြား
ရ၏။သေသောသူတို့သည်ထမြောက်ခြင်းသို့ရောက်ရ၏။ဆင်းရဲသါး
၆ တို့သည်လည်းဝမ်းမြောက်စရာသိတင်းကိုကြားရ၏။ ငါကြောင့်စိတ်
မပျက်သောသူသည် မင်္ဂလာရှိ၏ဟုပြန်ပြောတော်မူ၏။

❋❋

၇ ထိုသူတို့သည်သွားသောနောက်ယေရှုသည်ယောဟန်ကိုအကြောင်း
ပြု၍ပရိသတ်တို့အားသင်တို့သည်အဘယ်မည်သောအရာကိုကြည့်
ခြင်းငှါတောသို့ထွက်သွားသနည်း။ လေလှုပ်သောကျူပင်ကိုကြည့်
၈ ခြင်းငှါသွားသလော။ သို့မဟုတ်။နူးညံ့သောအဝတ်နှင့်ဝတ်ဆင်သော
သူကိုကြည့်ခြင်းငှါသွားသလော။နူးညံ့သောအဝတ်နှင့်ဝတ်ဆင်သော
၉ သူတို့သည်မင်းအိမ်၌နေတတ်၏။ ပရောဖက်ကိုကြည့်ခြင်းငှါသွား
၁၀ သလော။မှန်ပေ၏။ထူးဆန်းသောပရောဖက်ဟုငါဆို၏။ ကျမ်းစာ၌
လာသည်ကား။ ကြည့်ရှုလော့။ သင်သွားရာလမ်းကိုပြင်ရသောငါ၏
တမန်ကိုသင်ရှေ့၌ငါစေလွှတ်၏ဟုဆိုရာ၌ထိုသူကိုဆိုလိုသတည်း။
၁၁ ငါအမှန်ဆိုသည်ကား။ မိန်းမဖွားသောသူတို့တွင်ရေနှစ်မင်္ဂလာဆရာ
ယောဟန်ထက်ကြီးမြတ်သောသူတယောက်မျှမပေါ်မထွန်းသေး။သို့
သော်လည်း ကောင်းကင်နိုင်ငံတော်တွင်အငယ်ဆုံးသောသူသည်သူ
၁၂ ထက်သာ၍ကြီးမြတ်၏။ ရေနှစ်မင်္ဂလာဆရာယောဟန်လက်ထက်
မှစ၍ယခုတိုင်အောင်ကောင်းကင်နိုင်ငံတော်ကိုအနိုင်အထက်ပြုကြ
၁၃ ၏။အနိုင်အထက်ပြုသောသူတို့သည်လည်းလုယူဝင်စားကြ၏။ ယော
ဟန်မရောက်မှီတိုင်အောင်ပညတ္တိကျမ်း။အနာဂတ္တိကျမ်းအားလုံးတို့
၁၄ သည်ဆုမ္ပဒါဒေပေးကြ၏။ ငါစကားကိုသင်တို့သည်နားခံနိုင်လျှင်
၁၅ ဤသူကားလာလတ္တံ့သောဧလိယဖြစ်သတည်း။ ကြားစရာနားရှိ
၁၆ သောသူမည်သည်ကားကြားပါလေစေ။ ။ဤလူမျိုးကိုအဘယ်

ဥပမာနှင့်ပုံပြရအံ့နည်း။ ပွဲသဘင်၌ထိုင်နေသောသူငယ်တို့သည်မိ
၁၇ မိသူငယ်ချင်းတို့အားခေါ်၍ ငါတို့သည်သာယာစွာတီးမှုတ်သော်
လည်းသင်တို့မကကြ။ ညည်းတွားစွာမြည်တမ်သော်လည်းသင်တို့မ
၁၈ ငိုကြွေးကြဟုပြောဆိုသောသူငယ်တို့နှင့် ဤလူမျိုးတူလှ၏။ အဘယ်
ကြောင့်နည်းဟူမူကား။ ယောဟန်သည်မစားမသောက်ဘဲလာသည်
ရှိသော်သူတို့က၊ဤသူသည်နတ်ဆိုးစွဲသောသူပါတကားဟုဆိုကြ၏။
၁၉ လူသားသည်စားသောက်လျက်လာသည်ရှိသော်ဤသူသည်စားကျူး
သောသူ။စပျစ်ရည်သောက်ကျူးသောသူပါတကား။အခွန်ခံသူ။ အိုးသူ
တို့နှင့်မိတ်ဆွေဖွဲ့သောသူပါတကားဟုဆိုကြ၏။သို့သော်လည်းပ
ညာတရားသည်မိမိအကျင့်အားဖြင့်ကဲ့ရဲ့ပြစ်တင်ခြင်းမှလွတ်ခပ၏
၂၀ ဟုမိန့်တော်မူ၏။ ။ထိုအခါအများဆုံးသောတန်ခိုးတော်ကိုပြ
တော်မူသောမြို့ရွာတို့သည်နောင်တမရသောကြောင့် ထိုမြို့တို့ကိုဤ
၂၁ သို့ကဲ့ရဲ့ပြစ်တင်တော်မူ၏။ အိုခေါရဇိန်မြို့။သင်သည်အမင်္ဂလာရှိ၏။
အိုဗက်ဇဲဒမြို့။ သင်သည် အမင်္ဂလာရှိ၏။ အဘယ်ကြောင့်နည်းဟူမူ
ကား။သင်တို့တွင်ပြသောတန်ခိုးကိုတုရုမြို့။ဇိဒုန်မြို့တွင်ပြဘူးလျှင်
ထိုမြို့တို့သည်ရှေးကလျှော်တေအဝတ်ဝတ်လျက်ပြာနှင့်လူးလျက်နောင်
၂၂ တရကြလိမ့်မည်။ ငါဆိုသည်ကား။တရားဆုံးဖြတ်သောနေ့၌တုရုမြို့
၂၃ နှင့်ဇိဒုန်မြို့ထက်သင်တို့သည်သာ၍ခံရလတ့ံ။ အိုကပေရနောင်မြို့။
မိုဃ်းကောင်းကင်တိုင်အောင်မြှောက်စားသော်လည်းမရဏာနိုင်ငံ
တိုင်အောင်နှိမ့်ချလတ့ံ။အဘယ်ကြောင့်နည်းဟူမူကား။သင်၌ပြသော
တန်ခိုးကိုသောဒုံမြို့၌ပြဘူးလျှင်ထိုမြို့သည်ယခုတိုင်အောင်တည်ရာ
၂၄ ၏။ ငါဆိုသည်ကား။တရားဆုံးဖြတ်သောနေ့၌သောဒုံမြို့ထက်သင်
၂၅ သည်သာ၍ခံရလတ့ံဟုမိန့်တော်မူ၏။ ။ထိုအခါယေရှုက
ကောင်းကင်မြေကြီးကိုအစိုးရတော်မူသောအဖ။ကိုယ်တော်သည်ပ
ညာအလိမ္မာနှင့်ပြည့်စုံသောသူတို့အား ဤအရာများကို ထိမ်ဝှက်
ကွယ်ထားလျက်သူငယ်တို့အားဖော်ပြတော်မူသည်ဖြစ်၍ကျေးဇူး
၂၆ တော်ကိုအကျွန်ုပ်ချီးမွမ်းပါ၏။ ထိုသို့အလိုတော်ရှိသောကြောင့်မှန်
၂၇ ပါ၏အဖ။ငါ့ခမည်းတော်သည်ခပ်သိမ်းသောအရာတို့ကိုငါ၌အပ်ပေး
တော်မူပြီး။ခမည်းတော်မှတပါးအဘယ်သူသည်သားတော်ကိုမသိ။
သားတော်နှင့်သားတော်သည်လင်းစေလိုသောသူမှတပါးအဘယ်
၂၈ သူသည်ခမည်းတော်ကိုမသိ။ ဝန်လေး၍ပင်ပန်းသောသူအားလုံး

၂၈ တို့။ငါထံသို့လာကြလော့။ငါသည်ချမ်းသာပေးမည်။ ငါ၏ထမ်းဘိုးကို
တင်၍ထမ်းကြလော့။ ငါထံ၌နည်းခံကြလော့။ ငါသည်နူးညွတ်သိမ်မွေ့နှိမ့်
ချသောစိတ်သဘောရှိ၏။သင်တို့စိတ်နှစ်လုံးသည် သက်သာခြင်းကို
၃၀ ရလိမ့်မည်။ အဘယ်ကြောင့်နည်းဟူမူကား။ငါထမ်းဘိုးထမ်းလွယ်၏။
ငါဝန်လည်းပေါ့၏ဟုမိန့်တော်မူ၏။

❋❋

၁ ထိုအခါယေရှုသည် ဥပုသ်နေ့ ၌ ဂျုံစပါး လယ်ကွက်နားမှာကြွတော်မူ
စဉ်တပည့်တော်တို့သည်ဆာ မွတ်၍စပါးအသီးအနှံကိုဆွတ်သဖြင့်
၂ စားကြ၏။ ဖာရိရှဲလူတို့သည်မြင်လျှင်ကိုယ်တော်တပည့်တို့သည်ဥ
ပုသ်နေ့၌မပြုအပ်သောအမှုကို ပြု ကြ သည် တကား ဟု လျှောက်လေ
၃ သော် ကိုယ်တော်ကဒါဝိဒ်သည်မိမိအဖော်တို့နှင့်တကွ မွတ်သိပ်သော
၄ အခါ ဘုရားသခင်၏အိမ်တော်သို့ဝင်၍သူမစားအပ်။ သူ့အဖော်မ
စားအပ်။ယဇ်ပုရောဟိတ်တို့သာစားအပ်သောရှေ့တော်မုန့်ကိုစား
၅ သည်အကြောင်းကိုသင်တို့သည်မဖတ်ဘူးသလော။ ယဇ်ပုရောဟိတ်
တို့သည်လည်းဗိမာန်တော်တွင်ဥပုသ်နေ့၌ဥပုသ်ပျက်သော်လည်း
၆ အပြစ်မသင့်သည်ကိုပညတ္တိကျမ်း၌ မဖတ်ဘူး သလော။ ငါဆိုသည်
ကား။ ဤအရပ် ၌ဗိမာန်တော်ထက်သာ ၍ ကြီးမြတ်သော အရာရှိ
၇ ၏။ ယဇ်ပူဇော်ခြင်းအကျင့်ထက် သနားခြင်းကရုဏာ အကျင့် ကို ငါ
နှစ်သက်၏ဟူသောကျမ်းစကားကိုသင်တို့နားလည်လျှင်အပြစ်ကင်း
၈ သော သူတို့ကိုအပြစ်မတင်မစီရင်ကြပြီ။ လူသားသည်ဥပုသ်နေ့၏
၉ အရှင်ဖြစ်သည်ဟုမိန့်တော်မူ၏။ ။ထိုအရပ်မှကြွ၍တရားဇ
၁၀ ရပ်သို့ဝင်တော်မူ၏။ လက်တဖက်သေသောသူတယောက်ရှိ၏။ လူ
အချို့တို့ကဥပုသ်နေ့၌ရောဂါကိုညှိမ်းစေအပ်သလော ဟု ကိုယ်တော်
၁၁ ကိုတရားတွေ့စရာအကြောင်းရှိရအောင်မေးလျှောက်ကြ၏။ ကိုယ်
တော်ကလည်းသင်တို့တွင်အဘယ်သူသည်သိုးတကောင်ရှိ၍ ထိုသိုး
၁၂ သည်ဥပုသ်နေ့ ၌ တွင်းထဲသို့ကျလျှင်မဆွဲမတင်ဘဲနေ အံ့နည်း။ လူ
သည်သိုးထက်အလွန်မြတ်ပေ၏။သို့ဖြစ်၍ဥပုသ်နေ့၌ကျေးဇူး ပြုအပ်
၁၃ ၏ဟုပြန်ပြောတော်မူပြီးမှ ထိုလူအားသင်လက်ကိုဆန့်တော့ဟုမိန့်
တော်မူ၍သူသည်လက်ကိုဆန့်လျှင်ထိုလက်သည် လက် တဖက် ကဲ့သို့
၁၄ ပကတိဖြစ်လေ၏။ ထိုအခါဖာရိရှဲလူတို့သည်ထွက်၍ကိုယ်တော်ကို
၁၅ အဘယ်သို့ဖျက်ဆီးရအံ့နည်းဟုတိုင်ပင်ကြ၏။ ။ယေရှုသည်

သိတော်မူလျှင်အချားသို့ပြောင်းကြွ၍များစွာသောလူအပေါင်းတို့
သည်နောက်တော်သို့လိုက်ကြသဖြင့် သူတို့၏အနာရောဂါရှိသမျှတို့
၁၆ ကိုညီမ်းစေတော်မူ၏။ ထိုသူတို့သည်သိတင်းတော်ကိုမဖွင့်လင်း
၁၇ စေမည်အကြောင်းပညတ်တော်မူ၏။ ထိုအကြောင်းအရာကား။ ပ
၁၈ ရောဖက်ဟေရှာယ၏နှုတ်ထွက်ပြည့်စုံမည်အကြောင်းတည်း။ နှုတ်
ထွက်အချက်ဟူမူကား။ငါရွေးချယ်သောငါ၏ကျွန်ရင်း။ ငါနှစ်သက်
မြတ်နိုးရာငါ၏သားကိုကြည့်လော့။သူအပေါ်၌ငါ၏ဝိညာဉ်ကိုငါကျိန်း
ဝပ်စေမည်။သူသည်လည်းလူမျိုးတို့အားတရားကိုပေးလိမ့်မည်။
၁၉ ညင်းခုံခြင်း။ဟစ်ကျော်ခြင်းကိုမပြုမူ၍ လမ်းခရီး၌ သူ၏အသံကိုအ
၂၀ ဘယ်သူမျှမကြားစေရ။ သူသည်နှင်းနယ်သောကျူပင်ကိုမချိုး။ညို
လှ၍မီးခိုးထွက်သေးသောမီးစကိုမသတ်သဖြင့် တရားသည်အောင်
၂၁ မြင်ခြင်းသို့ရောက်စေလိမ့်မည်။ သူ၏နာမကိုလည်းလူအမျိုးမျိုးတို့
သည်ကိုးစားကြလိမ့်မည်ဟုဟောထားသတည်း။

❋❋

၂၂ ထိုအခါနတ်ဆိုးစွဲသောလူကန်းလူအတယောက်ကိုအထံတော်သို့
ဆောင်ခဲ့ကြလျှင်လူကန်းလူအသည်စကားပြောနိုင်။ မျက်စိမြင်နိုင်
၂၃ အောင်ကယ်တွတ်တော်မူ၏။ လူအစုအဝေးအပေါင်းတို့သည်မိန်း
မောတွေဝေ၍ ဤသူသည်ဒါဝိဒ်၏သားတော်ဖြစ်လိမ့်မည်လောဟု
၂၄ ပြောဆိုကြ၏။ ဖာရိရှဲလူတို့သည်ကြားလျှင်ဤသူသည်နတ်ဆိုးမင်း
ဗေလဇေဗုလကိုသာအမှီပြု၍နတ်ဆိုးတို့ကိုနှင်ထုတ်သည်ဟုဆိုကြ၏။
၂၅ ယေရှုသည်သူတို့စိတ်ကိုသိတော်မူသည်ဖြစ်၍တိုင်းနိုင်ငံမည်သည်
ကားမိမိနှင့်မသင့်မတင့်ကွဲပြားလျှင်ပျက်စီးခြင်းသို့ရောက်လိမ့်မည်။
မြို့ရွာဖြစ်စေ။ အိမ်ဖြစ်စေ။ မိမိနှင့်မသင့်မတင့်ကွဲပြားလျှင်မတည်
၂၆ နိုင်ရာ။ စာတန်သည်လည်းစာတန်ကိုနှင်ထုတ်သည်မှန်လျှင်သူ
သည်မိမိနှင့်ကွဲပြား၏။သူ၏နိုင်ငံသည်အဘယ်သို့တည်နိုင်သနည်း။
၂၇ ငါသည်ဗေလဇေဗုလကိုအမှီပြု၍နတ်ဆိုးတို့ကိုနှင်ထုတ်သည်မှန်
လျှင်သင်တို့၏သားတို့သည်အဘယ်သူကိုအမှီပြု၍နှင်ထုတ်သနည်း။
ထိုကြောင့်သူတို့သည်သင်တို့အားတရားစီရင်သောသူဖြစ်ကြလိမ့်
၂၈ မည်။ ငါသည်ဘုရားသခင်၏ဝိညာဉ်တော်ကိုအမှီပြု၍နတ်ဆိုးတို့
ကိုနှင်ထုတ်သည်မှန်လျှင်အကယ်၍သင်တို့၌ဘုရားသခင်၏နိုင်ငံ
၂၉ တော်တည်ချိန်ရောက်ခဲ့ပြီ။ သူရဲကိုရှေးဦးစွာမချည်မနှောင်လျှင်အ

ဘယ်သူသည်သူ၏အိမ်ဥစ္စာကိုသူ့ဥစ္စာကိုလုယူနိုင်အံ့နည်း၊သူ၏ကို
၃၀ ချည်နှောင်ပြီးသော်သူ၏အိမ်ကိုလုယူနိုင်၏။ ငါဘက်၌နေသောသူ
သည်ငါနှင့်ဘက်ဖြစ်၏။ ငါနှင့်အတူမစုသိမ်းသောသူသည်ကြဲဖြန့်
၃၁ သောသူဖြစ်၏။ ထို့ကြောင့်ငါဆိုသည်ကား၊ ပြစ်မှားသောအ
ပြစ်၊ ဘုရားကိုကဲ့ရဲ့သောအပြစ်အမျိုးမျိုးတို့နှင့်ဆိုင်သောအခွင့်ကို
လူတို့သည်ရနိုင်ကြ၏။ ဝိညာဉ်တော်ကိုကဲ့ရဲ့သောအပြစ်နှင့်ဆိုင်သော
၃၂ အခွင့်ကိုလူတို့သည်မရနိုင်။ လူသားကိုရှုတ်ချ၍ပြစ်မှားသောသူဖြစ်
သော်လည်းအပြစ်လွှတ်နိုင်၏။ သန့်ရှင်းသောဝိညာဉ်တော်ကိုရှုတ်ချ၍
ပြစ်မှားသောသူသည်ယခုဘဝ၌၎င်းနောင်ဘဝ၌၎င်းအပြစ်လွှတ်သောအ
၃၃ ခွင့်ကိုမရနိုင်။ အသီးကိုထောက်၍အပင်သဘောကိုသိရသည်
ဖြစ်၍အသီးကောင်းလျှင်အပင်ကောင်းသည်ဟုဆိုကြလော့၊ အသီးမ
၃၄ ကောင်းလျှင်အပင်မကောင်းဟုဆိုကြလော့၊ အချင်းမြွေဆိုးအမျိုးတို့။
သင်တို့သည်အဆိုးဖြစ်လျက်ကောင်းသောစကားကိုအဘယ်သို့ပြော
နိုင်သနည်း။စိတ်နှလုံးအပြည့်ရှိသည်အတိုင်းနှုတ်မြွက်တတ်၏။
၃၅ ကောင်းသောသူသည်မိမိကောင်းသောဘဏ္ဍာတိုက်ထဲကကောင်း
သောအရာတို့ကိုထုတ်ဖော်တတ်၏။ မကောင်းသောသူသည်မိမိမ
ကောင်းသောဘဏ္ဍာတိုက်ထဲကမကောင်းသောအရာတို့ကိုထုတ်
၃၆ ဖော်တတ်၏။ ငါဆိုသည်ကား။ လူတို့သည်အကျိုးမဲ့သောစကား
ပြောသမျှတို့အတွက်တရားဆုံးဖြတ်သောနေ့၌အစစ်အကြောခံရကြ
၃၇ လတံ့။ သင်စကားများအားဖြင့်သင်အပြစ်လွှတ်လိမ့်မည်။ သို့မဟုတ်။
သင်စကားများအားဖြင့်အပြစ်စီရင်ခြင်းကိုခံရလိမ့်မည်ဟုမိန့်တော်
၃၈ မူ၏။ ထိုအခါအချို့သောကျမ်းပြုဆရာနှင့်ဖာရိရှဲလူတို့ကအ
ရှင်ဘုရား။ကိုယ်တော်သည်ပြုတော်မူသောနိမိတ်လက္ခဏာတစုံတ
၃၉ ခုကိုအကျွန်ုပ်တို့သည်မြင်ချင်ပါသည်ဟုလျှောက်ကြလျှင်။ ကိုယ်တော်
ကဆိုးညစ်၍မြောက်မထားသောအမျိုးသည်နိမိတ်လက္ခဏာကို
ကောင်းသည်မှာပရောဖက်ယောန၏နိမိတ်လက္ခဏာမှတပါးအဘ
၄၀ ယ်လက္ခဏာကိုသူတို့အားမပြရာ။ ယောနသည်ငါးကြီးဝမ်းထဲမှာ
သုံးရက်နေသကဲ့သို့လူသားသည်မြေကြီးထဲမှာသုံးရက်နေရလတံ့။
၄၁ နိနေဝေမြို့သားတို့သည်ဤလူမျိုးကိုတရားတွေ့ဘက်ပြု၍အရှုံးခံစေ
လတံ့။အဘယ်ကြောင့်နည်းဟူမူကား။ထိုမြို့သားတို့သည်ယောန၏ဒေ
သနာကြောင့်နောင်တရကြ၏။ဤအရပ်၌ကားယောနထက်သာ၍ကြီး

၄၂ မြတ်သောသူ ရှိ၏။ တောင်ပြည်ကိုအစိုးရသောမိဘုရားသည်ဤလူ
မျိုးကိုတရားတွေ့ဘက်ပြု၍အရှုံးခံစေလတံ့။အဘယ်ကြောင့်နည်းဟူ
မူကား။ထိုမိဘုရားသည်ရှောလောမုန်မင်းကြီးပညာစကားကိုနား
ထောင်ရအောင်မြေကြီးစွန်းမှလာ၏။ ဤအရပ်၌ကားရှောလောမုန်
၄၃ ထက်သာ၍ကြီးမြတ်သောသူ ရှိ၏။ ။ညစ်ညူးသောနတ်သည်
လူထဲကထွက်လျှင်ချောက်ကပ်သောအရပ်တို့၌လည့်၍ ညိမ်ဝပ်ခြင်း
၄၄ ကိုရှာတတ်၏။မတွေ့မူကား ငါထွက်ခဲ့သောငါနေမြဲအိမ်သို့ငါပြန်ရ
ဦးမည်ဟုဆို၍ရောက်သောအခါထိုအိမ်သည်လွတ်လပ်သုတ်သင်ဆင်
၄၅ ပြင်လျက်ရှိသည်ကိုတွေ့လျှင် မိမိထက်သာ၍ညစ်ညူးသောနတ်ဆိုး
ခုနှစ်ယောက်ကိုခေါ်သဖြင့်ထိုလူထဲသို့ဝင်၍နေကြ၏။ထိုလူ၏နောက်
ဖြစ်ဟန်သည်ရှေ့ဖြစ်ဟန်ထက်သာ၍ဆိုး၏။ ဆိုးညစ်သောဤလူမျိုး
၌ထိုနည်းတူဖြစ်လတံ့ဟုမိန့်တော်မူ၏။



၄၆ ထိုသို့ပရိသတ်တို့အားဟောတော်မူစဉ်မယ်တော်နှင့်ညီတော်တို့
၄၇ သည်လျှောက်လိုသောစိတ်နှင့်ပြင်မှာရပ်နေကြ၏။ လူတယောက်က
လည်းမယ်တော်နှင့်ညီတော်တို့သည်လျှောက်လို၍ပြင်မှာရပ်နေကြ
၄၈ ၏ဟုလျှောက်လျှင် ငါအမိ။ငါညီကားအဘယ်သူနည်းဟုမေးတော်
၄၉ မူသဖြင့် လက်တော်ကိုဆန့်၍တပည့်တော်တို့ကိုညွှန်လျက်ငါအမိ။
၅၀ ငါညီတို့ပေတည်း။ ကောင်းကင်ဘုံ၌ရှိတော်မူသောငါအဖ၏အလို
တော်ကိုဆောင်သောသူသည်ငါညီ။ငါနှမ။ငါအမိဖြစ်သတည်းဟု
၁ မိန့်တော်မူ၏။ ။ထိုနေ့၌ယေရှုသည်အိမ်ကထွက်၍အိုင်နား
၂ မှာထိုင်နေတော်မူသည်တွင် များစွာသောလူအပေါင်းတို့သည်ကိုယ်
တော်ကိုဝန်းရံ၍ရပ်ဝေးလျက်ရှိကြသောကြောင့်လှေထဲသို့ဝင်၍ထိုင်
၃ တော်မူ၏။ပရိသတ်အပေါင်းတို့သည်ကမ်းပေါ်မှာရပ်နေကြ၏။ ထို
အခါဥပမာစကားများတို့ကိုမြွက်ဆိုတော်မူသည်မှာမျိုးစေ့ကြဲသော
၄ သူသည်မျိုးစေ့ကိုကြဲခြင်းငှါထွက်သွား၏။ အစေ့ကိုကြဲသည်တွင်
အချို့သောအစေ့တို့သည်လမ်း၌ကျသဖြင့်ငှက်တို့သည်လာ၍ကောက်
၅ စားကြ၏။ အချို့သောအစေ့တို့သည်မြေနည်း၍ကျောက်ပေါ်များ
သောအရပ်၌ကျသဖြင့်မြေတိမ်သောကြောင့်ချက်ချင်းအပင်ပေါက်
၆ သော်လည်း နေထွက်သောအခါပူလောင်သည်ဖြစ်၍အမြစ်မစွဲသော
၇ ကြောင့်ညှိုးနွမ်းပျက်စီးခြင်းသို့ရောက်ကြ၏။ အချို့သောအစေ့တို့သည်

ဆူးပင်တို့တွင်ကျသဖြင့်ဆူးပင်တို့သည်ကြီးပွား၍ညှဉ်းဆဲကြ၏။
၈ အချို့သောအစေ့တို့သည်ကောင်းသောမြေ၌ကျသဖြင့်အဆသုံးဆယ်။
၉ အဆခြောက်ဆယ်။အဆတရာပွားများ၍အသီးသီးကြ၏။ ကြားစ
ရာနားရှိသောသူမည်သည်ကားကြားပါလေစေဟုမိန့်တော်မူ၏။
၁၀ ။တပည့်တော်တို့သည်ချဉ်းကပ်လျက်ကိုယ်တော်သည်အဘယ်
ကြောင့်ဥပမာကိုဆောင်၍ဤလူတို့အားဟောပြောတော်မူသနည်းဟု
၁၁ လျှောက်ကြလျှင် ကိုယ်တော်ကကောင်းကင်နိုင်ငံတော်၏နက်နဲသော
အရာတို့ကိုသိရအောင်သင်တို့သည်အခွင့်ရပြီး။သူတို့သည် အခွင့်မ
၁၂ ရ။ အကြွင်သူသည်ရတတ်၏။ထိုသူ၌ကြွယ်ဝပြည့်စုံခြင်းရှိရအောင်
ပေးဦးမည်။အကြွင်သူသည်ဆင်းရဲ၏။ထိုသူ၌ရှိသမျှကိုပင်နှုတ်လိမ့်
၁၃ မည်။ ထိုကြောင့်သူတို့သည်မြင်လျက်မမြင်။ကြားလျက်မကြား။အနက်
၁၄ ကိုလည်းနားမလည်သောကြောင့်ဥပမာကိုဆောင်၍ငါဟောပြော၏။
ဟေရှာယဟောဘူးသောအနာဂတ်စကါးဟူမူကါး။သင်တို့သည်ကြား
လျက်ပင်အနက်ကိုနားမလည်ဘဲကြားလိမ့်မည်။ မြင်လျက်ပင်အာရုံမ
၁၅ ပြုဘဲမြင်လိမ့်မည်။ အဘယ်ကြောင့်နည်းဟူမူကား။ဤလူစုသည်မျက်စိ
မမြင်ရ။နါးမကြားရ။စိတ်နှစ်လုံးမသိရ။အကျင့်မပြောင်းလဲရ။သူတို့
အနာရောဂါကိုငါမညီမ်းစေရမည်အကြောင်း။ သူတို့စိတ်နှ^်လုံးသည်
ထိုက်လျှက်နားသည်ထိုင်းလျက်မိမိမျက်စိကိုမိမိပိတ်လျက်ရှိကြ၏ဟူ
၁၆ သောစကားသည်ဤလူတို့၌ပြည့်စုံသတည်း။ သင်တို့မျက်စိမြင်သော
ကြောင့်မင်္ဂလာရှိ၏။သင်တို့နားသည်လည်းကြားသောကြောင့်မင်္ဂလာ
၁၇ ရှိ၏။ ငါအမှန်ဆိုသည်ကား။သင်တို့သည်ကြားမြင်ရသောအရာတို့
ကိုပရောဖက်ဆရာမှစ၍ဖြောင့်မတ်သောသူအများတို့သည်ကြား
၁၈ မြင်လို၍မကြားမမြင်ရပြီး။ ။မျိုးစေ့ကြဲသောသူ၏ဥပမာ
၁၉ အနက်အဓိပ္ပာယ်ကိုနားထောင်ကြလော့။ လမ်း၌အစေ့ကိုကြဲခြင်းအ
ကြောင်းအရာကား။နိုင်ငံတော်၏တရားစကားကိုကြား၍နှစ်လုံးမ
သွင်းသည်ရှိသော်နတ်ဆိုးလာ၍နှ^်လုံး၌ကြဲသောအစေ့ကိုနှုတ်ယူ
၂၀ သည်ဟုဆိုလိုသတည်း။ ကျောက်ပေါ်သောအရပ်၌အစေ့ကိုကြဲခြင်း
အကြောင်းအရာကား။တရားစကားကိုကြား၍ဝမ်းမြောက်သောစိတ်
၂၁ နှင့်ချက်ချင်းခံယူသော်လည်း စိတ်နှစ်လုံး၌အမြစ်မစွဲ။ခဏသာတည်
နေသဖြင့်တရားစကားကြောင့်အမှုအခင်း။ညှဉ်းဆဲခြင်းရောက်
သောအခါချက်ချင်းရွေ့လျော့ဖောက်ပြန်သည်ဟုဆိုလိုသတည်း။

၂၂ ဆူးပင်တို့တွင်အစေ့ကိုကြဲခြင်းအကြောင်းအရာကား။တရားစကား
ကိုကြား၍လောကီအမှု၌စိုးရိမ်ခြင်း နှင့် စည်းစိမ်ဥစ္စာ၏လှည့်စား
ခြင်းသည် တရားစကားကိုလွှမ်းမိုးသည်းဆဲသဖြင့်အသီးမသီးသည်
၂၃ ဟုဆိုလိုသတည်း။ ကောင်းသောမြေ၌အစေ့ကိုကြဲခြင်းအကြောင်း
အရာကား။ တရားစကားကိုကြား၍နှစ်လုံးသွင်းသဖြင့်အဆသုံးဆ
ယ်။ အဆခြောက်ဆယ်။ အဆတရာပွားများ၍အသီးသီးသည်ဟုဆို
လိုသတည်းဟုမိန့်တော်မူ၏။

❋❋

၂၄ အချားသောဥပမာစကားကိုမိန့်မြွက်တော်မူသည်ကား။ ကောင်းကင်
နိုင်ငံတော်သည်ကောင်းသောမျိုးစေ့ကိုလယ်၌ကြဲသောလူနှင့်တူ၏။
၂၅ သူ၏လူတို့သည်အိပ်ပျော်သောအခါသူ၏ရန်သူလာ၍ကောင်းသော
စပါးနှင့်လက္ခဏာတူသောတောမျိုးစေ့ကိုစပါးအထဲ၌ကြဲ၍သွား
၂၆ လေ၏။ အပင်ပေါက်၍အသီးအနှံထွက်သောအခါတောပင်တို့သည်
၂၇ လည်းပေါ်လာသည်ကို ကျွန်တို့သည်အိမ်ရှင်ထံသို့သွား၍သခင်။
ကောင်းသောမျိုးစေ့ကိုလယ်၌ကြဲတော်မူသည်မဟုတ်လော။ တော
၂၈ ပင်တို့သည်အဘယ်ကဖြစ်သနည်းဟုလျှောက်ကြလျှင် အိမ်ရှင်က
ဤအမှုကား ရန်သူပြုသောအမှုတည်းဟုဆို၏။ ကျွန်တော်တို့သည်
သွား၍တောပင်တို့ကိုရွေးနှုတ်စေခြင်းငှါ အလိုတော်ရှိသလော ဟု
၂၉ လျှောက်ကြလျှင် အိမ်ရှင်ကထိုသို့ငါအလိုမရှိ။ တောပင်တို့ကို ရွေး
နှုတ်လျှင်စပါးပင်တို့ကိုရောနှော၍နှုတ်မိမည်စိုးရိမ်စရာအကြောင်း
၃၀ ရှိ၏။ စပါးရိတ်သည်ကာလတိုင်အောင်နှစ်ပါးစလုံးအတူကြီးပွား
ပါလေစေ။ စပါးရိတ်သည်ကာလရောက်လျှင်ရိတ်သောသူတို့အား။
တောပင်တို့ကိုအရင်ရွေးနှုတ်၍မီးရှို့ရအောင်စည်းနှောင်ကြတော့။
စပါးကိုကားကျီ၌သိမ်းသွင်းထားကြတော့။ငါစီရင်မည်ဟုအိမ်ရှင်
၃၁ ဆိုသည်ဟုမိန့်တော်မူ၏။ ။အချားသောဥပမာစကားကိုမိန့်
မြွက်တော်မူသည်ကား။ ကောင်းကင်နိုင်ငံတော်သည်လယ်၌စိုက်
၃၂ သောမုံညင်းစေ့နှင့်တူ၏။ မုံညင်းစေ့သည်အစေ့တကာထက်ငယ်
သော်လည်းကြီးပွားသောအခါမျက်ပင်တကာထက်ကြီးသဖြင့်မိုဃ်း
ကောင်းကင်ငှက်တို့သည်လာ၍အကိုင်းအခက်တို့၌ခိုနားနေမှီခိုလောက်
၃၃ သောအပင်ဖြစ်တတ်သည်ဟုမိန့်တော်မူ၏။ ။အချားသောဥ
ပမာစကားကိုမိန့်မြွက်တော်မူသည်ကား။ မိန်းမတယောက်သည်တ

ဆေးကိုယူ၍မုန့်ညက်သုံးတင်း၌ထည့်ပြီးမှမုန့်ညက်အားလုံးကိုဖေါ
င်းကြွစေတတ်သောတဆေး နှင့် ကောင်းကင်နိုင်ငံတော်သဘောတူ
၃၄ သည်ဟုမိန့်တော်မူ၏။ ။ဤဥပမာများတို့ကိုယေရှုသည်ဆော
င်၍ပရိသတ်များတို့အားဟောပြောတော်မူ၏။ ဥပမာကင်း၍ဟော
၃၅ ပြောတော်မမူ။ ထိုသို့သောအားဖြင့်ပရောဖက်စကားဟူမူကား။ငါ
နှုတ်ကိုငါဖွင့်၍ ဥပမာအများကိုမြွက်ဆိုပေအံ့။ ကမ္ဘာဦးမှစ၍ထိမ်
ဝှက်သောအရာတို့ကိုဖေါ်ပြပေအံ့ဟုဟောဘူးသောစကားသည်ပြည့်
၃၆ စုံခြင်းသို့ရောက်သတည်း။ ။ထိုနောက်မှာယေရှုသည်လူအစု
အဝေးများကို လွှတ်၍ အိမ်သို့ဝင်တော်မူပြီးမှတပည့်တော်တို့သည်
ချည်းကပ်၍လယ်၌ကြဲသော တောမျိုးစေ့၏ဥပမာအနက်အဓိပ္ပာယ်
၃၇ ကိုတပည့်တော်တို့အားဖေါ်ပြတော်မူပါဟုလျှောက်ကြလျှင် ကိုယ်
တော်ကကောင်းသောမျိုးစေ့ကိုကြဲသောသူသည် လူသားဖြစ်၏။
၃၈ လယ်ကားဤလောကဖြစ်၏။ကောင်းသောအစေ့ကားနိုင်ငံတော်သား
၃၉ ဖြစ်၏။ တောမျိုးစေ့ကား နတ်ဆိုး သားဖြစ်၏။ တောမျိုးစေ့ကိုကြဲ
သောရန်သူကားမာရ်နတ်ဖြစ်၏။စပါးရိတ်သောကာလကားဤကမ္ဘါ
ကုန်သောကာလ ဖြစ်၏။ စပါးရိတ်သော သူကား ကောင်းကင်တမန်
၄၀ ဖြစ်၏။ တောပင်တို့ကိုရွေးနှုတ်၍မီးရှို့သကဲ့သို့ဤကမ္ဘာအဆုံး၌ဖြစ်
၄၁ လတ္တံ့။ လူသားသည်မိမိကောင်းကင်တမန်တို့ကိုစေလိုက်သဖြင့်နှော
င့်ရှက်ဖျက်ဆီးသောသူမှစ၍မတရားသောအမှုကိုပြုသောသူရှိသမျှ
၄၂ တို့ကိုနိုင်ငံတော်ထဲကရွေးနှုတ်၍ ငိုကျွေးခြင်း။အံသွားခဲကြိတ်ခြင်းရှိ
၄၃ ရာ။မီးဖို၌ချကြလတ္တံ့။ ထိုအခါဖြောင့်မတ်သောသူတို့သည်နေထွန်း
လင်းသကဲ့သို့မိမိတို့အဖ၏နိုင်ငံတော် ၌ထွန်းလင်းကြလတ္တံ့။ ကြားစ
၄၄ ရာနားရှိသောသူသည်ကားကြားပါလေစေ။ ။တနည်း
ကား။ ကောင်းကင်နိုင်ငံတော်သည်လယ်၌ဝှက်ထားသောဘဏ္ဍာနှင့်
တူ၏။ထိုဘဏ္ဍာကိုတွေ့သောသူသည်တဖန်ဖုံးအုပ်ပြီးမှဝမ်းမြောက်
သောစိတ်နှင့်သွား ၍ ရတတ်သမျှကိုရောင်း ၍ ထိုလယ်ကိုဝယ်သ
၄၅ တည်း။ ။တနည်းကား။ကောင်းကင်နိုင်ငံတော်သည်များစွာ
၄၆ အဖိုးထိုက်သောပုလဲနှင့်တူ၏။ မြတ်သောပုလဲကိုရှာသောကုန်သည်
သည်ထိုပုလဲကိုတွေ့လျှင်သွား၍ ရတတ်သမျှကို ရောင်း ၍ဝယ်သ
၄၇ တည်း။ ။တနည်းကား။ကောင်းကင်နိုင်ငံတော်သည်ပင်လယ်
၄၈ ၌ချ၍အမျိုးမျိုးသောငါးတို့ကိုအုပ်မိသောပိုက်ကွန်နှင့်တူ၏။ ငါးနှင့်

အပြည့်ရှိသောအခါတံငါတို့သည်ကမ်းပေါ်သို့ဆွဲတင်၍ထိုင်နေလျက်
ကောင်းသောငါးကိုချင်းထဲသို့ရွေးချယ်ထည့်ထား၍မကောင်းသော
၄၉ ငါးကိုကားပြင်သို့ပြစ်လိုက်ကြ၏။ ထိုနည်းတူ။ကမ္ဘာအဆုံး၌ကောင်း
ကင်တမန်တို့သည်ဆင်းလာသဖြင့်ဖြောင့်မတ်သောသူတို့အထဲမှဆိုး
၅၀ သောသူတို့ကိုနှုတ်ယူခွဲထား၍ ငိုကြွေးခြင်း။အံသွားခဲကြိတ်ခြင်းရှိ
၅၁ ရာ။မီးဖို၌ချကြလတ္တံ့။ ဤအရာအားလုံးတို့ကိုသင်တို့သည်နားလည်
ကြသလောဟုမေးတော်မူလျှင်နားလည်ပါပြီးသခင်ဟုတပည့်တော်
၅၂ တို့သည်လျှောက်ကြ၏။ ကိုယ်တော်ကလည်းကောင်းကင်နိုင်ငံတော်
၏အကြောင်း အရာ ကိုသင် ပြီးသောကျမ်းဆရာမည်သည်ကား မိမိ
ဘဏ္ဍာထဲက အထူးထူး အပြားပြား သော အသစ် အဟောင်း တို့ကို
၅၃ ထုတ်ဖော်သောအိမ်ရှင်နှင့်တူသည် ဟုမိန့်တော်မူ၏။ ဤဥပမာ စ
ကားများကိုကုန်စင်အောင်မိန့်မြွက် တော်မူပြီးလျှင် ထိုအရပ်မှကြွ
သွားတော်မူ၏။

**

၅၄ ထိုနောက်မှာမိမိမြို့သို့ရောက် တော်မူ ၍ တရားဇရပ်၌ဆုံးမဩဝါဒ
ပေးလေ၏။မြို့သားတို့သည်မိန်းမောတွေဝေခြင်းရှိသဖြင့် ဤသူသည်
၅၅ ဤပညာ ကို၎င် ဤတန်ခိုး ကို၎င် အဘယ် ဆီမှာ ရသနည်း။ သူသည်
လက်သမားသားမဟုတ်လော။ သူ့အမိကား မာရိအမည်ရှိသည်မဟု
တ်လော။သူ့ညီကားယာကုပ်။ယောသေ။ရှိမုန်။ယုဒဆိုကြသည်မဟုတ်
၅၆ လော။ သူ့နှမများတို့သည်လည်းငါတို့နှင့်အနီးအပါးနေကြသည်မ
ဟုတ်လော။သို့ဖြစ်လျှင်ဤသူသည်ဤအရာများကို အဘယ်ဆီမှာရ
၅၇ သနည်းဟုဆိုကြသဖြင့် ကိုယ်တော်ကြောင့်စိတ်ပျက်ကြ၏။ ယေရှုက
လည်းပရောဖက်မည်သည်ကားမိမိမြို့။မိမိအိမ်မှတပါးအခြား အရပ်
၅၈ ၌အသရေရှိသည်ဟုထိုသူတို့အားမိန့်တော်မူ၍ မြို့သားများတို့သည်
မယုံကြည်ကြသောကြောင့်ထိုအရပ်၌များစွာသောတန်ခိုး ကိုပြတော်
၁ မမူ။ ။ထိုအခါစော်ဘွားဟေရုဒ်သည်ယေရှု၏သိတင်းတော်
၂ ကိုကြားလျှင် ဤသူကား ရေနှစ်မင်္ဂလာ ဆရာ ယောဟန်ဖြစ်သည်။
သေခြင်းမှထမြောက်ခဲ့ပြီး။ထိုကြောင့်တန်ခိုးများကိုပြနိုင်သည်ဟုမိ
၃ မိငယ်သားတို့အားဆို၏။ အထက်ကဟေရုဒ်သည် မိမိ ညီ ဖိလိပ္ပု၏
ခင်ပွန်းဟေရောဒိအကြောင်းကြောင့်ယောဟန် ကိုဖမ်းဆီး ချည်နှော
၄ င်၍ထောင်ထဲမှာလှောင်ထား၏။ အဘယ်ကြောင့် နည်းဟူမူကား။

ယောဟန်ကသင်မင်းကြီးသည်ထိုမိန်းမကိုမသိမ်းအပ်ဟုဟေရုဒ်မင်း
၅ အားဆိုလေပြီး။ ယောဟန်ကိုသတ်ခြင်းငှါအလိုရှိသော်လည်းလူအ
ပေါင်းတို့၏မျက်နှာကိုထောက်၍မသတ်ဝံ့ဘဲနေ၏။ယောဟန်သည်ပ
ရောဖက်ဖြစ်သည်ကိုလူအပေါင်းတို့သည်ယူကြသတည်း။ ။
၆ ထိုနောက်မှာဟေရုဒ်မင်း ဖွားသောနေ့ရက် ၌ နှစ် စည် ပွဲခံ စည် တွင်
ဟေရောဒိသ်မီးသည်ပွဲသဘင်၌ကသဖြင့် ဟေရုဒ်မင်း သည် နှုံးညွှတ်
၇ သောစိတ်ရှိလျှင် သင်သည်တောင်းသမျှကိုငါပေးမည်ဟုကျိန်ဆိုလေ
၈ ၏။ ထိုမိန်းမငယ်ကရေနှစ်မင်္ဂလာဆရာယောဟန်၏ဦးခေါင်းကို ဤ
လင်ပန်း၌ပေးတော်မူပါဟုမိမိအမိကတိုက်တွန်းသည် အတိုင်း တော
၉ င်းလျှောက်၏။ မင်းကြီးသည်ဝမ်းနည်းသော်လည်းကျိန်ဆိုခြင်းကိုင်၎
အပေါင်းအဖော်တို့၏မျက်နှာကိုငဲ့ထောက်လျှင်ပေး စေဟုအမိန့်
၁၀ တော်ရှိလျက် လူကိုစေလိုက်၍ယောဟန်လည်ပင်းကိုထောင်ထဲမှာ
၁၁ ဖြတ်စေ၏။ ဦးခေါင်းကိုလင်ပန်း၌ဆောင်ခဲ့၍ထိုမိန်းမငယ်အားပေး
၁၂ ပြီးမှသူသည်လည်း မိမိအမိဆီသို့ယူသွား၏။ ယောဟန်တပည့်တို့
သည် လည်း လာ၍ အလောင်း ကို ထမ်းသွားသင်း ဂြိုဟ် ပြီး မှယေရှု ထံ
၁၃ တော်သို့သွား၍ကြားလျှောက်ကြ၏။ ။ယေရှုသည်ကြား
တော်မူလျှင်ထိုအရပ်မှထွက်၍ လှေကိုစီးသဖြင့် တော ၌ ဆိတ်ကွယ်
ရာအရပ်သို့ကြွတော်မူ၏။လူအစုအဝေးတို့သည်ကြားသိရလျှင်မြို့ရွာ
၁၄ မှထွက်၍ကုန်း ကြောင်းလိုက်ကြ၏။ ယေရှုသည်ထွက်ကြွ၍လူများ
အပေါင်းတို့ကိုတွေ့မြင်တော်မူလျှင်သနားခြင်းစိတ်တော်ရှိသဖြင့်လူ
၁၅ နာရှိသမျှတို့ကိုချမ်းသာပေး တော်မူ၏။ ။ညဦးယံ၌တပည့်
တော်တို့ သည် ချဉ်းကပ်လျက် ဤအရပ်သည်တော အရပ် ဖြစ်ပါ ၏။
မိုးယံလည်း ချုပ်ခဲ့ပြီး။ လူအစုအဝေး တို့သည် မြို့ရွာသို့ သွား ၍စား စ
၁၆ ရာကိုဝယ်ရအောင်အ ခွင့်ပေးတော်မူပါဟုလျှောက်ကြလျှင် ယေရှု
ကသွားရသော အကြောင်း မရှိ။ သူတို့ စား စရာ ကို သင်တို့ပေးကြ
၁၇ တော့ဟုမိန့်တော်မူ၏။ တပည့်တော်တို့လည်းမုန့်ငါးလုံး နှင့် ငါးနှစ်
ကောင်မှတပါးအဘယ်စားစရာအကျွန်ုပ်တို့၌မရှိပါဟုလျှောက်ပြန်
၁၈ လျှင်ထိုမုန့်နှင့်ငါးကိုယူခဲ့ကြဟုမိန့်တော်မူ၏။ ထိုအခါလူအစုအဝေး
၁၉ တို့ကိုမြက်ပေါ်မှာထိုင်နေစေဟုအမိန့်တော်ရှိလျှင်မုန့်ငါးလုံး နှင့် ငါး
နှစ်ကောင်ကိုယူ၍ကောင်းကင်သို့ကြည့်မျှော်လျက်ကျေးဇူး တော်ကို
ချီးမွမ်းပြီးမှမုန့်နှင့်ငါးကိုဖဲ့၍တပည့်တော်တို့အားပေးတော်မူ၏။ တ

၂၀ ပည့်တော်တို့သည်လည်းလူအပေါင်းတို့အားပေးကြ၏။ လူအားလုံး
တို့သည်စား၍ဝကြသောအခါ ကြွင်းရစ်သောအကျိုးအပဲ့ ဆယ်နှစ်
၂၁ တောင်းအပြည့်ကောက်သိမ်းကြ၏။ စားသောသူအရေအတွက်ကား
မိမ္မနှင့်သူငယ်ကိုမဆိုဘဲယောကျ်ားငါးထောင်မျှသောက်ရှိသတည်း။

✻✻

၂၂ ထိုလူအပေါင်းကိုလွှတ်တော်မူစည်တွင်တပည့်တော်တို့ကိုလှေကိုးစေ
၂၃ ၍ကမ်းတဖက်သို့အရင်ကူးစေတော်မူ၏။ လူအပေါင်းကိုလွှတ်ပြီး
မှဆုတောင်းပဌနာပြုလိုသောငှါတောင်ပေါ်၌ဆိတ်ကွယ်ရာအရပ်
သို့တက်ကြွသဖြင့်ညအချိန်ရောက်သောအခါတယောက်တည်းရှိနေ
၂၄ တော်မူ၏။ လှေမူကားအိုင်အလယ်၌ရှိ၍လေမသင့်သော့ကြောင့်လှိုင်း
၂၅ တံပိုးသုံရှားခြင်းကိုပြင်းစွာခံရ၏။ ညသုံးချက်တီးအချိန်၌ယေ
ရှုသည်အိုင်ပေါ်မှာစက်တော်ဖြန့်လျှက်တပည့်တော်တို့ဆီသို့ကြွတော်
၂၆ မူ၏။ ထိုသို့အိုင်ပေါ်မှာစက်တော်ဖြန့်၍ကြွတော်မူသည်ကိုသူတို့သည်
မြင်လျှင်ထိတ်လန့်၍ဖုတ်စ္ဆေဖြစ်၏ဟုကြောက်သောစိတ်နှင့်အော်
၂၇ ဟစ်ကြ၏။ ယေရှုသည်ချက်ချင်းနှုတ်တော်မြွက်၍ကြည်ကြည်သော်စိတ်ရှိ
၂၈ ကြလော။ငါပင်ဖြစ်သည်။မကြောက်လန့်ကြနှင့်ဟုမိန့်တော်မူ၏။ ပေတ
ရုကလည်းသခင်။ကိုယ်တော်မှန်လျှင်အကျွန်ုပ်သည်ရေပေါ်မှာသွား၍
၂၉ ကိုယ်တော်ထံသို့ရောက်အောင်မိန့်တော်မူပါဟုလျှောက်လျှင် လာ
တော့ဟုမိန့်တော်မူ၏။ပေတရုသည်လှေပေါ်ကဆင်း၍ယေရှုရှိရာသို့
၃၀ ရောက်အောင်ရေပေါ်မှာလျှောက်သွား၏။ လေပြင်းသည်ကိုမြင်လျှင်
ကြောက်လန့်၍နစ်မြုပ်လုသည်ရှိသော်ကယ်မတော်မူပါသခင်ဟု
၃၁ ဟစ်ကြော်လေ၏။ ယေရှုသည်လက်တော်ကိုချက်ချင်းဆန့်၍ပေတရု
ကိုကိုင်တော်မူလျှင်ရုံကြည်အားနည်းသောသူ။အဘယ်ကြောင့်ရုံမှား
၃၂ သောစိတ်ဝင်သနည်းဟုမေးတော်မူ၏။ လှေပေါ်သို့ရောက်ကြလျှင်
၃၃ လေသည်သိမ်းလေ၏။ လှေသားတို့သည်ချည်းကပ်၍စင်စစ်ကိုယ်
တော်သည်ဘုရားသခင်သားတော်မှန်ပါသည်ဟုညွတ်ပျပ်၍လျှော
၃၄ က်ကြ၏။ ။ကမ်းတဖက်သို့ကူးပြီးလျှင်ဂနေသရက်အရပ်သို့
၃၅ ရောက်ကြ၏။ ထိုအရပ်သားတို့သည်မျက်နှာတော်ကိုမှတ်မိလျှင်
ပတ်ဝန်းကျင်အရပ်အားလုံးဆီသို့စေလိုက်သဖြင့်လူနာရှိသမျှတို့ကို
၃၆ ဆောင်ခဲ့၍ အဝတ်တော်စွန်းကိုမျှသာတို့ရအောင်အခွင့်တောင်းပန်
ကြ၏။တို့သမျှသောသူတို့သည်လည်းချမ်းသာရကြ၏။ ။

၁ ထိုအခါယေရုရှလင်မြို့သားဖာရိရှဲလူ။ ကျမ်းပြုဆရာတို့သည် ချဉ်း
၂ ကပ်ပြီးလျှင် ရှေးလူဟောင်းတို့မှဆက်ခံသောနည်းဥပဒေသကိုကိုယ်
တော်၏တပည့်တို့သည်အဘယ်ကြောင့်လွှန်ကျူးကြသနည်း။ သူတို့
သည် လက် မဆေးဘဲ အစားစားကြ ပါသည်တကားဟုလျှောက်လေ
၃ သည်ကို ကိုယ်တော်ကသင်တို့သည်မိမိတို့အဆက်ဆက် သောနည်း
ဥပဒေသကိုအမှီပြု၍အဘယ်ကြောင့်ဘုရားသခင်၏ပညတ်တော်ကို
၄ လွှန်ကျူးကြသနည်း။ ဘုရားသခင်၏ပညတ်တော်ကား။ မိဘတို့ကို
ရိုသေစွာကျင့်လော့။ အကြင်သူသည်မိဘကိုနှုတ် ဖြင့်ပြစ်မှား၏။ ထို
၅ သူသည်အသေသတ်ခြင်းကိုခံစေဟုလာသတည်း။ သင်တို့မူကားအ
ကြင်သူသည်မိမိမိဘကိုသင်တို့အသုံးရနိုင်သမျှသောငါ၏ဥစ္စာသည်
၆ အလှူဝတ္ထုဖြစ်စေဟု ဆို၏။ ထိုသူသည် မိဘ ဝတ် တရားနှင့်ကင်း
လွတ်သည်ဟုဆိုကြ၏။ထိုသို့သင်တို့သည်မိမိတို့အဆက်ဆက်သော
နည်းဥပဒေသအားဖြင့်ဘုရားသခင်၏ပညတ်တော်ကိုပယ်ကြ၏။
၇။၈ လျှို့ဝှက်သောသူတို့။ဟေရှာယသည်သင်တို့ကိုရည်စောင်လျက် ဤလူ
မျိုးသည်နှုတ်ခမ်း နှင့် ငါ့ကို ရိုသေ ချီးမွမ်း၏။ စိတ်နှလုံးမူကားငါနှင့်
၉ ဝေးလှ၏။ လူတို့ရိုးရင်သော ပညတ်တို့ကိုသာ သွန်သင် ဟောပြော
လျက်ပင်ငါကိုအချည်းနှီးကိုးကွယ်ကြ၏ဟုနောက်ဖြစ်လတံ့သောအ
ရာကိုလျှောက်ပတ်စွာဟောခဲ့ပြီးဟုပြန်၍မိန့်တော်မူ၏။ ။
၁၀ ထိုအခါလူအစုအဝေးကိုအထံတော်သို့ခေါ်၍ သင်တို့နားထောင်နား
၁၁ လည်ကြလော့။ ခံတွင်းသို့ဝင်သောအရာသည်လူကိုညစ်ညူးစေသည်
မဟုတ်။ ခံတွင်းမှထွက်သောအရာသည်ညစ်ညူးစေသောအရာဖြစ်
၁၂ သည်ဟုမိန့်တော်မူ၏။ တပည့်တော်တို့သည် ချဉ်းကပ် ၍ ယခုမိန့်
တော်မူသော စကားကို ဖာရိရှဲလူတို့သည်ကြားသောအခါစိတ်ပျက်
၁၃ ကြသည်ကိုသိတော်မူသလောဟုလျှောက်ကြ၏။ ကိုယ်တော်ကလည်း
ကောင်းကင်ဘုံ၌ ရှိတော်မူသောငါ၏ခမည်းတော်သည်စိုက်တော်မ
၁၄ မူသောအပင်ရှိသမျှကိုကိုနှုတ်လိမ့်မည်။ ထိုသူတို့ကိုရှိပါလေစေ။
သူတို့သည်လူကန်းတို့အားလမ်းပြသောလူကန်းဖြစ်ကြ၏။ လူကန်း
ချင်းတဦးကိုတဦးလမ်းပြလျှင်နှစ်ဦးစလုံးတွင်းထဲသို့ကျလိမ့်မည်ဟု
၁၅ မိန့်တော်မူ၏။ ပေတရုကလည်း ထိုဥပမာကိုအကျွန်ုပ်တို့အား ဖွင့်ပြ
၁၆ တော်မူပါဟုလျှောက်လျှင်။ ယေရှုကသင်တို့သည်ယခုတိုင်အောင်ပ
၁၇ ညာမဲ့နေသေးသလော။ ခံတွင်းသို့ဝင်သမျှတို့သည်ဝမ်းထဲသို့ဆင်း၍

၁၈ ရေအိမ်တွင်စွန့်ပြစ်သည်ကိုနားမလည်ကြသေးသလော။ ခံတွင်းမှ
ထွက်သောအရာတို့ကားနှစ်လုံးထဲကထွက်လာ၍လူကိုညစ်ညူးစေ
၁၉ သောအရာဖြစ်ပေ၏။ မကောင်းသောကြံစည်ခြင်း။ လူအသက်ကို
သတ်ခြင်း။သူမယားကိုပြစ်မှားခြင်း။ မိမ္မလွတ်နှင့်မှားရှင်းခြင်း။ သူ
ဥစ္စာကိုခိုးခြင်း။မမှန်သောသက်သေကိုခံခြင်း။ သူ့အသရေကိုရှုတ်ချ
၂၀ ခြင်းတည်းဟူသောအရာများသည်နှစ်လုံးထဲကထွက်လာ၍ လူကို
ညစ်ညူးစေသောအရာဖြစ်ပေ၏။လက်မဆေးဘဲလျက်အစားကိုစား
ခြင်းမူကားလူကိုညစ်ညူးစေသည်မဟုတ်ဟုမိန့်တော်မူ၏။

***

၂၁ ထိုအရပ်မှယေရှုသည်ထွက်၍တုရုမြို့နှင့်ဇိဒုန်မြို့၏ကျေးလက်သို့ကြွ
၂၂ တော်မူလျှင် ခါနာန်အမျိုးဖြစ်သောမိမ္မတယောက်သည်ထိုနယ်စပ်
မှထွက်လာ၍ဒါဝိဒ်၏သားတော်အရှင်။ ကျွန်မကိုသနားတော်မူပါ။
ကျွန်မသမီးသည်နတ်ဆိုးပြင်းစွာနှိပ်စက်ခြင်းကိုခံနေပါသည်ဟုဟစ်
၂၃ ကျော်လျှင်စကားတခွန်းကိုမျှပြန်တော်မမူ။ တပည့်တော်တို့သည်
ချဉ်းကပ်၍ထိုမိမ္မသည်ပြန်သွားရအောင်အခွင့်ပေးတော်မူပါ။ ငါ
တို့နောက်သို့လိုက်၍ဟစ်ကျော်နေပါသည်ဟုတောင်းလျှောက်ကြ၏။
၂၄ ကိုယ်တော်ကလည်းဣသရေလအမျိုးပျောက်လွင့်သောသိုးများမှတ
၂၅ ပါးအခြားသောအမျိုးဆီသို့ငါ့ကိုမစေမလွှတ်ဟုမိန့်တော်မူ၏။ ထို
မိမ္မသည်ချဉ်းကပ်၍ပျပ်ဝပ်လျက်ကျွန်မကိုကယ်မတော်မူပါသခင်
၂၆ ဟုလျှောက်ပြန်သည်ကို ကိုယ်တော်ကသား၏အစားကိုယူ၍ခွေး
၂၇ အားမပေးမချအပ်ဟုပြန်ပြောတော်မူ၏။ မိမ္မကလည်းမှန်ပါ၏သ
ခင်။ခွေးမူကားမိမိသခင်စားပွဲမှကျသောစားနုပ်စားပေါက်ကိုစား
၂၈ မြဲထုံးစံရှိပါ၏ဟုလျှောက်သည်ကို အိုမိမ္မ။သင်သည်ယုံကြည်အား
ကြီးလှပြီ။သင်အလိုရှိသည်အတိုင်းသင်၌ဖြစ်စေဟုမိန့်တော်မူ၏။
ထိုခဏမှစ၍ထိုမိမ္မ၏သမီးသည်ကျန်းမာပကတိဖြစ်လေ၏။ ။
၂၉ ထိုအရပ်မှယေရှုသည်ကြွ၍ဂါလိလဲအိုင်နားသို့ရောက်တော်မူလျှင်
၃၀ တောင်ပေါ်သို့တက်၍ထိုင်နေတော်မူ၏။ များစွာသောလူအပေါင်း
တို့သည် ခြေဆွံ့။ မျက်စိကန်း။ စကားအ။ အင်္ဂါချို့တဲ့သောသူမှစ၍အ
ခြားသောအနာရောဂါစွဲသော သူများကိုဆောင်ခဲ့လျက်အထံတော်
၃၁ သို့ရောက်လာ၍ခြေရင်းတော်၌ချထားကြ၏။ အနာရောဂါများကို
ငြိမ်းစေတော်မူသဖြင့်အသောသူသည်စကားပြောသည်ကို ငင် ချို့

စွဲသောသူသည်ပကတိဖြစ်သည်ကို၎င် ခြေဆွံ့သောသူသည် လှမ်း
သွားသည်ကို၎င်မျက်စိကန်းသောသူသည်မြင်သည်ကို၎င်လူအစုအ
ဝေးတို့သည်မြင်လျှင်အံ့ဩခြင်းသို့ရောက်၍ ဣသရေလအမျိုး၏
၃၂ ဘုရားသခင်၏ဂုဏ်တော်ကိုချီးမွမ်းကြ၏။ ။ထိုအခါယေရှု
သည်တပည့်တော်တို့ကိုခေါ်၍ ဤလူများကိုငါသနား၏။ ငါနှင့်အတူ
နေကြ၍ယခုသုံးရက်ရှိပြီ။စားစရာအလျှင်းမရှိ။လမ်း၌မောမည်
စိုးသောကြောင့်အစားမစားမဲ့ သူတို့ကိုလွှတ်ခြင်းငှါငါအလိုမရှိဟု
၃၃ မိန့်တော်မူလျှင် တပည့်တော်တို့က ဤမျှလောက်များစွာသောလူစု
တို့သည်ဝလောက်သောအစားကိုဤတောအရပ်၌အကျွန်ုပ်တို့သည်အ
၃၄ ဘယ်မှာရနိုင်ပါသနည်းဟုလျှောက်ကြသော် ယေရှုကသင်တို့တွင်
မုန့်ဘယ်နှစ်လုံးရှိသနည်းဟုမေးတော်မူလျှင်မုန့်ခုနှစ်လုံး နှင့် ငါး
၃၅ ကောင်ကလေးအနည်းငယ်ရှိပါသည်ဟုပြန်လျှောက်ကြ၏။ ထိုအခါ
၃၆ လူအစုအဝေးတို့ကိုမြေပေါ်မှာထိုင်နေစေဟုအမိန့်တော်ရှိလျှင် မုန့်ခု
နှစ်လုံးနှင့်ငါးများကိုယူ၍ကျေးဇူးတော်ကိုချီးမွမ်းပြီးမှမုန့်နှင့်ငါးကို
ဖဲ့၍တပည့်တော်တို့အားပေးတော်မူ၏။ တပည့်တော်တို့လည်းလူအ
၃၇ ပေါင်းတို့အားပေးကြ၏။ လူအားလုံးတို့သည်စား၍ဝကြသောအခါ
ကြွင်းရစ်သောအကျိုးအပဲ့ခုနှစ်တောင်းအပြည့်ကောက်သိမ်းကြ၏။
၃၈ စားသောသူအရေအတွက်ကားမိန်းမနှင့်သူငယ်ကိုမဆိုဘဲယောကျ်ား
၃၉ လေးထောင်ရှိသတည်း။ ထိုလူများတို့ကိုလွှတ်တော်မူပြီးမှလှေစီး၍
၁ မာဂဒလကျေးလက်သို့ရောက်တော်မူ၏။ ။ထိုအခါဖာရိရှဲ
လူနှင့်ဇဒ္ဒုကဲလူတို့သည်ကိုယ်တော်ကိုစုံစမ်းနှောင့်ရှက်သောအားဖြင့်
ချည်းကပ်၍မိုဃ်းကောင်းကင်၌နိမိတ်လက္ခဏာတစုံတခုကိုပြတော်
၂ မူမည်အကြောင်းတောင်းပန်ကြ၏။ ကိုယ်တော်ကလည်းညဦးယံ၌
သင်တို့ဆိုသည်ကား။ယခုမိုဃ်းတိမ်နီသည်ဖြစ်၍မိုဃ်းကြည်လင်လိမ့်
၃ မည်ဟုဆိုတတ်၏။ နံနက်ယံ၌ကားယခုမိုဃ်းအုံ့လျက်ရှိ၏။ နီမော
င်းသောအဆင်းလည်းရှိ၏။ယနေ့မိုဃ်းသက်မုန်တိုင်းလာလိမ့်မည်ဟု
ဆိုတတ်၏။ လျှို့ဝှက်သောသူတို့။ သင်တို့သည် မိုဃ်းကောင်းကင်၏
မျက်နှာကိုပိုင်းခြား၍သိနိုင်ကြ၏။ ကပ်ကာလ၏ နိမိတ်လက္ခဏာတို့
၄ ကိုပိုင်းခြားမသိနိုင်ကြ။ ဆိုးညစ်၍ မြောက်မထားသောအမျိုးသည်
နိမိတ်လက္ခဏာကိုတောင်းသည်မှာပရောဖက်ယောနဲ၏နိမိတ်လက္ခ

ဏာမှတပါးအဲအဘယ်လက္ခဏာကိုသူတို့အားမပြရာဟုမိန့်တော်မူပြီး
လျှင်ထိုသူတို့ဆီမှထွက်၍ကြွတော်မူ၏။

❋❋

၅ တပည့်တော်တို့သည်ကမ်းတဖက်သို့သွားသောအခါမုန့်ကိုယူခြင်းငှါ
၆ မေ့လျော့ကြ၏။ ယေရှုကလည်းဖာရိရှဲလူ။ဇဒ္ဒုကဲလူတို့၏တဆေးကို
၇ သတိနှင့်ကြည့်ရှောင်ကြဟုမိန့်တော်မူ၏။ တပည့်တော်တို့လည်းငါ
တို့၌မုန့်မပါသောကြောင့် ဤစကားကိုမိန့်တော်မူသည်ဟုအချင်း
၈ ချင်းဆွေးနွေးပြောဆိုကြ၏။ ယေရှုသည်သိတော်မူလျှင်ရုံကြည်အား
နည်းသောသူ။သင်တို့သည်မုန့်ကိုမယူသောကြောင့်ထိုစကားကိုငါ
ပြောသည်ကိုအဘယ်ကြောင့်အချင်းချင်းဆွေးနွေးပြောဆိုကြသန
၉ ည်း။မုန့်ငါးလုံးကိုလူငါးထောင်စား၍စားကြွင်းဘယ်နှစ်တောင်း
ကောက်သိမ်းသည်ကိုဎင်မုန့်ခုနှစ်လုံးကိုလူလေးထောင်စား၍စား
၁၀ ကြွင်းဘယ်နှစ်တောင်းကောက်သိမ်းသည်ကိုဎင် သင်တို့သည်နှစ်
၁၁ လုံးမသွင်း။မအောင်းမေ့ဘဲနေကြသေးသလော။ ဖာရိရှဲလူ။ဇဒ္ဒုကဲ
လူတို့၏တဆေးကိုကြည့်ရှောင်ကြလော့ဟူသောစကားကိုငါပြော
သည်တွင်မုန့်ကိုအမှတ်ပြု၍ငါမပြောသည်ကိုသင်တို့သည်နားမလည်
၁၂ ဘဲအဘယ်သို့နေကြသနည်းဟုမိန့်တော်မူ၏။ ထိုအခါတပည့်တော်
တို့သည်မုန့်၏တဆေးကိုကြည့်ရှောင်ကြ။မိန့်တော်မမူဘဲဖာရိရှဲလူ။
ဇဒ္ဒုကဲလူတို့၏ဩဝါဒကိုကြည့်ရှောင်ကြဟုမိန့်တော်မူသည်ကိုနား
၁၃ လည်ကြသတည်း။ ။ယေရှုသည်ဖိလိပ္ပုကဲသရိမြို့၏ကျေး
လက်သို့ကြွတော်မူသောအခါလူသားဖြစ်သောငါသည်အဘယ်သူဖြ
စ်သည်ကိုလူများဆိုကြသနည်းဟုတပည့်တော်တို့ကိုမေးမြန်းတော်
၁၄ မူလျှင် လူအချို့ကဗတ္တိဇံဆရာယောဟန်ဖြစ်
ကြောင်းကိုဆိုကြ၏။ အချို့ကဧလိယဖြစ်ကြောင်းကိုဆိုကြ၏။အချို့က
ယေရေမိမှစ၍ပရောဖက်တပါးပါးဖြစ်ကြောင်းကိုဆိုကြ၏ဟုလျှော
၁၅ က်ကြလေသော် ငါသည်အဘယ်သူဖြစ်သည်ကိုသင်တို့ဆိုကြသနည်း
၁၆ ဟုမေးမြန်းတော်မူလျှင် ရှိမုန်ပေတရုကကိုယ်တော်သည်ခရစ်တော်
တည်းဟူသောအသက်ရှင်တော်မူသောဘုရားသခင်၏သားတော်
၁၇ ဖြစ်တော်မူ၏ဟုလျှောက်လေ၏။ ယေရှုကလည်းယောန၏သားရှိ
မုန်။သင်သည်မင်္ဂလာရှိ၏။ အဘယ်ကြောင့်နည်းဟူမူကား။ အသွေး
အသားသည် ဤအကြောင်းအရာကိုသင်အားဖော်ပြသည်မဟုတ်။

ကောင်းကင်ဘုံ၌ရှိတော်မူသောငါ့ခမည်းတော်သည် ဖော်ပြတော်မူ
၁၈ သတည်း။ ငါဆိုသည်ကား။သင်သည်ကျောက်ဟုဆိုလိုသောပေတရု
အမည်ရှိ၏။ဤကျောက်ပေါ်မှာငါ့အသင်းကိုငါတည်ဆောက်မည်။ ထို
၁၉ အသင်းကိုသေမင်းမနိုင်ရာ။ ကောင်းကင်နိုင်ငံတော်၏သော့တို့ကို
လည်းသင်အားငါပေးမည်။ သင်သည်မြေကြီးပေါ်မှာချည်နှောင်သ
မျှတို့သည်ကောင်းကင်ဘုံ၌ချည်နှောင်လျက်ရှိလိမ့်မည်။ သင်သည်
မြေကြီးပေါ်မှာဖြည်လွှတ်သမျှတို့သည် ကောင်းကင်ဘုံ၌ဖြည်လွှတ်
၂၀ လျက်ရှိလိမ့်မည်ဟုမိန့်တော်မူလျှင်။ ကိုယ်တော်သည်ခရစ်တော်ဖြစ်
ကြောင်းကိုတပည့်တော်တို့သည်အဘယ်သူအားမျှမပြောစိမ့်သော
၂၁ ငှါပညတ်တော်မူ၏။ ။ထိုမှတပါး။ကိုယ်တော်သည်ယေရုရှ
လင်မြို့သို့သွားရမည်။ လွှတ်အရာရှိ။ယဇ်ပုရောဟိတ်အကြီး။ကျမ်းပြု
ဆရာတို့လက်၌များစွာခံရမည်။အသေသတ်ခြင်းကိုလည်းခံရမည်။
သုံးရက်မြောက်သောနေ့၌ထမြောက်ရမည်ဟူသောအကြောင်းများ
၂၂ ကိုထိုအခါမှစ၍တပည့်တော်တို့အားပြတော်မူ၏။ ထိုအခါပေတရု
သည်ကိုယ်တော်ကိုအချားသို့ခေါ်ပင့်၍ သခင်။ကိုယ်တော်၌ ဤသို့မ
ဖြစ်ပါစေနှင့်။ ဤအမှုသည်ကိုယ်တော်၌မရောက်ရာဟုအပြစ်တင်
၂၃ သောစကားကိုလျှောက်လေသော် ကိုယ်တော်သည်မျက်နှာတော်ကို
လှည့်၍အချင်းရန်သူ။ငါ့နောက်သို့ဆုတ်တော့။သင်သည်ငါ့ထိမိ၍လဲ
ရာဖြစ်၏။သင်သည်ဘုရားသခင်၏အရာကိုမနှစ်သက်။ လူတို့၏အ
၂၄ ရာကိုသာနှစ်သက်သည်ဟုမိန့်တော်မူ၏။ ။ထိုအခါယေရှုက
ငါ၌ဆည်းကပ်လိုသောသူဖြစ်လျှင်ကိုယ်ကိုကိုယ်ညင်းပယ်ရမည်။
၂၅ ကိုယ်လက်ဝါးကပ်တိုင်ကိုထမ်း၍ငါ့နောက်သို့လိုက်ရမည်။ အကြင်
သူသည်မိမိအသက်ကိုကယ်ဆယ်ခြင်းငှါအလိုရှိ၏။ ထိုသူသည်အ
သက်ရှုံးလိမ့်မည်။အကြင်သူသည်ငါ့ကြောင့်အသက်ရှုံး၏။ထိုသူသည်
၂၆ အသက်ကိုတွေ့လိမ့်မည်။ စကြဝဠာအားလုံးကိုအစိုးရ၍မိမိအသက်
ဝိညာဉ်ကိုရှုံးသောသူသည်အဘယ်ကျေးဇူးရှိသနည်း။ မိမိအသက်
၂၇ ဝိညာဉ်ကိုအဘယ်ဥစ္စာနှင့်လဲနိုင်သနည်း။ လူသားသည် မိမိအဖ
ခမည်းတော်၏ဘုန်းအာနုဘော်ကိုဆောင်လျက်ကောင်းကင်တမန်အ
ခြံအရံတို့နှင့်ကြွလာတော်မူလတံ့။ထိုအခါလူအသီးအသီးကျင့်သောအ
၂၈ ကျင့်နှင့်အလျောက်အကျိုးအပြစ်ကိုဆပ်ပေးတော်မူလတံ့။ ငါအမှန်
ဆိုသည်ကား။လူသားသည်မိမိနိုင်ငံကိုဝင်စားတော်မူသည်ကိုဤအ

ရပ်၍ရှိသောသူအချို့တို့သည်မမြင်မှီဘဝမပြောင်းရဟုတပည့်တော်တို့အားမိန့်တော်မူ၏။

❋❋

၁ ခြောက်ရက်လွန်သောအခါယေရှုသည်ပေတရု။ ယာကုပ်။ ယာကုပ်
ညီယောဟန်တို့ကိုခေါ်၍မြင့်လှစွာသောတောင်ပေါ်မှာဆိတ်ကွယ်
၂ ရာအရပ်သို့ဆောင်ကြွတော်မူ၏။ သူတို့ရှေ့၌ထူးဆန်းသောအ
ဆင်းအရောင်နှင့်ပြည့်စုံသည်ဖြစ်၍မျက်နှာတော်သည်နေကဲ့သို့ထွန်း
၃ တောက်လျက်အဝတ်တော်ကားအလင်းကဲ့သို့ဖြူလျက်ရှိ၏။ မောရှေ
နှင့်ဧလိယသည်ထင်ရှားရှိ၍ကိုယ်တော်နှင့်အတူစကားပြောလျက်နေ
၄ ကြ၏။ ထိုအခါပေတရုကသခင်။ဤအရပ်၌နေဖွယ်ကောင်းပါ၏။ကို
ယ်တော်အဘို့ကဲတဆောင်။မောရှေအဘို့တဆောင်။ဧလိယအဘို့ကဆောင်။
တဲသုံးဆောင်ကိုအလိုတော်ရှိလျှင်အကျွန်ုပ်တို့သည်ဆောက်လုပ်ပါ
၅ မည်ဟုလျှောက်လေ၏။ ထိုသို့လျှောက်စဉ်တွင်ထွန်းလင်းသော
မိုဃ်းတိမ်သည်ထိုသူတို့ကိုလွှမ်းမိုး၍ ဤသူသည်ငါနှစ်သက်မြတ်နိုး
ရာငါ၏ချစ်သားပေတည်း။သူ့စကားကိုနားထောင်ကြဟုမိုဃ်းတိမ်
၆ ကအသံတော်ဖြစ်လေ၏။ တပည့်တော်တို့သည်ကြားရလျှင်ပျပ်ဝပ်၍
၇ အလွန်ကြောက်လန့်ခြင်းရှိကြ၏။ ယေရှုသည်လာ၍သူတို့ကိုလက်နှင့်
၈ တို့တော်မူလျက်ထကြ။မကြောက်ကြနှင့်ဟုမိန့်တော်မူလေသော် သူတို့
သည်ကြည့်မျှော်သဖြင့်ယေရှုတယောက်တည်းမှတပါးအဘယ်သူ
၉ ကိုမျှမမြင်ကြ။ ။တောင်ပေါ်ကဆင်းကြသောအခါယေရှုက
လူသားသည်သေခြင်းမှမထမြောက်မှီတိုင်အောင်သင်တို့ယခုမြင်
သောရူပရုံကိုအဘယ်သူအားမျှမပြောကြနှင့်ဟုတပည့်တော်တို့ကိုပ
၁၀ ညတ်တော်မူ၏။ ထိုအခါတပည့်တော်တို့ကဧလိယသည်အရင်လာရ
မည်ဟုကျမ်းပြုဆရာတို့သည်အဘယ်ကြောင့်ဆိုပါသနည်းဟုမေး
၁၁ လျှောက်ကြလျှင် ယေရှုကဧလိယသည်အရင်လာ၍အလုံးစုံတို့ကိုပြု
၁၂ ပြင်ရသည်မှန်ပေ၏။ ငါဆိုသည်ကား။ ဧလိယရောက်လာပြီး။
လူများသည်သူကိုမသိသဖြင့်သူအားပြုချင်သမျှပြုကြပြီး။ ထိုနည်း
တူ။လူသားသည်လည်းထိုလူများလက်၌ခံရမည်ဟုမိန့်တော်မူလေ
၁၃ သော် ရေနှစ်မင်္ဂလာဆရာယောဟန်ကိုအမှတ်ပြု၍မိန့်တော်မူကြော
၁၄ င်းကိုတပည့်တော်တို့သည်နားလည်ကြ၏။ ။လူအစုအဝေး
ဆီသို့ရောက်ကြသောအခါ လူတယောက်သည်အထံတော်သို့ချဉ်း

၁၅ ကပ်၍ဒူးထောက်လျက် သခင်။ကျွန်တော်သားကိုကယ်မသနားတော်
မူပါ။ဝက်ရူးနာစွဲ၍ပြင်းစွာခံရပါ၏။အကြိမ်ကြိမ်မီး၌လဲတတ်ပါ၏။
၁၆ အကြိမ်ကြိမ်ရေ၌လဲတတ်ပါ၏။ တပည့်တော်တို့ဆီသို့ဆောင်ခဲ့၍
၁၇ သူတို့သည်ချမ်းသာမပေးနိုင်ကြပါဟုလျှောက်လျှင် ယေရှုကယုံခြင်း
မရှိ။ဖောက်ပြန်သောအမျိုး။ငါသည်သင်တို့နှင့်တကွ အဘယ်မျှလော
က်ကြာ၍နေရအံ့နည်း။သင်တို့ကိုအဘယ်မျှလောက်ကြာ၍ သည်းခံရ
၁၈ အံ့နည်း။သူငယ်ကိုငါ့ဆီသို့ယူခဲ့ကြဟုမိန့်တော်မူ၏။ ယေရှုသည်နတ်
ဆိုးကိုဆုံးမတော်မူလျှင် သူငယ်မှ ထွက် သွားသဖြင့်ထိုခဏမှစ၍
၁၉ သူငယ်သည်ကျန်းမာပကတိဖြစ်လေ၏။ ။ထိုအခါတပည့်တော်
တို့သည်ဆိတ်ကွယ်ရာအရပ်၌ ယေရှုထံတော်သို့ချဉ်းကပ်၍အကျွန်ုပ်
တို့သည်ထိုနတ်ဆိုးကိုအဘယ်ကြောင့်မနှင်ထုတ်နိုင်ပါသနည်းဟု
၂၀ လျှောက်ကြသော် သင်တို့ယုံခြင်းမရှိသောကြောင့်မနှင်ထုတ်နိုင်ကြ။
ငါအမှန်ဆိုသည်ကား။ မုန်ညင်းစေ့ပမာဏရှိသောယုံခြင်း သင်တို့၌ ရှိ
လျှင်ဤတောင်ကိုနေရာမှရွေ့လောဟုဆိုကြသဖြင့်နေရာမှရွေ့လိမ့်မ
၂၁ ည်။ယုံခြင်းရှိလျှင်အဘယ်အမှုမျှသင်တို့အားမခက်နိုင်ရာ။ သို့သော်
လည်း ဆုတောင်းခြင်း။ အစာရှောင်ခြင်းမှတပါး အဘယ်သို့သော
၂၂ အားဖြင့်ထိုနတ်မျိုးသည်မထွက်တတ်ဟုမိန့်တော်မူ၏။ ဂါ
လိလဲပြည်၌နေကြစဉ်တွင်ယေရှုကလူသားကိုလူတို့လက်သို့အပ်နှံရ
၂၃ သောအချိန်နီးပြီ။ သူတို့သည်သတ်ကြလိမ့်မည်။ သုံးရက်မြောက်
သောနေ့၌ထမြောက်လိမ့်မည်ဟုတပည့်တော်တို့ အားမိန့်တော်မူ၏။
၂၄ သူတို့သည်လည်းအလွန်ဝမ်းနည်းခြင်းသို့ရောက်ကြ၏။ ။က
ပေရနောင်မြို့သို့ရောက်ကြသောအခါ၌ဗိတ်မှာန်တော်အခွန် တည်းဟူ
သော ဒိဒြမ္မကိုခံသောသူတို့သည် ပေတရုဆီသို့လာ၍သင်၏ဆရာ
၂၅ သည်ဒိဒြမ္မကိုမပေးသလောဟုဆိုလျှင် ပေးပါသည်ဟုပေတရုဆို၏။
ပေတရုသည်အိမ်သို့ဝင်သောအခါယေရှုသည်တင်ကူး၍အချင်းရှိမုန်။
သင်သည် အဘယ်သို့ ထင်သနည်း။ လောကီ ရှင်ဘုရင် တို့သည်အ
ဘယ်သူမှအခွန်ကိုခံကြသနည်း။ မိမိသားမှခံသလော။ သူတပါးမှခံ
၂၆ သလောဟုမေးတော်မူလျှင် ပေတရုက သူတပါးမှခံကြပါသည် ဟု
လျှောက်လေသော်ယေရှုလည်းသို့ဖြစ်လျှင်သားမူကား လွတ်ရ၏။
၂၇ သို့သော်လည်းထိုသူတို့သည် ငါတို့ကြောင့်စိတ်မပျက်ရအောင် အိုင်
သို့သွား၍ငါးမျှားကိုချတော့။ ရှေ့ဦးစွာရသော ငါးကိုယူ၍ပငပ်ကို

ဖွင့် လျှင် သတေရတများကိုတွေ့ လိမ့်မည်။ ထိုငွေကိုယူ၍ငါအဖို့နှင့်
သင်အဖို့ထိုသူတို့အားပေးတော့ဟုမိန့်တော်မူ၏။

❋❋

၁ ထိုအခါတပည့်တော်တို့သည် ချဉ်းကပ် ၍ ကောင်းကင် နိုင်ငံတော် ၌
အဘယ်သူသည်သာ၍ကြီးမြတ်ပါအံ့နည်းဟုမေးလျှောက်ကြသော်
၂ သူငယ်တယောက် ကို ခေါ်တော်မူ၍တပည့်တော်တို့အလယ်မှာထား
၃ ပြီးလျှင် ငါအမှန်ဆိုသည်ကား။သင်တို့သည်ပြောင်းလဲ၍သူငယ်ကဲ့
၄ သို့မဖြစ်လျှင်ကောင်းကင်နိုင်ငံတော်သို့မရောက်ရ။ ထိုကြောင့်အ
ကြင်သူသည် ဤသူငယ်ကဲ့သို့မိမိကိုမိမိနှိမ့်ချအံ့။ ထိုသူသည်ကောင်း
၅ ကင်နိုင်ငံ တော် ၌သာ၍ကြီးမြတ်လိမ့်မည်။ အကြင်သူသည်ငါမျက်
နှာကိုထောက်၍ဤကဲ့သို့သောသူငယ်တစုံတယောက်ကိုသိမ်းဆည်း
၆ ၏။ထိုသူသည်ငါကိုပင်သိမ်းဆည်း၏။ ငါကိုယုံကြည်သောဤသူငယ်
တစုံ တယောက် ကို အကြင် သူ သည် လဲ စေ၏။ ထို သူ ၏ လည်ပင်း ၌
ကြိတ်ဆုံကျောက်များဆွဲ၍သူကိုနက်နဲ သောပင်လယ်၌နှစ်မြှုပ်သော်
၇ သာ၍ကောင်း၏။ ။ထိမိ၍လဲစရာအကြောင်းများရှိသော့
ကြောင့်လောကီသားတို့သည် အမင်္ဂလာရှိကြ၏။ ထိမိ ၍ လဲ စရာအ
ကြောင်းရှိရမည်။ သို့သော်လည်း ထိမိ ၍ လဲ စရာအကြောင်းကိုဖြစ်
၈ စေသောသူသည်အမင်္ဂလာရှိ၏။ သင်၏လက်ခြေသည်သင်ကိုလဲစေ
လျှင်လက်ခြေကိုဖြတ်ပြစ်လော့။ လက် ခြေ အစုံနှင့် ထာဝရ မီးထဲ ၌ ချ
ခြင်းကိုခံရသည်ထက်အင်္ဂါချို့တဲ့၍အသက်ရှင်ခြင်း သို့ ဝင် စား သော်
၉ သာ၍ကောင်း၏။ သင်၏မျက်စိသည် လည်းသင်ကိုလဲစေလျှင်မျက်
စိကိုထုတ်ပြစ် လော့။ မျက် စိနှစ်ဖက် စုံ နှင့် ငရဲမီးထဲ ၌ ချခြင်းကိုခံရ
သည်ထက်မျက်စိတဖက်နှင့် အသက်ရှင် ခြင်းသို့ ဝင် စား သော်သာ၍
၁၀ ကောင်း၏။ ။သင်တို့သည်ဤသူငယ်တစုံတယောက်ကိုမ
ထီမဲ့မြင်မပြုရအောင်သတိရှိကြလော့။ငါဆိုသည်ကား။ သူတို့၏ကော
င်းကင်တမန်တို့သည်ကောင်းကင်ဘုံ၌ရှိတော်မူသော ငါ အဖ ၏ မျက်
၁၁ နှာတော်ကိုအစဉ်မပြတ်ဖူးမြင်ကြ၏။ ထိုမှ တပါး။ လူသားသည်
၁၂ ပျောက်သောသူတို့ကိုကယ်တင်အံ့သောငှါကြွလာသတည်း။ အဘ
ယ်သို့ထင်ကြသနည်း။ သိုးတရာရှိသောသူသည်သိုးတကောင်လမ်း
လွဲ၍ ပျောက် လျှင် ကိုးဆယ်ကိုးကောင် သောသိုး ကို တောင်ပေါ်မှာ
ထားရစ်သဖြင့်လမ်းလွဲ ၍ ပျောက် သော သိုး တကောင်ကိုသွား၍ရှာ

၁၃ သည်မဟုတ်လော။ တွေ့ပြီးလျှင်လမ်းမလွဲမပျောက်သောသိုးကိုးဆ
ယ်ကိုးကောင်၌ဝမ်းမြောက်သည်ထက်ထိုသိုးတကောင်၌သာ၍ဝမ်း
၁၄ မြောက်ခြင်းရှိသည်ဟုငါအမှန်ဆို၏။ ထိုနည်းတူ။ကောင်းကင်ဘုံ၌
ရှိတော်မူသောသင်တို့အဖသည် ဤသူငယ်တယောက်ကိုမျှပျောက်
၁၅ စေခြင်းငှါအလိုတော်မရှိ။ ။ထိုကြောင့်သင်၏ညီအစ်ကိုသည်
သင်ကိုပြစ်မှားလျှင်သူဆီသို့သွား၍ နှစ်ယောက်တည်းချင်း သူ့အ
ပြစ်ကိုပြ၍ဆုံးမ ပေးလော့။ သူသည်သင်စကားကိုနားထောင်လျှင်
၁၆ သင်သည်ညီအစ်ကိုကိုရပြီ။ သို့မဟုတ်။သင်စကားကိုနားမထော
င်လျှင်လူနှစ်ဦးသုံးဦးသက်သေခံ၍ စကားရှိသမျှတို့သည်တည်ရ
၁၇ အောင်ကိုယ်နှင့်အတူလူတဦးနှစ်ဦးကိုခေါ်ဦးလော့။ ထိုသူတို့၏စ
ကားကိုနားမထောင်လျှင်အသင်းတော်အားကြားပြောလော့။အသင်း
တော်၏စကားကိုနားမထောင်လျှင်သာသနာပလူကဲ့သို့၎င်အခွန်ခံ
၁၈ ကဲ့သို့၎င်သူကိုမှတ်လော့။ ငါအမှန်ဆိုသည်ကား။သင်တို့သည်မြေကြီး
ပေါ်မှာချည်နှောင်သမျှတို့သည်ကောင်းကင်ဘုံ၌ချည်နှောင်လျက်ဖြစ်
လိမ့်မည်။မြေကြီးပေါ်မှာဖြည်လွှတ်သမျှတို့သည်ကောင်းကင်ဘုံ၌ဖြည်
၁၉ လွှတ်လျက်ဖြစ်လိမ့်မည်။ တဖန်ငါဆိုသည်ကား။ဤလောက၌သင်တို့
တွင်နှစ်ယောက်တို့သည်သဘောချင်းတူ၍ ဆုတောင်းလျှင်တောင်း
သမျှသောဆုတို့ကိုကောင်းကင်ဘုံ၌ရှိတော်မူသောငါ၏ခမည်းတော်
၂၀ သည်ပေးတော်မူလတံ့။ အဘယ်ကြောင့်နည်းဟူမူကား။ အကြင်အ
ရပ်၌နှစ်ဦးသုံးဦးတို့သည်ငါ့မျက်နှာကိုထောက်၍စည်းဝေးကြ၏။ ထို
အရပ်၌သူတို့အလယ်မှာငါရှိသည်ဟုမိန့်တော်မူ၏။

❋❋

၂၁ ထိုအခါပေတရုသည်ချဉ်းကပ်၍ သခင်။ ဘယ်နှုက်ကြိမ်ညီအစ်ကို
သည်အကျွန်ုပ်ကိုပြစ်မှား၍အကျွန်ုပ်သည်သူ့အပြစ်ကိုလွှတ်ရပါအံ့
နည်း။ခုနှစ်ကြိမ်မြောက်အောင်အပြစ်လွှတ်ရပါအံ့လောဟုမေးသော်
၂၂ ယေရှုကခုနှစ်ကြိမ်မြောက်အောင်အပြစ်လွှတ်ရမည်ငါမဆို။ အကြိမ်ခု
၂၃ နှစ်ဆယ်ခုနှစ်လီမြောက်အောင်အပြစ်လွှတ်ရမည်ငါဆို၏။ ထိုကြော
င့်ကောင်းကင်နိုင်ငံတော်သည်မိမိကျွန်များတို့ကိုစာရင်းယူခြင်းငှါ
၂၄ အလိုရှိသောမင်းကြီးတဦးနှင့်တူ၏။ စာရင်းယူစည်တွင်ငွေအခွက်
တသိန်းကျွေးတင်သောသူတယောက်ကိုရှေ့တော်သို့ခေါ်ဆောင်ကြ၏။
၂၅ ထိုသူသည်ကျွေးဆပ်ရန်မရှိသောကြောင့်ကိုယ်မှစ၍သားမယား

ဥစ္စာ ရှိသမျှတို့ကိုရောင်း၍ကြွေးကိုဆပ်စေဟုသူသခင်သည်စီရင်၏။
၂၆ ထိုကျွန်သည်ညွှတ်ပျပ်ဝပ်တွားလျက် သခင်။ကျွန်တော်ကိုသည်းခံ
၂၇ တော်မူပါ။ကြွေးအားလုံးကိုဆပ်ပါမည်ဟုလျှောက်လျှင် ထိုကျွန်၏
သခင်သည် သနား ခြင်း ရှိသဖြင့် ကြွေး အား လုံး ကို လွှတ် ၍ ချမ်သာ
၂၈ ပေးလေ၏။ ။ထိုကျွန်သည်ထွက်သွားရာတွင်မိမိငွေဒေနာ
ရိတရာကြွေး တင်သော ကျွန်ချင်း တယောက် ကို တွေ့လျှင် လည် ပင်း
၂၉ ကိုကိုင်ညှစ်၍ငါ ငွေကို ဆပ်ပေးတော့ဟုဆို ၏။ ထို ကျွန်ချင်း သည်
ပျပ်ဝပ်လျက်ကျွန်တော်ကိုသည်းခံတော်မူပါ။ကြွေးအါးလုံးကိုဆပ်ပါ
၃၀ မည်ဟုတောင်း ပန်သော်လည်း ငွေရှင်သည်နား မထောင် ဘဲသွား
၃၁ ၍ကြွေးကိုမဆပ်မှီတိုင်အောင်သူကိုထောင်ထဲမှာလှောင်ထား၏။ ထို
အမှုအရာကိုအချားသောကျွန်ချင်းတို့သည်မြင်ရလျှင်အလွန်ကြွင်နာ
သောစိတ်နှင့်သွား ကြ၍ ပြုလေသမျှတို့ကိုမိမိတို့သခ င်၌ ကြား လျှော
၃၂ က်ကြ၏။ ထိုအခါသခင်သည်ထိုကျွန်ကိုခေါ်၍ဟယ်။ဆိုးညစ်သော
ကျွန်။ သင် သည်ငါကိုတောင်း ပန်သော့ကြောင့်သင်၏ကြွေးအားလုံး
၃၃ ကိုငါရှင်း လင်း စေ ၏။ ငါသည် သင် ကိုသနား သကဲ့ သို့သင် သည်
၃၄ လည်းကျွန်ချင်းကိုမသနားအပ်သလောဟုဆို၍ အမျက်ထွက်သဖြင့်
ကြွေးအားလုံးကိုမဆပ်မှီတိုင်အောင်အာဏာသားတို့လက်၌အပ်လေ
၃၅ ၏။ ထိုနည်းတူ။သင်တို့ညီအစ်ကိုအချင်းချင်းစိတ်နှစ်လုံးပါလျက်အ
ပြစ်မလွှတ်လျှင်ကောင်းကင်ဘုံ၌ရှိတော်မူသောငါ၏အဖ သည် သင်
၁ တို့ကိုစီရင်တော်မူလတ္တံ့ဟုမိန့်တော်မူ၏။ ။ထိုဒေသနာ
တော်ကိုယေရှုသည်ကုန်စင်အောင်ဟောတော်မူပြီး လျှင်ဂါလိလဲပြည်
၂ မှပြောင်း၍ယုဒပြည်စွန်း။ယော်ဒန်မြစ်နားသို့ကြွတော်မူ၏။ လူများ
အပေါင်း တို့ သည်နောက်တော်သို့ လိုက်ကြသည် ဖြစ်၍ ထိုအရပ် ၌အ
၃ နာရောဂါများကိုညိမ်း စေတော်မူ၏။ ဖာရိရှဲလူတို့သည်စုံစမ်နှော
င့်ရှက်သောအားဖြင့်အထံတော်သို့လာ၍ခပ်သိမ်းသောအပြစ် ကြော
၄ င့်လူသည်မိမိမယားနှင့်ကွာအပ်သလောဟုလျှောက်ကြသော် ကိုယ်
တော်ကအစအဦး၌ဖန်ဆင်းတော်မူသော သူသည်ယောကျ်ားမိမ္မနှစ်
၅ ယောက်တည်းကိုဖန်ဆင်းတော်မူ၏။ ထိုအကြောင်းကြောင့်ယော
ကျ်ားသည်ကိုယ်မိဘကိုစွန့် ၍ ကိုယ်ခင်ပွန်း ၌ မှီဝဲသဖြင့် ထိုသူနှစ်
ယောက်တို့သည်တသား တကိုယ် တည်းဖြစ် ရလိမ့် မည် ဟု ကျမ် ဆို
၆ သည်ကိုသင်တို့သည်မဖတ်ဘူးသလော။ ထိုကြောင့်လင်မယားတို့

သည်နှစ်ဦးမဟုတ်။ တဦးတည်းဖြစ်၏။ ဘုရားသခင်စုံဖက်တော်မူ
၇ သောအရာကိုလူမခွဲမခွာစေနှင့်ဟုမိန့်တော်မူ၏။ ဖာရိရှဲလူတို့လည်း
သို့ဖြစ်လျှင်ဖြတ်စာကိုပေး၍မယားနှင့်ကွာစေခြင်းငှါမောရှေသည်
၈ အဘယ်ကြောင့်စီရင်သနည်းဟုလျှောက်ကြသော် ကိုယ်တော်ကသင်
တို့စိတ်ခိုင်မာသောကြောင့်မိမိမယားနှင့်ကွာရသောအခွင့်ကိုမော
၉ ရှေပေး၏။အစအဦး၌ထိုသို့မဟုတ်။ ငါပညတ်သည်ကား။ မှားရွင်း
ခြင်းအကြောင်းမှတပါးအချားသောအကြောင်းဖြင့်မိမိမယားနှင့်
ကွာ၍အချားမိန်းမနှင့်အိမ်ထောင်ဖက်ပြုသောသူသည်မိမိမယားကို
ပြစ်မှား၏။ကွာသောမိန်းမနှင့်အိမ်ထောင်ဖက်ပြုသောသူသည်လည်း
၁၀ သူမယားကိုပြစ်မှားသည်ဟုမိန့်တော်မူ၏။ ။တပည့်တော်
တို့ကလင်မယားအမှုသည် ဤသို့ဖြစ်လျှင်အိမ်ထောင်ခြင်းကိုမပြု
၁၁ ကောင်းဟုလျှောက်ကြ၏။ ကိုယ်တော်ကလည်းထိုစကားကိုလူတိုင်း
၁၂ မခံမယူနိုင်။အခွင့်ရသောသူတို့သာခံယူနိုင်ကြ၏။ လူအချို့တို့သည်
အမိဝမ်းထဲမှစ၍မိန်းမလျှာဖြစ်၏။ အချို့တို့သည်သူတပါးဆုံမှု၍မိန်းမ
လျှာဖြစ်၏။ အချို့တို့သည်ကောင်းကင်နိုင်ငံတော်အလို့ငှါမိမိကိုမိမိ
ဆုံမှု၍မိန်းမလျှာဖြစ်၏။ ထိုစကားကိုခံယူနိုင်သောသူသည်ခံယူပါ
၁၃ လေစေဟုမိန့်တော်မူ၏။ ။ထိုအခါသူငယ်တို့အပေါ်မှာလက်
တော်ကိုတင်၍မေတ္တာပို့တော်မူစေခြင်းငှါအထံတော်သို့ဆောင်ခဲ့
၁၄ သည်ဖြစ်၍တပည့်တော်တို့သည်အပြစ်တင်ကြ၏။ ယေရှုကလည်းထို
သူငယ်တို့ကိုရှိပါလေစေ။ ငါ့ထံသို့မလာအောင်မဆီးတားကြနှင့်။
ကောင်းကင်နိုင်ငံတော်သည်ထိုသို့သောသူတို့၏နိုင်ငံဖြစ်သည်ဟု
၁၅ မိန့်တော်မူပြီးလျှင် သူငယ်တို့အပေါ်မှာလက်တော်ကိုတင်၍ထိုအ
ရပ်မှကြွသွားတော်မူ၏။

**

၁၆ ထိုနောက်လူတယောက်သည်ချဉ်းကပ်၍ကောင်းမြတ်သောဆရာ။
ထာဝရအသက်ကိုရအံ့သောငှါအကျွန်ုပ်သည်အဘယ်ကောင်းမှုကို
၁၇ ပြုရပါမည်နည်းဟုလျှောက်သော် ငါ့ကိုကောင်းမြတ်သည်ဟုအဘ
ယ်ကြောင့်ခေါ်ဝေါ်သနည်း။ ဘုရားသခင်တပါးတည်းသာကောင်း
မြတ်တော်မူ၏။အသက်ရှင်ခြင်းသို့ဝင်စားလိုလျှင်ပညတ်တော်တို့
၁၈ ကိုစောင့်ရှောက်လော့ဟုမိန့်တော်မူ၏။ အဘယ်ပညတ်နည်းဟု
လျှောက်ပြန်သော်လူ့အသက်ကိုမသတ်နှင့်။ သူမယားကိုမပြစ်မှား

၁၉ နှင့်။သူ့ဥစ္စာကိုမခိုးနှင့်။မမှန်သောသက်သေကိုမခံနှင့်။ မိဘအားရို
သေစွာကျင့်လော့။ ကိုယ်နှင့်စပ်ဆိုင်သောသူကိုကိုယ်နှင့်အမျှချစ်
၂၀ လော့ဟုမိန့်တော်မူ၏။ ထိုလုလင်ကလည်းထိုပညတ်အားလုံးတို့ကို
ငယ်သောအရွယ်မှစ၍အကျွန်ုပ်စောင့်ရှောက်ပါပြီး။အဘယ်အကျင့်
၂၁ လိုသေးသနည်းဟုလျှောက်ပြန်သည်ကိုယေရှုကသင်သည်စုံလင်ခြင်း
သို့ရောက်လိုလျှင်သွားလော့။ ကိုယ်ဥစ္စာများကိုရောင်း၍ဆင်းရဲ
သောသူတို့အားပေးလော့။ ထိုသို့ပြုလျှင်ကောင်းကင်ဘုံ၌ဘဏ္ဍာကို
ရလိမ့်မည်။သို့ပြီးမှလာ၍ငါနောက်သို့လိုက်လော့ဟုမိန့်တော်မူ၏။
၂၂ လုလင်သည်များသောဥစ္စာကိုရတတ်သောသူဖြစ်၍ ထိုစကားကို
၂၃ ကြားလျှင်စိတ်မသာသည်နှင့်သွားလေ၏။ ။ယေရှုသည်
လည်းငါအမှန်ဆိုသည်ကား။ငွေရတတ်သောသူသည်ကောင်းကင်နိုင်
၂၄ ငံတော်သို့ဝင်ခဲလှ၏။ တဖန်ငါဆိုသည်ကား။ကုလားအုတ်သည်အပ်
ချဖွားကိုလျှိုလွယ်၏ငွေရတတ်သောသူသည်ဘုရားသခင်၏နိုင်ငံ
၂၅ တော်သို့ဝင်ခဲသည်ဟုတပည့်တော်တို့အားမိန့်တော်မူ၏။ ထိုသူတို့
သည်ကြားလျှင်အလွန်မိန်းမောတွေဝေသဖြင့်သို့ဖြစ်လျှင်အဘယ်
သူသည်ကယ်တင်တော်မူခြင်းသို့ရောက်နိုင်သနည်းဟုပြောဆိုကြ
၂၆ ၏။ ယေရှုသည်လည်းသူတို့၌ကြည့်ရှု၍ ဤအမှုကိုလူမတတ်နိုင်။သို့
သော်လည်းဘုရားသခင်အလုံးစုံတို့ကိုတတ်နိုင်တော်မူသည်ဟုမိန့်
၂၇ တော်မူ၏။ ။ထိုအခါပေတရုကအကျွန်ုပ်တို့သည်အားလုံးကို
စွန့်ပြစ်၍ကိုယ်တော်နောက်သို့လိုက်ပါပြီး။ အဘယ်အကျိုးကိုရကြ
၂၈ ပါမည်နည်းဟုလျှောက်လေသော် ယေရှုကလည်းငါအမှန်ဆိုသည်
ကား။ အလုံးစုံသောအရာတို့ကိုအသစ်ပြုပြင်သောကာလ၌လူသား
သည်ဘုန်းပြရာပလ္လင်တော်ပေါ်မှာထိုင်တော်မူသောအခါငါနောက်
သို့လိုက်ကြသောသင်တို့သည်တဆယ်နှစ်ခုသောပလ္လင်ပေါ်မှာထိုင်
၂၉ လျက်ဣသရေလလူတဆယ်နှစ်မျိုးကိုစစ်ကြောစီရင်ကြလတ့ံ။ အကြင်
သူသည်ငါ့နာမကြောင့်အိမ်။လယ်ယာ။ ညီအစ်ကို။နှမ။ မိဘ။သား
မယားတစုံတခုကိုစွန့်၏။ ထိုသူသည်အဆတရာသောအကျိုးကိုရ၍
ထာဝရအသက်ကိုအမွေခံရလတ့ံ။ နောက်ကျသောသူအများတို့ကား
၃၀ အရင်ကျလိမ့်မည်။ အရင်ကျသောသူအများတို့ကားနောက်ကျလိမ့်
၁ မည်။ ဥပမာကား။ကောင်းကင်နိုင်ငံတော်သည်စပျစ်ဥယည်ကိုလုပ်
ဆောင်သောသူတို့ကိုငှါးရအောင်နံနက်စောစောထွက်သွားသော အိမ်

၂ ရှင်နှင့်တူ၏။ ထိုသူသည်တနေ့လျှင်ဒေနာရိတပျားစီပေးမည်ဟူ၍
၃ လုပ်သောသူတို့နှင့်ဝန်ခံပြီးမှစပျစ်ဥယည်သို့စေလိုက်လေ၏။ နံနက်
တချက်တီးအချိန်၌ထွက်ပြန်လျှင်အချားသောသူတို့သည်အလုပ်မ
၄ လုပ်ဘဲဈေး၌ရပ်နေသည်ကိုမြင်၍ သင်တို့လည်းငါ့စပျစ်ဥယည်
သို့သွားကြ။တော်လျော်အောင်ငါပေးမည်ဟုဆိုလျှင်ထိုသူတို့သည်
၅ သွားကြ၏။ တဖန်နှစ်ချက်တီးအချိန်။တဖန်သုံးချက်တီးအချိန်၌ထွက်
၆ ၍ရှေ့နည်းအတူပြုလေ၏။ နေမဝင်မှီတနာရီလိုသောအခါထွက်
ပြန်လျှင်အချားသောသူတို့သည်ရပ်နေသည်ကိုတွေ့၍သင်တို့သည်
တနေ့လုံးအလုပ်မလုပ်ဘဲဤအရပ်၌အဘယ်ကြောင့်နေကြသနည်းဟု
၇ မေးသော် ထိုသူတို့ကကျွန်တော်တို့ကိုအဘယ်သူမျှမငှါးပါဟုဆိုကြ
သည်ကိုသင်တို့လည်းငါ့စပျစ်ဥယည်သို့သွားကြ။ တော်လျော်အောင်
၈ ရလိမ့်မည်ဟုဆိုလေ၏။ ။ညအချိန်ရောက်သောအခါစ
ပျစ်ဥယည်ရှင်သည်လုပ်ဆောင်သောသူတို့ကိုခေါ်ခဲ့ပါ။ နောက်ဝင်
သောသူမှစ၍အရင်အဦးဝင်သောသူတိုင်အောင်အခကိုပေးလော
၉ ဟုမိမိစာရေးကိုမှာလိုက်လေ၏။ ထိုကြောင့်နေမဝင်မှီတနာရီလို
၁၀ သောအခါ၌ဝင်သောသူတို့သည်လာ၍ဒေနာရိတပျားစီခံကြ၏။ အ
ရင်ဝင်သောသူတို့သည်လာ၍ငါတို့သည်သာ၍ရမည်ဟုစိတ်ထဲမှာ
၁၁ ထင်သော်လည်းဒေနာရိတပျားစီသာခံကြ၏။ ထိုသို့ခံပြီးလျှင်အိမ်
၁၂ ရှင်ကိုကဲ့ရဲ့ပြစ်တင်၍ နောက်ဝင်သောသူတို့သည်တနာရီမျှသာလုပ်
ဆောင်သော်လည်းထနေ့လုံးအမှုဝန်ကိုထမ်းရွက်၍နေပူဆင်းရဲခံ
သောကျွန်တော်တို့နှင့်အညီအမျှကိုယ်တော်စီရင်ပါပြီးတကားဟုဆို
၁၃ ကြ၏။ အိမ်ရှင်ကလည်းအဆွေ။သင်၌မတရားသောအမှုကိုငါမပြု။
၁၄ ဒေနာရိတပျားအလို့ငှါသင်သည်ငါနှင့်ဝန်ခံသည်မဟုတ်လော။ သင်
ဥစ္စာကိုယူ၍သွားတော့။ နောက်ဝင်သောသူတို့အားသင်နှင့်အညီအ
၁၅ မျှပေးခြင်းငှါငါအလိုရှိ၏။ ငါဥစ္စာကိုငါပြုလိုသမျှငါမပြုရသလော။
ငါသဘောကောင်းသော့ကြောင့်သင်မျက်မုန်းကျိုးသလောဟုဆိုလေ
၁၆ ၏။ ထိုနည်းတူ။နောက်ကျသောသူတို့ကားအရင်ကျလိမ့်မည်။အရင်
ကျသောသူတို့ကားနောက်ကျလိမ့်မည်။ခေါ်အပ်သောသူအများရှိ
သော်သည်းရွေးချယ်အပ်သောသူနည်းခဲ့ည်းရှိသည်ဟုမိန့်တော်မူ၏။

**

၁၇ ယေရှုသည်ယေရုရှလင်မြို့သို့တက်ကြွတော်မူစဉ်လမ်းခရီး၌တကျိပ်

၁၈ နှစ်ပါးသောတပည့်တော်တို့ကိုဆိတ်ကွယ်ရာအရပ်သို့ခေါ်၍ ငါတို့
သည်ယေရုရှလင်မြို့သို့ယာခုသွားကြ၏။လူသားသည်ယဇ်ပုရောဟိတ်
အကြီး။ကျမ်းပြုဆရာတို့လက်သို့ရောက်လိမ့်မည်။ သူတို့သည်သေ
၁၉ ပြစ်ကိုစီရင်ကြလိမ့်မည်။ လူသားအားကဲ့ရဲ့ခြင်း။ရိုက်ပုတ်ခြင်း။လက်
ဝါးကပ်တိုင်၌ရိုက်ထား ခြင်းကိုပြုစေခြင်းငှါတပါးအမျိုးသါးတို့လက်
သို့အပ်နှံကြလိမ့်မည်။သုံးရက်မြောက်သောနေ့၌ထမြောက်လိမ့်မည်
၂၀ ဟုမိန့်တော်မူ၏။ ။ထိုအခါဇေဗေဒဲ၏သားတို့အမိသည်သား
တို့နှင့်အတူ အထံတော်သို့ ချည်းကပ်၍ပျပ်ဝပ်လျက် ဆုကျေးဇူးကို
တောင်းပန်လေ၏။ကိုယ်တော်ကသင်သည် အဘယ်ဆုကျေးဇူးကိုအ
၂၁ လိုရှိသနည်းဟုမေးတော်မူသော်,ကိုယ်တော်၏နိုင်ငံတွင်ကျွန်မ၌ရှိ
သားနှစ်ယောက်တို့သည် တယောက်လက်ျာတော်ဘက်။ တယောက်
လက်ဝဲတော်ဘက်မှာထိုင်နေရသောအခွင့်ကိုပေးတော်မူပါဟုလျှော
၂၂ က်လေ၏။ ယေရှုကလည်းသင်တို့သည်အဘယ်သို့တောင်းပန်သည်
ကိုသင်တို့မသိကြ။ ငါသောက်ရအံ့သော ခွက်ကိုသင်တို့သောက်နိုင်
သလောဟုမေးတော်မူလျှင်အကျွန်ုပ်တို့သောက်နိုင်ပါ၏ဟုလျှောက်
၂၃ လေသော်ငါသောက်သော ခွက်ကိုသင်တို့သောက်ရလိမ့်မည်။ သို့
သော်လည်းငါလက်ျာဘက်။ငါလက်ဝဲဘက်မှာထိုင်နေရသောအခွင့်
ကိုကားအကြင်သူတို့အဖို့အလိုငှါငါ့ခမည်းတော်သည်ပြင်ဆင်၏။ထို
၂၄ သူတို့အားသာငါပေးပိုင်သည်ဟုမိန့်တော်မူ၏။ ။အချား
သောတပည့်တော်တကျိပ်တို့သည်ကြားသိလျှင်ထိုညီအစ်ကိုနှစ်
၂၅ ယောက်တို့၌အမျက်ထွက်ကြ၏။ ယေရှုသည်သူတို့ကိုခေါ်တော်မူ
လျှင်သင်တို့သိသည်အတိုင်းလောကီမင်းတို့သည်အစိုးတရပြုတတ်
၂၆ ၏။အကဲအမှူးတို့သည်အာဏာထားတတ်၏။ ထိုနည်းတူသင်တို့မပြု
ရ။လူသားသည်သူတပါးကိုစေစားခြင်းငှါမလာ။ သူတပါးအစေကို
ခံခြင်းငှါ ၎င်း မိမိအသက်ကိုစွန့်၍လူများကိုရွေးခြင်းငှါ ၎င်း ကြွလာ
သည်ဖြစ်၍ထိုနည်းတူ။သင်တို့တွင်အကဲအမှူးပြုလိုသော သူကိုသင်
တို့အစေခံ ဖြစ်စေ။သင်တို့တွင်အထွဋ်အမြတ်လုပ်ချင်သော သူကို
၂၉ လည်းသင်တို့ကျွန်ဖြစ်စေဟုမိန့်တော်မူ၏။ ။ယေရိခေါမြို့မှ
ထွက်သွားကြစဉ်တွင်လူများအပေါင်းတို့သည်နောက်တော်သို့လိုက်
၃၀ ကြ၏။ ယေရှုသည်ကြွသွားတော်မူကြောင်းကိုလမ်းနားမှာထိုင်နေ
သောလူကန်းနှစ်ယောက်တို့သည်ကြားရလျှင်ဒါဝိဒ်၏သားတော်အ

ရှင်။ကျွန်တော်တို့ကိုကယ်မသနားတော်မူပါဟုဟစ်ကျော်ကြ၏။
၃၁ သူတို့သည်တိတ်ဆိတ်စွာနေမည်အကြောင်း။ လူအစုအဝေးသည်ခေါ
က်၍ဆိုသော်လည်းဒါဝိဒ်၏သားတော်အရှင်။ကျွန်တော်တို့ကိုကယ်မ
၃၂ သနားတော်မူပါဟုသာ၍ဟစ်ကျော်ကြသော် ယေရှုသည်ရပ်တော်
မူလျက်ထိုသူတို့အားခေါ်၍သင်တို့၌ငါအဘယ်သို့ပြုစေလိုသနည်း
၃၃ ဟုမေးတော်မူလျှင် သခင်။ကျွန်တော်တို့မျက်စိကိုဖွင့်လင်းစေခြင်း
၃၄ ငှါပြုတော်မူပါဟုလျှောက်ဆိုသည်ကို သနားခြင်းစိတ်တော်ရှိ၍သူ
တို့မျက်စိကိုလက်နှင့်တို့တော်မူ၏။ထိုခဏချင်းသူတို့သည်မျက်စိမြင်
ပြန်၍နောက်တော်သို့လိုက်ကြ၏။

✻✻

၁ ယေရုရှလင်မြို့အနီးသို့ချည်း၍သံလွင်တောင်ခြေရင်း၌ဗက်ဖာဂေရွာ
သို့ရောက်ကြသောအခါ ယေရှုသည် တပည့်တော်နှစ်ယောက်တို့ကို
၂ စေလွှတ်၍ သင်တို့ရှေ့၌ရှိသောရွာသို့သွားကြ။ထိုရွာ၌ချည်နှောင်
လျက်ရှိသောမြည်းနှင့်မြည်းကလေးကိုသင်တို့ချက်ချင်းတွေ့လိမ့်မည်။ကြိုး
၃ ကိုဖြည်၍ငါ့ဆီသို့ဆောင်ခဲ့ကြ။ သူတပါးကသင်တို့အားတစုံတခုဆို
လျှင်သခင်အလိုရှိ၏ဟုပြန်ပြောကြလော့။ သို့ပြောလျှင်ထိုသူသည်
၄။၅ ချက်ချင်းပေးလိုက်မည်ဟုမှာထားတော်မူ၏။ ထိုအကြောင်းအရာ
မူကား။ သင်၏အရှင်မင်းကြီးသည်မြည်းကလေးကိုစီး၍နူးညံ့သိမ်မွေ့
သောစိတ်နှင့်သင်ဆီသို့ကြွလာတော်မူသည်ကိုကြည့်ပါဟုဇိအုန်သ
တို့သမီးအားပြောကြလော့ဟူသောပရောဖက်၏နှုတ်ထွက်ပြည့်စုံမည်
၆ အကြောင်းဖြစ်သတည်း။ ။တပည့်တော်တို့သည်သွား၍အ
၇ မိန့်တော်အတိုင်းပြုသဖြင့် မြည်းနှင့်မြည်းကလေးကိုဆောင်ခဲ့၍မြည်းကြော
ပေါ်မှာမိမိတို့အဝတ်ကိုတင်ကြပြီးလျှင် ကိုယ်တော်သည်စီးတော်မူ
၈ ၏။ အတိုင်းမသိများစွာသောလူတို့သည်မိမိအဝတ်ကိုလမ်း၌ခင်းကြ
၏။အချို့တို့သည်သစ်ကိုင်းသစ်ခက်များကိုခုတ်၍လမ်း၌ခင်းကြ၏။
၉ ရှေ့နောက်လိုက်သွားသောအပြိုအရုံများတို့ကဒါဝိဒ်၏သားတော်အား
ဟောရှဏ္ဏာဖြစ်စေသတည်း။ထာဝရဘုရား၏အခွင့်နှင့်ကြွလာတော်မူ
သောသူအားမင်္ဂလာဖြစ်စေသတည်း။ ကောင်းကင်ဘဝက်ဝယ်ဟော
၁၀ ရှဏ္ဏာဖြစ်စေသတည်းဟုကျွေးကျော်ကြ၏။ ယေရုရှလင်မြို့၌ဝင်တော်
မူသောအခါတမြို့လုံးဆူတ်ဆူတ်သဲသဲရှိ၍ဤသူကားအဘယ်သူနည်း
၁၁ ဟုမေးမြန်းကြလျှင်။ လူအစုအဝေးတို့သည်ဤသူကားဂါလိလဲပြည်

နာဇရက်မြို့၌ပေါ်ထွန်းသောပရောဖက်ယေရှုပေတည်းဟုပြောဆို
၁၂ ကြ၏။ ။ယေရှုသည်ဘုရားသခင်၏ဗိတ်မှာန်တော်သို့ဝင်
တော်မူလျှင်ဗိတ်မှာန်တော်၌ရောင်းဝယ်သောသူအပေါင်းတို့ကိုနှင်
ထုတ်၍ပွဲစားခုံတို့ကိုငွေရှိုးဇက်ရောင်းသောသူတို့၏ထိုင်နေရာကို
၁၃ ငင်တွန်းလှည်းတော်မူလျက် ငါ့အိမ်ကိုဆုတောင်းရာအိမ်ဟူ၍ခေါ်
ကြလတ္တံ့ဟုကျမ်းစာ၌လာသော်လည်းသင်တို့သည်ထိုအိမ်ကိုခိုးမြ
၁၄ တွင်းဖြစ်စေကြပြီးတကားဟုမိန့်တော်မူ၏။ ထိုအခါဗိတ်မှာန်တော်
၌မျက်စိကန်း။ ခြေဆွံ့သောသူတို့သည်အထံတော်သို့လာ၍သူတို့အ
၁၅ နာရောဂါကိုညှိမ်းစေတော်မူ၏။ ကိုယ်တော်သည်ပြုတော်မူသော
အံ့ဘွယ်သရဲတို့ကိုငယ်သူငယ်တို့သည်လည်းဒါဝိဒ်၏သားတော်အား
ဟောသန္နာဖြစ်စေသတည်းဟုဗိတ်မှာန်တော်၌ကြွေးကျော်သည်ကို
ငင်ယဇ်ပရောဟိတ်အကြီး။ကျမ်းပြုဆရာတို့သည်ကြားမြင်လျှင်အ
၁၆ မျက်ထွက်ကြ၍ ဤသူတို့သည်အဘယ်သို့ပြောသည်ကိုသင်သည်
ကြား၏သလောဟုယေရှုအားဆိုကြလေသော်ငါကြား၏။နို့စို့သူငယ်တို့
နှုတ်ထဲမှကိုယ်တော်သည်ချီးမွမ်ခြင်းကိုပြည့်စုံစေတော်မူသည်ဟူ
သောစကားကိုသင်တို့သည်တရံတခါမျှမဖတ်ဘူးသလောဟုမိန့်
၁၇ တော်မူပြီးမှ သူတို့ကိုထားခဲ့၍မြို့ထဲမှထွက်သဖြင့်ဗေသနိရွာသို့ကြွ
၁၈ ၍ညဉ့်၌ကျိန်းဝပ်နေတော်မူ၏။ ။နံနက်အချိန်၌မြို့သို့ပြန်
၁၉ စည်တွင်ဆာမွတ်တော်မူ၏။ လမ်းနားမှာတည်းပင်တပင်ကိုမြင်
လျှင်ထိုအပင်သို့ကြွ၍အရွက်ကိုသာတွေ့တော်မူသည်ရှိသော်ယခု
မှစ၍အစည်မပြတ်သင်၌အသီးမသီးစေနှင့်ဟုမိန့်တော်မူလျှင်ထိုအ
၂၀ ပင်သည်ချက်ချင်းစွသွေ့ခြောက်လေ၏။ တပည့်တော်တို့သည်မြင်လျှင်
တည်းပင်သည်ချက်ချင်းစွသွေ့ခြောက်ပါပြီးတကားဟုအံ့သြ၍ဆို
၂၁ ကြ၏။ ယေရှုကလည်းငါအမှန်ဆိုသည်ကား။သင်တို့သည်ရုံမှားခြင်း
နှင့်ကင်းသောရုံခြင်းရှိလျှင်တည်းပင်၌ပြုသကဲ့သို့သင်တို့ပြုနိုင်သည်
သာမကထိုတောင်ကိုပင်နေရာမှရွေ့တော့။ပင်လယ်၌ကျတော့ဟုဆို
၂၂ လျှင်ဆိုသည်အတိုင်းဖြစ်လိမ့်မည်။ ရုံခြင်းပါလျက်ပဌနာပြု၍ဆု
တောင်းသမျှတို့ကိုသင်တို့ရကြလိမ့်မည်ဟုမိန့်တော်မူ၏။

❋❋

၂၃ ဗိတ်မှာန်တော်သို့ဝင်ပြန်၍ဆုမ္ဗြဩဝါဒပေးတော်မူစဉ်ယဇ်ပရော
ဟိတ်အကြီး။လူများကိုအုပ်စိုးသောလွှတ်အရာရှိတို့သည်အထံတော်

သို့ချည်းကပ်၍ကိုယ်တော်သည်ဤအမှုများကိုအဘယ်အခွင့်နှင့်ပြု
သနည်း။ထိုအခွင့်ကိုအဘယ်သူပေးသနည်းဟုမေးလျှောက်ကြသော်
၂၄ ယေရှုကငါသည်တစုံတခုကိုမေးဦးမည်။သင်တို့ဖြေလျှင်ဤအမှုများ
၂၅ ကိုအဘယ်အခွင့်နှင့်ငါပြုသည်ကိုငါပြောမည်။ ယောဟန်၏ရေနှစ်
မင်္ဂလာသည်အဘယ်ကဖြစ်သနည်း။ဘုရားကဖြစ်သလော။လူကဖြစ်
သလောဟုမေးတော်မူ၏။ ထိုသူတို့သည်အချင်းချင်းဆင်ချင်၍ဘု
ရားကဖြစ်သည်ဟုငါတို့ဖြေလျှင်သင်တို့သည်ယောဟန်ကိုအဘယ်
၂၆ ကြောင့်မယုံသနည်းဟုသူဆိုလိမ့်မည်။ လူကဖြစ်သည်ဟုငါတို့
ဖြေလျှင်လူများကိုကြောက်ရ၏။ယောဟန်သည်ပရောဖက်ဖြစ်သည်
၂၇ ကိုလူအားလုံးတို့သည်ယူကြ၏ဟုအချင်းချင်းဆင်ချင်ပြီးမှ အကျွ
နုပ်တို့မသိဟုယေရှုအားပြန်ပြောကြ၏။ကိုယ်တော်ကလည်းထိုအတူ။
၂၈ ဤအမှုများကိုအဘယ်အခွင့်နှင့်ငါပြုသည်ကိုငါမပြော။ ။သင်
တို့အဘယ်သို့ထင်ကြသနည်း။တစုံတယောက်သောသူသည်သားနှစ်
ယောက်ရှိ၏။သားအကြီးဆီသို့သွား၍ငါ့သား။ယနေ့ငါ့စပျစ်ဥယျာဉ်
၂၉ ကိုသွား၍လုပ်ဆောင်တော့ဟုဆိုလျှင် သားကလည်းငါမသွားဘူး
၃၀ ဟုပြန်ဆိုသော်လည်းနောက်မှနောင်တရ၍အလုပ်သွားလေ၏။ အဖ
သည်အချားသားဆီသို့သွား၍ရှေ့နည်းအတူဆိုလျှင် သားကလည်း
၃၁ သွားပါမည်အဖသခင်ဟုဆိုသော်လည်းမသွားဘဲနေ၏။ ထိုသား
နှစ်ယောက်တို့တွင်အဘယ်သူသည်အဖ၏အလိုကိုဆောင်သနည်း
ဟုမိန့်တော်မူပြီးလျှင်သားအကြီးဆောင်သည်ဟုလျှောက်ကြလေ
သော်ယေရှုလည်းငါအမန်ဆိုသည်ကား။ အခွန်ခံတို့နှင့်ပြည်တန်ဆာတို့
၃၂ သည်သင်တို့အရင်ဘုရားသခင်၏နိုင်ငံတော်သို့ဝင်တတ်၏။အဘယ်
ကြောင့်နည်းဟူမူကား။ ယောဟန်သည်ဖြောင့်မတ်သောအကျင့်ကို
ကျင့်၍သင်တို့ဆီသို့လာသော်လည်းသင်တို့မယုံကြည်ကြ။ အခွန်ခံတို့
နှင့်ပြည်တန်ဆာတို့မူကားယုံကြည်ကြ၏။ထိုအကြောင်းကိုသင်တို့မြင်
သော်လည်းနောက်မှာယုံကြည်ခြင်းသို့ရောက်ရအောင်နောင်တမရကြ။
၃၃ ။အချားသောဥပမာကိုနားထောင်ကြလော့။အိမ်ရှင်တဦးသည်
စပျစ်ဥယျာဉ်ကိုစိုက်ပျိုး၍စောင်ရန်းကိုလုပ်ပြီးမှစပျစ်သီးညှစ်စ
ရာတွင်းကိုတူးလေ၏။မျှော်စင်ကိုလည်းဆောက်လေ၏။ လုပ်
ဆောင်သောသူတို့အားဥယျာဉ်ကိုငှါး၍အချားပြည်သို့သွားလေ၏။
၃၄ အသီးသီးသောအချိန်ရောက်မှအသီးကိုခံရအောင်ငယ်သားတို့ကိုဥ

၃၅ ဖသည်လုပ်ဆောင်သောသူတို့ဆီသို့စေလိုက်လေ၏။ ထိုသူတို့သည်
ငယ်သားများကိုဖမ်းပြီးလျှင်တဦးကိုရိုက်၍တဦးကိုသတ်၍တဦးကို
၃၆ ခဲနှင့်ပြစ်ကြ၏။ နောက်တဖန်အရင်ထက်များသောငယ်သားအချား
တို့ကိုစေလိုက်ပြန်လျှင်ဥယျာဉ်စောင့်တို့သည် ရှေ့နည်းအတူပြုကြ
၃၇ ၏။ နောက်ဆုံး၌ဥယျာဉ်ရှင်ကသူတို့သည်ငါသားကိုအားနာလိမ့်မည်
၃၈ ဟုဆို၍မိမိသားကိုစေလိုက်လေ၏။ ဥယျာဉ်စောင့်တို့သည် သားကို
မြင်လျှင်ဤသူသည်အမွေခံဖြစ်၏။လာကြ။သူကိုသတ်၍သူ၏အမွေ
၃၉ ဥစ္စာကိုယူကြစို့ဟုအချင်းချင်းတိုင်ပင်၍ ဥယျာဉ်ရှင်၏သားကိုဖမ်း
၄၀ ယူပြီးမှဥယျာဉ်ပြင်သို့ထုတ်၍သတ်ပြစ်ကြ၏။ သို့ဖြစ်လျှင်ဥယျာဉ်ရှင်
သည်လာသောအခါ ဥယျာဉ်စောင့်တို့ကိုအဘယ်သို့ပြုမည်နည်းဟု
၄၁ မိန့်တော်မူ၏။ ပရိသတ်တို့လည်း ထိုလူဆိုးတို့အားဆိုးသောဖျက်
ဆီးခြင်းကိုစီရင်မည်။ အသီးသီးချိန်တွင်အသီးကို ဆက်အံ့သောအ
၄၂ ချားလူတို့အားထိုဥယျာဉ်ကိုငှါးမည်ဟုလျှောက်ကြ၏။ ။ယေ
ရှုကလည်းတိုက်ကိုတည်လုပ်သောသူများပယ်ထားသောကျော
က်သည်နောက်တဖန်တိုက်ထောင့်အထွဋ်ဖျားသို့ရောက်ပြန်၏။ ထို
အမှုသည် ထာဝရဘုရားပြုတော်မူသောအမှုဖြစ်၏။ငါတို့မျက်မှော
က်၌လည်းအံ့ဩဘွယ်ဖြစ်၏ဟူသောစကားကိုကျမ်းစာ၌ သင်
၄၃ တို့သည်တရံတခါမျှမဖတ်ဘူးသလော။ ထိုကြောင့်ငါဆိုသည်ကား။
ဘုရားသခင်၏နိုင်ငံတော်ကိုသင်တို့မှနှုတ်၍ နိုင်ငံတော်၏အသီးကို
၄၄ သီးအံ့သောလူမျိုးအားပေးရလတ္တံ့။ ထိုကျောက်အပေါ်မှာအကြင်သူ
သည်ကျ၏။ထိုသူသည်ကျိုးလတ္တံ့။အကြင်သူ၏အပေါ်မှာထိုကျောက်
၄၅ ကျ၏။ထိုသူကိုညက်ညက်ကျေစေလတ္တံ့ဟုမိန့်တော်မူ၏။ ထိုဥပမာ
စကားကိုယဇ်ပရောဟိတ်အကြီး။ဖာရိရှဲလူတို့သည်ကြားရလျှင်မိမိ
၄၆ တို့ကိုရည်စောင်၍ ဟောပြောတော်မူသည်ကိုသိကြသဖြင့် ကိုယ်
တော်ကိုဖမ်းဆီးခြင်းငှါရှာကြံကြ၏။ သို့သော်လည်း ကိုယ်တော်သည်
ပရောဖက်ဖြစ်သည်ကိုလူအပေါင်းတို့သည်ယူသောကြောင့်မဖမ်းဆီး
ဝံ့ဘဲနေရကြ၏။



၁ တဖန်ယေရှုသည်ဥပမာကိုဆောင်၍ပရိသတ်တို့အားမိန့်မြွက်
၂ တော်မူသည်ကား။ ကောင်းကင်နိုင်ငံတော်သည်မိမိသားအဖို့ထိမ်း
၃ မြားမင်္ဂလာဆောင်ပွဲကိုလုပ်သောမင်းကြီးနှင့်တူ၏။ ထိုမင်းကြီး

စည်ဖိတ်ပြီးသောသူတို့ကိုခေါ်စေခြင်းငှါလုလင်တို့ကိုစေလိုက်သော
၄ အခါသူတို့သည်မလာဘဲနေကြ၏။ တဖန်အချားလုလင်တို့ကိုစေလို
က်၍ငါပွဲကိုငါပြင်ခဲ့ပြီး။ နွားမှစ၍ ဆူဖြိုးသော တိရိစ္ဆာန် များကို
သတ်ခဲ့ ပြီး။ အလုံးစုံတို့သည် အသင့် ရှိပြီး။ မင်္ဂလာဆောင်ပွဲသို့လာ
၅ ကြပါဟုဖိတ်ပြီးသောသူတို့အားပြောကြဟုမှာလိုက်ပြန်၏။ ခေါ်အပ်
သောသူတို့သည်နားမထောင်ဘဲနေ၍ အချို့တို့သည် မိမိလယ်ယာသို့
၆ သွားကြ၏။ အချို့တို့သည်ကုန်သွယ်ရာသို့သွားကြ၏။ ကြွင်းသော
သူတို့သည်လည်း လုလင်တို့ကိုဖမ်းဆီး ၍ညှဉ်းဆဲခြင်း။ အသေသတ်
၇ ခြင်းကိုပြုကြ၏။ မင်းကြီးသည် ကြား လျှင်အမျက်ထွက်၍စစ်ချီစေ
သဖြင့်လူအသက်ကိုသတ်သော ထိုသူတို့ကိုအပြီး လုပ်ကြံ၍မြို့ရွာကို
၈ မီးရှို့လေ၏။ ။ထိုနောက်မင်းကြီးသည်လုလင်တို့ကိုခေါ်၍ငါ
မင်္ဂလာဆောင်ပွဲသည် အသင့်ရှိ၏။ အရင်ဖိတ်သော သူတို့သည် မထို
၉ က်မတန် ဖြစ်သောကြောင့်လမ်းမလမ်းခွားသို့သွား၍တွေ့သမျှသော
၁၀ သူတို့ကို ပွဲသို့ခေါ် ဖိတ်ကြဟုအမိန့် တော်ရှိသည်အတိုင်း လုလင် တို့
သည်လမ်းများ သို့ထွက်သွား၍ကောင်းမကောင်းတွေ့သမျှသောလူအ
၁၁ ပေါင်းတို့ကိုစုဝေး စေ၍ ပွဲတော်အပြည့်ရှိသေ၏။ မင်းကြီးသည်ပွဲ၌
ထိုင်နေသောသူတို့ကိုကြည့်ရှုခြင်း ငှါဝင်သောအခါမင်္ဂလာဆောင်ပွဲ
၁၂ ၏အဝတ်ကိုမဝတ်သောသူ တယောက်ကိုမြင်လျှင် အဆွေ။မင်္ဂလာ
ဆောင်ပွဲ၏အဝတ်မရှိဘဲအဘယ်သို့ဝင်သနည်းဟုမေးတော်မူသည်
၁၃ ကိုထိုသူသည်စကားမပြောနိုင်ဘဲနေ၏။ ထိုအခါမင်းကြီးသည်အခြံ
အရံတို့အါးသူ၏ခြေလက်ကိုတုပ်လော့။ ငိုကြွေးခြင်း။အံသွားခဲကြိတ်
ခြင်းရှိရာ။ ပြင်အရပ်မှောင်မိုက် ထဲသို့ ယူသွား ချလိုက်ကြဟုအမိန့်
၁၄ တော်ရှိ၏။ ထိုသို့ခေါ်အပ်သောသူအများရှိသော်လည်းရွေးချယ်အပ်
၁၅ သောသူနည်းနည်းရှိသည်ဟုမိန့်တော်မူ၏။ ။ထိုအခါဖာရိရှဲ
လူတို့သည်ထွက်သွား၍စကား တော် ကို ချောင်းမြောင်း ၍ အပြစ်ပြု
၁၆ ခွင့်ကိုအဘယ်သို့ရနိုင်သနည်းဟုမေးမြန်းတိုင်ပင်ကြပြီးမှ မိမိတ
ပည့်တို့နှင့်ဟေရုဒ်တပည့်တို့ကိုအထံတော်သို့စေလိုက်၍အရှင်ဘုရား။
ကိုယ်တော်သည်သစ္စာရှိပါ၏။အဘယ်သူကိုမျှမကြောက်။လူမျက်နှာ
ကိုမထောက်ဘဲလျက် ဘုရားသခင် ၏တရားလမ်း ကိုဟုတ်မှန်စွာပြ
၁၇ တော်မူသည်ကိုအကျွန်ုပ်တို့သိပါ၏။ သို့ဖြစ်လျှင်ကိုယ်တော်သည်
အဘယ်သို့ထင်တော်မူသနည်း။ ကဲသာဘုရင်အားအခွန်ကို ဆက်

အပ်သလော။ မဆက်အပ်သလော။ အကျွန်ုပ်တို့အားမိန့်တော်မူပါဟု
၁၈ မေးလျှောက်ကြ၏။ ယေရှုသည်သူတို့ဆိုးညစ်သောသဘောကိုသိ
တော်မူလျှင် လျှို့ဝှက်သောသူတို့။ အဘယ်ကြောင့်ငါကိုစုံစမ်းနှောင့်
၁၉ ဝှက်သနည်း။ အခွန်ငွေတပြားကိုပြပါဟုမိန့်တော်မူ၍ဒေနာရိက
၂၀ ပြားကိုယူခဲ့ကြ၏။ ဤပုံ။ ဤလိပ်စာကားအဘယ်သူပုံ။ အဘယ်သူ
၂၁ လိပ်စာဖြစ်သနည်းဟုမေးတော်မူလျှင် ကဲသာဘုရင်၏ပုံ။လိပ်စာ
ဖြစ်သည်ဟုလျှောက်ကြသော် ယေရှုကလည်း ကဲသာဘုရင်၏ဥစ္စာ
ကိုကဲသာဘုရင်အားဆက်ပေးကြလော့။ဘုရားသခင်၏ဥစ္စာကိုကား
၂၂ ဘုရားသခင်အားဆက်ပေးကြလော့ဟုမိန့်တော်မူ၏။ ထိုသူတို့သည်
၂၃ ကြားရလျှင်အံ့ဩ၍အထံတော်မှထွက်သွားကြ၏။ ။ထ
မြောက်ရှင်ပြန်ခြင်းမရှိဟုအယူယူသောဇဒ္ဒုကဲလူတို့သည်ထိုနေ့၌အ
၂၄ ထံတော်သို့ချဉ်းကပ်၍ အရှင်ဘုရား။လူမည်သည်ကားသားမရှိဘဲ
သေလျှင်သူ၏မယားကိုသူ့ညီသိမ်းယူ၍ အစ်ကိုအမျိုးမပြတ်ဆက်
၂၅ နွယ်စေဟုမောရှေပညတ်ခဲ့ပြီ။ အကျွန်ုပ်တို့ဆီမှာညီအစ်ကိုခုနစ်
ယောက်ရှိ၏။အစ်ကိုအကြီးသည်အိမ်ထောင်၍သားမရှိဘဲသေသဖြင့်
၂၆ မိမိမယားကိုမိမိညီနှင့်ကျန်ရစ်စေ၏။ ထိုအတူတယောက်နောက်
၂၇ တယောက်ခုနစ်ယောက်စေ့အောင်ပြုကြ၍ နောက်ဆုံး၌မိန်းမသည်
၂၈ လည်းသေလေ၏။ သို့ဖြစ်လျှင်ထမြောက်ရာကာလထိုမိန်းမသည်ခုနစ်
ယောက်သောညီအစ်ကိုတို့တွင်အဘယ်သူ၏မယားဖြစ်ပါမည်နည်း။
အားလုံးတို့သည်သူနှင့်အိမ်ထောင်ဖက်ပြုကြပြီးဟုမေးလျှောက်ကြ
၂၉ ၏။ ယေရှုကလည်းသင်တို့သည်ကျမ်းစာကိုနားမလည်၍ဘုရားသခ
၃၀ င်၏တန်ခိုးတော်ကိုမသိသဖြင့်မှားသောအယူယူကြ၏။ ထမြော
က်ရာကာလအိမ်ထောင်ခြင်းကိုမပြု။ထိမ်းမြားပေးစားခြင်းကိုမပြု။
၃၁ ကောင်းကင်သား။ဘုရားသခင်၏တမန်တော်ကဲ့သို့ဖြစ်ကြ၏။ ထို
၃၂ မှတပါး။သေလွန်သောသူတို့သည်ထမြောက်သည်အရာမှာ။ဘုရား
သခင်ကငါသည်အာဗြဟံ၏ဘုရား။ဣဇာက်၏ဘုရား။ ယာကုပ်၏
ဘုရားဖြစ်သည်ဟုသင်တို့အားမိန့်မြွက်တော်မူကြောင်းကိုသင်တို့
သည်မဖတ်ဘူးသလော။ ဘုရားသခင်သည်သေနေသောသူတို့၏
ဘုရားမဟုတ်။အသက်ရှင်သောသူတို့၏ဘုရားဖြစ်တော်မူသည်ဟု
၃၃ မိန့်တော်မူ၏။ ပရိသတ်များတို့သည်ကြားရလျှင်ဆုံးမသြဝါဒပေး
တော်မူခြင်းကိုအံ့ဩ၍နေကြ၏။

❀❀

၃၄ ဇဒ္ဒုကဲလူတို့၏စကားကိုချေတော်မူကြောင်းကိုဖာရိရှဲလူတို့သည်
၃၅ ကြားလျှင်စုဝေးကြ၍ သူတို့အဝင်ကျမ်းတတ်တယောက်သည်ကိုယ်
၃၆ တော်ကိုစုံစမ်းနှောင့်ရှက်သောအားဖြင့် အရှင်ဘုရား။ပညတ္တိကျမ်း
၌အဘယ်မည်သောပညတ်သည်သာ၍ကြီးသနည်းဟုမေးလျှောက်
၃၇ လေသော်ယေရှုကထာဝရဘုရားတည်းဟူသောသင်၏ဘုရားသခင်
ကိုစိတ်နှစ်လုံးအကြွင်းမဲ့ညာဏ်ရှိသမျှနှင့်ချစ်လော့ဟူသောပညတ်
၃၈ သည်ပဌမပညတ်ဖြစ်၏။ သာ၍ကြီးသောပညတ်လည်းဖြစ်၏။ထိုမှ
၃၉ တပါး။ ကိုယ်နှင့်စပ်ဆိုင်သောသူကိုကိုယ်နှင့်အမျှချစ်လော့ဟူသောဒု
၄၀ တိယပညတ်သည်ပဌမပညတ်နှင့်သဘောကျ၏။ဤပညတ်နှစ်ပါးတို့
ကားပညတ္တိကျမ်းနှင့်အနာဂတ္တိကျမ်း အားလုံးတို့၏အချုပ်အချာပင်
၄၁ ဖြစ်သတည်းဟုမိန့်တော်မူ၏။ ။ဖာရိရှဲလူတို့သည်စုဝေး၍နေကြ
၄၂ စည်တွင်ယေရှုကသင်တို့သည်ခရစ်တော်ကိုအဘယ်သို့ထင်ကြသ
နည်း။ အဘယ်သူ၏သားဖြစ်သနည်းဟုမေးတော်မူလျှင်ဒါဝိဒ်၏
၄၃ သားဖြစ်၏ဟုလျှောက်ကြသော် သို့ဖြစ်လျှင်ဒါဝိဒ်သည်ခရစ်တော်
၄၄ ကိုသခင်ဟူ၍ဝိညာဉ်တော်အားဖြင့်အဘယ်သို့ခေါ်သနည်း။ ဒါဝိဒ်စ
ကားမှာထာဝရဘုရားကသင်၏ရန်သူတို့ကိုသင်၏ခြေတင်ရာငါမချ
မထားမှီတိုင်အောင်ငါလက်ျာဘက်၌ထိုင်နေလော့ဟုငါ့သခင်အားမိန့်
၄၅ တော်မူသည်ဟုဒါဝိဒ်ဆိုသတည်း။ထိုသို့ဒါဝိဒ်သည်ခရစ်တော်ကိုသခင်
ဟူ၍ခေါ်ဝေါ်လျှင်အဘယ်သို့သူ၏သားဖြစ်သနည်းဟုမိန့်တော်မူ
၄၆ သည်ရှိသော် အဘယ်သူသည်စကားတခွန်းကိုမျှပြန်လျှောက်ခြင်း
ငှါမတတ်နိုင်ကြ။ ထိုနေ့မှစ၍နောက်ဟဖန်အဘယ်သူမျှမမေးမ
၁ လျှောက်ဝံ့ကြ။ ။ထိုအခါယေရှုသည်တပည့်တော်တို့နှင့်လူ
၂ အပေါင်းတို့အားဟောပြောတော်မူသည်ကား။ ကျမ်းပြုဆရာ။ဖာရိ
၃ ရှဲလူတို့သည်မောရှေ၏ထိုင်ရာပလ္လင်ပေါ်မှာထိုင်ကြ၏။ ထိုကြောင့်
သူတို့သည်စီရင်ထုံးဖွဲ့သမျှတို့ကိုစောင့်ရှောက်၍ပြုကြလော့။သူတို့၏
အကျင့်အတိုင်းမကျင့်ကြနှင့်။ အကြောင်းမူကား။ သူတို့သည်ကိုယ်စီ
၄ ရင်ထုံးဖွဲ့သည်တရားကိုကိုယ်တိုင်မကျင့်။ အလွန်လေး၍ထမ်းခဲသော
ဝန်တို့ကိုပြင်ဆင်၍သူတပါးပခုံးပေါ်မှာတင်တတ်၏ မိမိတို့မူကား
၅ လက်ဖျားနှင့်မျှမရွေ့ရှားလို။ သူတို့သည်ပြုသမျှသောအကျင့်အမူတို့ကို
လူများရှေ့မှာထင်ရှားစေခြင်းငှါသာပြုကြ၏။ကျယ်သောလက်ဖွဲ့ကို

၆ ရင်ကြီးသောဝတ်စွန်းဝတ်မြိတ်ကိုရင်ဝတ်လွှေရှိကြ၏။ ပွဲသဘင်။
၇ တရားဇရပ်တို့၌မြင့်မြတ်သောနေရာထိုင်ရာကိုရင် ဈေး၌ရှိသေ
စွာနှုတ်ဆက်ခြင်းကိုရင်အရှင်ဘုရား။အရှင်ဘုရားဟုလူများခေါ်ဝေါ်
၈ ခြင်းကိုရင်နှစ်သက်ကြ၏။ ။သင်တို့မူကား‌အရှင်ဘုရားဟု
ခေါ်ဝေါ်ခြင်းကိုမခံကြနှင့်။သင်တို့ဆရာတပါးတည်းရှိ၏။သင်တို့
၉ အားလုံးသည်ညီအစ်ကိုချင်းဖြစ်ကြ၏။ မြေကြီးပေါ်မှာအဘယ်သူ
ကိုမျှအဖဟူ၍မခေါ်ဝေါ်ကြနှင့်။ကောင်းကင်ဘုံ၌သင်တို့အဖတပါး
၁၀ တည်းရှိတော်မူ၏။ ဥပဇ္ဈာယ်ဆရာဟုခေါ်ဝေါ်ခြင်းကိုမခံကြနှင့်။
ခရစ်တော်တည်းဟူသောသင်တို့ဥပဇ္ဈာယ်ဆရာတပါးတည်းရှိ၏။
၁၁ သင်တို့တွင်အကြီးဖြစ်သောသူသည်သင်တို့အစေခံဖြစ်ရ၏။ အ
၁၂ ကြွင်သူသည်မိမိကိုချီးမြှောက်အံ့။ ထိုသူသည်နှိမ့်ချခြင်းသို့ရောက်
လတ္တံ့။အကြွင်သူသည်မိမိကိုနှိမ့်ချအံ့။ထိုသူသည်ချီးမြှောက်ခြင်းသို့
၁၃ ရောက်လတ္တံ့။ ။လျှို့ဝှက်သောကျမ်းပြုဆရာ။ဖာရိရှဲလူတို့။သင်
တို့သည်အမင်္ဂလာရှိ၏။အဘယ်ကြောင့်နည်းဟူမူကား။သင်တို့သည်မု
တ်ဆိုးမအိမ်ကိုလုယူသိမ်းစား၍အပြစ်မပေါ်အောင်ရှည်စွာသောပဌ
နာစကားကိုရွတ်တတ်ကြ၏။ထိုကြောင့်သာ၍ကြီးစွာသောဒါဏ်ကို
၁၄ ခံရကြလတ္တံ့။ ။လျှို့ဝှက်သောကျမ်းပြုဆရာ။ဖာရိရှဲလူတို့။သင်တို့
သည်အမင်္ဂလာရှိ၏။ အဘယ်ကြောင့်နည်းဟူမူကား။ သင်တို့သည်
ကောင်းကင်နိုင်ငံတော်၏တံခါးကိုလူတို့ရှေ့မှာပိတ်ထား၍ မိမိတို့
လည်းမဝင်။ဝင်လိုသောသူတို့ကိုလည်းဆီးတားကြ၏။ ။
၁၅ လျှို့ဝှက်သောကျမ်းပြုဆရာ။ ဖာရိရှဲလူတို့။ သင်တို့သည်အမင်္ဂလာရှိ
၏။အဘယ်ကြောင့်နည်းဟူမူကား။သင်တို့သည်လူတယောက်ကိုပင်
ဘာသာသွင်းခြင်းငှါကုန်းကြောင်းရေကြောင်းပတ်ပတ်လှည့်လည်
၍ဘာသာသွင်းပြီးသောသူကိုလည်းမိမိတို့ထက်နှစ်ဆသောငရဲ
သားဖြစ်စေကြ၏။

❋❋

၁၆ လမ်းပြသောလူကန်းတို့။သင်တို့သည်အမင်္ဂလာရှိ၏။ဗိတ်မှာန်တော်
ကိုတိုင်တည်၍ကျိန်ဆိုခြင်းကိုပြုလျှင်မတည်။ဗိတ်မှာန်တော်၏ရွှေ
၁၇ ကိုတိုင်တည်၍ကျိန်ဆိုခြင်းကိုပြုလျှင်တည်၏ဟုသင်တို့ဆိုကြ၏။ လူ
မိုက်လူကန်းတို့။ဘယ်သင်းမြတ်သနည်း။ထိုရွှေကားမြတ်သလော။ထို
၁၈ ရွှေကိုသန့်ရှင်းစေသောဗိတ်မှာန်တော်ကားမြတ်သလော။ တနည်း

ကား။ယဇ်ပလ္လင်ကိုတိုင်တည်၍ကျိန်ဆိုခြင်းကိုပြုလျှင်မတည်။ယဇ်
ပလ္လင်ပေါ်မှာရှိသောပူဇော်သကာကိုတိုင်တည်၍ကျိန်ဆိုခြင်းကို ပြု
၁၉ လျှင်တည်၏ဟုသင်တို့ဆိုကြ၏။ လူမိုက်လူကန်းတို့။ဘယ်သင်းမြတ်
သနည်း။ထိုပူဇော်သကာကား မြတ်သလော။ထိုပူဇော်သကာကိုသန့်
၂၀ ရှင်းစေသောယဇ်ပလ္လင်ကားမြတ်သလော။ ထိုကြောင့်ယဇ်ပလ္လင်
ကိုတိုင်တည်၍ကျိန်ဆိုလျှင်ယဇ်ပလ္လင်မှစ၍ယဇ်ပလ္လင်ပေါ်မှာရှိသ
၂၁ မျှကိုတိုင်တည်၍ ကျိန်ဆိုသတည်း။ ဗိတ်မှာန်တော်ကိုတိုင်တည်၍
ကျိန်ဆိုလျှင်ဗိတ်မှာန်တော်မှစ၍ ဗိတ်မှာန်တော်၌ကျိန်းဝပ်တော်မူ
၂၂ သောသူကိုတိုင်တည်၍ကျိန်ဆိုသတည်း။ ကောင်းကင်ဘုံကိုတိုင်
တည်၍ ကျိန်ဆိုလျှင် ဘုရားသခင်၏ပလ္လင်တော်ကို၎င်ပလ္လင်တော်
ပေါ်မှာထိုင်တော်မူသောသူကို၎င်ကိုင်တည်၍ကျိန်ဆိုသတည်း။
၂၃ ။လျှို့ဝှက်သောကျမ်းပြုဆရာ။ဖာရိရှဲလူတို့။သင်တို့သည်အမင်္ဂ
လာရှိ၏။အဘယ်ကြောင့်နည်းဟူမူကား။သင်တို့သည်မိန်သေ။အနေ
သ။ကုမိန်တည်းဟူသောအသီးအရွက်မျိုးကိုဆယ်ပုံတပုံလှူကြသည်
ဖြစ်၍တရားသဖြင့်စီရင်ခြင်း။သူတပါးကိုသနားခြင်း။သစ္စာစောင့်
ခြင်း၊တည်းဟူသော ပညတ်တရားတွင်လေးသောအရာတို့ကိုကား
လှပ်ကြ၏။အရင်ဆိုသောအရာတို့ကို မလှပ်ဘဲနောက်ဆိုသောအရာ
၂၄ တို့ကိုကျင့်ရ၏။ လမ်းပြသောလူကန်းတို့။သင်တို့သည်ချင်တကောင်
မျှမပါအောင်သောက်ရေကိုစစ်လျက်နှင့် ကုလားအုတ်ကိုမျို ကြ၏။
၂၅ လျှို့ဝှက်သောကျမ်းပြုဆရာ။ဖာရိရှဲလူတို့။သင်တို့သည် အမင်္ဂလာရှိ
၏။အဘယ်ကြောင့်နည်းဟူမူကား။သင်တို့သည်ဖလား။လင်ပန်းအပြင်
ကိုဆေး၏။အတွင်းမူကားလုယူခြင်း။မတရားသဖြင့်ကျင့်ခြင်းနှင့်
၂၆ ပြည့်လျက်ရှိ၏။ မျက်စိကန်းသောဖာရိရှဲလူ။ဖလား။လင်ပန်းအတွင်း
ကိုရှေဦးစွာဆေးလော့။သို့ပြုလျှင်အပြင်ကားသန့်ရှင်းလိမ့်မည်။
၂၇ ။လျှို့ဝှက်သောကျမ်းပြုဆရာ။ဖာရိရှဲလူတို့။သင်တို့သည်အမင်္ဂ
လာရှိ၏။အဘယ်ကြောင့်နည်းဟူမူကား။သင်တို့သည်အဖြူသုတ်သော
သင်းဂူင်းတွင်းနှင့်တူကြ၏။ ထိုတွင်းအပြင်ကားတင့်တယ်စွတ
ကား။အတွင်းမူကားလူသေအရိုး။အညစ်အကြေး။အမျိုးမျိုးနှင့်ပြည့်
၂၈ လျက်ရှိ၏။ ထိုအတူ။သင်တို့အပြင်ကားလူတို့ရှေ့မှာ ဖြောင့်မတ်ဟန်
ရှိ၏။အတွင်းမူကား။လျှို့ဝှက်ခြင်း။မတရားသဖြင့်ကျင့်ခြင်းနှင့်ပြည့်လျ
၂၉ က်ရှိကြ၏။ ။လျှို့ဝှက်သောကျမ်းပြုဆရာ။ဖာရိရှဲလူတို့။သင်တို့

သည်အမင်္ဂလာရှိ၏။ အဘယ်ကြောင့်နည်းဟူမူကား။ သင်တို့သည်ပ
ရောဖက်ဆရာမှစ၍ဖြောင့်မတ်သောသူတို့၏သင်းဗြိုင်းတွင်းနှင့်အ
၃၀ ရိုးအိုးတို့ကိုဘည်လုပ်၍တန်ဆာဆင်သဖြင့် ငါတို့သည်ဘိုးဘေး
လက်ထက်၌ရှိလျှင်ပရောဖက်တို့ကိုသတ်သည်အမှုကိုလက်မခံပြီးဟု
၃၁ ဆိုကြ၏။ ထိုသို့ဆိုလျှင်သင်တို့သည်ပရောဖက်တို့ကိုသတ်သောသူတို့
၃၂ ၏အမျိုးအနွယ်ဖြစ်သည်ကိုကိုယ်အမှိုကိုယ်သက်သေခံကြ၏။ သို့ဖြစ်
၃၃ ၍ဘိုးဘေးတို့၏အကျင့်ပမာဏကိုမှီအောင်ကျင့်ကြလော့။ မြွေဆိုး
အမျိုးတို့။ သင်တို့သည်အပြစ်ငရဲမှအဘယ်သို့လွတ်နိုင်သနည်း။
၃၄ ။ထိုကြောင့်ဗျာဒိတ်တော်အချက်ဟူမူကား။ ပရောဖက်။ ပညာ
ရှိ။ ကျမ်းပြုဆရာတို့ကိုသင်တို့ဆီသို့ငါစေလွှတ်သည်။ ထိုသူအချို့တို့
ကိုကွပ်မျက်၍လက်ဝါးကပ်တိုင်၌သတ်ကြလိမ့်မည်။ အချို့တို့ကိုတရား
၃၅ ဇရပ်၌ရိုက်၍တမြို့မှတမြို့သို့ညှဉ်းဆဲနှင်ထုတ်ကြလိမ့်မည်။ သို့ဖြစ်
လျှင်ဖြောင့်မတ်သောအာဗေလ၏အသွေးမှစ၍အတွင်းဗိတ်မှာန်
တော်နှင့်ယဇ်ပလ္လင်၏အကြား၌သင်တို့သတ်ကြသောဗာရခိသား။
ဇာခရိ၏အသွေးတိုင်အောင်မြေကြီးအပေါ်၌သွန်းပြီးသမျှသောသူ
တော်ကောင်းတို့အသွေးသည်သင်တို့ခေါင်းပေါ်မှာရောက်လိမ့်မည်။
၃၆ ငါအမှန်ဆိုသည်ကား။ ဤအရာများတို့သည်ယခုရှိသောလူများအ
၃၇ ပေါ်မှာရောက်လိမ့်မည်။ ။အိုယေရုရှလင်မြို့။ ယေရုရှလင်မြို့။
သင်သည်ပရောဖက်တို့ကိုသတ်မြဲရှိ၏။ သင်ဆီသို့စေလိုက်သောသူ
တို့ကိုလည်းကျောက်ခဲနှင့်ပြစ်မြဲရှိ၏။ ကြက်မသည်မိမိသားငယ်တို့ကို
မိမိအတောင်အောက်၌စုရုံးသကဲ့သို့သင်၏သားတို့ကိုစုရုံးခြင်းငှါ
၃၈ ကြိမ်ဖန်များစွာငါအလိုရှိခဲ့ပြီး။ သင်မူကားအလိုမရှိ။ သင်တို့နေရာ
၃၉ အရပ်သည်လူဆိတ်ညံရာအရပ်ဖြစ်လိမ့်မည်။ ငါဆိုသည်ကား။ ထာ
ဝရဘုရား၏အခွင့်နှင့်ကြွလာသောသူအားမင်္ဂလာဖြစ်စေသောဟု
သင်တို့မပြောမှီတိုင်အောင်ယခုမှစ၍သင်တို့သည်ငါ့မျက်နှာကိုမ
မြင်ရဟုမိန့်တော်မူ၏။

❋❋

၁ ယေရှုသည်ဗိတ်မှာန်တော်မှထွက်ကြွတော်မူသည်ရှိသော်တပည့်တော်
တို့သည်ဗိတ်မှာန်တော်၏တိုက်ဆောင်များကိုပြခြင်းငှါအထံတော်
၂ သို့ချဉ်းကပ်ကြ၏။ ယေရှုကလည်းဤအရာအားလုံးကိုသင်တို့သည်
ယခုမြင်ကြသည်မဟုတ်လော။ ငါအမှန်ဆိုသည်ကား။ မဖြိုမချ။ ကျော

၃ က်တခုပေါ်မှာတခုမျှမတည် မနေရဟုမိန့်တော်မူ၏။ ထိုနောက်သံ
လွင်တောင်ပေါ်မှာထိုင်နေတော်မူစဉ်တွင် တပည့်တော်တို့သည်
ဆိတ်ကွယ်ရာအရပ်၌ချည်းကပ်၍ ထိုအမှုအရာတို့သည် အဘယ်
သောအခါဖြစ်ပါမည်ကိုရှင်ကိုယ်တော်သည် ကြွလာ၍ ဤကပ်ကမ္ဘာ
ကုန်သော ပုပ္ပနိမိတ် သည် အဘယ် နိမိတ် ဖြစ် ပါမည် ကို ရှင်အမိန့်
၄ ရှိတော်မူပါဟုလျှောက်ကြ၏။ ယေရှုကလည်းအဘယ်သူမျှသင်တို့
၅ ကိုမလှည့်ဖြား ရအောင်သတိပြုကြလော့။ အများသောသူတို့ကငါ
သည်ခရစ်တော်ဖြစ်၏ဟုဆို၍ငါ့အရောင်ဆောင်လျက်ပေါ်လာ၍လူ
၆ အများတို့ကိုလှည့်ဖြားကြလိမ့်မည်။ သင်တို့သည်စစ်တိုက်ခြင်းအ
ကြောင်းကိုရှင်စစ်တိုက်အံ့သောသိတင်းစကားကိုရှင်ကြားရလိမ့်မည်။
သို့သော်လည်း စိုးရိမ်တုန်လှုပ်ခြင်းမရှိအောင်သတိပြုကြလော့။ထို
အမှုအရာများသည် ဖြစ်ရမည်။ ဖြစ်ရသော်လည်းအဆုံးသည်မဖြစ်
၇ သေး။ ။လူတမျိုးနှင့်တမျိုး။တနိုင်ငံနှင့်တနိုင်ငံရန်ဘက်ပြု
ကြလိမ့်မည်။အရပ်ရပ်တို့၌အစာခေါင်းပါးခြင်း။ကာလနာများပြား
၈ ခြင်း။မြေကြီးလှုပ်ခြင်းတို့သည်ဖြစ်ကြလိမ့်မည်။ ထိုသို့ဖြစ်၍ဒုက္ခ
၉ ဆင်းရဲအစအဦးဖြစ်သတည်း။ ထိုကာလ၌လူများတို့သည် သင်တို့
ကိုညှဉ်းဆဲခြင်း။အသေသတ်ခြင်းကိုခံစေခြင်းငှါအပ်နှံကြလိမ့်မည်။
ငါ့နာမကြောင့် လည်း ခပ်သိမ်းသောလူမျိုးတို့သည်သင်တို့ကိုမုန်းကြ
၁၀ လိမ့်မည်။ ထိုကာလ၌အများသောသူတို့သည်ဖောက်ပြန်ခြင်းသို့ရော
က်၍ အချင်းချင်း တယောက်ကိုတယောက် အပ်ကြလိမ့်မည်။ အချင်း
၁၁ ချင်းမုန်းကြလိမ့်မည်။ ပရောဖက်ရောင်ဆောင်သောသူအများတို့
၁၂ သည် ပေါ်လာ၍ လူအများ တို့ကိုလှည့်ဖြားကြလိမ့်မည်။ မတရား
သောအမှုတို့သည်များပြားသဖြင့်အများသောသူတို့၏ ချစ်ခြင်းမေ
၁၃ တ္တာသည်ခေါင်းပါးလိမ့်မည်။ အကြင်သူသည်အဆုံးတိုင်အောင်မြဲမြံ
၁၄ ၏။ထိုသူသည်ကယ်တင်ခြင်းသို့ရောက်လိမ့်မည်။ လူမျိုးအပေါင်း
တို့အားသက်သေဖြစ်မည် အကြောင်း။ နိုင်ငံတော်နှင့် ဆိုင်သောဧဝံ
ဂေလိတရားကိုလောကီနိုင်ငံတလျှောက်လုံး ဟောရလိမ့်မည်။သို့ပြီး
၁၅ မှအဆုံးသည်ဖြစ်လတ္တံ့။ ။ထိုကြောင့်ပရောဖက်ဒံယေ
လဟောသည်အတိုင်းဖျက်ဆီးတတ်သော ရွံရှာဖွယ်အရာသည် သန့်
ရှင်းသောအရပ်၌ရာနေ၌ရပ်နေသည်ကိုသင်တို့မြင်ရလျှင်ကျမ်းစာကိုဖတ်
၁၆ သောသူသည်နားလည်ပါလေစေ။ ထိုသို့မြင်ရလျှင်ယုဒပြည်၌ရှိ

၁၇ သောသူတို့သည်တောင်ပေါ်သို့ပြေးပါလေစေ။ အိမ်မိုးပေါ်မှာရှိ
၁၈ သောသူသည်အိမ်ထဲကဥစ္စာကိုယူခြင်းငှါမဆင်းစေနှင့်။ လယ်၌ရှိ
၁၉ သောသူလည်းမိမိအဝတ်ကိုယူခြင်းငှါနောက်သို့မပြန်စေနှင့်။ ထို
နေ့ရက်၌ကိုယ်ဝန်ဆောင်သောမိမ္မ။ နို့စို့သူငယ်ရှိသောမိမ္မတို့သည်
၂၀ အလွန်ခက်လိမ့်မည်။ သင်တို့ပြေးရသောအချိန်သည်ဆောင်းကာ
လ၌မကျ။ ဥပုသ်နေ့၌လည်းမကျမည်အကြောင်းဆုတောင်းကြလော့။
၂၁ အကြောင်းမူကား။ ကမ္ဘာဦးမှစ၍ယခုတိုင်အောင်မဖြစ်ဘူး၍နောက်
၌လည်းမဖြစ်လတ္တံ့သော။ ကြီးစွာသောဒုက္ခသည်ထိုကာလ၌ဖြစ်လိမ့်
၂၂ မည်။ ထိုကာလတာရှည်လျှင်အဘယ်သူမျှမလွတ်နိုင်ရာ။ ရွေးချယ်
၂၃ သောသူတို့အဖို့အလို့ငှါထိုကာလသည်တိုလိမ့်မည်။ ။ထိုအခါ
မည်သူကဤအရပ်၌ခရစ်တော်ရှိ၏။ ထိုအရပ်၌ရှိ၏ဟုဆိုလျှင်မရုံကြ
၂၄ နှင့်။ အကြောင်းမူကား။ ခရစ်တော်ယောင်ဆောင်သောသူ။ ပရော
ဖက်ယောင်ဆောင်သောသူတို့သည်ပေါ်လာ၍ရွေးချယ်သောသူတို့
ကိုပင်လှည့်ဖျားနိုင်လျှင်လှည့်ဖျားလောက်အောင်ကြီးစွာသောနိ
၂၅ မိတ်လက္ခဏာအံ့ဘွယ်သရဲတို့ကိုပြကြလိမ့်မည်။ ထိုအကြောင်းအ
၂၆ ရာတို့ကိုငါဟောပြောနှင့်ပြီး။ ထိုကြောင့်သူတို့ကခရစ်တော်သည်
တော၌ရှိသည်ဟုဆိုလျှင်မထွက်မသွားကြနှင့်။ တိုက်ခန်း၌ရှိသည်ဟု
၂၇ ဆိုလျှင်မရုံကြနှင့်။ လျှပ်စစ်သည်အရှေ့မှပြက်၍အနောက်တိုင်အောင်
၂၈ ထွန်းလင်းသကဲ့သို့လူသားသည်ကြွလာတော်မူလတ္တံ့။ အသေကောင်
ရှိရာအရပ်၌လင်းယုန်ငှက်တို့သည်စုဝေးကြလတ္တံ့

❋❋

၂၉ ထိုကာလ၏ဒုက္ခ ဆင်းရဲခြင်း နောက် အချားမဲ့ နေ မိုက် လိမ့်မည်။
လသည်အရောင်ကိုမပေး။ ကြယ်တို့သည် ကောင်းကင်မှကျလိမ့်မည်။
၃၀ ကောင်းကင်တန်ခိုးတို့သည်တုန်လှုပ်ခြင်းရှိလိမ့်မည်။ ထိုအခါလူ
သား၏နိမိတ်လက္ခဏာသည်ကောင်းကင်၌ထင်ရှားလိမ့်မည်။ မြေ
ကြီးပေါ်မှာလူမျိုးအပေါင်းတို့သည်ငိုကြွေးမြည်တမ်း၍လူသားသည်
ကြီးစွာသောဘုန်းတန်ခိုးအာနုဘော်ကိုဆောင်လျက်မိုဃ်းတိမ်ကို
၃၁ စီး၍ကြွလာတော်မူသည်ကိုမြင်ရကြလိမ့်မည်။ လူသားသည်မိမိတ
မန်တို့ကိုစေလိုက်၍တံပိုးခရာကိုပြင်းစွာမှုတ်စေလျက်မိမိရွေး
ချယ်သောသူတို့ကိုအရပ်လေးမျက်နှာ။ ကောင်းကင်အောက်ထက်ဝန်း
၃၂ ကျင်တို့မှခေါ်၍စုရုံးစေတော်မူလတ္တံ့။ ။သင်္ဘောသဖန်းပင်ကိုအစွဲပြု၍

ရုံသက်သေတခုကိုမှတ်ကြလော့။တည်းပင်သည်အခက်အလက်နု၍အ
၃၃ ရွက်ပေါက်သောအခါနွေကာလနီးသည်ကိုသင်တို့သိကြ၏။ ထိုနည်း
တူ။ဤအကြောင်းအရာအားလုံးတို့ကိုမြင်ရလျှင်လူသါးသည်တံခါးဝ
၃၄ တိုင်အောင်အနီးသို့ရောက်တော်မူသည်ကိုသိမှတ်ကြလော့။ ငါအ
မှန်ဆိုသည်ကား။ ယခုရှိသောလူများမကုန်မှီ ဤအကြောင်းအရာ
၃၅ အားလုံးတို့သည်ဖြစ်လိမ့်မည်။ ကောင်းကင်နှင့်မြေကြီးမတည်သော်
၃၆ လည်းငါ၏စကားတည်လိမ့်မည်။ ထိုအချိန်နာရီကိုကား။အဘယ်သူမျှ
မသိ။ကောင်းကင်တမန်မသိ။ခမည်းတော်တပါးတည်းသိတော်မူ၏။
၃၇ ။နောဧလက်ထက်၌ဖြစ်သကဲ့သို့လူသားကြွလာသောအခါ
၃၈ ၌ဖြစ်လိမ့်မည်။ ရေလွှမ်းမိုးခြင်းမဖြစ်မှီကာလ၌နောဧသည်သင်္ဘော
ထဲသို့ဝင်သောနေ့တိုင်အောင်လူများတို့သည်စားသောက်။ထိမ်း
၃၉ မြား။အိမ်ထောင်လျက်နေ၍ ရေလွှမ်းမိုးခြင်းရောက်သဖြင့်ထိုလူအား
လုံးတို့ကိုသုတ်သင်ပယ်ရှင်းသည်တိုင်အောင်သတိမဲ့နေကြသည်နည်း
၄၀ တူလူသားကြွလာသောအခါ၌ဖြစ်လိမ့်မည်။ ထိုအခါလယ်၌ရှိသော
သူနှစ်ယောက်တို့တွင်တယောက်ကိုကားသိမ်းယူသည်ဖြစ်၍တ
၄၁ ယောက်ကားနေရစ်လတ္တံ့။ ကြိတ်ဆုံလုပ်သောသူနှစ်ယောက်တို့တွင်
တယောက်ကိုကားသိမ်းယူသည်ဖြစ်၍တယောက်ကားနေရစ်လတ္တံ့။
၄၂ သင်တို့အရှင်သည်အဘယ်အချိန်နာရီ၌ရောက်လာမည်ကိုသင်တို့မ
၄၃ သိသော့ကြောင့်စောင့်နေကြလော့။ သူခိုးလာမည်အချိန်နာရီကိုအိမ်
ရှင်သိရလျှင်မိမိအိမ်ကိုမထွင်းမပေါက်ရအောင်စောင့်နေလိမ့်မည်
၄၄ အရာကိုသင်တို့သိကြ၏။ ထိုကြောင့်သင်တို့သည်ပြင်ဆင်လျက်နေ
ကြလော့။အကြောင်းမူကား။သင်တို့မထင်မမှတ်သောအချိန်နာရီ၌လူ
၄၅ သားသည်လာလိမ့်မည်။ ။အရှင်သည်မိမိအိမ်သူအိမ်သား
အပေါင်းတို့အားအခန့်သင့်အောင်အစားအသောက်ဝေဖန်စိမ့်သော
ငှါအအုပ်အချုပ်ထား၍သစ္စာနှင့်ဥင်သတိပညာနှင့်ဥင်ပြည့်စုံသော
၄၆ ကျွန်ကားအဘယ်သူနည်း။ အကြင်ကျွန်သည်ဤသို့ပြုလျက်နေသည်
၄၇ ကိုအရှင်ပြန်လျှင်တွေ့၏။ထိုကျွန်သည်မင်္ဂလာရှိ၏။ ငါအမှန်ဆိုသည်
၄၈ ကား။အရှင်သည်မိမိဥစ္စာရှိသမျှတို့ကိုထိုကျွန်၌အပ်လိမ့်မည်။ သို့မ
ဟုတ်မူကားအကြင်ကျွန်ဆိုးကငါ့အရှင်လာခဲမည်ဟုစိတ်ထဲအောင်း
၄၉ မေ့သည်နှင့်။ ကျွန်ချင်းတို့ကိုရိုက်ပုတ်လျက်သေသောက်ကျူးသူတို့နှင့်
၅၀ တကွစားသောက်လျက်နေ၏။ ထိုကျွန်မကြည့်မျှော်သောနေ့ရက်။မ

၅၁ ကြားမသိသောအချိန်နာရီ၌အရှင်သည်ရောက်လာလျှင် သူကိုပြင်း
ပြစွာကွပ်မျက်ဆုံး၍ဒိုကျေး ခြင်းအံ့သွားခဲကြိတ်ခြင်း ရှိရာအရပ်၌
လျှို ဖက်သော သူတို့နှင့်တကွနေရာချလတ္တံ့။

**

၁ ထိုအခါကောင်း ကင် နိုင်ငံတော်သည် ကားမင်္ဂလာဆောင် လုလင်ကို
ကြိုဆိုအံ့သော၄ါမီး ခွက်ကိုကိုင် ယူ၍ ထွက်သွားသောသတို့သမီးတ
၂ ကျိပ်နှင့်တူ၏။ ထိုသတို့သမီး တို့တွင်ငါးယောက်ကားပညာသတိရှိ
၃ ကြ၏။ငါးယောက်ကားအမိုက်ဖြစ်ကြ၏။မိုက်သောသူတို့သည်မီးခွက်
၄ တို့ကိုသာယူ၍ဆီကိုမယူကြ။ ပညာ သတိ ရှိသော သူ တို့သည် မီး
၅ ခွက်နှင့်တကွဘူး၌ပါသောဆီကိုလည်းယူကြ၏။ မင်္ဂလာဆောင်လု
လင်သည် မလာဘဲနေစဉ် ထိုသတို့သမီး အားလုံး တို့သည် ငိုက်၍အိပ်
၆ ပျော်ကြ၏။ ။သန်းခေါင်ယံ၌ကြည့်ပါ။မင်္ဂလာဆောင်လုလင်
လာသည်။ကြိုဆိုအံ့သော ၄ါ ထွက် သွား ကြ ဟု ကျေး ကျော်ခြင်း ရှိသ
၇ ဖြင့် ထိုသတို့သမီး အားလုံး တို့သည် ထ၍ မီး ခွက် များကို ပြင်ဆင်
၈ လေ၏။ မိုက် သော သူတို့ကသင် တို့ဆီအနည်း ငယ် ပေးပါ။တို့ဆီ မီး
၉ သေပါပြီး ဟုပညာရှိသော သူတို့အားဆိုကြ၏။ ပညာရှိသော သူတို့
ကလည်းသင်တို့ဖို့နှင့်ငါတို့ဖို့ဆီမလောက်။ထိုကြောင့်ဆီရောင်းသော သူ
ဆီသို့သွား၍ကိုယ်သုံးဖို့ဝယ်လျှင်သာ၍ကောင်းသည်ဟုပြန်ပြောကြ
၁၀ ၏။ထိုသူတို့သည်ဆီဝယ်သွားသည်အခိုက်မင်္ဂလာဆောင်လုလင်သည်
လာ၍အသင့်ရှိသော သူတို့သည် သူနှင့်အတူပွဲသို့ဝင်ကြ၍တံခါးပိတ်
၁၁ ထားလျက်ရှိ၏။ ထိုနောက်ကြွင်းသောသတို့သမီးတို့သည် လာ၍အ
၁၂ ရှင်။အရှင်။ကျွန်မတို့အား ဖွင့်ပါဟုတောင်းလျှောက်ကြသော် အရှင်
၁၃ လည်းငါအမှန်ဆိုသည်ကား။သင်တို့ကိုငါမသိဟုပြန်ဆိုလေ၏။ သို့
ဖြစ် ၍ နေ့ရက် အချိန် နာ ရီ ကိုသင် တို့မသိ သော့ကြောင့် စောင့် နေကြ
၁၄ လော့။ ။ဥပမာကား။လူတဦးသည်အချားပြည်သို့သွားမည်အ
ကြံနှင့်မိမိငယ်သားတို့ကိုခေါ်၍ မိမိဥစ္စာများကိုသူတို့၌အပ်ပေး၏။
၁၅ တဦး၌ငွေအခွက်ငါးဆယ်။ တဦး၌အ ခွက် နှစ်ဆယ်။တဦး၌အ ခွက်
တဆယ်။သူတို့အသီး အသီး ပညာအစွမ်း ရှိသည် အတိုင်း အပ်ပေး ပြီး
၁၆ မှချက်ချင်းသွားလေ၏။ အ ခွက်ငါးဆယ်ကိုခံသော သူသည် သွား၍
ကုန်သွယ် ခြင်းကိုပြုသဖြင့် အချား သောအ ခွက်ငါး ဆယ် ကိုအမြတ်
၁၇ ရလေ၏။ ထိုနည်းတူ။အ ခွက် နှစ်ဆယ်ကိုခံသော သူသည် လည်းအ

၁၈ များသောအခွက်နှစ်ဆယ်ကိုအမြတ်ရလေ၏။ အခွက်တဆယ်ကိုခံ
သောသူမူကားသွား၍မြေ၌တွင်းတူးပြီးလျှင်အရှင်၏ငွေကိုဝှက်
၁၉ ထားလေ၏။ ။ကာလကြာမြင့်ပြီးမှထိုငယ်သားတို့၏။အ
၂၀ ရှင်သည်လာ၍သူတို့နှင့်စာရင်းယူလေ၏။ အခွက်ငါးဆယ်ကိုခံ
သောသူသည်ချဉ်းကပ်၍အများသောအခွက်ငါးဆယ်ကိုဆက်လျက်
သခင်။ ကိုယ်တော်သည်ကျွန်တော်၌အခွက်ငါးဆယ်ကိုအပ်ပေး
တော်မူ၏။အများသောအခွက်ငါးဆယ်ကိုကျွန်တော်အမြတ်ရပါပြီး
၂၁ ဟုလျှောက်လေ၏။ အရှင်ကလည်းသာရ။ သစ္စာရှိသောငယ်သား
ကောင်း။သင်သည်အမှုငယ်၌သစ္စာစောင့်ခဲ့ပြီး။များသောအမှုအခွင့်
ကိုသင်၌ငါအပ်ပေးမည်။သင်၏သခင်နှင့်အတူစည်းစိမ်ကိုဝင်စား
၂၂ လော့ဟုမိန့်တော်မူ၏။ အခွက်နှစ်ဆယ်ကိုခံသောသူသည်လည်း
ချဉ်းကပ်၍သခင်။ ကိုယ်တော်သည်ကျွန်တော်၌အခွက်နှစ်ဆယ်ကို
အပ်ပေးတော်မူ၏။အများသောအခွက်နှစ်ဆယ်ကိုကျွန်တော်အ
၂၃ မြတ်ရပါပြီးဟုလျှောက်လေသော် အရှင်ကသာရ။သစ္စာရှိသောငယ်
သားကောင်း။ သင်သည်အမှုငယ်၌သစ္စာစောင့်ခဲ့ပြီး။များသောအမှု
အခွင့်ကိုသင်၌ငါအပ်ပေးမည်။ သင်၏သခင်နှင့်အတူစည်းစိမ်ကို
၂၄ ဝင်စားလော့ဟုမိန့်တော်မူ၏။ အခွက်တဆယ်ကိုခံသောသူသည်
လည်းချဉ်းကပ်၍သခင်။ ကိုယ်တော်သည်ခဲယဉ်းသောသူဖြစ်သ
ဖြင့်ကိုယ်မစိုက်မပျိုးသောအရပ်၌ရိတ်၍ကိုယ်မဖြန့်မကြဲသောအ
၂၅ ရပ်၌စုသိမ်းတတ်သည်ကိုကျွန်တော်သိ၍ ကြောက်ခြင်းရှိသဖြင့်
ကျွန်တော်သွား၍ကိုယ်တော်ငွေအခွက်တဆယ်ကိုမြေ၌ဝှက်ထားပါ
၂၆ ပြီး။ယခုကိုယ်တော်ဥစ္စာရှိပါသည်ဟုလျှောက်၏။ အရှင်ကလည်း
ဆိုးညစ်ပျင်းရိသောငယ်သား။ ငါသည်ကိုယ်မစိုက်မပျိုးသောအ
ရပ်၌ရိတ်၍ကိုယ်မဖြန့်မကြဲသောအရပ်၌စုသိမ်းသည်ကိုသင်သိ
၂၇ သည်မှန်လျှင် ငါ့ငွေကိုပွဲစားလက်၌အပ်ရမည်။သို့ပြုလျှင်ငါပြန်
၂၈ လာသောအခါငွေရင်းနှင့်အတိုးကိုရနိုင်ပြီး။ ထို့ကြောင့်အခွက်တ
ဆယ်ကိုသင်းလက်မှနှုတ်ကြ။အခွက်တရာရှိသောသူကိုပေးကြ။
၂၉ အကြောင်းမူကား။အကြင်သူသည်ရတတ်၏။ထိုသူ၌ကြွယ်ဝပြည့်စုံ
ခြင်းရှိရအောင်ပေးဦးမည်။အကြင်သူသည်ဆင်းရဲ၏။ထိုသူ၌ရှိသမျှ
၃၀ ကိုပင်နှုတ်လိမ့်မည်။ အသုံးမရသောထိုငယ်သားကိုဒိုကျွံခြင်း။

အံသွားခဲကြိတ်ခြင်း ရှိရာ။ ပြင်အရပ်မှောင်မိုက်ထဲသို့ နှင်ထုတ်ချ
လိုက်ကြပါစိရင်တော်မူ၏။

✱✱

၃၁ လူသားသည်မိမိဘုန်းအာနုဘော်ကိုဆောင်လျက်ကောင်းကင်တမန်
များအခြံအရံတို့နှင့်တကွကြွလာတော်မူသောအခါဘုန်းပြရာပလ္လင်
၃၂ တော်ပေါ်မှာထိုင်၍ ရှေ့တော်၌လူမျိုးအပေါင်းတို့ကိုစုဝေးစေသဖြင့်
သိုးထိန်းသည်သိုးတချားဆိတ်တချားခွဲထားသကဲ့သို့လူအပေါင်းတို့
၃၃ ကိုအသီး အချား ခွဲ၍ သိုးတို့ကို လက်ျာဘက်။ ဆိတ်တို့ကို လက်ဝဲ
၃၄ ဘက်၌ထားတော်မူလတ့ံ။ ။ထိုအခါမင်းကြီးကလက်ျာတော်
ဘက်၌ရှိသောသူတို့အားငါ့ခမည်းတော်ထံကောင်းကြီးမင်္ဂလာကိုခံ
သောသူတို့။ကမ္ဘာဦးမှစ၍သင်တို့အဖို့ပြင်ဆင်သောနိုင်ငံကိုလာ၍အ
၃၅ မွေခံကြလော့။ အကြောင်းမူကား။ငါသည်မွတ်သိပ်သောအခါသင်
တို့သည်ကျွေးကြ၏။ငါသည်ရေငတ်သောအခါသင်တို့သည်သောက်
ဖို့ပေးကြ၏။ငါသည်ဧည့်သည်ဖြစ်သောအခါသင်တို့သည်ဧည့်သည်
၃၆ ဝတ်ကိုပြုကြ၏။ ငါသည်အဝတ်အချည်းစည်းရှိသောအခါသင်တို့
သည်အဝတ်နှင့်ဖုံးလွှမ်းကြ၏။ငါသည်အနာရောဂါစွဲသောအခါသင်
တို့သည်ကြည့်ရှုပြုစုကြ၏။ငါသည် ထောင်ထဲမှာနေသောအခါသင်
၃၇ တို့သည်ငါ့ဆီသို့လာကြ၏ဟုမိန့်တော်မူလျှင် ဖြောင့်မတ်သောသူ
တို့က။သခင်။ကိုယ်တော်သည်မွတ်သိပ်တော်မူသည်ကိုအဘယ်အခါ
၌အကျွန်ုပ်တို့သည် မြင်၍ကိုယ်တော်ကိုလုပ်ကျွေးပါသနည်း။ ရေငတ်
တော်မူသည်ကိုအဘယ်အခါ၌အကျွန်ုပ်တို့သည်မြင်၍ကိုယ်တော်ကို
၃၈ သောက်ဖို့ပေးပါသနည်း။ ဧည့်သည်ဖြစ်တော်မူသည်ကိုအဘယ်အ
ခါ၌အကျွန်ုပ်တို့သည် မြင်၍ဧည့်သည်ဝတ်ကိုကိုယ်တော်အားပြုပါ
သနည်း။ အဝတ်အချည်းစည်းရှိတော်မူသည်ကိုအဘယ်အခါ၌အကျွန်ုပ်
၃၉ တို့သည်မြင်၍ကိုယ်တော်ကိုအဝတ်နှင့်ဖုံးလွှမ်းပါသနည်း။ အနာစွဲ
တော်မူသည်ကိုရင်ထောင်ထဲမှာနေတော်မူသည်ကိုရင်အဘယ်အခါ
၌အကျွန်ုပ်တို့သည်မြင်၍အထံတော်သို့ရောက်ပါသနည်းဟုပြန်
၄၀ လျှောက်ကြသော် မင်းကြီးကလည်း ငါအမှန်ဆိုသည်ကား။သင်တို့
သည် ဤသူတည်းဟူသောငါ့ညီတို့တွင်အငယ်ဆုံးသောသူတယော
က်အားမျှပြုကြသမျှတို့ကိုငါ့အား ပြုကြပြီးဟုပြန်၍မိန့်တော်မူလတ့ံ။
၄၁ ။ထိုအခါမင်းကြီးကလက်ဝဲတော်ဘက်၌ရှိသောသူတို့

အားကျိန်ဆိုအပ်သောသူတို့။မာရ်နတ်နှင့်သူ၏တမန်တို့အဖို့ပြင်ဆင်
၄၂ သောထာဝရမီးထဲသို့ငါနှင့်ခွါသွားကြလော့။ အကြောင်းမူကား။ငါ
သည် မွတ်သိပ်သောအခါသင်တို့သည်မကျွေး။ငါသည်ရေငတ်သောအ
၄၃ ခါသင်တို့သည်သောက်ဖို့မပေး။ ငါသည်ဧည့်သည်ဖြစ်သောအခါသင်
တို့သည်ဧည့်သည်ဝတ်ကိုမပြု။ ငါသည်အဝတ်အချည်းစည်းရှိသောအ
ခါသင်တို့သည် အဝတ်နှင့်မဖုံးမလွှမ်း။ငါသည်အနာရောဂါစွဲသောအ
ခါထောင်ထဲမှာနေသောအခါ သင် တို့သည် မကြည့်ရှုမပြုစုကြဟုမိန့်
၄၄ တော်မူလျှင် ထိုသူတို့ကသခင်။ကိုယ်တော်သည် မွတ်သိပ်တော်မူ
ခြင်း။ရေငတ်တော်မူခြင်း။ဧည့်သည်ဖြစ်တော်မူခြင်း။အဝတ်အချည်း
စည်း ရှိတော်မူခြင်း။အနာ စွဲတော်မူခြင်း။ ထောင်ထဲ မှာနေ တော်မူ
ခြင်းတို့ကိုအကျွန်ုပ်တို့သည် အဘယ် အခါ၌မြင်၍ကိုယ်တော်ကိုမပြု
၄၅ စုမလုပ်ကျွေးဘဲနေပါသနည်းဟုပြန်၍လျှောက်ကြသော် မင်းကြီး
ကလည်း။ငါအမှန် ဆိုသည်ကား။သင်တို့သည် ဤသူတို့တွင်အငယ်ဆုံး
သောသူတ ယောက် အားမျှမပြု သမျှ တို့ကိုငါအားမပြုကြ ပြီး ဟုပြန်
၄၆ ၍မိန့်တော်မူလတ့ံ။ သို့ဖြစ်လျှင်ထိုသူတို့သည်ထာဝရအပြစ်ဒဏ်
ကိုခံ၍ သွားရကြလတ့ံ။ ဖြောင့်မတ် သော သူတို့ သည် ကားထာဝရအ
သက်ရှင်ခြင်းကိုဝင်စားကြလတ့ံဟုမိန့်တော်မူ၏။

❋❋

၁ ထိုဒေသနာတော်အားလုံးကိုယေရှုသည်ကုန်စင်အောင်ဟောတော်မူပြီး
၂ လျှင်တပည့်တော်တို့အါး နှစ်ရက်လွန်မှပသခါပွဲနေ့ရောက်မည်ဟုသင်
တို့သိကြ၏။ထိုအခါလူသားကိုလက်ဝါးကပ်တိုင်မှာရိုက်သတ်စေခြင်း
၃ ငှါအပ်နှံကြလိမ့်မည်ဟု မိန့်တော်မူ၏။ ထိုအခါယဇ်ပုရောဟိတ်အ
ကြီး။ကျမ်းပြုဆရာ။လူများကိုအုပ်စိုး သောလွှတ်အရာရှိ တို့သည် က
၄ ယာဖအမည်ရှိသောယဇ်ပုရောဟိတ်မင်း၏အိမ်ဦးခွင်၌စည်းဝေးကြလျှင်
ယေရှုကိုပရိယာယ်အားဖြင့်ဖမ်းဆီး၍သတ်အံ့သောငှါတိုင်ပင်ကြ၏။
၅ သို့သော်လည်းလူအပေါင်းတို့သည်မညီမဝပ်ရုန်းရင်းခတ်ဖြစ်မည်စိုး
၆ ရိမ်၍ပွဲနေ့တွင်မပြုနှင့်ဦးဟုပြောဆိုကြ၏။ ။ဗေသနီရွာမှာနူနာ
၇ စွဲခဲ့ဘူးသောသူ။ရှိမုန်၏အိမ်၌ယေရှုရှိတော်မူသည်ဖြစ်၍ မိမ္မတယော
က်သည်အဖိုးများစွာထိုက်ကောဆ်မွှေးကျောက်ဖြူဘူးကိုတလုံးကိုအထံ
တော်သို့ယူခဲ့၍ စားပွဲနားမှာထိုင်တော်မူသော ကိုယ်တော်၏ခေါင်း
၈ ပေါ်၌သွန်းလောင်းလေ၏။ တပည့်တော်တို့သည်မြင်လျှင်ဒေါသစိတ်ရှိ

၉ သည်ဖြစ်၍အဘယ်ကြောင့်အကျိုးမဲ့ဆုံးစေသနည်း။ထိုဆီမွှေးကိုအဘိုး
များနှင့်ရောင်း၍ဆင်းရဲသောသူတို့အားပေးစရာကောင်းသည်ဟုဆို
၁၀ ကြ၏။ယေရှုသည်သိတော်မူလျှင်ထိုမိန္မကိုအဘယ်ကြောင့်နှောင့်ရှက်
၁၁ ကြသနည်း။ ကောင်း သောအမှုကိုငါ၌သူပြုပြီး။ ဆင်းရဲသောသူတို့
ကား သင် တို့ ၌အစဉ် ရှိကြ ၏။ ငါမူကား သင် တို့ ၌အစဉ် ရှိသည် မ
၁၂ ဟုတ်။ ဤဆီမွှေး ကိုငါကိုယ် အပေါ် ၌သွန်း လောင်း သည် မှာငါအ
၁၃ လောင်း ကိုသင်းဂြိုဟ် မည် ပြင်ဆင် ခြင်း ဌါပြုသတည်း။ ငါအမှန်ဆို
သည်ကား။ဧဝံဂေလိတရားတော်ကိုမြေတပြင်လုံးတွင်ဟောသောအ
ရပ်ရပ် ၌ ဤ မိန္မကိုအောင်း မေ့ စရာ ဘို့ သူပြုသော ဤ အမှုကိုကြား
၁၄ ပြောရကြလတ့ံဟုမိန့်တော်မူ၏။ ။ထိုအခါတပည့်တော်တ
ကျိပ်နှစ်ပါးအဝင်။ယုဒရှကာရုတ်သည်ယဇ်ပုရောဟိတ်အကြီး တို့ဆီ
၁၅ သို့သွား၍ ကျွန်ုပ်တော်သည်သူကိုကိုယ်တော်တို့လက်သို့အပ်လျှင်အ
ဘယ်မျှလောက်ပေးပါမည် နည်း ဟုလျှောက်သော်ထိုသူတို့သည်ငွေ
၁၆ သုံးဆယ်ကိုပေးမည်ဟုဝန်ခံကြ၏။ ထိုအခါမှစ၍ကိုယ်တော်ကိုအပ်ရ
၁၇ အောင်အဆင်သင့်သောနေ့ရက်ကိုရှာနေ၏။ ။အဇုမပွဲပဌမနေ့၌
တပည့်တော် တို့သည် အထံတော် သို့ချဉ်းကပ် ၍ ကိုယ် တော်သည်ပ
အခါပွဲကိုစားတော်မူ ရအောင်အဘယ် အရပ် ၌ အကျွန်ုပ်တို့သည်
၁၈ ပြင်ဆင်စေခြင်းဌါအလိုရှိတော်မူသနည်းဟုလျှောက်ကြသော် ကိုယ်
တော်ကမြို့ တွင် ဤမည် သော သူဆီသို့သွား ကြ။ ဆရာမှာလိုက် သည်
ကား။ငါအချိန်နီးပြီး။သင်အိမ်၌ပသခါပွဲကိုငါတပည့်တို့နှင့်တကွငါခံ
၁၉ မည်ဟုထိုသူကိုပြောကြလော့ဟုမိန့်တော်မူ၏။ တပည့်တော်တို့သည်
စီရင်တော်မူသည်အတိုင်းပြု၍ပသခါပွဲကိုပြင်ဆင်ကြ၏။ ။
၂၀ ညဦး ယံအချိန်ရောက်မှတပည့်တော်တကျိပ်နှစ်ပါးတို့ နှင့်အတူစား
၂၁ ပွဲ၌ထိုင်တော်မူ၏။ စား၍နေကြစဉ်ကိုယ်တော်ကငါအမှန်ဆိုသည်
ကား။သင်တို့တွင်တစုံတယောက်သောသူသည်ငါ့ကိုအပ်နှံလိမ့်မည်
၂၂ ဟုမိန့်တော်မူလျှင် တပည့်တော်တို့သည်အလွန်ဝမ်းနည်းသည် ဖြစ်
၂၃ ၍သခင်။အကျွန်ုပ်လောဟုအသီးအသီးမေး လျှောက်ကြ၏။ ကိုယ်တော်
ကလည်း ငါနှင့်အတူဗုကံတွင်လက် နှိုက်သောသူသည်ငါ့ကိုအပ်နှံလိမ့်
၂၄ မည်။ ကျမ်းစာလာသည် အတိုင်း လူသား ပြန် သွား ရ ၏။ သို့သော်
လည်း လူသား ကိုအပ် နှံ သော သူသည် အမင်္ဂလာ ရှိ ၏။ ထိုသူသည် မ
၂၅ ဖွားမြင်လျှင်အနေသာ၍ကောင်းသည်ဟုမိန့်တော်မူ၏။ ကိုယ်တော်

ကိုအပ်နှံသောသူသည်ငါဘုရားသခင်ဘာထည်းအရှင်ဘုရား၊ အကျွန်ုပ်လော
ဟုလျှောက်လျှင်သင်ဆိုသည်အတိုင်းမှန်သည်ဟု ပြန်ပြောတော်မူ
၂၆ ၏။ ထိုအခါ ဘုရားသခင်သည် သေရှုသည်မုန့်ကိုယူ၍ကျေး
ဇူးတော်ကိုချီးမွမ်းပြီး မှမုန့်ကိုဖဲ့၍ဤမုန့်ကား ငါ၏ကိုယ်ဖြစ်၏။ယူ၍
စားကြလော့ဟုမိန့်တော်မူလျက်တပည့်တော်တို့အားပေးတော်မူ၏။
၂၇ ခွက်ကိုလည်း ယူ၍ကျေးဇူးတော်ကိုချီးမွမ်းပြီးမှသူတို့အားပေးတော်
၂၈ မူလျက်အားလုံးတို့သောက်ကြလော့၊ ဤခွက်ကားဝန်ခံခြင်းတရား
သစ်နှင့်ဆိုင်၍ လူများအပြစ်လွှတ်ခြင်းငှါသွန်းသောငါ၏အသွေး
၂၉ ဖြစ်၏။ ငါဆိုသည်ကား ဤစပျစ်ရည်ရှိ အသစ်ကိုငါ့ခမည်းတော်
၏နိုင်ငံ၌သင်တို့နှင့်အတူငါမသောက် မှီရွေ့တိုင်အောင်ယခုမှစ၍ငါ
၃၀ တဖန်မသောက်ရဟုမိန့်တော်မူ၏၊ ထိုနောက်သီချင်းဆိုကြပြီးမှသံ
လွင်တောင်သို့ထွက်သွားကြ၏။



၃၁ ထိုအခါယေရှုလည်းကျမ်းစာလာသည်ကား။သိုးထိန်းကိုငါရိုက်သတ်၍
သိုးတို့သည်ဖရိုဖရဲကွဲလွင့်ရကြလတံ့ဟုရေး ထား သည်နှင့် အညီယ
နေ့ညည့်တွင်သင်တို့အားလုံးသည်ငါ့ကြောင့်စိတ်ပျက်ကြလိမ့်မည်။
၃၂ သို့သော်လည်း ငါသည်ထမြောက်ပြီးမှသင်တို့ရှေ့ဂါလိလဲပြည်သို့ငါ
၃၃ သွားမည်ဟုမိန့်တော်မူလေသော် ပေတရုကအားလုံးတို့သည်ကိုယ်
တော်ကြောင့်စိတ်ပျက်သော်လည်းအကျွန်ုပ်သည်စိတ်အလျှင်းမပျက်
၃၄ ပါဟုလျှောက်လေ၏။ ယေရှုလည်းငါအမှန်ဆိုသည်ကား။ယနေ့ညဉ့်
တွင်ကြက်မတွန်မှီသင်သည်သုံးကြိမ်မြောက်အောင်ငါကိုငြင်းပယ်
၃၅ လိမ့်မည် ဟုမိန့် တော်မူလျှင် ပေတရုကကိုယ် တော်နှင့်တကွသေရ
သော်လည်း အကျွန်ုပ် သည်ကိုယ် တော်ကိုမငြင်းပယ်ပါဟုလျှောက်
ပြန်၏။ တပည့် တော်အားလုံး တို့သည်လည်း ထိုနည်း တူလျှောက် ဆို
၃၆ ကြ၏။ ။ထိုအခါယေရှုသည် သူတို့နှင့်အတူဂေသရှေမန်အရပ်
သို့ရောက် တော်မူလျှင် ဤ အရပ် ၌ ထိုင် နေကြ။ ငါသည် ဟိုအရပ်သို့
၃၇ သွား၍ဆုတောင်းမည်ဟုတပည့်တော်တို့အားမိန့်တော်မူသော် ပေ
တရုနှင့် ဇေဗေဒဲ၏ သားနှစ်ယောက်တို့ကို ခေါ်သွား၍ နှစ်လုံးမသာ။
၃၈ စိတ်ပင်ပန်းခြင်းသို့ရောက်တော်မူ၏။ ထိုအခါသုံးယောက်သောတ
ပည့်တော် တို့အား ငါသေလောက် အောင်စိတ် နှစ် လုံး အလွန်ညှိုးငယ်
ခြင်း ရှိ၏။ ဤအရပ် ၌ သင် တို့နေ ၍ ငါနှင့် အတူစောင့် ကြလော့ဟုမိန့်

၃၉ တော်မူ၍ ထိုမှအနည်းငယ်လွန်ပြန်လျှင်ပျပ်ဝပ်၍အကျွန်ုပ်အဖ။ဤ
ခွက်သည်အကျွန်ုပ်ကိုလွန်သွားနိုင်လျှင်လွန်သွားပါစေသော။သို့
သော်လည်းအကျွန်ုပ်အလိုအတိုင်းမဟုတ်။ ကိုယ်တော်အလိုအတိုင်း
၄၀ ဖြစ်ပါစေသောဟုဆုတောင်းတော်မူ၏။ တပည့်တော်တို့ဆီသို့ပြန်
၍သူတို့သည်အိပ်ပျော်နေသည်ကိုတွေ့တော်မူလျှင် သင်တို့သည်တ
၄၁ နာရီခန့်မျှငါနှင့်အတူစောင့်နေခြင်းငှါဤသို့မစွမ်းနိုင်သလော။ စုံစမ်
နှောင့်ယှက်ခြင်းသို့မဝင်ရအောင်ဆုတောင်းလျက်စောင့်နေကြလော့။
စိတ်ဝိညာဉ်ကားစေတနာရှိငြားသော်လည်း ကိုယ်မူကားအားနည်း
၄၂ သည်ဟုပေတရုအားမိန့်တော်မူသော် တဖန်သွား၍အကျွန်ုပ်အဖ။
ဤခွက်ကိုအကျွန်ုပ်မသောက်ဘဲမလွန်ဖြစ်လျှင် ကိုယ်တော်အလိုအ
၄၃ တိုင်းဖြစ်ပါစေသောဟုဆုတောင်းပြန်၏။ ထိုနောက်တပည့်တော်
တို့ဆီသို့လာ၍သူတို့မျက်စိလေးလံသဖြင့်တဖန်အိပ်ပျော်နေကြသည်
၄၄ ကိုတွေ့တော်မူလျှင် သူတို့ကိုထားခဲ့၍တဖန်သွားပြီးမှ ရှေ့မြွက်ဆို
၄၅ သည်နည်းတူသုံးကြိမ်မြောက်အောင်ဆုတောင်းတော်မူ၏။ ထိုနော
က်တပည့်တော်တို့ဆီသို့ပြန်လာလျှင်ယခုအိပ်ပျော်၍ငြိမ်ဝပ်စွာနေ
ကြလော့။လူသားကိုဆိုးသူတို့လက်သို့အပ်နှံရသောအချိန်ရောက်လာ
၄၆ ပြီ။ ထကြ။သွားကြစို့။ငါ့ကိုအပ်နှံသောသူသည်ရောက်လာပြီဟု
၄၇ မိန့်တော်မူ၏။ ။ထိုသို့မိန့်တော်မူစဉ်ပင်တပည့်တော်တ
ကျိပ်နှစ်ပါးအဝင်ဖြစ်သောယုဒရှကာရုတ်နှင့်အတူယဇ်ပုရောဟိတ်
အကြီး။လူများကိုအုပ်စိုးသောလွှတ်အရာရှိတို့စေလိုက်သောလူစုအ
၄၈ များတို့သည်ဓားနှင့်ဒုတ်များကိုကိုင်လျက်လာကြ၏။ ကိုယ်တော်ကို
အပ်နှံသောသူကငါနမ်းသောသူသည်ယေရှုပင်ဖြစ်၏။သူကိုဖမ်းကြ
၄၉ ဟုထိုသူတို့အားအမှတ်ပေးခဲ့နှင့်သည်အတိုင်း ကိုယ်တော်ရင်းသို့
ချက်ချင်းချဉ်းကပ်၍အရှင်ဘုရား။မင်္ဂလာဖြစ်စေသောဟုဆိုလျက်
၅၀ နမ်းလေ၏။ ယေရှုကလည်းအဆွေ။အဘယ်အခွင့်ရှိ၍လာသနည်းဟု
မေးတော်မူပြီးမှထိုသူများတို့သည်လာ၍ကိုယ်တော်ကိုဆွဲကိုင်ဖမ်
၅၁ ဆီးကြ၏။ ထိုအခါယေရှုနှင့်ပါသောသူတယောက်သည်လက်ကိုဆန့်
၍ဓါးကိုထုတ်သဖြင့်ယဇ်ပုရောဟိတ်မင်း၏ကျွန်တယောက်ကိုခုတ်
၅၂ ၍နားရွက်ပြတ်လေ၏။ ယေရှုကလည်းသင်ဓားကိုသူ့နေရာ၌ပြန်
ထားတော့။ဓားကိုကိုင်သောသူရှိသမျှတို့သည်ဓားဖြင့်ဆုံးခြင်းသို့
၅၃ ရောက်ကြလိမ့်မည်။ ယခုပင်ငါ့အဖကိုငါတောင်းနိုင်သည်ကိုင်တော

င်းလျှင်ကောင်းကင်တမန်ဆယ်နှစ်တပ်မကငါထံသို့စေလွှတ်တော်မူ
၅၄ မည် ကို ငင် သင်သည်မထင် မှတ်သလော။ သို့ဖြစ်လျှင် ဤသို့သော
အမှုအရာတို့သည် ဖြစ်ရမည်ဟူသောကျမ်းစာချက်သည်အဘယ်သို့
၅၅ ပြည့်စုံအံ့နည်း ဟုမိန့်တော်မူ၏။ ထိုအခါယေရှုကသင် တို့သည်ခား
မြကိုဖမ်းသကဲ့သို့ငါကိုဖမ်းအံ့သော ဌါးခားနှင့်ဒုတ်များကိုလက်စွဲလျက်
လာကြသည် တကား။ ငါသည် ဗိတ်မှာန် တော် ၌နေ့တိုင်းဆုမ္မြဩဝါဒ
ပေး လျက်သင်တို့အလယ်၌ထိုင်နေသည်တွင်သင်တို့သည်ငါကိုမဖမ်း
၅၆ ဆီးကြ။ ဤအကြောင်းအရာများကားအနာဂတ္တိကျမ်းစာပြည့်စုံမည်အ
ကြောင်းတည်း ဟုလူအစုအဝေးတို့အားမိန့် တော်မူ၏။ ထိုအခါတပည့်
တော်အားလုံးတို့သည်ကိုယ်တော်ကိုစွန့်၍ပြေးကြ၏။

❋❋

၅၇ ကိုယ် တော် ကိုဖမ် ဆီး သော သူတို့သည် ကျမ် ပြုဆရာ။ လွှတ် အရာရှိ
များ စည်း ဝေး ရာ။ ယဇ်ပရောဟိတ် မင်း ကယာဖထံသို့ယူသွားကြ
၅၈ ၏။ ပေတရုသည်လည်းယဇ်ပရောဟိတ်မင်းအိမ်ဦးတိုင်အောင်ကိုယ်
တော်နှင့်အဝေးလိုက် ၍ အတွင်းသို့ဝင် လျှင် ထိုအမှု အဆုံး ကိုသိမြင်
၅၉ အောင်မင်းလုလင်နှင့်အတူထိုင်နေ၏။ ယဇ်ပရောဟိတ် အကြီး လွှတ်
အရာရှိအားလုံး တို့သည်ယေရှုကိုသတ်လိုသော ဌါမဟုတ်မမှန်သော
၆၀ သက်သေကို ရှာကြ ၏။ မမှန်သောသက်သေအများ လာသော်လည်း
သေထိုက် သောအကြောင်းကိုမတွေ့ကြ။ နောက်ဆုံး၌မမှန်သောသက်
၆၁ သေနှစ် ယောက် လာ ၍ ဤ သူကငါသည်ဘုရားသခင် ၏ ဗိတ်မှာန်
တော်ကိုဖြိုဖျက်၍သုံးရက်အတွင်းတွင်တည်ဆောက် နိုင်ပြန်၏ဟုပြော
၆၂ ပြီးဟုသက်သေခံကြ၏။ ယဇ်ပရောဟိတ်မင်းသည်ထ၍သင်သည် စ
ကား တ ခွန်း ကို မျှ ပြန် ၍ မပြောသလော။ ဤ သူ တို့သည် အဘယ် သို့
၆၃ သက်သေခံသနည်း ဟုဆိုလျှင် ယေရှုသည်တိတ်ဆိတ်နေတော်မူ၏။
ယဇ်ပရောဟိတ် မင်း ကလည်း သင် သည်ခရစ် တော် တည်း ဟူသော
ဘုရားသခင်၏သားတော်မှန်သည်မမှန်သည်ကိုသင် သည်ငါတို့အား
ပြောစေခြင်းငှါအသက်ရှင်တော်မူသောဘုရားသခင်ကိုတိုင်တည်၍
၆၄ ငါသည်သင်အားကျိန်ဆိုစေ၏ ဟုဆိုလျှင် ယေရှုကသင် ဆိုသည်အ
တိုင်းမှန်ပေ၏။ ထို မျှမက။ ငါဆိုသည်ကား။ နောင်၌ လူသားသည်တန်
ခိုးတော်လက်ျာဘက် ၌ ထိုင်လျက်မိုဃ်း တိမ်ကိုစီး ၍ ကြွလာသည်ကို
၆၅ သင်တို့သည်မြင်ကြလတ့ံဟုမိန့်တော်မူ၏။ ထိုအခါယဇ်ပရောဟိတ်

မင်းသည် မိမိအဝတ်ကိုဆုတ်၍ ဤသူသည်ဘုရားကိုပြစ်မှားသောစ
ကားကိုပြောပြီး။ အချားသက်သေကိုအဘယ် အလို ရှိသေးသနည်း။
၆၆ ဘုရားကိုပြစ်မှားသောစကားကိုယခုပင်သင်တို့ကြားရပြီး။ အ
ဘယ်သို့ထင်မှတ်ကြသနည်းဟုဆိုလျှင်ထိုသူတို့ကဤသူသည်အသေ
၆၇ ခံထိုက်ပေ၏ဟုပြန်၍စီရင်ကြ၏။ ထိုအခါမျက်နှာတော်ကိုတံတွေး
၆၈ တွေးကြ၏။လက်သီးနှင့်ထိုးကြ၏။ အချို့တို့သည်လည်းပါးတော်ကို
လက်နှင့်ပုတ်၍ ခရစ်တော်။ ကိုယ်တော်ကိုအဘယ် သူပုတ်သည်ကိုပ
ရောဖက်ဉာဏ်နှင့်ဖော်၍ဟောတော်မူပါဟုဆိုကြ၏။ ။
၆၉ ပေတရုသည် ပြင်မှာအိမ်ဦး၌ထိုင်နေစဉ် အစေအပါမိန်းမတယောက်
သည် သူဆီသို့လာ၍ သင်သည် လည်း ဂါလိလဲလူယေရှုနှင့်ပေါင်းဖော်
၇၀ သောသူ ဖြစ်၏ ဟုဆိုလျှင် ပေတရုသည်လူအပေါင်းတို့ရှေ့၌ငြင်းခုံ
၇၁ ၍သင်ပြောသောအရာကိုငါမသိဟုဆိုလေ၏။ ထိုနောက်ပေတရုသည်
အိမ်ဦးရှေ့သို့ထွက်ပြီး မှအချားမိန်းမသည် သူကို မြင်၍ထိုအရပ်၌ရှိ
သော သူ တို့ အား ဤ သူလည်း နာဇရက် မြို့သား ယေရှု နှင့် ပေါင်း
၇၂ ဖော်သောသူဖြစ်၏ဟုဆိုလျှင် ပေတရုသည်ကျိန်ဆိုလျက်ထိုသူကို
၇၃ ငါမသိဟုတဖန်ငြင်းခုံ၏။ ထိုနောက်မျှားမကြာထိုအရပ်၌ရပ်နေ
သော သူ တို့သည် ပေတရုအနီးသို့လာသဖြင့် အကယ်၍ သင် သည်
လည်းထိုသူတို့အဝင်ဖြစ်၏။သင်စကားသည်သင်အကြောင်းကိုထင်
၇၄ ရှားစေ၏ ဟုဆိုကြလျှင် ပေတရုသည်ကျိန်ဆိုလျက်မိဌာန်ပြုလျက်
၇၅ ထိုသူကိုငါမသိဟုဆို၏။ထိုခဏချင်းတွင်ကြက်တွန်လေ၏။ ယေရှု
ကကြက်မတွန်မှီသင်သည်သုံးကြိမ်မြောက်အောင်ငါကိုငြင်းပယ်
လိမ့်မည်ဟုမိန့်တော်မူသောစကားကိုပေတရုသတိရသဖြင့်ပြင်သို့
ထွက်၍ပြင်းစွာငိုကြွေးလေ၏။

❋❋

၁ နံနက်အချိန်ရောက်မှယဇ်ပရောဟိတ်အကြီး။လူများကိုအုပ်စိုးသော
သွှတ်အရာရှိအပေါင်းတို့သည် ယေရှုကိုသတ်လိုသော ဌါတိုင်ပင်ပြီး
၂ မှ ကိုယ်တော်ကိုချည်နှောင်ပြီးသျှင်မြို့ဝန်မင်းပုန္တိပိလတ်ထံသို့ယူ
၃ သွား၍အပ်လိုက်ကြ၏။ ။ထိုအခါကိုယ်တော်ကိုအပ်နှံသော
ယုဒရှကာရုတ်သည် ကိုယ်တော်၌ သေပြစ်ကိုစီရင်ကြောင်းကိုသိမြင်
လျှင် နောင်တရ၍ငွေသုံးဆယ် ကိုယဇ်ပရောဟိတ်အကြီး။ သွှတ်အ
၄ ရာရှိတို့၌ပြန်ပေး၍ အကျွန်ုပ်ပြစ်မှားပါပြီး။အပြစ်မရှိသောသူ၏

အသက်ကိုအကျွန်ုပ်အပ်ပါပြီးဟုဆိုလေ၏။ ထိုသူတို့လည်း ငါတို့အ
ဘယ်သို့ဆိုင်သနည်း။ ကိုယ်အမှုကိုကိုယ်ကြည့်တော့ ဟုဆိုကြလေ
၅ သော် သူသည်ထိုငွေကိုဗိတ်မှာန်တော်၌ပြစ်ချပြီးမှအချားသို့သွား
၆ ၍လည်ကြိုးတပ်သဖြင့်သေလေ၏။ ယဇ်ပရောဟိတ်တို့သည်ထိုငွေ
ကိုယူ၍အသွေးအဖိုးဖြစ်၏။ဘဏ္ဍာတော်၌မသွင်းအပ်ဟုပြော၍
၇ တိုင်ပင်ပြီးမှအိုးထိမ်းသည်၏မြေအကွက်ကိုတပါးအမျိုးသါးကို သင်း
၈ ဂြိုင်းအလို့ငှါထိုငွေနှင့်ဝယ်ကြ၏။ထိုအကြောင်းကိုစွဲ၍ယခုတိုင်အောင်
၉ ထိုမြေအကွက်ကိုသွေးမြေဟုတွင်ကြ၏။ ပရောဖက်ယေရမိဟော
သည်ကား။ဣသရေလလူတို့သည်အဖိုးပြတ်သောသူ၏ကိုယ်ဖိုး။ငွေ
သုံးဆယ်ကိုသူတို့သည်ယူ၍ထာဝရဘုရားသည်ငါကိုမှာထားတော်
၁၀ မူသည်အတိုင်း အိုးထိမ်းသည်၏မြေအကွက်ကိုဝယ်ကြ၏ဟူသော
၁၁ စကားသည်ထိုအခါပြည့်စုံခြင်းသို့ရောက်လေ၏။ ။ယေရှု
သည်မြို့ဝန်မင်းရှေ့သို့ရောက်တော်မူသည်ရှိသော်မြို့ဝန်မင်းကသင်
သည်ယုဒရှင်ဘုရင်မှန်သလောဟုမေးလျှင်ယေရှုကမင်းကြီးမေး
၁၂ သည်အတိုင်းမှန်ပေ၏ဟုမိန့်တော်မူ၏။ ယဇ်ပရောဟိတ်အကြီး။
လွှတ်အရာရှိတို့သည်အပြစ်တင်ကြသော်တခွန်းကိုမျှပြန်တော်မမူ။
၁၃ ပိလတ်မင်းကလည်းသင်တဖက်၌အဘယ်မျှလောက်သက်သေခံကြ
၁၄ သည်ကိုသင်မကြားသလော ဟုပြောဆိုသော်လည်းစကားတခွန်း
ကိုမျှပြန်တော်မမူသည်ကိုမြို့ဝန်မင်းသည်အလွန်အံ့သြော၍နေလေ
၁၅ ၏။ ။ထိုပွဲ၌မြို့ဝန်မင်းသည်အကျဉ်းထားသောသူတို့တွင်
လူအပေါင်းတို့အလိုရှိသောသူတယောက်ယောက်ကိုလွှတ်မြဲထုံးစံရှိ
၁၆ ၏။ ထိုအခါအကျဉ်းထားသောသူတို့တွင်ဗာရဗ္ဗအမည်ရှိသော
၁၇ ကျော်စောသောသူတယောက်ရှိ၏။ လူများစည်းဝေးကြသည်ရှိ
သော်ပိလတ်မင်းကသင်တို့သည်အဘယ်သူကိုလွှတ်စေချင်သနည်း။
ဗာရဗ္ဗကိုလွှတ်စေချင်သလော။ခရစ်ဟုခေါ်ဝေါ်သောယေရှုကိုလွှတ်
၁၈ စေချင်သလောဟုလူများတို့အားမေးလေ၏။ အဘယ်ကြောင့်ဤသို့
မေးသနည်းဟူမူကား။ထိုသူတို့သည်မနာလိုသောစိတ်နှင့်ယေရှုကို
၁၉ အပ်နှံကြောင်းကိုပိလတ်မင်းသိ၏။ ထိုမှတပါး။တရားပလ္လင်ပေါ်
မှာထိုင်စဉ်တွင်မိမိခင်ပွန်းသည်လုလင်တယောက်ကိုစေလိုက်၍
ထိုဖြောင့်မတ်သောသူကိုဘာမျှမပြုပါနှင့်။ယနေ့ပင်ကျွန်မသည်သူ
၂၀ ကြောင့်အိမ်မက်၍ပြင်းစွာခံရပါပြီးဟုမှာလိုက်၏။ လူအစုအဝေး

တို့သည် ဗာရဗ္ဗကိုတောင်း၍ ယေရှုကိုသေစေရအောင် ယဇ်ပုရော
ဟိတ်အကြီး။လွှတ်အရာရှိတို့သည်လူများကိုတိုက်တွန်းသွေးဆောင်
၂၁ ကြ၏။ ထိုကြောင့်မြို့ဝန်မင်းသည် ဤသူနှစ်ယောက်တို့တွင်သင်တို့
သည်အဘယ်သူကိုလွှတ်စေချင်သနည်းဟုလူများကိုမေးသောအခါ
၂၂ ဗာရဗ္ဗကိုလွှတ်စေချင်ပါသည်ဟုလျှောက်ကြ၏။ ပိလတ်မင်းကလည်း
သို့ဖြစ်လျှင်ခရစ်ဟုခေါ်ဝေါ်သောယေရှုကိုအဘယ်သို့ပြုရအံ့နည်း
ဟုမေးပြန်သော်သူအားလုံးတို့ကသူသည်လက်ဝါးကပ်တိုင်မှာရိုက်
၂၃ ထားခြင်းကိုခံပါလေစေဟုဆိုကြ၏။ မြို့ဝန်မင်းကလည်းအဘယ်
ကြောင့်နည်း။အဘယ်အပြစ်ကိုပြုဘိသနည်းဟုမေးလျှင်သူသည်
လက်ဝါးကပ်တိုင်မှာရိုက်ထားခြင်းကိုခံပါလေစေဟုလူများသာ၍
၂၄ ဟစ်ကြ၏။ ပိလတ်မင်းသည်မိမိမနိုင်။လူများသာ၍ရုန်းရင်းခပ်မှု
ဖြစ်ကြသည်ကိုမြင်လျှင်ရေကိုယူ၍လူများရှေ့တွင်မိမိလက်ကိုဆေး
လျှက်ဤဖြောင့်မတ်သောသူ၏အသွေးနှင့်ငါကင်းရှင်းပေ၏။ဤအမှု
၂၅ ကိုသင်တို့ကြည့်ကြတော့ဟုဆို၏။ ထိုလူအပေါင်းတို့ကသူ၏အသွေး
သည်ငါတို့ခေါင်းပေါ်မှာရှင်သားမြေးတို့၏ခေါင်းပေါ်မှာရှင်တည်ရှိ
၂၆ ပါစေဟုပြန်ပြောကြ၏။ ပိလတ်မင်းသည်လည်းဗာရဗ္ဗကိုလူများတို့
အားလွှတ်လေ၏။ယေရှုကိုကားရိုက်စေပြီးမှလက်ဝါးကပ်တိုင်မှာသတ်
စေခြင်းငှါအပ်လိုက်လေ၏။

**

၂၇ ထိုအခါမြို့ဝန်မင်း၏စစ်သူရဲတို့သည်ယေရှုကိုအိမ်တော်ဦးသို့ဆောင်
၂၈ သွား၍စစ်သူရဲတတပ်လုံးကိုအထံတော်၌စုရုံးစေပြီးမှ အဝတ်တော်
၂၉ ကိုချွတ်၍နီသောဝတ်လုံကိုခြုံစေ၏။ ဆူးပင်နှင့်ရက်သောဦးရစ်ကို
ခေါင်းတော်၌တင်ကြ၏။ကျူတလုံးကိုလည်းလက်ျာတော်နှင့်ကိုင်စေ
ပြီးလျှင်ရှေ့တော်မှာဒူးထောက်လျှက်ယုဒရှင်ဘုရင်။ကိုယ်တော်အား
၃၀ မင်္ဂလာဖြစ်စေသတည်းဟူ၍ကိုယ်တော်ကိုသရော်ကြ၏။ ကိုယ်တော်
ကိုတံတွေးထွေး၍ကျူလုံးကိုယူသဖြင့်ခေါင်းတော်ကိုရိုက်ကြ၏။
၃၁ ထိုသို့ကိုယ်တော်ကိုသရော်ပြီးမှမင်းဝတ်လုံကိုချွတ်၍မိမိအဝတ်ကို
ဝတ်စေပြန်လျှင်လက်ဝါးကပ်တိုင်မှာရိုက်ထားစေခြင်းငှါထုတ်သွားကြ
၃၂ ၏။ ။သွားကြစဉ်တွင်ရှိမုန်အမည်ရှိသောကုရင်သားတယောက်
ကိုတွေ့လျှင်ထိုသူကိုအနိုင်ပြု၍လက်ဝါးကပ်တိုင်တော်ကိုထမ်းစေကြ
၃၃ ၏။ဦးခေါင်းခွံအရပ်ဟုဆိုလိုသောဂေါလဂေါသအမည်တွင်သော

၃၄ အရပ်သို့ရောက်ကြသော် ဆေးခါးနှင့်ရောသောပုံးရည်ကိုကိုယ်တော်
သောက်စိမ့်သောငှါပေးလျှင်မြည်းစမ်တော်မူ၍မသောက်ချင်ဘဲနေ
၃၅ လေ၏။ ကိုယ်တော်ကိုလက်ဝါးကပ်တိုင်မှာရိုက်ထား ကြပြီးလျှင်အ
၃၆ ဝတ်တော်တို့ကိုစာရေးတံပြုသဖြင့်ဝေဖန်ကြ၏။ ထိုအရပ်၌ထိုင်
၃၇ လျက်စောင့်နေကြ၏။ အပြစ်ဖော်ပြသောကမ္ပည်းလိပ်စာချက်ဟူမူ
ကား။ဤသူသည်ယုဒရှင်ဘုရင်သေရှုပေတည်းဟုရေး၍ခေါင်းတော်
၃၈ ပေါ်မှာတပ်သတည်း။ ထိုအခါကိုယ်တော်နှင့်တကွခိုးမြနှစ်ယော
က်တို့ကိုတယောက်လကျ်ာတော်ဘက်။တယောက်လက်ဝဲတော်ဘက်။
၃၉ လက်ဝါးကပ်တိုင်မှာရိုက်ထားကြ၏။ ။လမ်းမှာသွားလာ
၄၀ သောသူတို့ကလည်းဗိတ်မှာန်တော်ကိုဖြိုဖျက်၍သုံးရက်အတွင်းတွင်
တည်ဆောက်ပြန်သောသူ။ကိုယ်ကိုကိုယ်ကယ်ဘင်တော့။ဘုရားသ
ခင်သားတော်မှန်လျှင်လက်ဝါးကပ်တိုင်မှဆင်းတော့ဟုမိမိတို့ခေါ
၄၁ င်းကိုညှိတ်၍ကဲ့ရဲ့သောစကားကိုပြောကြ၏။ ထိုနည်းတူ။ယဇ်ပ
၄၂ ရောဟိတ်အကြီး။ကျမ်းပြုဆရာ။လွှတ်အရာရှိတို့က ဤသူသည်သူတ
ပါးတို့ကိုကယ်တင်တတ်၏။ ကိုယ်ကိုမကယ်တင်နိုင်ပါတကား။ဣသ
ရေလရှင်ဘုရင်မှန်လျှင်လက်ဝါးကပ်တိုင်မှယခုဆင်းပါလေစေ။ဆင်း
၄၃ လျှင်ငါတို့ယုံမည်။ သူသည်ဘုရားသခင်ကိုကိုးစားလေပြီး။သူကငါသည်
ဘုရားသခင်သားဖြစ်၏ဟုဆိုလေပြီး။သို့ဖြစ်၍ဘုရားသခင်သည်
သူ့၌အလိုတော်ရှိလျှင်ယခုပင်ကယ်တင်တော်မူပါလေစေဟုကဲ့ရဲ့
၄၄ ပြောဆိုကြ၏။ ထိုနည်းတူ။ကိုယ်တော်နှင့်တကွလက်ဝါးကပ်တိုင်မှာ
ရိုက်ထားသောခိုးမြတို့သည်လည်းကဲ့ရဲ့အပြစ်တင်ကြ၏။ ။
၄၅ မွန်းတည့်အချိန်မှစ၍သုံးချက်တီးအချိန်တိုင်အောင်မြေတပြင်လုံး၌
၄၆ မှောင်မိုက်အတိဖြစ်လေ၏။ သုံးချက်တီးအချိန်၌ယေရှုကဧလိဧလိ
လာမာရှာဗခသာနိဟုကြီးသောအသံနှင့်ကျွေးကြော်တော်မူ၏။အနက်ကား။အကျွန်ုပ်ဘုရား။အကျွန်ုပ်ဘုရား။အဘယ်ကြောင့်အကျွန်ုပ်
၄၇ ကိုစွန့်ပြစ်တော်မူသနည်းဟုဆိုလိုသတည်း။ ထိုအရပ်၌ရပ်နေသော
သူအချို့တို့သည်ကြားလျှင်သူသည်ဧလိယကိုခေါ်သည်ဟုဆိုကြ၏။
၄၈ လူတယောက်သည်ချက်ချင်းပြေး၍ရေညှိကထွေးကိုပုံးရည်နှင့်ပြည့်
စေလျှင်ကျူလုံးဖျား၌တပ်၍ကိုယ်တော်သောက်စိမ့်သောငှါပေး
၄၉ လေ၏။ ကြွင်းသောသူတို့ကရှိပါလေစေ။ဧလိယသည်သူ့ကိုကယ်
၅၀ တင်ခြင်းငှါလာမည်မလာမည်ကိုကြည့်ကြစို့ဟုဆိုကြ၏။ ယေရှု

သည်ကြီးသောအသံနှင့်တဖန်ကျွေး ကျော်ပြီး လျှင်အသက် တော်ကို
၅၁ လွှတ်တော်မူ၏။ ။ထိုအခါဗိတ်မှာန်တော်၏ကုလားကာ
သည်အထက်စွန်းမှအောက်စွန်းတိုင်အောင်ဗုတ်ကွဲလေ၏။မြေကြီး
၅၂ လှုပ်လေ၏။ ကျောက်များတို့သည်ကွဲပြားကြ၏။ သင်းဂြိုင်းတွင်းတို့
သည် ဖွင့်လှစ်သဖြင့်ကျိန်းစက်လျက်နေ သော သန့်ရှင်း သူအလောင်း
၅၃ အများတို့သည်ထကြ၍ ကိုယ်တော်သည်ထမြောက်တော်မူသောနောက်
သူတို့သည်သင်းဂြိုင်းတွင်းမှထွက်၍သန့်ရှင်းသောမြို့ထဲသို့ဝင်လျှင်
၅၄ လူအများတို့အားထင်ရှားကြ၏။ ယေရှုကိုစောင့်နေသောတပ်မှူးမှစ
၍စစ်သူရဲများတို့သည်မြေကြီး လှုပ်ခြင်းစသည် တို့ကိုမြင်လျှင်အ
လွန်ထိတ်လန့်၍စင်စစ်ဤသူသည်ဘုရားသခင်၏သားတော်ဖြစ်ပေ
၅၅ ၏ဟုဆိုကြ၏။ ဂါလိလဲပြည်ကယေရှုနောက်တော်၌အလုပ်အကျွေး
လိုက်လာသောမိန်းမအများတို့သည်ထိုအရပ်၌အဝေးကကြည့်ရှု၍နေ
၅၆ ကြ၏။ ထိုမိန်းမတို့တွင်မာဂဒလမာရိ။ယာကုပ်။ယောသေတို့၏အမိ
ဖြစ်သောမာရိ။ဇေဗေဒဲ၏သားတို့၏အမိပါသတည်း။



၅၇ ညအချိန်ရောက်မှအရိမသဲမြို့သား ယောသပ်အမည်ရှိသောသဌေး
၅၈ သည်ယေရှု၏တပည့်တော်ဖြစ်သည်နှင့် ပိလတ်မင်းထံသို့ဝင်၍ယေ
ရှု၏အလောင်းတော်ကိုတောင်းလေ၏။ ပိလတ်မင်းသည် အလောင်း
၅၉ တော်ကိုပေးစိမ့်သောငှါအမိန့်တော်ရှိလျှင် ယောသပ်သည်အလော
၆၀ င်းတော်ကိုယူ၍ဖြူစင်သောပိတ်ချောနှင့်ထုပ်ရစ်သဖြင့် ကျောက်၌
တွင်းသောမိမိသင်းဂြိုင်းတွင်းသစ်ထဲမှာထား၍တွင်းဝ၌ကြီးစွာ
၆၁ သောကျောက်ကိုလှိမ့်ထားပြီးလျှင်သွားလေ၏။ မာဂဒလမာရိနှင့်အ
ချားသောမာရိသည်ထိုအရပ်၌သင်းဂြိုင်းတော်ရှေ့မှာထိုင်လျက်နေ
၆၂ ရစ်ကြ၏။ ။အဗိတ်နေ့လွန်၍နက်ဖန်နေ့ရောက်မှယဇ်ပုရော
၆၃ ဟိတ်အကြီး။ဖာရိရှဲလူတို့သည်ပိလတ်မင်းထံစုဝေး၍ ထိုလှည့်ဖျား
သော သူကငါသည် သုံးရက်မြောက်သောနေ့၌ထမြောက်မည်ဟုမ
၆၄ သေမှီပြောထားသည်ကိုအကျွန်ုပ်တို့မှတ်မိပါပြီး။ ထိုကြောင့်သူ့တ
ပည့်တို့သည်လာ၍အလောင်းကိုခိုးယူပြီးလျှင်သူသည်သေခြင်းမှထ
မြောက်ခဲ့ပြီးဟုလူအပေါင်းတို့အားဆိုသောအားဖြင့်ရှေ့အမှားထက်
နောက်အမှားသာ၍ကြီးမည်စိုးရိမ်စရာအကြောင်းရှိသည်ဖြစ်၍
သင်းဂြိုင်းတွင်းကိုသုံးရက်မြောက်အောင်လုံခြုံစွာစောင့်စိမ့်သောငှါ

၆၅ ဒ၊မိန့်တော်မူပါဟုလျှောက်ကြလျှင် ပိလတ်မင်းကသင်တို့၌ရဲ
စောင့်တတပ်ရှိ၏၊သွားကြ၊တတ်နိုင်သမျှအတိုင်းလုံခြုံစွာစောင့်စေ
၆၆ ကြပါဟုဆိုလေ၏။ ထိုသူကိုသည်သွား၍ကျောက်ကိုတံဆိပ်ခပ်လျက်
အစောင့်ထားလျက်သင်းဂြိုဟ်တွင်းတော်ကိုလုံခြုံအောင်ပြုကြ၏။
၁ ။ဥပုသ်နေ့လွန်၍ခုနှစ်ရက်တွင်ပဌမနေ့ရက်မိုးသိးလင်းအံ့ဆဲဆဲ
အချိန်၌မာဂဒလမါရိနှင့်အခြားသောမာရိသည်သင်းဂြိုဟ်တော်ကိုအကြည့်
၂ အရှုသွားကြ၏။ ထိုအခါမြေကြီးသည်ပြင်းစွာလှုပ်သလေ၏။အကြော
င်းကား။ထာဝရဘုရား၏ကောင်းကင်တမန်သည်ကောင်းကင်ဘုံမှ
ဆင်းလာ၍တွင်းဝပိတ်သောကျောက်ကိုလှိမ့်လှန်ပြီးလျှင်ထိုကျော
၃ က်ပေါ်မှာထိုင်နေ၏။ သူ၏မျက်နှာသည်လျှပ်စစ်ကဲ့သို့ထင်၏။အ
၄ ဝတ်သည်လည်းမိုးသိးပွင့်ကဲ့သို့ဖြူ၏။ လူစောင့်တို့သည်ကောင်းကင်
၅ တမန်ကိုကြောက်ရွံ့သဖြင့်တုန်လှုပ်၍သေမတတ်ဖြစ်ကြ၏။ ကောင်း
ကင်တမန်ကထိုမိန်းမတို့အားကြောက်ရွံ့ခြင်းမရှိကြနှင့်။လက်ဝါးကပ်
၆ တိုင်မှာသတ်သောယေရှုကိုသင်တို့ရှာလျက်လါသည်ကိုငါသိ၏။ ဤအ
ရပ်၌မရှိ။မိန့်တော်မူသည်အတိုင်းထမြောက်ခဲ့ပြီး။လာကြ၊သခင်
၇ လျောင်းတော်မူရာအရပ်ကိုကြည့်ကြလော့။ အလျှင်အမြန်ပြန်သွား
၍သေခြင်းမှထမြောက်တော်မူကြောင်းကိုတပည့်တော်တို့အားပြော
ကြလော့။သင်တို့ရှေ့၊ဂါလိလဲပြည်သို့ကြွတော်မူမည်။ထိုပြည်၌သင်
တို့သည်ကိုယ်တော်ကိုတွေ့မြင်ရလိမ့်မည်။ငါစကား၊ရှိသည်ဟုကော
၈ င်းကင်တမန်ဆိုလေ၏။ ထိုမိန်းမတို့သည်လည်းကြောက်ရွံ့သဖြင့်၎င်
အလွန်ဝမ်းမြောက်သဖြင့်၎င်သင်းဂြိုဟ်တော်မှအလျှင်အမြန်သွား၍
တပည့်တော်တို့အားထိုသိတင်းစကားကိုကြားပြောခြင်းငှါပြေးကြ
၉ ၏။ ။လမ်းမှာသွားကြစဉ်ယေရှုသည်ကြုံဆိုတော်မူ၍သင်တို့အားမ
င်္ဂလာဖြစ်စေသတည်းဟုမိန့်တော်မူ၏။ထိုမိန်းမတို့သည်ချဉ်းကပ်၍
၁၀ ခြေတော်ကိုဖက်ယမ်းလျက်ပျပ်ဝပ်ကိုးကွယ်ကြ၏။ ယေရှုကလည်း
ကြောက်ရွံ့ခြင်းမရှိကြနှင့်။သွားကြလော့။ငါညီတို့သည်ဂါလိလဲပြည်
သို့သွားရအောင်ဤသိတင်းစကားကိုကြားပြောကြလော့။ထိုပြည်၌
၁၁ သူတို့သည်ငါကိုတွေ့မြင်ရလိမ့်မည်ဟုမိန့်တော်မူ၏။ ။ထို
မိန်းမတို့သည်သွားကြသည်ရှိသော်လူစောင့်အချို့တို့သည်မြို့ထဲသို့ဝင်
၍ဖြစ်လေသမျှသောအခြင်းအရာတို့ကိုယဇ်ပရောဟိတ်အကြီးတို့
၁၂ အားပြန်ကြားကြ၏။ ယဇ်ပရောဟိတ်အကြီး၊လွှတ်အရာရှိတို့သည်

၁၃ ရဝေး၍တိုင်ပင်ပြီးမှစစ်သူရဲတို့အားငွေအများကိုပေး၍ ညဉ့်အခါ
ငါတို့အိပ်ပျော်စဉ်သူ့တပည့်တို့သည်လာ၍အလောင်းကိုခိုးသွားကြ
၁၄ သည်ဟုသင်တို့ပြောကြပါ။ ထိုအကြောင်းကိုမြို့ဝန်မင်းသည်ကြား
ပြန်လျှင်ငါတို့သည် သူ့စိတ်ကိုချော့မော့၍ သင်တို့အမှုမရှိအောင်ပြု
၁၅ မည်ဟု သွန်သင်သည်နှင့်အညီစစ်သူရဲတို့သည် ငွေကိုယူ၍ပြုကြ
၏။ ထိုစကားကိုယခုတိုင်အောင် ယုဒလူတို့သည်အနှံ့အပြား ပြောဆို
၁၆ မှတ်ယူကြ၏။ ။တကျိပ်တပါးသောတပည့်တော်တို့သည်ဂါ
လိလဲပြည်သို့သွား၍ယေရှုမှာထားတော်မူသော တောင် ပေါ်သို့ တက်
၁၇ ကြသဖြင့် ကိုယ်တော်ကိုတွေ့မြင်၍ပျပ်ဝပ်ကိုးကွယ်ကြ၏။ အချို့တို့
၁၈ သည်ရုံမှားခြင်းရှိကြ၏။ ယေရှုသည်အနီးအပါးသို့ချဉ်းတော်မူလျှင်
ကောင်းကင်ဘုံ၌၎င်မြေကြီးပေါ်မှာ၎င်စီရင်ပိုင်သောအခွင့်တန်ခိုး ရှိ
၁၉ သမျှတို့ကိုငါခံရပြီး။ သင်တို့သွား၍လူမျိုးတကာတို့ကိုငါတပည့်ဖြစ်
စေလျက်ခမည်းတော်။ သားတော်။ သန့်ရှင်းသောဝိညာဉ်၏ဘာသာ
၂၀ သွင်းခြင်းအလို၌ါရေနှစ်မင်္ဂလာကိုပေးကြလော့။ ငါသည်သင်တို့အား
ပေးသမျှသောပညတ်တော်တို့ကိုစောင့်ရှောက်စေခြင်း ၌ါဆုံးမသြဝါ
ဒပေးကြလော့။ ငါသည်လည်းကပ်ကမ္ဘာကုန်သည်တိုင်အောင်သင်တို့
နှင့်အတူအစဉ်မပြတ်ရှိ၏ဟုတပည့်တော်တို့အားမိန့်တော်မူ၏။

။ရှင်မဿဲခရစ်ဝင်ပြီး၏။

---

## ။ရှင်မာကုခရစ်ဝင်။

၁ ဘုရားသခင်သားတော်ယေရှုခရစ်၏ဧဝံဂေလိသာသနာ၏အစကို
၂ ဆိုပေအံ့။ အနာဂတ္တိကျမ်းစာ၌လာသည်ကား။ ကြည့်ရှုလော့။ သင်သွား
၃ ရာလမ်းကိုပြင်ရသော ငါ၏တမန်ကိုငါစေလွှတ်၏။ ဟစ်ကျော်သောသူ
၏အသံမှာ။ ထာဝရဘုရားကြွတော်မူရာလမ်းကိုတော၌ပြင်ကြလော့။
၄ လမ်းခရီးတော်ကိုဖြောင့်စေကြလော့ဟုလာသည်နှင့်အညီ ယောဟန်
သည်တော၌ရေနှစ်မင်္ဂလာကိုပေးလျက်အပြစ်လွှတ်ရာသမ်။ နောင်တတ
ရားနှင့်စပ်ဆိုင်သောရေနှစ်မင်္ဂလာတရားကိုဟောလျက်ပေါ်လာ၏။
၅ ယေရုရှလင်မြို့သားများမှစ၍ယုဒပြည်သူပြည်သားများအပေါင်းတို့
သည်ယောဟန်ထံသို့ထွက်သွား၍မိမိတို့အပြစ်များကိုဖော်ပြလျက်

၆ ယော်ဒန်မြစ်၌ရေနှစ်မင်္ဂလာကိုခံကြ၏။ ယောဟန်သည်ကုလား
အုတ်အမွေးနှင့်ရက်သောအဝတ်ကိုဝတ်လျက်ခါး၌သားရေခါးပန်း
ကိုစည်းလျက်ကျိုင်ကောင်နှင့်တောပျားရည်ကိုစားလျက်နေ၏။
၇ ဟောချက်စကားဟူမူကား။ ငါ့ထက်တတ်စွမ်းနိုင်သောသူသည်ငါ့
နောက်ကြွလာ၏။ သူ၏ခြေနင်းတော်ကြိုးကိုငုံ၍ဖြည်ခြင်းငှါငါမထို
၈ က်။ ငါသည်သင်တို့အားရေ၌သာနှစ်ခြင်းကိုပေး၏။ ထိုသူသည်
သန့်ရှင်းသောဝိညာဉ်တော်၌သင်တို့ကိုနှစ်တော်မူမည်ဟုဟောသ
၉ တည်း။ ။ထိုအခါယေရှုသည်ဂါလိလဲပြည်နာဇရက်မြို့မှကြွ
လာ၍ယောဟန်လက်ဖြင့်ယော်ဒန်မြစ်၌ရေနှစ်မင်္ဂလာကိုခံတော်မူ
၁၀ ၏။ ရေမှပေါ်ထစဉ်တွင်ကောင်းကင်ကွဲ၍ဝိညာဉ်တော်သည်ချိုးငှက်
၁၁ ကဲ့သို့ကိုယ်တော်အပေါ်၌ဆင်းသက်တော်မူသည်ကိုမြင်ရ၍ သင်
ကားငါ့နှစ်သက်မြတ်နိုးရာငါ၏ချစ်သားပေတည်းဟုကောင်းကင်
၁၂ ကအသံတော်ဖြစ်လေ၏။ ထိုခဏတွင်ဝိညာဉ်တော်သည်ကိုယ်တော်
၁၃ ကိုတောသို့သွားစေတော်မူ၏။ အရက်လေးဆယ်ပတ်လုံးတော၌နေ၍
စာတန်၏စုံစမ်းသွေးဆောင်ခြင်းကိုခံတော်မူ၏။သားရဲတို့နှင့်အတူ
ရှိတော်မူ၏။ကောင်းကင်တမန်တို့သည်လည်းလုပ်ကျွေးကြ၏။
၁၄ ယောဟန်သည်ထောင်ထဲသို့ရောက်သောနောက်ယေရှုသည်ဂါ
၁၅ လိလဲပြည်သို့ကြွတော်မူလျှင် အချိန်ပြည့်စုံပြီ။ဘုရားသခင်နိုင်ငံ
တော်သည်တည်လုနီးပြီ။ နောင်တရကြလော့။ ဧဝံဂေလိတရားကိုယုံ
ကြည်ကြလော့ဟူသောဘုရားသခင်နိုင်ငံတော်နှင့်ဆိုင်သောဧဝံဂေလိ
၁၆ တရားကိုဟောတော်မူ၏။ ။ဂါလိလဲအိုင်နားမှာကြွတော်မူ
စဉ်ရှိမုန်နှင့်အန္ဒြေ။ ညီအစ်ကိုနှစ်ယောက်တံငါဖြစ်၍အိုင်တွင်ပိုက်
၁၇ ကွန်ဖြန့်ချသည်ကိုမြင်တော်မူလျှင် ထိုသူတို့အားငါ့နောက်လိုက်ကြ
လော့။ သင်တို့သည်လူကိုမျှားသောတံငါဖြစ်အောင်ငါပြုမည်ဟု
၁၈ အမိန့်တော်ရှိလေသော် ထိုသူတို့သည်ချက်ချင်းပိုက်ကွန်ကိုစွန့်ပြစ်
၁၉ ၍နောက်တော်သို့လိုက်ကြ၏။ ထိုမှအနည်းငယ်လွန်ပြန်လျှင်ဇေဗေ
ဒဲ၏သား။ယာကုပ်နှင့်ယောဟန်ညီအစ်ကိုနှစ်ယောက်လှေပေါ်မှာပို
၂၀ က်ကွန်ပြင်နေသည်ကိုမြင်၍ ချက်ချင်းခေါ်တော်မူ၏။ထိုသူတို့သည်
လည်းလှေပေါ်မှာရှိသောသူငှါးတို့နှင့်တကွအဘဇေဗေဒဲကိုစွန့်၍နော
၂၁ က်တော်သို့လိုက်ကြ၏။ ။ကပေရနောင်မြို့သို့သွားကြလျှင်
ဥပုသ်နေ့၌ကိုယ်တော်သည်ချက်ချင်းတရားဇရပ်သို့ဝင်၍ဆုံးမဩ

၂၂ ဝါဒပေးတော်မူ၏။ ပရိသတ်တို့သည်လည်းဆုံးမဩဝါဒပေးတော်မူ
ခြင်းကိုအလွန်အံ့ဩကြ၏။အဘယ်ကြောင့်နည်းဟူမူကား။ကျမ်းပြု
ဆရာနည်းတူမဟုတ်။အစိုးရသောသူနည်းတူဆုံးမဩဝါဒပေးတော်
၂၃ မူ၏။ သူတို့တရားဇရပ်၌ညစ်ညူးသောနတ်စွဲသောသူရှိ၍ ကြွေ
၂၄ နာဇရက်မြို့သားယေရှု။ ကိုယ်တော်သည်အကျွန်ုပ်တို့နှင့်အဘယ်သို့
ဆိုင်သနည်း။အကျွန်ုပ်တို့ကိုဖျက်ဆီးခြင်းငှါလာသလော။ ကိုယ်တော်
သည်အဘယ်သူဖြစ်မှန်းကိုအကျွန်ုပ်သိပါ၏။ ဘုရားသခင်၏သန့်
၂၅ ရှင်းတော်မူသောသူဖြစ်ပါ၏ဟုဟစ်ကျော်လေ၏။ ယေရှုကလည်း
တိတ်ဆိတ်စွာနေတော့။သူထဲကထွက်သွားတော့ဟုဆုံးမတော်မူလျှင်
၂၆ ညစ်ညူးသောနတ်သည် ထိုသူကိုတောင့်မာစေပြီးမှကြီးသောအသံ
၂၇ နှင့်ဟစ်၍ထွက်သွား၏။ လူအပေါင်းတို့သည်မိန်းမောတွေဝေ၍ဤ
အမှုသည်အဘယ်သို့နည်း။ဤဆုံးမခြင်းအသစ်သည်အဘယ်သို့နည်း။
ညစ်ညူးသောနတ်တို့ကိုပင်အာဏာနှင့်မှာထား၍ သူတို့သည်နား
၂၈ ထောင်ကြသည်တကားဟုအချင်းချင်းမေးမြန်းပြောဆိုကြ၏။ သိတင်း
တော်သည်လည်း ဂါလိလဲပြည်အရပ်ရပ်တို့၌ချက်ချင်းနှံ့ပြားကျော်
စောလေ၏။



၂၉ တရားဇရပ်မှထွက်ကြသည်အချားမဲ့ယာကုပ်။ယောဟန်နှင့်တကွရှိ
၃၀ မုန်။အန္ဒြေတို့အိမ်သို့သွားကြ၏။ ရှိမုန်၏ယောက္ခမသည် ဖျားနာစွဲ
၃၁ ၍တုံးလုံးနေသည်အကြောင်းကိုချက်ချင်းလျှောက်ကြ၏။ ကိုယ်
တော်သည်လာ၍ သူ၏လက်ကိုကိုင်သဖြင့်ချီကြွတော်မူသည်ခဏ
ချင်းတွင်အဖျားပျောက်၍ထိုမိန်းမသည်ညှိသည်ဝတ်ကိုပြု၍လေ၏။
၃၂ ၊၊နေဝင်၍ညအချိန်ရောက်လျှင်မကျန်းမာသောသူ။နတ်ဆိုးစွဲ
၃၃ သောသူရှိသမျှတို့ကိုအထံတော်သို့ဆောင်ခဲ့၍ တမြို့လုံးသည်တံ
၃၄ ခါးနားမှာစုဝေးလျက်ရှိကြ၏။ အထူးထူးအပြားပြားသောအနာစွဲ
သောသူများတို့ကိုသက်သာစေတော်မူ၏။နတ်ဆိုးများတို့ကိုလည်း
နှင်ထုတ်တော်မူ၏။နတ်ဆိုးတို့သည်ကိုယ်တော်ကိုသိကြသောကြောင့်
စကားတခွန်းကိုမျှပြောမည်အကြောင်း။အခွင့်ပေးတော်မမူ။
၃၅ ၊၊နံနက်အချိန်။မိုးမလင်းမှီကိုယ်တော်သည်ထ၍တောအရပ်
သို့ထွက်ကြွသဖြင့်ဆုတောင်းတော်မူ၏။ ရှိမုန်နှင့်သူ၏အပေါင်းအ
၃၆ ဖော်တို့သည်လိုက်ရှာ၍ ကိုယ်တော်ကိုတွေ့ပြီးလျှင်လူအပေါင်းတို့

၃၈ သည် ကိုယ်တော်ကို ရှာကြသည်ဟု လျှောက် ဆို၏။ ကိုယ် တော်က
လည်း နီး စပ်သော မြို့ ရွာတို့၌တရား ဟောရအောင် သွားစို့။ထိုသို့အ
၃၉ လို့ငှါငါကြွလာပြီးဟုမိန့်တော်မူ၏။ဂါလိလဲပြည်အနှံ့အပြားတရားဇ
ရပ်တို့၌တရားဟောလျက်နတ်ဆိုးတို့ကိုနှင်ထုတ်လျက်နေတော်မူ၏။
၄၀ ။နူနာစွဲသောသူတယောက်သည် အထံတော်သို့လာ၍ဒူး
ထောက်လျက် ကိုယ်တော် အလို ရှိလျှင် ကျွန်တော်ကိုသန့် ရှင်း စေနိုင်
၄၁ တော်မူသည်ဟုတောင်းပန်လေ၏။ ယေရှုသည်သနားသောစိတ် ရှိသ
ဖြင့်လက်တော်ကိုဆန့်၍ထိုသူကိုတို့လျက်ငါအလိုရှိ၏။ သန့်ရှင်းခြင်း
၄၂ သို့ရောက်စေဟုမိန့်တော်မူ၏။ မိန့်တော်မူသည် ခဏချင်းတွင်နူနာ
၄၃ ပျောက်၍သန့်ရှင်းခြင်းသို့ရောက် လေ၏။ ယေရှုကလည်းသင်သတိ
၄၄ ပြု။အဘယ် သူအား တ ခွန်းကို မျှမ ပြော နှင့်။ ယဇ်ပုရောဟိတ် ဆီသို့
သွား၍ ကိုယ်ကိုကိုယ် ပြတော့။ သူတပါး၌သက် သေဖြစ် စေခြင်းငှါ
သန့်ရှင်းခြင်းသို့ရောက်သည် အတွက်မောရှေစီရင် မှာ ထားသောအ
၄၅ လှူကိုလှူတော့ဟုမြစ်တား၍ ချက်ချင်း လွှတ် လိုက်တော်မူ၏။ ထိုသူ
သည်ထွက်သွား၍စကားများသောအားဖြင့်ထိုအကြောင်းကိုအနှံ့အ
ပြားကျော်စောစေ၏။ထိုကြောင့်ကိုယ်တော်သည်နောက်တဖန်မြို့ထဲ
သို့ထင်ရှား စွာမဝင်ရ။မြို့ပြင်။တောအရပ် ၌သာနေတော် မူ ၍ အရပ်
၁ ရပ်တို့မှအထံတော်သို့ရောက်လာကြ၏။ ။နောက်တနေ့သ၌
ကိုယ်တော်သည် ကပေရနောင် မြို့သို့ဝင်ပြန် ၍အိမ်၌ ရှိတော် မူသည်
၂ ကိုကြားကြလျှင် တံခါးပြင်နားမှာနေစရာမရှိအောင်လူအများတို့
သည်အလျှင်အမြန်စုဝေးကြသည်ဖြစ်၍သူတို့အား တရားဟောတော်
၃ မူ၏။ ထိုအခါ လက် ခြေသေသော သူ တယောက် ကိုလူလေး ယောက်
၄ ထမ်း၍အထံတော်သို့ဆောင်ခဲ့ကြ၏။ လူစုဝေးလျက် ရှိသော့ကြောင့်
ကိုယ်တော်ရင်းသို့မချည်းကပ်နိုင် သဖြင့်ကိုယ်တော်ရှိရာအပေါ်မှာ
၅ အမိုးကိုဖောက်ထွင်းပြီးမှလူနာအိပ်ရာခတင်ကိုလျှော့ချကြ၏။ ယေ
ရှုသည် ထိုသူတို့၏ ယုံကြည် ခြင်း ကိုမြင် လျှင် လက် ခြေသေသောသူ
၆။၇ အားငါသား။သင်၏ အပြစ် လွှတ်ခဲ့ပြီး ဟုမိန့်တော်မူ၏။ ထိုအရပ်၌
ထိုင်နေသောကျမ်းပြုဆရာအချို့တို့က၍သူသည် ဤမျှလောက်ဘုရား
ကိုပြစ်မှား သောစကားပြောသည်အမှုအဘယ်သို့နည်း။ ဘုရားသ
ခင်မှတပါးအဘယ်သူသည်အပြစ်ကိုလွှတ်နိုင်သနည်းဟုစိတ်ထဲ၌အ
၈ ကြံရှိကြ၏။ သူတို့စိတ်ထဲမှာထိုသို့သောအကြံရှိသည်ကိုယေရှုသည်

မိမိစိတ် နှစ် လုံး ထဲ ၌ ချက် ချင်း သိတော်မူလျှင် သင် တို့စိတ်ထဲ မှာအ
၉ ဘယ်ကြောင့် ဤ သို့ကြံစည် ကြသနည်း။ လက်ခြေသေသောသူအား
ဘယ်သင်းသာ ၍ ပြော လွယ် သနည်း။ သင် ၏ အပြစ် လွှတ် ခဲ့ ပြီး ဟု
ပြောလွယ်သလော။ သင်ထတော့။ ကိုယ်အိပ်ရာကိုဆောင်၍လှမ်းသွား
၁၀ တော့ဟုပြောလွယ် သလော။ လူသား သည် မြေ ကြီး ပေါ်မှာအပြစ်
၁၁ လွှတ်ပိုင်သည်ကိုသင်တို့သိစေခြင်းငှါထတော့။ ကိုယ်အိပ်ရာကိုဆော
င်၍ကိုယ်အိမ် သို့သွားတော့ဟုသင် အား ငါဆိုသည်ဟုလက် ခြေသေ
၁၂ သောသူအားမိန့် တော်မူ၏။ ထိုသူလည်း ချက်ချင်း ထ၍ အိပ်ရာကို
ဆောင် လျက် လူအပေါင်း တို့ရှေ့ မှာ ထွက်သွား ၏။ ထို လူအပေါင်း တို့
သည်မိန်းမောတွေဝေခြင်းရှိ၍ ဤကဲ့သို့တခါမျှမတွေ့မြင် စဖူးဟုပြော
ဆို၍ဘုရားသခင်ဂုဏ်တော်ကိုချီးမွမ်းကြ၏။

**

၁၃ နောက်တဖန်အိုင်နားသို့ကြွတော်မူ၍လူအစုအဝေးအပေါင်းတို့သည်
အထံတော်သို့လာကြလျှင် သူတို့အား ဆုံးမဩဝါဒပေး တော်မူ၏။
၁၄ လမ်း၌ကြွတော်မူစဉ် အာလဖဲ၏သား လေဝိသည်အ ခွန်ခံရာထဲ၌ထိုင်
နေသည်ကိုမြင်လျှင်ငါနောက်သို့လိုက်လော့ဟုသူကိုမိန့် တော်မူ၏။
၁၅ သူသည် လည်း ထ၍ နောက် တော်သို့လိုက် လေ၏။ ထိုနောက် မှာ သူ၏
အိမ်တွင်စား ပွဲ ၌ထိုင် နေတော် မူစဉ် နောက် တော် သို့လိုက် သောအ
ခွန်ခံသူ။ ဆိုးသူအများတို့သည်ယေရှုနှင့်တပည့်တော်တို့နှင့်တကွစား
၁၆ ပွဲ၌ထိုင်နေကြ၏။ ထိုသို့အ ခွန်ခံသူ။ ဆိုး သူတို့ နှင့်အတူစား တော်မူ
သည်ကိုကျမ်း ပြုဆရာ။ ဖာရိ ရှဲလူတို့သည် မြင် လျှင် သူသည် အ ခွန် ခံ
သူ။ ဆိုးသူတို့ နှင့်အတူအဘယ်ကြောင့်စား သောက်သနည်းဟုတပည့်
၁၇ တော်တို့အားဆိုကြ၏။ ယေရှုသည်ကြားတော်မူလျှင်ကျန်းမာသော
သူတို့သည်ဆေးသမားကိုအလိုမရှိ။ နာသောသူတို့သာလျှင်ဆေးသ
မားကိုအလိုရှိ၏။ ဖြောင့်မတ်သော သူတို့ကိုခေါ်ရအောင်ငါလာသည်
မဟုတ်။ ဆိုး သော သူတို့ကိုခေါ် ရအောင် ငါလာသတည်း ဟုမိန့် တော်
၁၈ မူ၏။ ။အစားရှောင်တတ်သော ယောဟန်၏တပည့်တို့နှင့်
ဖာရိ ရှဲ လူတို့သည်လာ၍ယောဟန်၏ တပည့်တို့နှင့်ဖာရိရှဲလူတို့သည်
အစားရှောင်ကြသည် ဖြစ်၍အဘယ်ကြောင့်ကိုယ်တော်၏တပည့်တို့
၁၉ သည်အစားမရှောင်ဘဲနေသနည်းဟုလျှောက်ကြ၏။ ယေရှုကလည်း
မင်္ဂလာဆောင် လုလင်သည် မိမိအပေါင်း အဖော်တို့ နှင့် အတူ ရှိစဉ်

တွင်သူတို့သည်အစားရှောင်တတ်သလော။ ရှိစဉ်ကာလပတ်လုံးအ
၂၀ စားမရှောင်တတ်။ မင်္ဂလာဆောင်လုလင်သည်မိမိအပေါင်းအဖော်
တို့နှင့်ခွာ၍ယူသွားသောအချိန် ကာလရောက်လိမ့်မည်။ထိုကာလအ
၂၁ ခါသူတို့သည်အစားရှောင်ကြလိမ့်မည်။ အဝတ်ဟောင်းကိုအထည်
သစ်နှင့်ဖာလေ့မရှိ။ထိုသို့ဖာလျှင်ဖာသောအထည် သစ်သည်အဝတ်
၂၂ ဟောင်းကိုစား၍အပေါက်သာ၍ကျယ်တတ်၏။ ဍဂ်နှည်း။ဟောင်း
သောသားရေဘူး၌အသစ်သောစပျစ်ရည် ကိုထည့် လေ့မရှိ။ ထိုသို့
ထည့်လျှင်အသစ်သောစပျစ်ရည်သည်သားရေဘူးကိုပေါက်ကွဲစေသ
ဖြင့်စပျစ်ရည်လည်းယို၍သားရေဘူးလည်းပျက်စီးတတ်၏။အသစ်
သောစပျစ်ရည်ကိုအသစ်သောသားရေဘူး၌ထည့်ရသည်ဟုမိန့်
၂၃ တော်မူ၏။ ။ဥပုသ်နေ့၌ကိုယ်တော်သည်ဂျုံစပါးလယ်ကွက်
နားမှာကြွတော်မူစဉ်တပည့်တော်တို့သည်စပါးအသီးအနှံကိုဆွတ်
၂၄ လျက်ခရီးသွားကြ၏။ ဖာရိရှဲလူတို့လည်းဥပုသ်နေ့၌မပြုအပ်သော
၂၅ အမှုကိုသူတို့သည် ပြုကြသည် တကားဟုလျှောက် လေသော် ကိုယ်
တော်ကဒါဝိဒ်သည် မိမိအဖော်တို့နှင့်တကွဆာမွတ်၍ မခံနိုင်သော
၂၆ အခါ ဘုရားသခင်၏အိမ်တော်၌ယဇ်ပုရောဟိတ်မင်းအဗျာသာဆီ
သို့ဝင်၍ယဇ်ပုရောဟိတ်တို့မှတပါးအဘယ်သူမျှမစားအပ်သော
ရှေ့တော်မုန့်ကိုစား၍မိမိအဖော်တို့အားပေးသည်အကြောင်းကိုသင်
၂၇ တို့သည်တရံတခါမျှမဖတ်ဘူးသလော။ ထိုမှတပါး။ဥပုသ်နေ့သည်
၂၈ လူအဖို့ဖြစ်၏။လူသည် ဥပုသ်နေ့အဖို့ဖြစ်သည်မဟုတ်။ သို့ဖြစ်၍
လူသားသည်ဥပုသ်နေ့၏အရှင်ဖြစ်သည်ဟုမိန့်တော်မူ၏။ ။
၁ တရားဇရပ်သို့တဖန်ဝင်တော်မူ၍ထိုဇရပ်၌လက်တဖက်သေသော
၂ သူတယောက်ရှိ၏။ ဥပုသ်နေ့၌သူ၏ရောဂါကိုငြိမ်းစေမည်။မ
ငြိမ်းစေမည်ကိုထိုသူတို့သည်ကိုယ်တော်ကိုတရားတွေ့စရာအ
၃ ကြောင်းရှိရအောင်ချောင်းကြည့်ကြ၏။ ကိုယ်တော်ကလည်းလက်
တဖက်သေသောသူအားအလယ်၌ထတတ်နေတော့ဟုမိန့်တော်မူ
၄ ပြီးမှ ဥပုသ်နေ့၌ကောင်းဖူးပြုအပ်သလော။သူအကျိုးကိုဖျက်ဆီးအပ်
သလော။အသက်ကိုကယ်အပ်သလော။သတ်အပ်သလောဟုပရိသ
၅ တ်တို့အားမေးတော်မူလျှင်သူတို့သည် တိတ်ဆိတ်စွာနေကြ၏။ ထို
အခါအမျက်တော်နှင့်သူတို့ကိုပတ်လည်ကြည့်ရှု၍သူတို့စိတ်နှစ်လုံး
မိုက်သော့ကြောင့်ဝမ်းနည်းတော်မူခြင်းရှိလျက်သင်လက်ကိုဆန့်တော့

ဟုထိုလူအား မိန့်တော်မူ၍ သူသည် လက်ကိုဆန့်လျှင် ပကတိအဖြစ်
၆ သို့ရောက်လေ၏။ ထိုအခါဖာရိရှဲလူတို့သည်ထွက်၍ကိုယ်တော်ကို
အဘယ်သို့ဖျက်ဆီးအံ့နည်းဟုဟေရုဒ်တပည့်တို့နှင့် ချက်ချင်းတိုင်
ပင်ကြ၏။

**

၇ ။ယေရှုသည် တပည့်တော်တို့နှင့်အတူအိုင်နားသို့ပြောင်းကြွတော်မူ
၈ သည် ဖြစ်၍ ဂါလိလဲပြည်။ ယေရုရှလင်မြို့မှစသောယုဒပြည်။ ဧဒုမဲ
ပြည်။ယော်ဒန်မြစ်နားမှလာကြသောလူများအပေါင်းတို့နှင့်တုရုမြို့။
ဇိဒုန်မြို့ပတ်ဝန်းကျင်အရပ်တို့မှလာကြသောလူများအပေါင်းတို့သည်
၉ ပြုတော်မူသမျှကိုကြားလျှင်အထံတော်သို့လာကြ၏။ လူများတို့သည်
ကိုယ်တော်ကိုဝန်းရံ၍မထိခိုက်ရအောင်ကိုယ်တော်အနီးအပါးတွင်
လှေတစင်းအမြဲရှိစေခြင်းငှါတပည့်တော်တို့အားအမိန့်တော်ရှိ၏။
၁၀ အဘယ်ကြောင့်နည်းဟူမူကား။ လူအများတို့အား ချမ်းသာပေးတော်
မူသောကြောင့်ရောဂါဝေဒနာနှိပ်စက်သောသူရှိသမျှတို့သည်ကိုယ်
၁၁ တော်ကိုတို့ရအောင်တွန်းကြ၏။ ညစ်ညူးသောနတ်တို့သည် လည်း
ကိုယ်တော်ကိုမြင်သောအခါပျပ်ဝပ်၍ ကိုယ်တော်သည် ဘုရားသ
၁၂ ခင်၏ သားတော်ဖြစ်တော်မူသည်ဟု ဟစ်ကျော်ကြ၏။ သိတင်း
တော်ကို မပွင့်လင်းစေမည် အကြောင်း။ သူတို့အားကြပ်တည်းစွာ
၁၃ ပညတ်တော်မူ၏။ ။ထိုအခါကိုယ်တော်သည်တောင်ပေါ်
သို့တက်၍အလိုတော်ရှိသောသူတို့ကိုခေါ်တော်မူလျှင်အထံတော်သို့
၁၄ လာကြ၏။ ကိုယ်တော်နှင့်အတူရှိနေစေခြင်းငှါရင်တရားဟောသော
၁၅ အခွင့်။ အနာရောဂါညိမ်းစေ၍နတ်ဆိုးတို့ကိုနှင်ထုတ်သောအခွင့်
နှင့်စေလွှတ်ခြင်းငှါရင်တကျိပ်နှစ်ပါးသောသူတို့ကိုခန့်ထားတော်မူ
၁၆ ၏။ရှိမုန်အားပေတရုအမည်သစ်ကိုပေးတော်မူ၏။ ဇေဗေဒဲ၏ သား
၁၇ ယာကုပ်နှင့် ယောဟန် ညီအစ်ကိုနှစ် ယောက်တို့အားမိုးသံကြိုး
၁၈ သားဟုဆိုလိုသောဗောနေရဂက်အမည်သစ်ကိုပေးတော်မူ၏။ ထို
မှတပါး။အန္ဒြေ။ဖိလိပ္ပု။ ဗာသောလောမဲ။မဿဲ။သောမ။အာလဖဲသား
၁၉ ယာကုပ်။သဒ္ဒဲ။ကာနနိတ်လူရှိမုန်။ ကိုယ်တော်ကိုအပ်နှံသောယုဒရှ
၂၀ ကာရုတ်တို့သည်တကျိပ်နှစ်ပါးအဝင်ဖြစ်သတည်း။ ။ထိုသူ
တို့သည်အိမ်၌ဝင်ကြပြီးလျှင်တဖန်လူများစုဝေး၍ ကိုယ်တော်နှင့်
၂၁ တပည့်တော်တို့သည်အစားမစားနိုင်အောင်ရှိ၏။ ကိုယ်တော်၏အ

ဆွေအမျိုးတို့သည်ကြားလျှင်သူသည်အရူးဖြစ်၏ဟုဆို၍ကိုယ်တော်
၂၂ ကိုဖမ်းဆီးခြင်းငှါထွက်သွားကြ၏။ ယေရုရှလင်မြို့ မှလာသောကျမ်း
ပြုဆရာတို့လည်းသူသည်ဗေလဇေဗုလစွဲ၏။နတ်ဆိုးမင်းကိုအမှီပြု ၍
၂၃ နတ်ဆိုးတို့ကိုနှင်ထုတ်သည်ဟုဆိုကြ၏။ ကိုယ်တော်သည် သူတို့ကို
ခေါ်၍ဥပမာကိုဆောင်တော်မူလျက်စာတန်သည်စာတန်ကိုအဘယ်
၂၄ သို့ နှင်ထုတ် နိုင်သ နည်း။ တိုင်း နိုင်ငံ သည် မိမိ နှင့် မသင့် မတင့်
၂၅ ကွဲပြားလျှင်မတည်နိုင်ရာ။ အိမ်သည်လည်းမိမိနှင့်မသင့်မတင့်ကွဲပြား
၂၆ လျှင်မတည်နိုင်ရာ။ စာတန်သည်မိမိတဖက်မိမိထ၍မိမိနှင့်မသင့်
၂၇ မတင့်ကွဲပြားလျှင်မတည်နိုင်ဘဲဆုံးခြင်းသို့ရောက်လိမ့်မည်။ သူရဲ
ကိုရှေဦး စွာမချည်မနှောင်လျှင် သူ၏အိမ် သို့ဝင်၍သူ ၏ ဥစ္စာကိုအ
ဘယ်သူမျှမလုယူ နိုင်ရာ။သူရဲကိုချည် နှောင်ပြီးလျှင်သူ၏အိမ် ကိုလု
၂၈ ယူ နိုင်၏။ ငါအမှန်ဆိုသည်ကား။ ပြစ်မှားသောအပြစ်အမျိုးမျိုး။ဘု
ရားကိုကဲ့ရဲ့သောအပြစ် အမျိုး မျိုးရှိသမျှတို့နှင့် သွတ်သောအ ခွင့် ကို
၂၉ လူသားတို့သည်ရ နိုင်၏။ သန့်ရှင်းသောဝိညာဉ်တော်ကိုကဲ့ရဲ့သော
သူသည်အပြစ်လွှတ်သောအ ခွင့် ကိုဘယ်ကာလမျှမရ နိုင်။ထာဝရအ
၃၀ ပြစ်ဒဏ်ကိုခံရသောသူ ဖြစ် ပေ၏ဟုမိန့် တော်မူ၏။ အဘယ် ကြော
င့် ဤသို့မိန့် တော်မူသနည်း ဟူမူကား။ကိုယ်တော်ကိုညစ် ညူးသော
၃၁ နတ်စွဲသည်ဟုဆိုကြသတည်း။ ။ထိုအခါမယ်တော်နှင့်ညီတော်
တို့သည် လာ၍ပြင် မှာရပ်လျက် ကိုယ်တော်ဆီသို့ တစုံ တယောက် ကို
၃၂ စေလိုက် ၍ ခေါ် ကြ၏။ ခြံရံလျက်ထိုင် သောလူများ တို့ကမယ် တော်
နှင့်ညီတော်တို့သည်ကိုယ် တော်ကို ရှာလျက်ပြင်မှာ ရှိကြ ၏ဟုလျှော
၃၃ က်လျှင် ငါ့အမိ။ငါ့ညီကားအဘယ်သူနည်းဟုမေးတော်မူသဖြင့်
၃၄ ကိုယ်တော်ကို ခြံရံလျက်ထိုင်သော သူတို့ကိုပတ်လည်ကြည့်ရှု၍ ငါ့အ
၃၅ မိ။ငါ့ညီ တို့ပေတည်း။ ဘုရားသခင်အလိုတော်ကိုဆောင် သောသူ
သည်ငါ့ညီ။ငါ့နှစ်မ။ငါ့အမိဖြစ်သတည်းဟုမိန့်တော်မူ၏။

❋❋

၁ ။နောက် တဖန် အိုင်နားမှာဆုံးမဩဝါဒပေးတော် မူစည် တွင်များစွာ
သောလူအပေါင်းတို့သည်အထံတော်၌စုဝေးကြသော့ကြောင့်အိုင်တွင်
လှေထဲသို့ဝင်၍ထိုင်တော်မူ၏။ပရိသတ်အပေါင်း တို့သည် အိုင်နား၊
၂ ကုန်းပေါ်မှာနေကြ၏။ ထိုအခါဥပမာစကားအားဖြင့်များ စွာသော
၃ ဆုံးမဩဝါဒပေး၍မြွက်ဆိုတော်မူသည်မှာ။ နားထောင်ကြလော့။မျိုး

၄ စေ့ကြဲသောသူသည်မျိုးစေ့ကိုကြဲခြင်းငှါထွက်သွား၏။ အစေ့ကိုကြဲ
သည်တွင်အချို့သောအစေ့တို့သည်လမ်း၌ကျသဖြင့်ငှက်တို့သည်လာ၍
၅ ကောက်စားကြ၏။ အချို့သောအစေ့တို့သည်မြေနည်း၍ကျောက်ပေါ
များသောအရပ်၌ကျသဖြင့် မြေတိမ်သော့ကြောင့်ချက်ချင်းအပင်
၆ ပေါက်သော်လည်း နေထွက်သောအခါပူလောင်သည်ဖြစ်၍အမြစ်မ
၇ စွဲသော့ကြောင့်ညှိုးနွမ်းပျက်စီးခြင်းသို့ရောက်ကြ၏။ အချို့သောအ
စေ့တို့သည်ဆူးပင်တို့တွင်ကျသဖြင့်ဆူးပင်တို့သည် ကြီးပွား၍ညှဉ်း
၈ ဆဲသော့ကြောင့်အသီးမသီးကြ။ အချို့သောအစေ့တို့သည် ကောင်းသော
မြေ၌ကျအဖြင့်အပင်ပေါက်၍ကြီးပွားလျှင်အဆသုံးဆယ် ။အဆ
၉ ခြောက်ဆယ်။အဆတရာပွားများ၍အသီးသီးကြ၏။ ကြားစရာနား
ရှိသောသူမည်သည်ကားကြားပါလေစေဟုမိန့်တော်မူ၏။ ။
၁၀ ဆိတ်ကွယ်ရာအရပ်၌ရှိတော်မူသောအခါတကျိပ်နှစ်ပါးသောသူတို့
၁၁ နှင့်အခြံအရံတော်တို့သည်ထိုဥပမာကိုမေးမြန်းကြလျှင် ကိုယ်တော်
ကဘုရားသခင်နိုင်ငံတော်၏နက်နဲသောအရာကိုသိရအောင်သင်
၁၂ တို့သည်အခွင့်ရပြီး။ပြင်၌ရှိသောထိုသူတို့မူကား အကျင့်ပြောင်း
လဲခြင်း။အပြစ်လွှတ်ခြင်းသို့မရောက်မည်အကြောင်း။ သူတို့သည်မြင်
လျက်ပင်အာရုံမပြုဘဲမြင်စေခြင်းငှါ၎င်ကြားလျက်ပင်အနက်ကိုနား
မလည်ဘဲကြားစေခြင်းငှါ၎င် သူတို့အားဟောသမျှကိုဥပမာအား
၁၃ ဖြင့်သာဟောရ၏။ သင်တို့သည်ဤဥပမာကိုနားမလည်လျှင်ဥပ
၁၄ မာအားလုံးတို့ကိုအဘယ်သို့နားလည်ကြမည်နည်း။ ။မျိုးစေ့
၁၅ ကြဲသောသူသည်တရားစကားကိုကြဲ၏။ တရားစကားကိုလမ်း၌
ကြဲခြင်းအကြောင်းအရာကား။ တရားစကားကိုကြားသည်ရှိသော်
စာတန်သည်ချက်ချင်းလာ၍နှစ်လုံး၌ကြဲသောတရားစကားကိုနှုတ်
၁၆ ယူသည်ဟုဆိုလိုသတည်း။ ကျောက်ပေါသောအရပ်၌ကြဲခြင်းအ
ကြောင်းအရာကား။ တရားစကားကိုကြား၍ဝမ်းမြောက်သောစိတ်
၁၇ နှင့်ချက်ချင်းခံယူသော်လည်း စိတ်နှစ်လုံး၌အမြစ်မစွဲ။ခဏသာတည်
နေသဖြင့်တရားစကားကြောင့် အမှုအခင်းညှဉ်းဆဲခြင်းရောက်
သောအခါချက်ချင်းရွေ့လျော့ဖောက်ပြန်သည်ဟုဆိုလိုသတည်း။
၁၈ ဆူးပင်တို့တွင်ကြဲခြင်းအကြောင်းအရာကား။တရားစကားကိုကြား
၁၉ ၍ လောကီအမှု၌စိုးရိမ်ခြင်း။စည်းစိမ်ဥစ္စာ၏လှည့်စားခြင်း။ ကြွင်း
သောအရာကိုတပ်မက်ခြင်းစိတ်တို့သည်တရားစကားကိုသွှမ်းမိုး

၂၀ ညှဉ်းဆဲသဖြင့်အသီးမသီးသည်ဟုဆိုလိုသတည်း။ ကောင်းသော
မြေ၌ကြဲခြင်းအကြောင်းအရာကား။တရားစကားကိုကြား၍ခံယူသ
ဖြင့် အဆသုံးဆယ်။ အဆခြောက်ဆယ်။ အဆတရာအသီးသီးသည်
၂၁ ဟုဆိုလိုသတည်း။ ။ထိုမှတပါး။ဆီမီးကိုတောင်းဇလား
အောက်။ခုတင်အောက်၌ဖုံးထားရအောင်ယူခဲ့သည်မဟုတ်။ဆီမီးခုံ
၂၂ ပေါ်မှာတင်ထားရအောင်ယူခဲ့သတည်း။ ဆိတ်ကွယ်ရာ၌ရှိသမျှကို
သည်ထင်ရှားလိမ့်မည်။ ဖုံးထားလျက်ရှိသမျှတို့ကို ဖွင့်လင်းလိမ့်
၂၃ မည်။ နားသောသူသည်ကြားစရာနားရှိလျှင်ကြားပါလေစေ။
၂၄ ။ထိုမှတပါး။သင်တို့သည်အဘယ်သို့ကြားနာသည်ကိုသတိပြု
ကြလော့။အကြင်ချိန်တင်းပမာဏနှင့်သင်တို့သည်သူတပါးအားပေး
၂၅ ၏။ထိုပမာဏအတိုင်းကိုယ်ခံရကြမည်။ အကြင်သူသည်ရတတ်၏။
ထိုသူအားပေးဦးမည်။အကြင်သူသည်ဆင်းရဲ၏။ ထိုသူ၌ရှိသမျှကို
၂၆ ပင်နှုတ်လိမ့်မည်။ ။ထိုမှတပါး။လူသည်လယ်၌မျိုးစေ့ကြဲပြီး
၂၇ မှ နောက်တဖန်မိမိမကြည့်မမှတ်။ ညည့်နေ့အိပ်လျက်နိုးလျက်နေ
သော်လည်းအပင်ပေါက်၍ကြီးပွားသကဲ့သို့ဘုရားသခင်နိုင်ငံတော်
၂၈ ဖြစ်၏။ မြေကြီးသည်မိမိအလိုအလျောက်အသီးသီးစေ၍ ရှေ့ဦးစွာ
အညှောက်။ ထိုနောက်အနှံ။ ထိုနောက်အနှံ ထဲမှာ အောင်မာသော
၂၉ ဆံကိုဖြစ်စေတတ်၏။ အသီးမှည့်၍ ရိတ်ချိန်ရောက်သော အခါ
လယ်ရှင်သည်မဆိုင်းမလင့်ဘဲတံစဉ်နှင့်ရိတ်စေတတ်သည်ဟု မိန့်
တော်မူ၏။



၃၀ ။ထိုမှတပါး။ဘုရားသခင်နိုင်ငံတော်ကိုအဘယ်သို့ပုံပြရအံ့နည်း။
၃၁ အဘယ်ဥပမာနှင့်ခိုင်းနှိုင်းရအံ့နည်းဟူမူကား။မုံညင်းစေ့နှင့်တူ၏။
မုံညင်းစေ့သည်မြေ၌စိုက်သောအခါမြေ၌ရှိသောအစေ့တကာထက်
၃၂ ငယ်သော်လည်းစိုက်ပြီးမှအပင်ပေါက်၍မျက်ပင်တကာထက်ကြီးပွား
သဖြင့်မိုဃ်းကောင်းကင်ငှက်တို့သည်အရိပ်ခို၍နားနေလောက်အောင်
ကြီးသောအကိုင်းအခက်တို့ကိုဖြစ်စေသည်ဟုမိန့်တော်မူ၏။ ။
၃၃ ထိုသို့သောဥပမာစကားများအားဖြင့် ကိုယ်တော်သည် ပရိသတ်
၃၄ များနားထောင်နိုင်သည်အတိုင်းတရားဟောတော်မူ၏။ ဥပမာ
ကင်း၍ဟောပြောတော်မမူ။ဆိတ်ကွယ်ရာအရပ်၌ခပ်သိမ်းသောအ
၃၅ ရာတို့ကိုတပည့်တော်တို့အားဖွင့်ပြတော်မူ၏။ ။ထိုနေ့။ည

၃၆ အချိန်၌ကိုယ်တော်ကကမ်းတဖက်သို့ကူးကြစို့ဟုမိန့်တော်မူလျှင် တ
ပည့်တော်တို့သည် လူများဆီကထွက်၍ လှေပေါ်မှာရှိနှင့်သောကိုယ်
၃၇ တော်ပါလျက် သွားကြ၏။ အခြားလှေတို့လည်း ပါသေး၏။ ထိုအခါ
ကြီးစွာသောမိုဃ်း သက်မုန်တိုင်းဖြစ်၍ လှိုင်း တံပိုးသည် လှေကိုလွှမ်း
၃၈ ၍ပြည့်လေ၏။ ကိုယ်တော်သည်ပဲ့၌ခေါင်းအုံးပေါ်မှာကျိန်းစက်၍နေ
တော်မူ၏။တပည့်တော်တို့သည်ကိုယ်တော်ကိုနှိုးပြီးမှအရှင်ဘုရား။
အကျွန်ုပ် တို့သည်ပျက် စီးခြင်း သို့ရောက်သည်ကိုလျစ်လျူသောစိတ်
၃၉ ရှိတော်မူသလောဟု လျှောက် လေသော် ကိုယ် တော် သည် ထလျှင်
တိတ်ဆိတ် ညိမ်ဝပ်စွာနေဟုလေနှင့် ပင်လယ် ကို ဆုမ္မတော်မူသဖြင့်
၄၀ လေသည် ညိမ်၍ အလွန် သာ ရာလေ ၏။ ကိုယ် တော် က လည်း သင်
တို့သည်အဘယ်ကြောင့် ဤ မျှလောက်ကြောက်တတ်သနည်း။ရုံကြည်
၄၁ ခြင်းစိတ်နှင့်အဘယ်သို့ကင်းသနည်းဟုမေးတော်မူလျှင် သူတို့သည်
အလွန်ကြောက်ရွံ့၍ဤ သူကားအဘယ်သူနည်း။လေနှင့်ပင်လယ်သည်
သူ၏စကားကိုနားထောင်ပါသည်တကားဟုအချင်းချင်းပြောဆိုကြ
၅။၂ ၏။ ။အိုင်တဖက်။ဂါဒရပြည်သို့ရောက်ကြ၍ယေရှုသည်
လှေထဲကကြွတော်မူသည် ခဏချင်း တွင် ညစ်ညူး သောနတ်စွဲသော
သူသည် သင်းဂြိုင်း တစပြင်မှထွက်လာ၍ ကိုယ် တော်ကိုဆီး ကြို လေ
၃ ၏။ ထိုသူသည် သင်းဂြိုင်းတစပြင်၌နေတတ်၏။ သူကိုသံကြိုးနှင့်ပင်
၄ အဘယ်သူ မျှချည်၍မနိုင်။ ခြေချင်း။သံကြိုးနှင့်အဖန်များစွာချည်
စမ်သည် ဖြစ်၍ သံကြိုးကိုဆွဲဖြတ်၍ခြေချင်းကိုဖြည် တတ်၏။ သူကို
၅ ယဉ်စေအောင်အဘယ်သူမျှမတတ်နိုင်။ နေ့ညဉ့်မပြတ်သင်းဂြိုင်း
တစပြင်၌ ၎င် တောင်ပေါ် ၌ ၎င် ဟစ် ကျော်လျက် ကျောက် စောင်းနှင့်
၆ ကိုယ်ကိုကိုယ်ရှလျက်နေတတ်၏။ ယေရှုကိုအဝေးကမြင်လျှင်အထံ
၇ တော်သို့ပြေး၍ပျပ်ဝပ်လျက် အမြတ်ဆုံးသောဘုရားသခင်၏သား
တော်ယေရှု။ ကိုယ်တော်သည် အကျွန်ုပ် နှင့်အဘယ်သို့ဆိုင် သနည်း။
အကျွန်ုပ်ကိုညှဉ်းဆဲတော်မမူမည် အကြောင်း။ ဘုရားသခင် ကိုအမှီ
ပြု၍အကျွန်ုပ်တောင်းပန်ပါသည် ဟု ကြီး သောအသံနှင့်အော်ဟစ်၍
၈ လျှောက်လေ၏။ လျှောက်သည်အကြောင်းကား။ညစ်ညူးသောနတ်။
၉ ထိုလူမှထွက်သွားတော့ဟုမိန့်တော်မူခဲ့ပြီး။ ကိုယ်တော်ကလည်းသင်
သည် အဘယ် အမည် ရှိသနည်းဟုမေးတော် မူလျှင်အကျွန်ုပ်အမည်
ကား လေဂေါင် ဖြစ်ပါ၏။အကျွန်ုပ် တို့သည် အများ ဖြစ်ကြ ပါ၏ဟု

၁၀ လျှောက်ပြီးမှ ထိုပြည်ထဲကအချားသို့မနှင်ပါမည်အကြောင်းကြွပ်
၁၁ ကြွပ်တောင်းပန်လေ၏။ ။ထိုအရပ်၌တောင်ပေါ်မှာများစွာသော
၁၂ ဝက်အစုသည်ကျက်စားလျက်ရှိ၏။ နတ်ဆိုးတို့လည်းအကျွန်ုပ်တို့သည်
ထိုဝက်ထဲသို့ဝင်ရပါမည်အကြောင်းအခွင့်ပေးတော်မူပါဟုတောင်း
၁၃ လျှောက်ပြန်လျှင် ယေရှုသည်ချက်ချင်းအခွင့်ပေးတော်မူ၏။ညစ်
ညူးသောနတ်တို့သည် ထွက်၍ဝက်ထဲသို့ဝင်သဖြင့်ဝက်အစုသည်
အိုင်ကမ်စောက်ကိုတဟုံးတည်းပြေးဆင်း၍အိုင်၌အသက်ဆုံးလေ၏။
၁၄ အရေအတွက်အားဖြင့်နှစ်ထောင်လောက်ရှိ၏။ ဝက်ကျောင်းသော
သူတို့သည်ပြေး၍ မြို့ရွာတို့၌သိတင်းကြားပြောလျှင်သူများတို့သည်
၁၅ ထိုအမှုအရာတို့ကိုကြည့်ရှုခြင်းငှါထွက်လာကြ၏။ အထံတော်သို့
ရောက်သောအခါနတ်ဆိုးလေဂေါင်စွဲသောသူသည်အဝတ်ဝတ်၍ပ
ကတိစိတ်နှင့်ထိုင်နေသည်ကိုမြင်လျှင်ကြောက်ရွံ့ခြင်းသို့ရောက်ကြ
၁၆ ၏။ နတ်ဆိုးစွဲသောသူ၌ဖြစ်ပွားသောအမှုနှင့်ဝက်၌ဖြစ်သောအမှုကိုမြင်
သောသူတို့သည်နောက်လာသောသူတို့အားပြန်ကြားပြီးမှ မိမိတို့
၁၇ ပြည်ကထွက်သွားတော်မူမည်အကြောင်းတောင်းလျှောက်ကြ၏။
၁၈ ။လှေထဲသို့ဝင်တော်မူသောအခါနတ်ဆိုးစွဲဘူးသောသူသည်
၁၉ ကိုယ်တော်နှင့်အတူရှိပါမည်အကြောင်းတောင်းပန်သည်ကို ကိုယ်
တော်သည်အခွင့်မပေးဘဲလျက်သင်သည်ကိုယ်အိမ်သို့သွားတော့။
ထာဝရဘုရားသည် သနားခြင်းစိတ်တော်နှင့်အဘယ်မျှလောက်
သောကျေးဇူးကိုသင်၌ပြုတော်မူပြီးသည်ကိုသင်အဆွေအမျိုးတို့
၂၀ အားပြန်ကြားလော့ဟုမိန့်တော်မူလျှင် သူသည်သွား၍ယေရှုသည်
အဘယ်မျှလောက်သောကျေးဇူးပြုတော်မူသည်ကိုဒေကာပေါလိပြည်
တွင်သိတင်းကြားပြောသည်ဖြစ်၍ခပ်သိမ်းသောသူတို့သည်အံ့ဩ
ခြင်းရှိကြ၏။

❋❋

၂၁ ။ယေရှုသည်ကမ်းတဖက်သို့ကူးပြန်၍အိုင်နားမှာရှိတော်မူစဉ်လူ
၂၂ များအပေါင်းတို့သည်အထံတော်သို့စုဝေးကြ၏။ ထိုအခါသင်္ချိုင်းအ
စည်းရှိသောတရားဇရပ်မှူးတယောက်သည်လာ၍ကိုယ်တော်ကိုမြင်
၂၃ လျှင်ခြေတော်ရင်း၌ပျပ်ဝပ်လျက် ကျွန်တော်သမီးငယ်သေလုပါပြီ။
ကြွသော်လည်းကိုယ်တော်ကြွ၍သူကိုကယ်တင်ရအောင်သူအပေါ်၌
လက်တင်တော်မူလျှင်အသက်ရှင်ပါလိမ့်မည် ဟုကြွပ်ကြွပ်တောင်း

၂၄ လျှောက်၏။ ကိုယ်တော်သည်သူနှင့်အတူသွား၍များစွာသောလူ
အပေါင်းတို့သည်ကိုယ်တော်ကိုခြံရံလျက်ထိခိုက်တိုက်မိကြ၏။
၂၅ ။ထိုအခါတဆယ်နှစ်နှစ်ပတ်လုံးသွေးသွန်အနာစွဲသဖြင့် ဆေး
၂၆ သမားများတို့လက်၌အလွန်ခံ၍ဥစ္စာရှိသမျှကုန်သော်လည်းမသက်
သာသည်သာမက အနာတိုးသော မိန်းမတယောက်သည် ယေရှု၏သိ
၂၇ တင်းတော်ကိုကြားသည်ရှိသော် ငါသည်အဝတ်တော်ကိုသာတို့
၂၈ လျှင်ချမ်းသာရမည်ဟုပြောသည်နှင့်လူအစုအဝေးထဲ၌နောက်တော်
၂၉ သို့လာ၍အဝတ်တော်ကိုတို့လေ၏။ ထိုခဏချင်းအသွေးစုဝေးရာ
ခန်းခြောက်သည်ဖြစ်၍ထိုရောဂါနှိပ်စက်ခြင်းနှင့်ကင်းလွတ်သည်
၃၀ ကိုမိမိကိုယ်၌သိလေ၏။ ယေရှုသည်မိမိကိုယ်မှတန်ခိုးထွက်သည်
ကိုချက်ချင်းသိတော်မူလျှင်လူအစုအဝေး၌နောက်သို့လှည့်၍ငါ့အ
၃၁ ဝတ်ကိုအဘယ်သူသည်တို့သနည်းဟုမေးတော်မူ၏။ တပည့်တော်
တို့ကလူအစုအဝေးသည်ကိုယ်တော်ကိုထိခိုက်ကြသည်ကိုမြင်လျက်
ပင်ငါ့ကိုအဘယ်သူသည်တို့သနည်းဟုမေးတော်မူသည်တကားဟု
၃၂ လျှောက်ကြသော်လည်း ကိုယ်တော်သည်ထိုသို့ပြုသောသူကိုမြင်ရ
၃၃ အောင်ပတ်လည်ကြည့်ရှုတော်မူ၏။ ထိုမိန်းမသည်ကိုယ်၌အဘယ်
သို့ဖြစ်သည်ကိုသိသည်ဖြစ်၍ကြောက်ရွံ့တုန်လှုပ်လျက်အထံတော်
သို့လာ၍ပျပ်ဝပ်လျက်ထိုအကြောင်းရှိသမျှကိုအဟုတ်အမှန်လျှောက်
၃၄ လေ၏။ ကိုယ်တော်ကလည်းငါ့သမီး။သင်၏ယုံကြည်ခြင်းသည်သင်
အနာကိုညီမ်းစေပြီး။ ညိမ်ဝပ်စွာသွားတော့။ရောဂါနှိပ်စက်ခြင်း
၃၅ နှင့်ကင်းလွတ်စေဟုမိန့်တော်မူ၏။ ။ထိုသို့မိန့်တော်မူစဉ်ပင်
တရားဇရပ်မှူးအိမ်မှလူလာ၍ကိုယ်တော်၏သမီးသေပါပြီး။အဘယ်
၃၆ ကြောင့်ဆရာကိုနှောင့်ရှက်သေးသနည်းဟုဆိုကြ၏။ ထိုစကားကို
ယေရှုကြားလျှင်မကြောင့်ကြနှင့်။ယုံခြင်းစိတ်တခုသာရှိစေလော့ဟုတ
၃၇ ရားဇရပ်မှူးအားချက်ချင်းမိန့်တော်မူ၏။ ပေတရု။ယာကုပ်။ယာ
ကုပ်၏ညီယောဟန်။ဤသုံးယောက်မှတပါးအဘယ်သူကိုမျှမလိုက်
၃၈ စေဘဲ တရားဇရပ်မှူးအိမ်သို့ရောက်၍အုန်းအုန်းသဲသဲပြုကြသည်ကို
၃၉ ငိုအလွန်ငိုကြွေးမြည်တမ်းသောသူတို့ကိုရင်မြင်တော်မူလျှင် အတွင်း
သို့ဝင်၍သင်တို့သည်အဘယ်ကြောင့်အုန်းအုန်းသဲသဲပြု၍ငိုကြွေး
ကြသနည်း။သူငယ်သေသည်မဟုတ်။အိပ်ပျော်နေသည်ဟုမိန့်တော်
၄၀ မူသည်ကို ထိုသူတို့သည်ပျက်ရယ်ပြုကြ၏။ထိုသူအားလုံးကိုပြင်

သို့ထွက်စေပြီးမှ သူငယ်၏ မိဘတို့ကိုရှင်ကိုယ်တော်နှင့်ပါသောသူ
၄၁ တို့ကို ငှင်ခေါ်သဖြင့် သူငယ်လျောင်းရာအရပ်ဆီသို့ဝင်၍ သူငယ်
လက်ကိုကိုင်တော်မူလျက်တလိသကုမိဟုမိန့်တော်မူ၏။အနက်ကား၊
၄၂ မိမ္ဘငယ်။ထတော့ငါဆို၏ဟုဆိုလိုသတည်း။ ထိုခဏချင်းတွင်မိမ္ဘ
ငယ်ထ၍လှမ်းသွား၏။ သူသည်ဆယ်နှစ်နှစ်အရွယ်ရှိ၏။ထိုသူတို့
၄၃ သည်အလွန်မိန်းမောတွေဝေခြင်းသို့ရောက်ကြ၏။ ထိုအမှုအရာကို
အဘယ်သူမျှမသိမည်အကြောင်း။ထိုသူတို့ကိုကြပ်တည်းစွာပညတ်
တော်မူ၍သူ့အားစားစရာပေးတော့ဟုမိန့်တော်မူ၏။

**

၁ ထိုအရပ်မှကြွ၍တပည့်တော်တို့သည်လိုက်ကြသဖြင့် မိမိမြို့သို့ရော
၂ က်တော်မူ၏။ ဥပုသ်နေ့ရောက်လျှင်တရားဇရပ်၌ဆုမ္ဘြဲဝါဒပေး
တော်မူ၏။ လူအများတို့သည်ကြားနာ၍ မိန်းမောတွေဝေခြင်းရှိသ
ဖြင့် ဤသူသည် ဤအရာတို့ကိုအဘယ်ဆီမှာရသနည်း။ သူရသောပ
ညာကား အဘယ်ပညာနည်း။ ဤမျှလောက်သောတန်ခိုးများကိုအ
၃ သယ်သို့ပြုနိုင်သနည်း။ သူသည်လက်သမားမဟုက်လော။ မာရိ
သားမဟုတ်လော။ယာကုပ်။ ယောသေ။ယုဒ။ရှိမုန်တို့၏ အစ်ကိုမဟု
တ်လော။သူ့နှစ်မများတို့သည်လည်းငါတို့နှင့်အနီးအပါးနေကြသည်
မဟုတ်လောဟုဆိုကြသဖြင့် ကိုယ်တော်ကြောင့်စိတ်ပျက်ကြ၏။
၄ ယေရှုကလည်းပရောဖက်မည်သည်ကားမိမိမြို့။ မိမိအဆွေနေရာ။မိမိ
အိမ်မှတပါးအချားအရပ်၌အသရေရှိသည်ဟုထိုသူတို့အားမိန့်တော်
၅ မူ၏။ မကျန်းမာသောသူအချို့တို့အပေါ်မှာလက်တော်ကိုတင်၍အနာ
ကိုညိမ်းစေခြင်းမှတပါး အဘယ်တန်ခိုးတော်ကိုမျှထိုအရပ်၌ပြု
၆ တော်မမူ။ သူတို့သည် မရုံကြည်ကြသည်ကိုအံ့သြခြင်းရှိတော်မူ
၏။မြို့ရွာများပတ်လည်ဒေသစာရီကြွ၍ဆုမ္ဘြဲဝါဒပေးတော်မူ၏။
၇ ။တကျိပ်နှစ်ပါးသောတပည့်တော်တို့ကိုခေါ်တော်မူပြီးမှညစ်
ညူးသောနတ်တို့ကိုနိုင်သောအခွင့်ပေလျက်နှစ်ယောက်စီနှစ်ယောက်
၈ စီစေလွှတ်တော်မူလျက်သင်တို့သည်တောင်ဝေးတချမှတပါး။လမ်းခရီး
၉ ဘို့ဘာမျှမယူကြနှင့်။လွယ်အိပ်။မုန့်။ခါးပန်းထဲကြေးငွေကိုမယူကြနှ
င့်။ခြေနင်းကိုစီးကြလော့။အင်္ကျီနှစ်ထည်ကိုမဝတ်ကြနှင့်ဟုမှာထားတော်
၁၀ မူ၏။ထိုမှတပါး။သင်တို့သည်မည်သည့်အိမ်သို့ဝင်လျှင်ထိုအိမ်တွင်ထို
၁၁ အရပ်မှထွက်မသွားမှီတိုင်အောင်နေကြလော့။ အကြင်သူတို့သည်သင်

တို့ကိုလက်မခံ။သင်တို့စကားကိုနားမထောင်ဘဲနေ၏။ထိုသူတို့နေရာ
အရပ်မှထွက်သွားစဉ်သူတို့တဖက်သက်သေဖြစ်ရအောင်သင်တို့၏
၁၂ ခြေဖဝါးမှခြေမှုန့်ကိုခါလိုက်ကြလော့ဟုမိန့်တော်မူ၏။တပည့်တော်တို့
သည်ထွက်သွား၍လူများနောင်တရရမည်ဟုတရားဟောကြ၏။
၁၃ နတ်ဆိုးအများကိုနှင်ထုတ်ကြ၏။မကျန်းမာသောသူအများတို့ကိုဆီ
၁၄ နှင့်လူး၍အနာကိုညီမ်းစေကြ၏။ ။ထိုအခါသိတင်းတော်ကျော်
စောသည်ဖြစ်၍ဟေရုဒ်မင်းကြီးသည်ကြားလျှင်ဗတ္တိဇံဆရာယောဟန်
သောယောဟန်သည် သေခြင်းမှထမြောက်ခဲ့ပြီ။ထိုကြောင့် တန်ခိုး
၁၅ များကိုပြနိုင်သည်ဟုဆို၏။ လူအချို့က၎င်းသူသည် ဧလိယဖြစ်သည်
ဟုဆိုကြ၏။အချို့ကရှေးပရောဖက်ကဲ့သို့ပရောဖက် ဖြစ်သည်ဟုဆို
၁၆ ကြ၏။ ဟေရုဒ်မင်းကြား လျှင် ၎င်းသူကားငါအမိန့်နှင့်လည်ပင်းဖြတ်
သောယောဟန်ဖြစ်သည်။သေခြင်းမှထမြောက်ခဲ့ပြီဟုဆိုလေ၏။
၁၇ အထက်ကဟေရုဒ်သည် မိမိ ညီဖိလိပ္ပု၏ ခင်ပွန်းဟေရောဒိကိုသိမ်း
ယူသဖြင့်ထိုမိန်းမ အကြောင်းကြောင့် စေလိုက်၍ ယောဟန် ကိုဖမ်းဆီး
၁၈ ပြီးလျှင်ထောင်ထဲမှာချည်နှောင်လေ၏။အဘယ်ကြောင့်နည်းဟူမူကား။
ယောဟန် က သင် မင်း ကြီးသည် ညီတော် ၏ ခင်ပွန်းကိုမသိမ်းအပ်
၁၉ ဟု ဟေရုဒ် မင်း အား ဆို လေ ပြီး။ ထို ကြောင့် ဟေရောဒိသည် ယော
၂၀ ဟန်ကိုရန်ငြိုးဖွဲ့သဖြင့်သတ်ခြင်းငှါအလိုရှိ၏။ သို့သော်လည်းယော
ဟန်သည် ဖြောင့်မတ် သန့်ရှင်း သော သူဖြစ် ကြောင်းကို ဟေရုဒ် မင်း
သိ ၍ သူကိုကြောက်ရွံ့ရိုသေ၏။အသက် ကိုလည်း စောင့် မ၏။အမှုအ
ရာများတို့၌ သူ၏ စကားကိုနားထောင် ၍ ဝမ်း မြောက် သောစိတ် နှင့်
လည်းနားထောင်တတ်သည်ဖြစ်သော့ကြောင့်မိန်းမသည်အခွင့်မရနိုင်။
၂၁ ။ ထိုနောက်မှာအဆင်သင့်သောအခါဟေရုဒ်မင်း ဖွား
သောနေ့ရက် ၌နှစ်စဉ် ပွဲကိုခံ၍ မှူးမတ်။စစ်သူကြီး၊ ဂါလိလဲပြည် ၌
၂၂ ထင်ရှားသောသူတို့ကိုကျွေးတော်မူစဉ်တွင် ဟေရောဒိသမီးသည်
ဝင် ၍ ကသဖြင့် ဟေရုဒ် မင်း မှစ ၍ အပေါင်း အဖော် တို့အားနှူး ညွတ်
သောစိတ် ကိုဖြစ်စေ၏။ထို အခါမင်း ကြီးကသင် သည် အလို ရှိတိုင်း
၂၃ တောင်း ၍ ငါပေး မည် ဟုထို မိန်းမငယ် အား ဆို လေ ၏။ တဖန် လည်း
သင် တောင်းသမျှကို ငါနိုင်ငံတဝက်တိုင် အောင်ငါပေးမည် ဟုကျိန်
၂၄ ဆိုလေ၏။ ထိုမိန်းမငယ် သည်ထွက် ၍ ဘာကို တောင်း ရမည် နည်းဟု
မိမိအမိကိုမေးလျှင်အမိကဗတ္တိဇံဆရာယောဟန်၏ဦးခေါင်း

၂၅ ကိုတောင်းတော့ဟုပြန်ဆိုလေသော် ချက်ချင်းမိဖ္ဖုရားယယ်သည်မင်း
ကြီးထံသို့အလျင်တဆောဝင်၍ရေနစ်မင်္ဂလာဆရာ ယောဟန်၏ဦ
ခေါင်းကိုဤလင်ပန်း၌အသော့ပေးတော်မူစေခြင်းငှါကျွန်မအလိုရှိ
၂၆ ပါသည်ဟုတောင်းလျှောက်၏။ မင်းကြီးသည်အလွန်ဝမ်းနည်းခြင်း
ရှိသော်လည်းကျိန်ဆိုခြင်းကိုရင်အပေါင်းအဖော်တို့၏မျက်နှာကိုရင်
၂၇ ထောက်လျှင်ထိုမိဖ္ဖုကိုမငြင်းပယ်လို၍ ဦခေါင်းကိုယူခဲ့ဟုအမိန့်
တော်ရှိလျက်လူစောင့်တယောက်ကိုချက်ချင်းစေလိုက်သည်နှင့်လူ
စောင့်သည်သွား၍ယောဟန်လည်ပင်းကိုထောင်ထဲမှာဖြတ်လေ၏။
၂၈ ဦခေါင်းကိုလင်ပန်း၌ဆောင်ခဲ့၍ထိုမိဖ္ဖုယယ်အားပေးပြီးမှသူသည်
၂၉ မိမိအမိအားလည်းပေးလေ၏။ ယောဟန်တပည့်တို့သည်လည်း
ကြားလျှင်လာ၍အလောင်းကိုထမ်းသွားသဖြင့်သင်းဂြိုင်းတွင်း၌
ထားကြ၏။

**

၃၀ တမန်တော်တို့သည်ယေရှုထံတော်၌စုဝေး၍မိမိတို့ပြုသမျှ။ သွန်သင်
၃၁ သမျှတို့ကိုကြားလျှောက်ကြ၏။ ကိုယ်တော်ကလည်းတောခ၌ဆိတ်ကွယ်
ရာအရပ်သို့လာကြ။ ခဏအားဖြည့်၍ညိမ်နေကြဟုမိန့်တော်မူ၏။ အ
ဘယ်ကြောင့်နည်းဟူမူကား။ လူအများသွားလာကြသဖြင့်တမန်တော်
၃၂ တို့သည်အစားစားခြင်းငှါမျှမအားနိုင်။ ထိုကြောင့်လှေကိုစီး၍တော
၃၃ ၌ဆိတ်ကွယ်ရာအရပ်သို့သွားကြ၏။ သွားကြသည်ကိုလူအများတို့
သည်မြင်၍ကိုယ်တော်ဖြစ်မှန်းကိုသိသောအခါမြို့ ရွာအားလုံးတို့မှ
ထွက်၍ထိုအရပ်သို့ကုန်းကြောင်းပြေးသွားသဖြင့်တမန်တော်တို့အ
၃၄ ရင်ရောက်၍အထံတော်၌စုဝေးကြ၏။ ကိုယ်တော်သည်ထွက်ကြွ၍လူ
များအပေါင်းတို့ကိုတွေ့မြင်တော်မူလျှင်ထိုသူတို့သည်ထိန်းသူမရှိ။
ဖြစ်ထားသောသိုးကဲ့သို့ဖြစ်ကြသည်ကိုသနားခြင်းစိတ်တော်ရှိသ
၃၅ ဖြင့်များများဆုမ္ဘြဩဝါဒပေးတော်မူ၏။ ။မိုဃ်းချုပ်သော
အခါတပည့်တော်တို့သည်ချဉ်းကပ်လျက်ဤအရပ်သည်တောအရပ်
၃၆ ဖြစ်ပါ၏။ မိုဃ်းလည်းချုပ်ခဲ့ပြီ။ လူများတို့သည်ပတ်ဝန်းကျင်ရွာဇနီ
ပဒ်တို့သို့သွား၍စားစရာကိုဝယ်ရအောင်အခွင့်ပေးတော်မူပါ။ သူတို့
၃၇ ၌စားစရာမရှိပါဟုလျှောက်ကြလျှင် ကိုယ်တော်ကသင်တို့သည်သူ
တို့စားစရာတို့ပေးကြတော့ဟုပြန်ပြောတော်မူ၏။ တပည့်တော်တို့
လည်းအကျွန်ုပ်တို့သည်သွားသဖြင့်ဒေနာရိအများနှစ်ရာနှင့်မုန့်ကို

၃၈ ဝယ်၍သူတို့စားစရာအတွက်ပေးရပါအံ့လောဟုလျှောက်ကြ၏။ ကိုယ်
တော်ကလည်းသင်တို့၌မုန့်ဘယ်နှစ်လုံးရှိသနည်း။သွား၍ကြည့်ကြ
ဟုမိန့်တော်မူသည်အတိုင်း သူတို့သည် သိပြီး မှမုန့်ငါးလုံးနှင့်ငါးနှစ်
၃၉ ကောင်ရှိပါသည်ဟုလျှောက်ပြန်၏။ ထိုအခါလူအားလုံးတို့ကိုမြက်
၄၀ စိမ်းပေါ်မှာအစုစုထိုင်နေစေဟုအမိန့်တော်ရှိ၍သူတို့သည်တရာတစု။
၄၁ ငါးဆယ်တစု။အစုစုထိုင်နေကြလျှင် ကိုယ်တော်သည်မုန့်ငါးလုံးနှင့်
ငါးနှစ်ကောင်ကိုယူ၍ကောင်းကင်သို့ကြည့်၍ မျှော်လျက်ကျေးဇူးတော်
ကိုချီးမွမ်းပြီးမှမုန့်ကိုဖဲ့၍လူများတို့ရှေ့၌ထည့်စေခြင်းငှါတပည့်တော်
တို့အားပေးတော်မူ၏။ငါးနှစ်ကောင်ကိုလည်းလူအားလုံးတို့အားဝေ
၄၂ ဖန်တော်မူ၏။ လူအားလုံးတို့သည်စား၍ဝကြသောအခါ မုန့်နှင့်
၄၃ ငါးအကျိုးအပဲ့ဆယ်နှစ်တောင်းအပြည့်ကောက်သိမ်းကြ၏။ မုန့်ကို
၄၄ စား သော သူ ယောကျ်ား အ ရေ အ တွက် ကား လူ ငါး ထောင် မျှ ရှိ သ
၄၅ တည်း။ ။ထိုလူအပေါင်းကိုလွှတ်တော်မူစည်တွင် တပည့်
တော်တို့ကိုလှေစီးစေ၍ ကမ်းတဖက် ဗက်ဇဲဒမြို့သို့အရင်ကူးစေတော်
၄၆ မူ၏။ လူအပေါင်းကိုလွှတ်ပြီးမှဆုတောင်းပဋ္ဌနာပြုလိုသောငှါတော
၄၇ င်ပေါ်သို့ကြွတော်မူ၏။ ညအချိန်ရောက်သောအခါလှေသည်ကား
အိုင်အလယ်၌ရှိ၏။ ကိုယ်တော်သည် ကားကုန်း ပေါ်မှာ တသောက်
၄၈ တည်းရှိနေတော်မူ၏။ လေမသင့်သဖြင့်တပည့်တော်တို့သည်တက်
ခတ်၍ပင်ပန်းကြသည်ကိုမြင်တော်မူ၏။ညသုံးချက်တီးအချိန်၌အိုင်
ပေါ်မှာစက်တော်ဖြန့်လျက် သူတို့ဆီသို့ ကြွ ၍ အနားမှာရှောက်သွား
၄၉ မည်ပြုတော်မူ၏။ ထိုသို့အိုင်ပေါ်မှာစက်တော်ဖြန့်၍ကြွတော်မူသည်ကို
သူတို့သည်မြင်လျှင်ဖုတ်စဆေ့ဖြစ်သည်ဟုစိတ်ထင်နှင့်အော်ဟစ်ကြ၏။
၅၀ ထိုလူအားလုံးတို့သည်ကိုယ်တော်ကိုမြင်၍ထိတ်လန့်ခြင်းသို့ရောက်ကြ
၏။ကိုယ်တော်သည်ချက်ချင်းနှုတ်တော်မြွက်၍တည်ကြည် သောစိတ်ရှိ
၅၁ ကြလော့။ငါပင်ဖြစ်သည်။မကြောက်လန့်ကြနှင့်ဟုမိန့်တော်မူ၏။ လှေ
ပေါ်၌သူတို့ဆီသို့တက်တော်မူလျှင်လေသည်ညိမ်လေ၏။ထိုသူတို့သည်
၅၂ အတိုင်းထက်အလွန်မိန်းမောတွေဝေအံ့ဩခြင်းသို့ရောက်ကြ၏။ အ
ဘယ်ကြောင့်နည်းဟူမူကား။သူတို့စိတ်နှစ်လုံးမိုက်သည်ဖြစ်၍မုန့်၌ပြ
၅၃ သောတန်ခိုးတော်ကိုမမှတ်မိကြ။ ။ကမ်းတဖက်သို့ကူးပြီးလျှင်
၅၄ ဂနေ်သရက်အရပ်သို့ရောက်၍လှေကိုဆိုက်ကြ၏။ လှေမှဆင်းကြသော်
၅၅ အခါလူများတို့သည်မျက်နှာတော်ကိုချက်ချင်းမှတ်မိလျှင် ပတ်ဝန်း

ကျင်အရပ်အားလုံးတို့၌ပြေးသွားသဖြင့်မည်သောအရပ်၌ ရှိတော်မူ
သည်ဟုကြားလျှင်ထိုအရပ်သို့လူနာများ ကို အိပ်ရာ နှင့် ဆောင်ခဲ့
၅၆ ကြ၏။ မြို့ရွာဇနပုဒ်သို့ရောက်တော်မူရာ၌မကျန်းမာသောသူတို့ကို
လမ်းခရီးမှာထား၍အဝတ်တော်စွန်း ကိုမျှတို့ရအောင်အခွင့်တောင်း
ပန်ကြ၏။တို့သမျှသောသူတို့သည်လည်းချမ်းသာရကြ၏။



၁ ။ထိုအခါဖာရိရှဲလူတို့နှင့်ယေရုရှလင်မြို့မှရောက်လာသောကျမ်းပြုဆ
၂ ရာအချို့တို့သည် အထံတော်၌စုဝေး၍ တပည့်တော်အချို့တို့သည်
ညစ်ညူးသောလက် တည်း ဟူသောမဆေး သောလက်နှင့် အစားစား
၃ သည်ကိုမြင်လျှင်အပြစ်တင်ကြ၏။ အဘယ်ကြောင့်နည်းဟူမူကား။
ရှေးလူဟောင်းတို့မှဆက်ခံသောနည်းဥပဒေသကိုခံယူသော် ဖာရိရှဲလူ
မှစ၍ယုဒလူအားလုံးတို့သည် လက်ဆုပ်မဆေး ဘဲအစားစားလေ့မရှိ။
၄ ဈေးမှပြန်လာသောအခါ လည်းရေ ၌လက်မနှစ် ဘဲ စားလေ့ မ ရှိ။
ထိုမှတပါး။ ခွက်။ဖလား။ ကြေးဝါပုကံ။ ခုတင်တို့ကိုရေ၌နှစ်ခြင်းမှစ
၅ ၍အချားသောထုံး တမ်းအများကိုခံယူ၍ ကျင့်လေ့ရှိ၏။ ထိုအခါဖာ
ရိရှဲလူ။ကျမ်း ပြုဆရာတို့ကရှေးလူဟောင်း တို့မှဆက်ခံသောနည်းဥပ
ဒေသကိုကိုယ်တော်၏ တပည့်တို့သည်မကျင့်ဘဲလျက်အဘယ်ကြော
င့်ညစ်ညူးသောလက်နှင့်အစားစား သနည်း ဟုမေးလျှောက်ကြလျှင်
၆ ကိုယ်တော်ကကျမ်းစာလာသည်အတိုင်း ဟေရှာယသည်လျှို့ဝှက်သော
သင်တို့ကိုရည်စောင်လျက်။ ဤလူမျိုးသည် နှုတ်ခမ်းနှင့်ငါ့ကိုရိုသေချီး
၇ မွမ်း၏။စိတ်နှစ်လုံးမူကားငါနှင့်ဝေးလှ၏။ လူတို့စီရင်သောပညတ်
တို့ကိုသာသွန်သင်ဟောပြောလျက်ပင်ငါ့ကိုအချည်းနှီးကိုးကွယ်ကြ
၏ဟုခေါက်ဖြစ်လတ့ံသောအရာကိုလျှောက်ပတ်စွာဟောခဲ့ပြီး။
၈ အဘယ်ကြောင့်နည်းဟူမူကား။သင်တို့သည်ဘုရားသခင်၏ပညတ်
တော်ကိုပယ်လျက် လူတို့မှဆက်ခံသောနည်း ဥပဒေသကို ခံယူသဖြင့်
ခွက် ဖလားတို့ကိုရေ ၌နှစ် ခြင်းမှစ၍ ထိုသို့သောအချားထုံး တမ်း အ
၉ များတို့ကိုကျင့်လေ့ရှိကြ၏။ သင်တို့အဆက်ဆက်သောနည်းဥပဒေ
သကိုကျင့် သောအ ခွင့်ရှိရ အောင် သင်တို့သည် ဘုရားသခင်၏ ပ
၁၀ ညတ်တော်ကိုလျှောက်ပတ်စွာပယ်ကြသည်တကား။ မောရှေပညတ်
ကားမိဘတို့ကိုရိုသေစွာကျင့် လော့။အကြင်သူသည်မိဘကို နှုတ်ဖြင့်
ပြစ်မှား၏။ထိုသူသည်အသေသတ်ခြင်းကိုခံစေဟုလာသတည်း။

၁၁ သင်တို့မူကား အကြင်သူသည် မိမိမိဘကိုသင်တို့အသုံးရနိုင်သမျှ
သောဝါ၏ ဥစ္စာသည် အလှူဝတ္ထုတည်းဟူသောကော်ဘန်ဖြစ်စေဟု
၁၂ ဆို၏။ ထိုသူသည် မိဘဝတ်ကိုအလျှင်းမပြုရဟုမြစ်တား၍မိမိအ
၁၃ ဆက်ဆက်သောနည်း၊ဥပဒေသအားဖြင့်ဘုရားသခင်နှုတ်ကပတ်
တော်ကိုပယ်ကြ၏။ထိုသို့သောအကျင့်အများတို့ကိုသင်တို့သည်ကျင့်
၁၄ လေ့ရှိကြသည်ဟုမိန့်တော်မူ၏။ ။ထိုအခါလူအစုအဝေးအားလုံး
ကိုအထံတော်သို့ခေါ်၍သင်တို့အားလုံး။နားထောင်နားလည်ကြလော့။
၁၅ လူပြင်မှလာ၍လူအတွင်းသို့ဝင်သဖြင့်လူကိုညစ်ညူးစေနိုင်သောအ
ရာတစုံတခုမျှမရှိ။လူအတွင်းမှထွက်သောအရာသည်လူကိုညစ်ညူး
၁၆ စေသောအရာဖြစ်၏။ မည်သောသူသည်ကြားစရာနားရှိလျှင်
၁၇ ကြားပါလေစေဟုမိန့်တော်မူ၏။ လူအစုအဝေးဆီမှကြွ၍အိမ်သို့ဝင်
တော်မူပြီးလျှင်တပည့်တော်တို့သည်ထိုဥပမာကိုမေးမြန်းကြ၏။
၁၈ ကိုယ်တော်ကလည်းသင်တို့သည်ဤမျှလောက်ပညာမဲ့နေသလော။လူပြ
၁၉ င်မှလာ၍လူအတွင်းသို့ဝင်သမျှတို့သည်နှစ်လုံးထဲသို့မဝင်။ဝမ်းထဲသို့
ဝင်၍အစါးအါးလုံးကိုသန့်ရှင်းစေသဖြင့်ရေအိမ်တွင်ဆင်းသွားသော့
၂၀ ကြောင့်လူကိုမညစ်ညူးစေနိုင်သည်ကိုနားမလည်ကြသလော။ လူအ
တွင်းမှထွက်သောအရာကားလူကိုညစ်ညူးစေသောအရာဖြစ်ပေ၏။
၂၁ လူအတွင်း။နှစ်လုံးထဲကမကောင်းသောကြံစည်ခြင်း။သူမယားကိုပြစ်
၂၂ မှားခြင်း။မိမ္မလွတ်နှင့်မှားရွင်းခြင်း။လူအသက်ကိုသတ်ခြင်း။ သူဥ
စ္စာကိုခိုးခြင်း။ လောဘလွန်ကျူးခြင်း။ မနာလိုခြင်း။ လှည့်စားခြင်း။
ညစ်ညူးခြင်း။ညူရူခြင်း။သူအသရေကိုဖျက်ခြင်း။ ထောင်လွှားစော်
၂၃ ကားခြင်း။သျှပ်ပေါ်ခြင်း။ ဤဆိုးညစ်သောအရာများတို့သည် အ
တွင်းမှထွက်လာ၍လူကိုညစ်ညူးစေသည်ဟုမိန့်တော်မူ၏။

❋❋

၁၄ ထိုအရပ်မှကိုယ်တော်သည်ထ၍ တုရုမြို့နှင့်ဇိဒုန်မြို့၏ကျေးလက်သို့
ကြွတော်မူလျှင်အိမ်၌ဝင်၍ အဘယ်သူမျှမသိစေခြင်း ငှါအလိုတော်
၂၅ ရှိသော်လည်းပုန်း၍နေတော်မမူနိုင်။ အဘယ်ကြောင့်နည်းဟူမူကား။
ညစ်ညူးသောနတ်စွဲသောမိမ္မငယ်၏အမိသည်သိတင်းတော်ကို
၂၆ ကြားသဖြင့်လာ၍ခြေတော်ရင်း၌ပျပ်ဝပ်လျက် မိမိသမီးထဲမှနတ်
ဆိုးကိုနှင်ထုတ်တော်မူမည်အကြောင်းတောင်းလျှောက်၏။ထိုမိမ္မ
၂၇ ကားဟေလသအမျိုး။ရှုရိဖိနိတ်ပြည်သားဖြစ်သတည်း။ ယေရှုက

လည်းရှေဦးစွာသားများကိုဝအောင်ကျွေးပါရစေ။သား၏အစား
၂၈ ကိုယူ၍ခွေးအားမပေးမချအပ်ဟုမိန့်တော်မူလျှင် မိမ္ဓကမှန်ပါ၏
သခင်။ခွေးမူကားစားပွဲအောက်၌သားတို့စားနုပ်စားပေါက်ကိုစား
၂၉ မြဲထုံးစံရှိပါသည်ဟုပြန်၍လျှောက်သည်ကို ကိုယ်တော်ကထိုစကား
ကြောင့်သင်သွားတော့။နတ်ဆိုးသည်သင်သမီးထဲမှထွက်သွားပြီး
၃၀ ဟုမိန့်တော်မူ၏။ ထိုမိမ္ဓသည်မိမိအိမ်သို့ပြန်၍နတ်ဆိုးထွက်သွား
သည်ကိုဎင်သမီးသည်အိပ်ရာ၌အိပ်နေသည်ကိုဎင်တွေ့၏။
၃၁ ။တဖန်ကိုယ်တော်သည်တုရုမြို့နှင့်ဇိဒုန်မြို့၏ကျေးလက်မှထွက်၍ဒေ
ကာပေါလိပြည်နယ်ကိုရှောက်သွားသဖြင့်ဂါလိလဲအိုင်သို့ရောက်
၃၂ တော်မူ၏။ ထိုအခါနားပင်း၍စကားအသောသူတယောက်ကိုအထံ
တော်သို့ဆောင်ခဲ့၍သူ့အပေါ်မှာလက်တော်ကိုတင်ပါမည်အကြောင်း
၃၃ တောင်းပန်ကြ၏။ ကိုယ်တော်သည်ထိုသူကိုလူအစုအဝေးဆီမှဆိတ်
ကွယ်ရာအရပ်သို့ခေါ်သွားပြီးမှလက်ညှိုးတော်ကိုသူ၏နားပေါက်၌
၃၄ သွင်း၍တံတွေးထွေးလျှင်သူ၏လျှာကိုတို့တော်မူ၏။ ထိုနောက်
ကောင်းကင်သို့ကြည့်မျှော်၍ညည်းတွားသံကိုပြုလျက်ဧဖသဟုမိန့်
၃၅ တော်မူ၏။အနက်ကားပွင့်စေဟုဆိုလိုသတည်း။ ထိုခဏချင်းသူ၏
နားသည်ပွင့်၍လျှာ၏နှိုင်မာခြင်းပျောက်သဖြင့်စကားပြီပြီပြော
၃၆ နိုင်၏။ ထိုအကြောင်းကိုအဘယ်သူအားမျှမပြောစေခြင်းငှါသူတို့
ကိုပညတ်တော်မူ၏။ သို့သော်လည်းပညတ်တော်မူလေ။သူတို့သည်
၃၇ သာ၍သိတင်းကြားပြောလေ့ရှိသတည်း။အတိုင်းထက်အလွန်မိန်းမော
တွေဝေလျှင်သူသည်အလုံးစုံတို့ကိုလျော်ကပ်စွာပြုတော်မူပြီး။
နားပင်းသောသူတို့ကိုကြားစေတော်မူပြီး။အသောသူတို့ကိုစကား
၁ ပြောစေတော်မူပြီးဟုဆိုကြ၏။ ။ထိုအခါစုဝေးသောသူအ
လွန်များ၍စားစရာမရှိလျှင်ကိုယ်တော်သည်တပည့်တော်တို့ကို
၂ ခေါ်၍ ဤလူများကိုငါသနား၏။ငါနှင့်အတူနေကြ၍ယခုသုံးရက်ရှိ
၃ ပြီး။စားစရာအလျှင်းမရှိ။ အစားမစားမှီ သူတို့ကိုမိမိအိမ်သို့ငါ
လွှတ်လျှင်လမ်းခရီး၌မောကြလိမ့်မည်။ အချို့တို့သည် အဝေးကလာ
၄ ကြသည်ဟု မိန့်တော်မူ၏။ တပည့်တော်တို့လည်း ဤတောအရပ်၌
အဘယ်သို့ ဤသူတို့ကို ဝအောင် ကျွေးနိုင်ပါအံ့နည်းဟု လျှော
၅ က်ကြသော် ကိုယ်တော်က သင်တို့တွင် မုန့် ဘယ်နှစ်လုံးရှိသ
နည်းဟုမေးတော်မူလျှင်မုန့်ခုနှစ်လုံးရှိပါသည်ဟုပြန်လျှောက်ကြ၏။

၆ ထိုအခါလူအစုအဝေးကိုမြေပေါ်မှာထိုင်နေစေဟုအမိန့်တော်ရှိလျှင်
မုန့်ခုနှစ်လုံးကိုယူ၍ ကျေးဇူးတော်ကိုချီးမွမ်းပြီးမှမုန့်ကိုဖဲ့၍ လူများ
တို့ရှေ့၌ထည့်စေခြင်းငှါတပည့်တော်တို့အားပေးတော်မူသည်အတိုင်း
၇ သူတို့သည်ထည့်ကြ၏။ ငါးကောင်ကလေးအနည်းငယ်လည်းရှိသည်ဖြစ်
၍ကျေးဇူးတော်ကိုချီးမွမ်းပြီးမှလူများရှေ့၌ထည့်စေခြင်းငှါမိန့်တော်မူ
၈ ၏။ ထိုသူတို့သည်စား၍ ဝကြသောအခါကြွင်းရစ်သောအကျိုးအပဲ့ခု
၉ နှစ်တောင်းအပြည့်ကောက်သိမ်းကြ၏။ စားသောသူအရေအတွက်
ကား လူလေးထောင်မျှလောက်ရှိသတည်း။ ထိုသူတို့ကိုလွှတ်တော်မူ
၁၀ ပြီးမှ တပည့်တော်တို့နှင့်တကွလှေထဲသို့ချက်ချင်းဝင်၍ ဒလမနုသ
၁၁ ကျေးလက်သို့ရောက်တော်မူ၏။ ။ထိုအခါဖာရိရှဲလူတို့သည်
ထွက်လာ၍ကိုယ်တော်နှင့်ဆွေးနွေးညှင်းခုံသည် တွင်စုံစမ်းနှောင့်ရှက်
သောအားဖြင့်မိုဃ်းကောင်းကင်၌ နိမိတ်လက္ခဏာတစုံတခုကိုတော
၁၂ င်းကြ၏။ ကိုယ်တော်သည် စိတ်နှလုံးညည်းတွားသံကိုပြုတော်မူ
လျက် ဤလူမျိုးသည် နိမိတ်လက္ခဏာကိုအဘယ်ကြောင့် တောင်းသ
နည်း။ ငါအမှန်ဆိုသည်ကား။ ဤလူမျိုးအားနိမိတ်လက္ခဏာကိုမပြရ
၁၃ ဟုမိန့်တော်မူပြီးလျှင် ထိုသူတို့ဆီမှ ထွက်၍တဖန်လှေထဲသို့ဝင်သ
ဖြင့်ကမ်းတဖက်သို့ပြန်တော်မူ၏။

❋❋

၁၄ တပည့်တော်တို့သည်မုန့်ကိုယူခြင်းငှါမေ့လျော့သဖြင့်လှေထဲ၌ သူတို့
၁၅ ဆီမှာမုန့်တလုံးတည်းသာရှိ၏။ ကိုယ်တော်ကလည်း ဖာရိရှဲလူတို့
၏တဆေးကို၎င် ဟေရုဒ် ၏ တဆေးကို၎င်သတိနှင့်ကြည့်ရှောင်ကြဟု
၁၆ ပညတ်တော်မူ၏။ တပည့်တော်တို့လည်းငါတို့၌မုန့်မပါသောကြောင့်
ဤစကားကိုမိန့်တော်မူသည်ဟုအချင်းချင်းဆွေးနွေးပြောဆိုကြ၏။
၁၇ ယေရှုသည်သိတော်မူလျှင်သင်တို့၌မုန့်မပါသောကြောင့်ထိုစကား
ကိုငါပြောသည်ကိုအဘယ်ကြောင့် အချင်းချင်းဆွေးနွေးပြောဆိုကြ
သနည်း။ ယခုတိုင်အောင်နှလုံးမသွင်း။ နားမလည်ကြသလော။ သင်
၁၈ တို့စိတ်နှလုံးမိုက်သေးသလော။ မျက်စိရှိလျက်ပင်မမြင်။ နားရှိလျ
၁၉ က်ပင်မကြား။ စိတ်မအောင်းမေ့ဘဲနေသလော။ မုန့်ငါးလုံးကိုလူငါး
ထောင်အားငါပဲ့သောအခါအကျိုးအပဲ့ဘယ်နှစ်တောင်းကောက်
သိမ်းသနည်းဟုမေးတော်မူလျှင်ဆယ်နှစ်တောင်းကောက်သိမ်းပါ
၂၀ သည်ဟုလျှောက်ကြ၏။ မုန့်ခုနှစ်လုံးကိုလူလေးထောင်အားငါပဲ့

သောအခါအကျိုးအပဲ့ဘယ် နှစ်တောင်းကောက်သိမ်းသနည်းဟုမေး
တော်မူလျှင်ခုနှစ်တောင်းကောက်သိမ်းပါသည်ဟုလျှောက်ကြ၏။
၂၁ သို့ဖြစ်လျှင်သင်တို့သည် နားမလည်ဘဲအဘယ် သို့နေကြသနည်းဟု
၂၂ မိန့်တော်မူ၏။ ။ဗက်ဇဲဒမြို့သို့ရောက်တော်မူလျှင်လူကန်း
တယောက်ကိုအထံတော်သို့ဆောင်ခဲ့၍သူကိုတို့တော်မူမည် အကြော
၂၃ င်းတောင်းပန်ကြ၏။ ကိုယ်တော်သည် လူကန်းကိုလက်ဆွဲ၍ မြို့ပြင်
သို့ထွက်ပြီးမှသူ၏မျက်စိ၌တံတွေးထွေး၍ သူ့အပေါ်မှာလက် တော်
၂၄ ကိုတင်လျက်သင်သည်တစုံတခုကိုမြင်သလောဟုမေးတော်မူ၏။ ထိုသူ
သည်ကြည့်မျှော်၍လူတို့သည်သစ်ပင်ကဲ့သို့ထင်၍ လှမ်းသွားသည်ကို
၂၅ ကျွန်တော်မြင်ပါသည်ဟုလျှောက်၏။ နောက်တဖန်သူ၏မျက်စိပေါ်
မှာလက်တော်ကိုတင်၍ သူကိုကြည့်မျှော်စေတော်မူလျှင် ပကတိအ
၂၆ ဖြစ်သို့ရောက်၍အလုံးစုံတို့ကိုရှင်းလင်းစွာမြင်လေ၏။ ကိုယ်တော်
ကလည်းမြို့ထဲသို့မဝင်နှင့်။မြို့၌အဘယ်သူကိုမျှမပြောနှင့်ဟုမိန့်တော်
၂၇ မူ၍သူကိုမိမိနေရာသို့လွှတ်လိုက်လေ၏။ ။ယေရှုသည်ဖိလိ
ပ္ပုကဲသရိမြို့၏ကျေးလက်သို့တပည့်တော်တို့နှင့်တကွကြွတော်မူသော်
လမ်းခရီးမှာငါသည်အဘယ်သူဖြစ်သည် ကိုလူများဆိုကြသနည်းဟု
၂၈ တပည့်တော်တို့ကိုမေးမြန်းတော်မူလျှင် လူအချို့ကကိုယ်တော်သည်
ရေနှစ်မင်္ဂလာဆရာယောဟန် ဖြစ်ကြောင်းကိုဆိုကြ၏။ အချို့ကဧလိ
ယဖြစ်ကြောင်းကိုဆိုကြ၏။အချို့ကပရောဖက်တပါးပါးဖြစ်ကြောင်း
၂၉ ကိုဆိုကြ၏ဟုလျှောက်ကြလေသော် ငါသည်အဘယ်သူဖြစ်သည်
ကိုသင်တို့ဆိုကြသနည်းဟုမေးမြန်းတော်မူလျှင် ပေတရုကကိုယ်
၃၀ တော်သည်ခရစ်တော်ဖြစ်တော်မူ၏ဟုလျှောက်လေ၏။ ကိုယ်တော်
၏အကြောင်းကိုအဘယ်သူအားမျှမပြောစိမ့်သောငှါတပည့်တော်
၃၁ တို့ကိုပညတ်တော်မူ၏။ ထိုမှတပါး။လူသားသည်များများ
ခံရမည်။လွှတ်အရာရှိ။ယဇ်ပရောဟိတ်အကြီး။ကျမ်းပြုဆရာတို့
ညှင်းပယ်ခြင်းကိုရှင်အသေသတ်ခြင်းကိုရှင်ခံရမည်။သုံးရက်မြောက်
သောနေ့၌ထမြောက်ရမည်ဟူသောအကြောင်းများကိုတပည့်တော်
၃၂ တို့အားပြစပြုတော်မူ၏။ ထိုသို့အတည့်အလင်းပြတော်မူသော
ကြောင့်ပေတရုသည်ကိုယ်တော်ကိုအချားသို့ခေါ်ပင့်၍အပြစ်တင်
၃၃ သောစကားကိုလျှောက်လေသော် ကိုယ်တော်သည်မျက်နှာတော်
ကိုလှည့်၍တပည့်တော်တို့ကိုကြည့်ရှုလျက်အချင်းရန်သူ။ငါ့နောက်

သို့ဆုတ်တော့။သင်သည်ဘုရားသခင်၏အရာကိုမနှစ်သက်။လူတို့၏
အရာကိုသာနှစ်သက်၏ဟူ၍ပေတရုကိုဆုံးမတော်မူ၏။ ။
၃၄ ထိုအခါတပည့်တော်တို့နှင့်ပရိသတ်များကိုခေါ်တော်မူပြီးလျှင်အ
ကြင်သူသည်ငါ၌ဆည်းကပ်ခြင်းငှါအလိုရှိ၏။ထိုသူသည်ကိုယ်ကို
ကိုယ်ငြင်းပယ်ရမည်။ကိုယ်လက်ဝါးကပ်တိုင်ကိုထမ်း၍ငါ့နောက်
၃၅ သို့လိုက်ရမည်။ အကြင်သူသည်မိမိအသက်ကိုကယ်ဆယ်ခြင်းငှါအ
လိုရှိ၏။ထိုသူသည်အသက်ရှုံးလိမ့်မည်။အကြင်သူသည်ငါ့ကြောင့်၎င်
ဧဝံဂေလိတရားကြောင့်၎င်အသက်ရှုံး၏။ထိုသူသည်မိမိအသက်ကို
၃၆ ကယ်ဆယ်လိမ့်မည်။ စကြဝဠာအားလုံးကိုအစိုးရ၍မိမိအသက်ဝိ
၃၇ ညာဉ်ကိုရှုံးသောသူသည်အဘယ်ကျေးဇူးရှိသနည်း။ မိမိအသက်ဝိ
၃၈ ညာဉ်ကိုအဘယ်ဥစ္စာနှင့်လဲနိုင်သနည်း။ မြောက်မထားသော၍လူ
မျိုးဆိုးတွင်အကြင်သူသည်ငါကို၎င်ငါ့စကားကို၎င်ရှက်၏။လူသား
သည်မိမိအဖခမည်းတော်၏ဘုန်းအာနုဘော်ကိုဆောင်လျက်သန့်
ရှင်းသောကောင်းကင်တမန်အခြံအရံတို့နှင့်ကြွလာသောအခါထိုသူ
၁ ကိုရှက်တော်မူလတ္တံ့။ ငါအမှန်ဆိုသည်ကား၊ဘုရားသခင်နိုင်ငံတော်
သည်တန်ခိုးနှင့်တကွတည်ကြောင်းကို၍အရပ်၌ရှိသောသူအချို့တို့
သည်မမြင်မှီဘဝမပြောင်းရဟုမိန့်တော်မူ၏။

✻✻

၂ ခြောက်ရက်လွန်သောအခါယေရှုသည်ပေတရု။ယာကုပ်။ယောဟန်
တို့ကိုခေါ်၍အခြားသူမပါဘဲမြင့်လှစွာသောတောင်ပေါ်မှာဆိတ်
ကွယ်ရာအရပ်သို့ဆောင်ကြွတော်မူ၏။ထိုသူတို့ရှေ့၌ထူးဆန်းသော
၃ အဆင်းအရောင်နှင့်ပြည့်စုံသည်ဖြစ်၍အဝတ်တော်ကားပြောင်လက်
လျက်၍မြေပေါ်၌အဘယ်ခဝါသည်မျှဖြူစေနိုင်သည်ထက်မကမိုဃ်း
၄ ပွင့်ကဲ့သို့ဖြူလျက်ရှိ၏။ မောရှေနှင့်ဧလိယသည်ထင်ရှား၍ယေရှု
၅ နှင့်အတူစကားပြောလျက်ရှိ၏။ထိုအခါပေတရုကအရှင်ဘုရား။ဤအ
ရပ်၌နေဖွယ်ကောင်း၏။ကိုယ်တော်အဖို့တဲတဆောင်။မောရှေအဖို့တ
ဆောင်။ဧလိယအဖို့တဆောင်။တဲသုံးဆောင်ကိုအကျွန်ုပ်တို့ဆောက်
၆ လုပ်ပါရစေဟုလျှောက်လေ၏။ တပည့်တော်တို့သည်အလွန်ကြောက်
၇ သောကြောင့်ပေတရုသည်ရှောင်ရမ်း၍ဤသို့လျှောက်သတည်း။ ထို
အခါမိုဃ်းတိမ်သည်သူတို့ကိုလွှမ်းမိုး၍ဤသူသည်ငါချစ်သားပေတည်း။
၈ သူ့စကားကိုနားထောင်ကြဟုမိုဃ်းတိမ်ကအသံတော်ဖြစ်လေ၏။ထို

ခဏချင်းတပည့်တော်တို့သည်ပတ်လည်ကြည့်ရှုလျှင်မိမိတို့နှင့်အတူယေ
ရှုတယောက်တည်းမှတပါးအဘယ်သူကိုမျှမမြင်ကြ။ ။တောင်ပေါ်
၉ မှဆင်းကြသောအခါကိုယ်တော်ကလူသားသည်သေခြင်းမှမထမြော
က်မှီတိုင်အောင်သင်တို့ယခုမြင်သောအရာကိုအဘယ်သူအားမျှမကြား
၁၀ မပြောကြနှင့်ဟုတပည့်တော်တို့ကိုပညတ်တော်မူ၏။ တပည့်တော်တို့
သည်ထိုစကားကိုမှတ်မိ၍သေခြင်းမှထမြောက်ခြင်းသည်အဘယ်သို့
၁၁ ဆိုလိုသနည်းဟုအချင်းချင်းဆွေးနွေးမေးမြန်းကြ၏။ ထိုအခါတပည့်
တော်တို့ကဧလိယသည်အရင်လာရမည်ဟုကျမ်းပြုဆရာတို့သည်အဘ
၁၂ ယ်ကြောင့်ဆိုပါသနည်းဟုမေးလျှောက်ကြလျှင် ကိုယ်တော်ကဧလိယ
သည်အရင်လာ၍အလုံးစုံတို့ကိုပြုပြင်ရသည်မှန်ပေ၏။လူသားသည်
၁၃ လည်းအလွှန်ဆင်းရဲ၍ကဲ့ရဲ့ပယ်ထားခြင်းကိုခံရမည်ဟုကျမ်းစာလာ၏။
ငါဆိုသည်ကားဧလိယရောက်လေပြီးသူအကြောင်းကိုကျမ်းစာ၌ရေး
ထားသည်အတိုင်းလူများသည် သူအားပြုချင်သမျှပြုကြလေပြီးဟုမိန့်
၁၄ တော်မူ၏။ ။တပည့်တော်တို့ဆီသို့ရောက်တော်မူသောအခါ
များစွာသောလူအစုအဝေးသည်သူတို့ကိုဝိုင်းလျက်ကျမ်းပြုဆရာတို့
၁၅ သည်သူတို့နှင့်ဆွေးနွေးမေးမြန်းကြသည်ကိုမြင်တော်မူ၏။ လူအစု
အဝေးအားလုံးတို့သည်ကိုယ်တော်ကိုမြင်လျှင်ချက်ချင်းအံ့ဩခြင်းမိန်း
မောခြင်းသို့ရောက်သဖြင့်အထံတော်သို့ပြေး၍ရိုသေစွာနှုတ်ဆက်
၁၆ ကြ၏။ ကိုယ်တော်ကလည်း သင်တို့သည် အဘယ်သို့အချင်းချင်း
၁၇ ဆွေးနွေးကြသနည်းဟုမေးတော်မူလျှင် အစုအဝေး၌ပါသောသူတ
ယောက်ကအရှင်ဘုရား။အသောနတ်အစွဲခံရသောကျွန်တော်သား
၁၈ ကိုအထံတော်သို့ကျွန်တော်ဆောင်ခဲ့ပါပြီး။ နတ်ဖမ်းစားလေရာရာ
၌သူကိုမြေပေါ်မှာလဲစေ၍သူသည်လည်းခံတွင်းမှအမြှုပ်ထွက်လျက်
အံသွားခဲကြိတ်လျက်ပိန်ချောက်လျက်နေပါ၏။ထိုနတ်ကိုနှင်ထုတ်ပါ
မည်အကြောင်း။တပည့်တော်တို့အားကျွန်တော်လျှောက်၍သူတို့မတတ်
၁၉ နိုင်ကြပါဟုလျှောက်လေသော် ကိုယ်တော်ကရုံခြင်းမရှိသောအမျိုး။
ငါသည် သင်တို့နှင့်တကွအဘယ်မျှလောက်ကြာ၍နေရအံ့နည်း။သင်
တို့ကိုအဘယ်မျှလောက်ကြာ၍သည်းခံရအံ့နည်း။သူငယ်ကိုငါဆီသို့
၂၀ ယူခဲ့ကြဟုမိန့်တော်မူသည်အတိုင်း ယူခဲ့ကြ၏။ထိုနတ်သည် ကိုယ်
တော်ကိုမြင်လျှင်ချက်ချင်းသူငယ်ကိုတော်င့်မာစေသဖြင့်မြေပေါ်မှာ
၂၁ လဲ၍အမြှုပ်ထွက်လျက်ကိုယ်ကိုလှိမ့်လျက်နေ၏။ ကိုယ်တော်က

လည်းဤသို့ဖြစ်၍အဘယ်မျှလောက်ကြာပြီးနည်းဟုသူငယ်၏အဖ
၂၂ အားမေးတော်မူလျှင်အဖကငယ်သောအရွယ်မှစ၍ဖြစ်ပါ၏။ သူ
ငယ်သေရအောင်မီး၌၎င်ရေ၌၎င်အကြိမ်ကြိမ်လဲစေတတ်၏။သို့
သော်လည်းကိုယ်တော်သည်တတ်နိုင်တော်မူလျှင်ကျွန်တော်တို့ကို
၂၃ သနားသဖြင့်ကယ်မတော်မူပါဟုလျှောက်လေ၏။ ယေရှုကလည်း
သင်သည်ယုံနိုင်သလော။ ယုံသောသူဖြစ်လျှင်ခပ်သိမ်းသောအမှုကို
၂၄ တတ်နိုင်သည်ဟုမိန့်တော်မူ၏။ သူငယ်၏အဖသည်ချက်ချင်းဟစ်
ကျော်၍ကျွန်တော်ယုံပါ၏။ မယုံသည်ကိုမစတော်မူပါဟုမျက်ရည်နှင့်
၂၅ လျှောက်ပြန်လေ၏။ ထိုအခါလူများတို့သည်စုဝေးလျက်ပြေးလာကြ
သည်ကိုယေရှုသည်မြင်လျှင်နားပင်း၍စကားအသောနတ်။သူငယ်
မှထွက်တော့။နောက်တဖန်မဝင်နှင့်။ငါအမိန့်ရှိ၏ဟုထိုညစ်ညူး
၂၆ သောနတ်ကိုဆုမ္ဗ၍မိန့်တော်မူသဖြင့် နတ်သည်အော်ဟစ်၍အလွှန်
တောင့်မာစေပြီးမှထွက်သွား၏။ သူငယ်သည်သေသကဲ့သို့ဖြစ်၏။
၂၇ သေပြီးဟုလူများဆိုကြ၏။ ယေရှုသည်သူ၏လက်ကိုကိုင်၍ချီကြွ
၂၈ တော်မူသဖြင့်သူသည်ထလေ၏။ ။အိမ်၌ဝင်တော်မူပြီးမှ
တပည့်တော်တို့ကအကျွန်ုပ်တို့သည်ထိုနတ်ကိုအဘယ်ကြောင့်မနှင်
ထုတ်နိုင်ပါသနည်းဟုဆိတ်ကွယ်ရာအရပ်၌မေးလျှောက်ကြသော်
၂၉ ကိုယ်တော်ကဆုတောင်းခြင်း။အစားရှောင်ခြင်းမှတပါးအဘယ်သို့
သောအားဖြင့်ထိုနတ်မျိုးသည်မထွက်နိုင်ဟုမိန့်တော်မူ၏။

**

၃၀ ။ထိုအရပ်မှထွက်၍ဂါလိလဲပြည်အလယ်၌ရှောက်သွားကြစဉ်တွင်
၃၁ အဘယ်သူမျှသိသောခြင်း၌ါအလိုတော်မရှိ။ အဘယ်ကြောင့်နည်းဟူ
မူကား။လူသားသည်လူတို့လက်သို့အပ်နှံခြင်းကိုခံ၍အသေသတ်ခြင်း
၃၂ ကိုခံရ၍ခံပြီးမှသုံးရက်မြောက်သောနေ့၌ထမြောက်မည်ဟူသော
အကြောင်းများကိုတပည့်တော်တို့အားပြတော်မူ၏။ထိုအကြောင်း
များကိုသူတို့သည်နားမလည်သော်လည်းကိုယ်တော်ကိုမမေးမလျှော
၃၃ က်ဝံ့ကြ။ ။ကပေရနောင်မြို့သို့ရောက်၍အိမ်၌ရှိတော်မူလျှင်
သင်တို့သည်လမ်း၌အဘယ်သို့အချင်းချင်းညင်းခုံကြသနည်းဟုမေး
၃၄ တော်မူသည်ကိုသူတို့သည်တိတ်ဆိတ်စွာနေကြ၏။အဘယ်ကြောင့်
နည်းဟူမူကား။အဘယ်သူသည်သာ၍ကြီးမြတ်အံ့နည်းဟုလမ်း၌အ
၃၅ ချင်းချင်းညင်းခုံကြ၏။ ထိုအခါကိုယ်တော်သည်ထိုင်၍တကျိပ်နှစ်

ပါး တို့ကိုခေါ်တော်မူလျှင်အရင်အဦး ဖြစ်လိုသောလူမည်သည်ကား
နောက်ဆုံးဖြစ်ရ၏။အားလုံးတို့၏အစေခံလည်းဖြစ်ရ၏ဟုမိန့်တော်
၃၆ မူပြီးမှ သူငယ်တယောက်ကိုသူတို့အလယ်မှာယူထား၍လက်တော်
၃၇ နှင့်ချီပိုက်လျက် အကြင်သူသည် ငါ့ကိုထောက်၍ ဤကဲ့သို့သောသူ
ငယ်တစုံတယောက်ကိုသိမ်းဆည်း၏။ထိုသူသည် ငါ့ကို ပင် သိမ်း
ဆည်း၏။ငါ့ကိုသိမ်းဆည်းသောသူသည်လည်းငါ့ကိုသာသိမ်းဆည်း
သည်မဟုတ်။ငါ့ကိုစေလွှတ်တော်မူသောသူကိုပင်သိမ်းဆည်း၏ဟု
၃၈ မိန့်တော်မူ၏။ ။ယောဟန်ကလည်းအရှင်ဘုရား။ကိုယ်တော်
အခွင့်နှင့်နတ်ဆိုးတို့ကို နှင်ထုတ်သောသူတယောက်ကိုအကျွန်ုပ်တို့
သည်တွေ့ပါ၏။သူသည်အကျွန်ုပ်တို့နှင့် အတူမလိုက်သောကြောင့်အ
၃၉ ကျွန်ုပ်တို့သည် မြစ်တားကြပါသည်ဟုလျှောက်လေသော် ယေရှုက
သူကိုမမြစ်တားကြနှင့်။ငါ့အခွင့်နှင့် တန်ခိုးကိုပြ၍ငါ့ကိုအလွယ်တ
၄၀ ကူကဲ့ရဲ့နိုင်သောသူတယောက်မျှမရှိ။ သင်တို့ရန်သူဘက်မရှိသော
၄၁ သူသည် သင်တို့ဘက်ရှိ၏။ သင်တို့သည် ခရစ်တပည့်ဖြစ်သည်ဟု
ငါ့မျက်နှာကိုထောက်၍ အကြင်သူသည်သင်တို့အားရေတခွက်ကိုမျှ
ပေး၏။ထိုသူသည်အကျိုးကိုမရဘဲမနေရ၊ငါအမှန်ဆို၏။ ။
၄၂ ငါ့ကိုယုံကြည်သော ဤသူငယ်တစုံတယောက်ကို အကြင်သူသည် လဲ
စေ၏။ထိုသူ၏လည်ပင်း၌ကျိတ်ဆုံကျောက်ပျားဆွဲ၍သူကိုပင်လယ်
၄၃ ၌ချသော်သာ၍ကောင်း၏။ သင်၏လက်သည် သင့်ကိုလဲစေလျှင်
၄၄ လက်ကိုဖြတ်လော့။ပိုးမသေ။မီး မညိမ်းရာ။ငရဲအတွင်း။ မညိမ်းနိုင်
သောမီးထဲသို့လက်နှစ်ဖက်စုံနှင့်ဝင်ရသည် ထက်လက်ချို့တဲ့၍ အ
၄၅ သက်ရှင်ခြင်းသို့ဝင်စားသော်သာ၍ကောင်း၏။ သင်၏ခြေသည်
၄၆ သင့်ကိုလဲစေလျှင် ခြေကိုဖြတ်လော့။ပိုး မသေ။မီးမညိမ်းရာ။ ငရဲအ
တွင်း။မညိမ်းနိုင်သောမီးထဲသို့ခြေနှစ်ဖက်စုံနှင့်ချခြင်းကိုခံရသည်
ထက်ခြေချို့တဲ့၍အသက်ရှင်ခြင်းသို့ဝင်စားသော်သာ၍ကောင်း၏။
၄၇ သင်၏မျက်စိသည်လည်းသင့်ကိုလဲစေလျှင်မျက်စိကိုထုတ်လော့။ပိုး
၄၈ မသေ။မီးမညိမ်းရာ။ငရဲမီးထဲသို့ မျက်စိနှစ်ဖက်စုံနှင့်ချခြင်းကိုခံရ
သည်ထက်မျက်စိတဖက်နှင့်ဘုရားသခင်နိုင်ငံတော်သို့ဝင်စားသော်
၄၉ သာ၍ကောင်း၏။ ယဇ်ကောင်၌ဆားအငန်သည်ဝင်၍နှံ့ပြားသကဲ့
၅၀ သို့သူများတို့၌မီးအရှိန်သည်ဝင်၍နှံ့ပြားမည်။ ဆားမူကားကောင်း
၏။သို့သော်လည်းအငန်ကင်းပျောက်လျှင်ငန် သောအရသာကိုအ

ဘယ်သို့ရပြန်မည်နည်း။ သင်တို့၌ဆား ရှိစေကြလော့။ အချင်းချင်း
အသင့်အတင့်နေကြလော့ဟုမိန့်တော်မူ၏။

❋❋

၁ ။ထိုအရပ်မှကိုယ်တော်သည်ထ၍ယော်ဒန်မြစ်နားကိုရှောက်သွားသ
ဖြင့်ယုဒပြည် စွန်းသို့ရောက်တော်မူ၏။လူများတို့သည် အထံတော်၌
ရုဝေးပြန်၍ထုံးစံရှိတော်မူသည် အတိုင်းတဖန်ဆုံးမဩဝါဒပေးတော်
၂ မူ၏။ ဖာရိရှဲလူတို့သည်အထံတော်သို့လာ၍ လူသည် မိမိမယားနှင့်
ကွာအပ်သလောဟု စုံစမ်းနှောင့်ရှက်သော အားဖြင့် မေးလျှောက်ကြ
၃ သော် ယေရှုကမောရှေသည်သင်တို့အားအဘယ်သို့စီရင်သနည်းဟု
၄ လှန်၍မေးတော်မူလျှင် သူတို့ကဖြတ်စာကိုပေး၍မယားနှင့်ကွာစေ
၅ ခြင်းငှါမောရှေစီရင်သည် ဟုလျှောက်ကြ၏။ ယေရှု ကလည်းသင်
တို့စိတ်ခိုင်မာသောကြောင့် မောရှေသည် ထိုပညတ်ကိုရေးထားသ
၆ တည်း။ ဘုရားသခင်ဖန်ဆင်းတော်မူစကယောကျ်ားမိန်းမနှစ်ယော
၇ က်တည်းကိုဖန်ဆင်းတော်မူ၏။ ထိုအကြောင်းကြောင့်ယောကျ်ား
၈ သည်ကိုယ်မိဘကိုစွန့်၍ကိုယ်ခင်ပွန်း၌မှီဝဲသဖြင့် ထိုသူနှစ်ယော
က်တို့သည် တသားတကိုယ်တည်းဖြစ်ရလိမ့်မည်။ ထိုကြောင့်လင်မ
၉ ယားတို့သည်နှစ်ဦးမဟုတ်၊ တဦးတည်းဖြစ်၏။ ဘုရားသခင်စုံ
ဖက်တော်မူသောအရာကိုလူမခွဲမခွာစေနှင့်ဟုမိန့်တော်မူ၏။
၁၀ ။နောက်တဖန်တပည့်တော်တို့သည်အိမ်၌ရှိစဉ်ထိုအကြောင်း
၁၁ ကိုမေးလျှောက်ပြန်ကြ၏။ ကိုယ်တော်ကလည်းအကြင်သူသည် မ
ယားနှင့်ကွာ၍အချားမိန်းမနှင့်အိမ်ထောင်ဖက်ပြု၏။ထိုသူသည်မိမိမ
၁၂ ယားကိုပြစ်မှား၏။ မိန်းမသည်လည်းမိမိလင်နှင့်ကွာ၍အချားယော
ကျ်ားနှင့်အိမ်ထောင်ဖက်ပြုလျှင်မှားရှင်းခြင်းသို့ရောက်သည် ဟု
၁၃ မိန့်တော်မူ၏။ ။ထိုအခါသူငယ်တို့ကိုလက်တော်နှင့်တို့စေ
ခြင်းငှါအထံတော်သို့ဆောင်ခဲ့သည် ဖြစ်၍တပည့်တော်တို့သည်
၁၄ ဆောင်ခဲ့သောသူတို့ကိုအပြစ်တင်ကြ၏ ။ယေရှုသည် မြင်လျှင်အ
မျက်တော်ထွက်၍ထိုသူငယ်တို့ကိုငါ့ထံသို့လာပါလေစေ။မဆီးတား
ကြနှင့်။ဘုရားသခင်နိုင်ငံတော်သည်ထိုသို့သောသူတို့၏နိုင်ငံဖြစ်၏။
၁၅ ငါအမှန်ဆိုသည်ကား။အကြင်သူသည်ဘုရားသခင်နိုင်ငံတော်ကိုသူ
ငယ်ကဲ့သို့မခံမယူ။ထိုသူသည် နိုင်ငံတော်သို့မဝင်ရဟုမိန့်တော်မူ

၁၆ ပြီးမှ သူငယ်တို့ကိုချီပိုက်၍သူတို့အပေါ်မှာလက်တော်ကိုတင်လျက်
၁၇ ကောင်းကြီးပေးတော်မူ၏။ ။လမ်းမှာကြွတော်မူစဉ်လူတ
ယောက်သည်အထံတော်သို့ပြေး၍ဒူးထောက်လျက် ကောင်းမြတ်
သောဆရာ။ ထာဝရအသက်ကိုအမွေခံအံ့သော၄ါ အကျွန်ုပ်သည်အ
၁၈ ဘယ်အမှုကိုပြုရပါမည်နည်းဟုမေးလျှောက်သော် ယေရှုကငါကို
ကောင်းမြတ်သည်ဟုအဘယ်ကြောင့်ခေါ်ဝေါ်သနည်း။ဘုရားသခင်
၁၉ တပါးတည်းသာကောင်းမြတ်တော်မူ၏။ သင်သည်ပညတ်တော်တို့
ကိုသိသည်မဟုတ်လော။ သူမယားကိုမပြစ်မှားနှင့်။ လူအသက်ကိုမ
သတ်နှင့်။ သူဥစ္စာကိုမခိုးနှင့်။ မမှန်သောသက်သေကိုမခံနှင့်။ သူအ
ကျိုးကိုမဖျက်နှင့်။ မိဘအားရိုသေစွာကျင့်လော့ဟုမိန့်တော်မူလျှင်
၂၀ အရှင်ဘုရား။ ထိုပညတ်အားလုံးတို့ကိုငယ်သောအရွယ်မှစ၍အကျွ
၂၁ နုပ်စောင့်ရှောက်ပါပြီးဟုလျှောက်ပြန်သည်ကို ယေရှုသည်သူကို
ကြည့်ရှု၍ချစ်ခြင်းစိတ်တော်ရှိလျှင်သင်သည်တခုလိုသေး၏။ သွား
လော့။ ကိုယ်ဥစ္စာရှိသမျှကိုရောင်း၍ ဆင်းရဲသောသူတို့အားပေး
လော့။ထိုသို့ပြုလျှင်ကောင်းကင်ဘုံ၌ဘဏ္ဍာကိုရလိမ့်မည်။ သို့ပြီးမှ
လာ၍လက်ဝါးကပ်တိုင်ကိုထမ်းလျက်ငါနောက်သို့လိုက်လော့ ဟု မိန့်
၂၂ တော်မူ၏။ ထိုသူသည်များသောဥစ္စာကိုရတတ်သောသူဖြစ်၍ ထို
စကားကိုကြားလျှင်မျက်နှာပျက်၍စိတ်မသာသည်နှင့်သွားလေ၏။
၂၃ ။ယေရှုသည်လည်းပတ်လည်ကြည့်ရှုလျှင်ဥစ္စာရတတ်သော
သူတို့သည်ဘုရားသခင်နိုင်ငံတော်သို့ဝင်ခြင်း၄ါအဘယ်မျှလောက်
၂၄ ခက်လှ၏ဟုတပည့်တော်တို့အားမိန့်တော်မူ၏။ တပည့်တော်တို့သည်
ထိုစကားကိုကြားလျှင်မိန်းမောတွေဝေခြင်းရှိကြ၏။ တဖန်ယေရှုက
ငါသားတို့။မိမိဥစ္စာကိုမှီခိုသောသူတို့သည် ဘုရားသခင်နိုင်ငံတော်
၂၅ သို့ဝင်ခြင်း၄ါအဘယ်မျှလောက်ခက်လှ၏။ ကုလားအုတ်သည်အပ်နဖားကိုလျှိုလွယ်၏။ငွေရတတ်သောသူသည်ဘုရားသခင်နိုင်ငံတော်
၂၆ သို့ဝင်ခဲသည်ဟုမိန့်တော်မူသည်ကို သူတို့သည်သာ၍မိန်းမောတွေ
ဝေသဖြင့် သို့ဖြစ်လျှင် အဘယ်သူသည်ကယ်တင်တော်မူခြင်းသို့
၂၇ ရောက်နိုင်သနည်းဟုအချင်းချင်းပြောဆိုကြ၏။ ယေရှုသည်လည်း
သူတို့ကိုကြည့်ရှု၍ ဤအမှုကိုလူမတတ်နိုင်သော်လည်းဘုရားသခင်မ
တတ်နိုင်သည်မဟုတ်။ ဘုရားသခင်အလုံးစုံတို့ကိုတတ်နိုင်တော်မူ
၂၈ သည်ဟုမိန့်တော်မူ၏။ ။ထိုအခါပေတရုကအကျွန်ုပ်တို့သည်

အားလုံးကိုစွန့်ပြစ်၍ကိုယ်တော်နောက်သို့လိုက်ပါပြီး ဟု လျှောက်
၂၉ လေသော် ယေရှုလည်း ငါအမှန်ဆိုသည် ကား။ အကြင်သူသည် ငါ
ကြောင့်၎င်းဧဝံဂေလိတရားကြောင့်၎င်းအိမ်။ လယ်ယာ။ ညီအစ်ကို။
၃၀ နှမ။မိဘ။သားမယားတစုံတခုကိုစွန့်၏။ ထိုသူသည်အဆတရာ
သောအကျိုးတည်းဟူသောယခုကာလ၌ညှဉ်းဆဲခြင်းနှင့်တကွအိမ်။
လယ်ယာ။ညီအစ်ကို။နှမ။အမိ။သားသမီးတို့ကို၎င်နောင်ဘဝ၌ထာ
၃၁ ဝရအသက်ကို၎င်ခံရလတံ့။ နောက်ကျသောသူအများတို့ကားအရင်
ကျလိမ့်မည်။အရင်ကျသောသူအများတို့ကားနောက်ကျလိမ့်မည်ဟု
မိန့်တော်မူ၏။

**

၃၂ ယေရုရှလင်မြို့သို့တက်သွားကြ ရာလမ်းမှာယေရှုသည်တပည့်တော်
တို့ရှေ့၌ကြွတော်မူစဉ်သူတို့သည် မိန်းမောတွေဝေ ၍ ကြောက်ရွံ့
သောစိတ်နှင့်လိုက်ကြ၏။ထိုအခါကိုယ်တော်သည် တကျိပ်နှစ်ပါးတို့
၃၃ ကိုတဖန်ခေါ်၍ ငါတို့သည်ယေရုရှလင်မြို့သို့ယခုသွားကြ၏။လူသား
သည်ယဇ်ပုရောဟိတ်အကြီး။ ကျမ်းပြုဆရာတို့လက်သို့ရောက်လိမ့်
မည်။သူတို့သည်သေပြစ်ကိုစီရင်၍တပါးအမျိုးသားတို့လက်သို့အပ်
၃၄ နှံကြလိမ့်မည်။ သူတို့သည်လည်းလူသားအားကဲ့ရဲ့ခြင်း။ ရိုက်ပုတ်
ခြင်း။တံတွေးထွေးခြင်း။အသေသတ်ခြင်းကိုပြုကြလိမ့်မည်။သုံးရက်
မြောက်သောနေ့၌ထမြောက်လိမ့်မည်ဟူ၍မိမိကိုယ်၌ရောက်လတံ့
သောအမှုအရာတို့ကိုတပည့်တော်တို့အားမိန့်တော်မူ၏။ ။
၃၅ ထိုအခါဇေဗေဒဲ၏သား ယာကုပ် နှင့် ယောဟန်သည်အထံတော်သို့
ချဉ်းကပ်၍အရှင်ဘုရား။အကျွန်ုပ်တို့တောင်းသောဆုကျေးဇူးကိုပြု
၃၆ တော်မူစေချင်ပါသည်ဟုလျှောက်လေ၏။ ကိုယ်တော်ကသင်တို့သည်
၃၇ ငါကိုအဘယ်သို့ပြုစေချင်သနည်းဟုမေးတော်မူသော် ကိုယ်တော်
သည်ဘုန်းဖွင့်တော်မူသောအခါအကျွန်ုပ်တို့သည်တယောက်လက်ျာ
တော်ဘက်။ တယောက်လက်ဝဲတော်ဘက်မှာ ထိုင်နေ ရသောအခွင့်
၃၈ ကိုပေးတော်မူပါဟုလျှောက်ကြ၏။ ယေရှုကလည်းသင် တို့သည်အ
ဘယ်သို့တောင်းပန်သည်ကိုသင်တို့မသိကြ။ ငါသောက်သော ခွက်
ကိုသင်တို့သောက်ခြင်း၎ါ၎င်ငါခံသောနှစ်ခြင်းကိုသင်တို့ခံခြင်း၎ါ
၃၉ ၎င်စွမ်နိုင်သလောဟုမေးတော်မူလျှင် အကျွန်ုပ်တို့စွမ်နိုင်ပါ၏ဟု
လျှောက်လေသော် ယေရှုကလည်း ငါသောက် သော ခွက်ကို သင်တို့

၄၀ သောက်ရလိမ့်မည်။ငါခံသောနှစ်ခြင်းကိုသင်တို့ခံရလိမ့်မည်။ သို့
သော်လည်း‌ငါလက်ျာဘက်။ငါလက်ဝဲဘက်မှာထိုင်နေရသောအခွင့်
ကိုကားအကြင်သူတို့အဖို့အလို ငှါပြင်ဆင်၏။ ထိုသူတို့အားသာငါ
၄၁ ပေးပိုင်သည်ဟုမိန့်တော်မူ၏။ ။အချားသောတပည့်တော်
တကျိပ်တို့သည်ကြားသိလျှင်ယာကုပ်။ယောဟန်တို့၌အမျက်ထွက်
၄၂ ကြ၏။ ယေရှုသည်သူတို့ကိုခေါ်တော်မူလျှင်သင်တို့သိသည့်အတိုင်း
လောကီမင်းတို့သည်အစိုးတရပြုတတ်၏။အကဲအမှူးတို့သည်အာဏာ
၄၃ ထားတတ်၏။ ထိုနည်းတူသင်တို့မပြုရ။သင်တို့တွင်အကဲအမှူးပြုလို
၄၄ သောသူသည်သင်တို့အစေခံဖြစ်ရ၏။ သင်တို့တွင်အထွဋ်အမြတ်
လုပ်ချင်သောသူသည်လည်းအားလုံးတို့စေခိုင်းရာကျွန်ဖြစ်ရ၏။
၄၅ အဘယ်ကြောင့်နည်းဟူမူကား။ လူသားသည် သူတပါးကိုစေစား
ခြင်းငှါမလာ။သူတပါးအစေကိုခံခြင်းငှါ၎င်မိမိအသက်ကိုစွန့်၍လူ
များကိုရွေးခြင်းငှါ၎င်ကြွလာသတည်းဟုမိန့်တော်မူ၏။ ။
၄၆ ယေရိခေါမြို့သို့ရောက်ကြ၍တပည့်တော်တို့မှစသောများစွာသော
လူအပေါင်းတို့နှင့်တကွထိုမြို့မှထွက်ကြွတော်မူစဉ်တိမဲ၏သားဗာ
တိမဲအမည်ရှိသောလူကန်းသည် သူတောင်းစားဖြစ်၍လမ်းနားမှာ
၄၇ ထိုင်နေ၏။ နာဇရက်မြို့သားယေရှုသည့်ရှိကြောင်းကိုကြားရလျှင်
ဒါဝိဒ်၏သားတော်ယေရှု။ ကျွန်တော်ကိုကယ်မသနားတော်မူပါဟု
၄၈ ဟစ်ကျော်လေ၏။ သူသည်တိတ်ဆိတ်စွာနေမည်အကြောင်း။လူများ
တို့သည်ငေါက်၍ဆိုသော်လည်း ဒါဝိဒ်၏သားတော်။ ကျွန်တော်ကို
၄၉ ကယ်မသနားတော်မူပါဟုသာ၍ဟစ်ကျော်လေသော် ယေရှုသည်
ရပ်တော်မူလျက်သူကိုခေါ်ခဲ့ဟုအမိန့်တော်ရှိ၏။သူတပါးတို့သည်လူ
ကန်းကိုခေါ်၍မစိုးရိမ်နှင့်။ထတော့။သင်ကိုခေါ်တော်မူသည်ဟုဆိုကြ
၅၀ လေသော် သူသည်မိမိအဝတ်ကိုချပြီးလျှင်ထ၍ယေရှုထံတော်သို့
၅၁ သွား၏။ ယေရှုကလည်းသင်၌အဘယ်သို့ပြုစေလိုသနည်းဟုမေး
၅၂ တော်မူလျှင် အရှင်ဘုရား။ ကျွန်တော်မျက်စိမြင်ပြန်စေခြင်းငှါပြု
တော်မူပါဟုလူကန်းလျှောက်ဆိုသည်ကိုယေရှုလည်းသွားတော့။သင်
၏ယုံကြည်ခြင်းသည်သင်ကိုကယ်ပြီးဟုမိန့်တော်မူ၏။ ထိုခဏ
ချင်းသူသည်မျက်စိမြင်ပြန်၍လမ်း၌နောက်တော်သို့လိုက်လေ၏။

**

၁ ယေရုရှလင်မြို့နှင့်အနီး။သံလွင်တောင်ခြေရင်း၌ ဗက်ဖာဂေရွာ။ဗေ

[redacted]



သနိရွာသို့ရောက်ကြသောအခါတပည့်တော်နှစ်ယောက်တို့ကိုစေ
၂ လွှတ်တော်မူ၍ သင်တို့ရှေ့၌ရှိသောရွာသို့သွားကြ။ထိုရွာသို့ရောက်
ရာတွင်အဘယ်သူမျှမစီးဘူးသောမြည်းကလေးတကောင်ချည်နှောင်
လျက်ရှိသည်ကိုသင်တို့ချက်ချင်းတွေ့လိမ့်မည်။ကြိုးကိုဖြည်၍ဆောင်
၃ ခဲ့ကြ။ သူတပါးကအဘယ်သို့ပြုသနည်းဟုသင်တို့အားဆိုလျှင် သ
ခင်အလိုရှိ၏ဟုပြန်ပြောကြလော့။သို့ပြောလျှင်ထိုသူသည်ချက်ချင်း
၄ ပေးလိုက်မည်ဟုမှာထားတော်မူ၏။ တပည့်တော်တို့သည်သွား၍
လမ်းဆုံရာ၌တံခါးပြင်မှာချည်ထားသောမြည်းကလေးကိုတွေ့ပြီးလျှင်ကြိုး
၅ ကိုဖြည်ကြ၏။ ထိုအရပ်၌ရပ်နေသောသူအချို့တို့ကအဘယ်ကြောင့်
၆ မြည်းကြိုးကိုဖြည်သနည်းဟုဆိုလျှင် တပည့်တော်တို့ကယေရှုမှာထား
တော်မူသည်အတိုင်းပြန်ပြောပြီးမှထိုသူတို့သည်အခွင့်ပေးကြ၏။
၇ ယေရှုထံတော်သို့မြည်းကလေးကိုဆောင်ခဲ့၍ မိမိတို့အဝတ်ကို မြည်းကြော
၈ ပေါ်မှာတင်ကြပြီးမှကိုယ်တော်သည်စီးတော်မူ၏။ လူများတို့သည်
မိမိအဝတ်ကိုလမ်း၌ခင်းကြ၏။အချို့တို့သည်သစ်ကိုင်းသစ်ခက်များ
၉ ကိုခုတ်၍လမ်း၌ခင်းကြ၏။ ရှေ့နောက်လိုက်သွားသောသူတို့ကဟောဲ
ရှဏ္ဏာဖြစ်စေသတည်း။ ထာဝရဘုရား၏အခွင့်နှင့် ကြွလာတော်မူ
၁၀ သောသူအားမင်္ဂလာဖြစ်စေသတည်း။ ယခုတည်လုသောငါတို့အဖ
ဒါဝိဒ်၏နိုင်ငံတော်အားမင်္ဂလာဖြစ်စေသတည်း။ကောင်းကင်ဘဝက်
၁၁ ဝယ်ဟောရှဏ္ဏာဖြစ်စေသတည်းဟုကြွေးကြော်ကြ၏။ ယေရှုသည်
ယေရုရှလင်မြို့သို့ရင်ဗိတ်မှာန်တော်သို့ရင်ဝင်၍အရာရာတို့ကိုကြည့်
ရှုတော်မူပြီးမှညအချိန်ရှိသည်ဖြစ်၍ဗေသနိရွာသို့တကျိပ်နှစ်ပါး
၁၂ သောသူနှင့်တကွထွက်သွားတော်မူ၏။ ။နက်ဖန်နေ့၌ဗေ
၁၃ သနိရွာမှပြန်ကြစဉ်တွင်ဆာမွတ်တော်မူ၏။ အရွက်နှင့်ပြည့်စုံသော
သင်္ဘောသဖန်းပင်ကိုအဝေးကမြင်လျှင်သင်္ဘောသဖန်းသီးဆွတ်သောအချိန်ကာလမ
ရောက်သေးသောကြောင့်ထိုအပင်၌အသီးကိုတွေ့ကောင်းတွေ့လိမ့်
မည်ဟုကြွ၍ရောက်သောအခါအရွက်ကိုသာတွေ့တော်မူသည်ရှိ
၁၄ သော် ယခုမှစ၍အစဉ်မပြတ်သင်အသီးကိုအဘယ်သူမျှမစားစေ
နှင့်ဟုမိန့်တော်မူ၏။တပည့်တော်တို့သည်လည်းကြားကြ၏။ ။
၁၅ ယေရုရှလင်မြို့သို့ရောက်ကြသောအခါကိုယ်တော်သည်ဗိတ်မှာန်တော်
သို့ဝင်တော်မူလျှင်ဗိတ်မှာန်တော်၌ရောင်းဝယ်သောသူတို့ကိုနှင်ထု
တ်၍ပွဲစားခုံတို့ကိုငှက်ချိုးငှက်ရောင်းသောသူတို့၏ထိုင်နေရာကိုငှက်တွန်း

၁၆ လှည်းတော်မမူ၍ ဗိတ်မှာနိတော်အထဲ၌မည်သောသူသည်အဆောက်
၁၇ အဦးကိုမဆောင်ရွက်မည်အကြောင်းမြစ်တားတော်မူလျက် ငါ့အိမ်
ကိုလူအမျိုးမျိုးဆုတောင်းရာအိမ်ဟူ၍ခေါ်ဝေါ်ကြလတ္တံ့ဟုကျမ်းစာ၌
လာသည်မဟုတ်လော။သို့သော်လည်းသင်တို့သည် ထိုအိမ်ကိုခိုးမြ
၁၈ တွင်းဖြစ်စေကြပြီးတကားဟူ၍ဆုံးမဩဝါဒပေးတော်မူ၏။ ကျမ်းပြု
ဆရာ။ ယဇ်ပုရောဟိတ်အကြီး တို့သည်ကြားလျှင် ကိုယ်တော်ကို
သတ်ရသောအခွင့်ကိုရှာကြကြ၏။လူများအပေါင်းတို့သည်ဆုံးမဩ
ဝါဒပေးတော်မူခြင်းကိုအံ့ဩြာမိန်းမောသောကြောင့်ထိုသူတို့သည်
၁၉ ကိုယ်တော်ကိုကြောက်ကြ၏။ ညအချိန်ရောက်သောအခါမြို့ပြင်သို့
၂၀ ထွက်တော်မူ၏။ ။နံနက်အချိန်တွင်လမ်း၌သွားကြစဉ်တည်း
၂၁ ပင်သည်အမြစ်မှစ၍ခြောက်လျက်ရှိသည်ကိုမြင်ကြ၏။ ပေတ
ရုသည် သတိရလျှင် အရှင်ဘုရား။ကြည့်တော်မူပါ။ ကျိန်ဆိုတော်မူ
သောသဖန်းပင် သည် ခြောက်ပါပြီးတကားဟုလျှောက် လေ၏။
၂၂ ယေရှုကလည်းသင်တို့သည်ဘုရားသခင်ကိုယုံခြင်းရှိကြလော့။ ငါအ
၂၃ မှန်ဆိုသည်ကား။ အကြင်သူသည်ယုံမှားသောစိတ်နှင့်ကင်း၍ မိမိဆို
သည်အတိုင်းဖြစ်မည်ဟုယုံသဖြင့်ထိုတောင်ကိုနေရာမှရွေ့တော့။ပင်
လယ်၌ကျတော့ဟုဆို၏။ထိုသူ၌မိမိဆိုသည်အတိုင်းဖြစ်လိမ့်မည်။
၂၄ ထိုကြောင့်ငါဆိုသည် ကား သင် တို့ သည် ဆုကျေးဇူး ကို ရမည် ဟု ယုံ
၂၅ သောစိတ်နှင့်ဆုတောင်းသမျှတို့ကိုရကြလိမ့်မည်။ သင် တို့ သည် ဆု
တော င်း သော အခါ သူ တပါး ၌အ ပြစ် တင် ခွင့် ရှိ လျှင်သူ အ ပြစ် ကို
လွှတ်ကြလော့။သို့ပြုလျှင်ကောင်းကင်ဘုံ၌ရှိတော်မူသောသင်တို့အဖ
၂၆ သည်သင် တို့အပြစ်ကိုလွှတ် တော်မူမည်။ သင်တို့သည်သူ့အပြစ်ကို
မလွှတ်လျှင်ကောင်းကင်ဘုံ၌ရှိတော်မူသောသင်တို့အဖသည်သင်တို့
အပြစ်ကိုလွှတ်တော်မမူဟုမိန့်တော်မူ၏။

**

၂၇ ယေရုရှလင်မြို့သို့တဖန်ရောက် ကြပြီး မှဗိတ်မှာနိ တော် ၌ စကြံ့သွား
တော်မူစဉ်ယဇ်ပုရောဟိတ်အကြီး။ကျမ်း ပြုဆရာ။လွှတ်အရာရှိတို့
၂၈ သည်အထံတော်သို့ချဉ်းကပ်၍ ကိုယ်တော်သည် ဤအမှုများကိုအ
ဘယ်အခွင့်နှင့်ပြု သနည်း။ ဤသို့ပြုသောအခွင့် ကိုအဘယ် သူ ပေး
၂၉ သနည်းဟုမေးလျှောက်ကြသော် ယေရှုကငါသည် တရုံတခုကိုမေး
ဦးမည်။သင်တို့ဖြေကြတော့။ဖြေလျှင် ဤအမှုများကိုအဘယ်အခွင့်

၃၀ နှင့်ငါပြုသည်ကိုငါပြောမည်။ ယောဟန်၏ရေနှစ်မင်္ဂလာသည်ဘုရား
ကဖြစ်သလော။ လူကဖြစ်သလော။ ဤအမေးကိုဖြေကြတော့ဟုမေး
၃၁ တော်မူ၏။ ထိုသူတို့သည် အချင်းချင်းဆင်ချင်ကြ၍ဘုရားကဖြစ်
သည်ဟုငါတို့ဖြေလျှင်သင်တို့သည် ယောဟန်ကိုအဘယ်ကြောင့်မရုံ
၃၂ သနည်းဟု သူဆိုလိမ့်မည်။ လူက ဖြစ်သည်ဟု ငါတို့ဖြေလျှင်
လူများကိုကြောက်ရ၏။ ယောဟန်သည် ပရောဖက်အမှန်ဖြစ်သည်
၃၃ ကိုလူအားလုံးတို့သည် ယူကြ၏ဟု အချင်းချင်းဆင်ချင်ပြီးမှအကျွန်ုပ်
တို့မသိဟုယေရှုအားပြန်ပြောကြ၏။ ယေရှုကလည်းထိုအတူ။ဤအ
မှုများကိုအဘယ်အခွင့်နှင့်ငါပြုသည်ကိုငါမပြောဟုမိန့်တော်မူ၏။

၁ ။ထိုအခါဥပမာအားဖြင့်မိန့်တော်မူသည်ကား။လူတဦး
သည်စပျစ်ဥယျာဉ်ကိုစိုက်ပျိုး၍စောင်းရန်းကိုလုပ်ပြီးမှစပျစ်သီး
ညှစ်ရာတွင်းကိုတူးလေ၏။ မှီခိုရာတဲလင့်ကိုလည်းဆောက်လေ၏။
လုပ်ဆောင်သောသူတို့အားဥယျာဉ်ကိုငှါး၍အခြားပြည်သို့သွားလေ
၂ ၏။ ကာလအချိန်တန်လျှင်လုပ်ဆောင်သောသူတို့လက်မှစပျစ်
သီးကိုခံရအောင်သူတို့ဆီသို့ငယ်သားကိုစေလိုက်လေ၏။
၃ ထိုသူတို့သည်ငယ်သားကိုဖမ်းဆီး၍ရိုက်ပြီးမှလက်ချည်းလွှတ်လိုက်
၄ ကြ၏။ နောက်တဖန်အခြားငယ်သားကိုသူတို့ဆီသို့စေလိုက်ပြန်
လျှင်ဥယျာဉ်စောင့်တို့သည်သူကိုခဲနှင့်ပြစ်သဖြင့်ခေါင်းကိုမှန်၍အ
၅ ရှက်ခွဲပြီးမှလွှတ်လိုက်ကြ၏။ အခြားငယ်သားကိုစေလိုက်ပြန်လျှင်
သူကိုသတ်ကြ၏။အခြားငယ်သားများတို့တွင်အချို့တို့ကိုရိုက်ကြ၏။
၆ အချို့တို့ကိုသတ်ကြ၏။ ထိုကြောင့်ဥယျာဉ်ရှင်သည်မိမိချစ်သားတ
ယောက်တည်းရှိသေးသည်ဖြစ်၍သူတို့သည်ငါ့သားကိုအားနာလိမ့်
၇ မည်ဟုဆို၍မိမိသားကိုနောက်ဆုံး၌စေလိုက်လေ၏။ ဥယျာဉ်စောင့်
တို့လည်းဤသူသည်အမွေခံဖြစ်၏။လာကြ။သူကိုသတ်ကြစို့။ထိုသို့သူ
၈ ၏အမွေဥစ္စာကိုငါတို့ရလိမ့်မည်ဟုအချင်းချင်းတိုင်ပင်၍ ဥယျာဉ်
ရှင်၏သားကိုဖမ်းယူပြီးမှသတ်၍ဥယျာဉ်ပြင်သို့ထုတ်ပစ်ကြ၏။
၉ သို့ဖြစ်လျှင်ဥယျာဉ်ရှင်သည်အဘယ်သို့ပြုမည်နည်း။ သူသည်လာ၍
ဥယျာဉ်စောင့်တို့ကိုသုတ်သင်ပယ်ရှင်းပြီးမှထိုဥယျာဉ်ကိုအခြားသူ
၁၀ တို့အားပေးမည်။ တိုက်ကိုတည်လုပ်သောသူများပယ်ထားသော
ကျောက်သည်နောက်တဖန်တိုက်ထောင့်အထွဋ်ဖျားသို့ရောက်ပြန်၏။
၁၁ ထိုအမှုသည်ထာဝရဘုရားပြုတော်မူသောအမှုဖြစ်၏။ငါတို့မျက်

မှောက် ၌လည်း အံ့ဩဘွယ် ဖြစ် ၏ဟူသော စကား ကိုကျမ်း စာ ၌
၁၂ သင်တို့သည်မဖတ်ဘူးသလောဟုမိန့် တော်မူ၏။ ထိုသူတို့သည်မိမိ
တို့ကိုရည်စောင်း၍ထို ဥပမာစကားကိုဟောပြောတော်မူသည်ကိုသိ
ကြသဖြင့်ကိုယ်တော်ကို ဖမ်းဆီး ခြင်း ငှါရှာကြံကြ၏။ သို့သော် လည်း
လူအပေါင်းကိုကြောက်သောကြောင့် အထံတော်မှထွက်သွားကြ၏။
၁၃ ။တဖန်စကားတော်ကိုချောင်းမြောင်း၍အပြစ်ပြုနိုင်ကိုရ
ခြင်း ငှါဖါရိရှဲလူ။ဟေရုဒ်လူအချို့တို့ကိုအထံ တော်သို့ စေလိုက်ကြသ
၁၄ ဖြင့် သူတို့သည်ချဉ်းကပ်၍အရှင် ဘုရား။ကိုယ် တော်သည်သစ္စာရှိ
ပါ၏။အဘယ်သူကို မျှမကြောက်။လူမျက်နှာကိုမထောက်ဘဲလျှက်ဘု
ရားသခင်၏တရားလမ်းကိုဟုတ်မှန်စွာပြတော်မူသည် ကို အကျွန်ုပ်
တို့သိပါ၏။ကဲသာဘုရင် အားအခွန် ဆက် အပ်သလော။ မဆက် အပ်
၁၅ သလော။ အကျွန်ုပ်တို့သည်ဆက်ရာသလော။မဆက်ရာသလောဟု
မေးလျှောက် ကြ၏။ ကိုယ်တော်သည် သူတို့လျှို့ဝှက်ခြင်း ကိုသိတော်မူ
လျှင် သင် တို့သည် ငါကိုအဘယ်ကြောင့် စုံစမ်းနှောင့်ရှက်သနည်း။ဒေ
၁၆ နာရိတပြားကိုငါကြည့်ရအောင်ယူခဲ့ပါဟုမိန့်တော်မူ၍ သူတို့သည်
ယူခဲ့ကြ၏။ဤပုံ။ဤလိပ်စာကားအဘယ်သူပုံ။အဘယ်သူလိပ်စာဖြစ်
သနည်း ဟုမေးတော်မူလျှင်ကဲသာဘုရင် ၏ ပုံလိပ် စာဖြစ် သည် ဟု
၁၇ လျှောက်ကြသော် ယေရှုလည်းကဲသာဘုရင်၏ဥစ္စာကိုကဲသာဘုရင်
အား ဆက် ပေး ကြလော့။ဘုရား သခင် ၏ ဥစ္စာကို ကား ဘုရား သခင်
အားဆက် ပေးကြလော့ဟုမိန့် တော်မူသည် ကိုသူတို့သည် အံ့ဩ၍
နေကြ၏။

❋❋

၁၈ ထမြောက် ရှင်ပြန်ခြင်း မရှိဟုအယူယူသောဇဒ္ဒုကဲလူတို့သည် လည်း
၁၉ အထံတော်သို့ချဉ်း ကပ်၍ အရှင်ဘုရား။လူမည် သည် ကားသားမ
ရှိမှီသေသွား၍ မယားကျန်ရစ် လျှင်သူညီသည်ထိုမိမ္မကိုသိမ်းယူ၍
အစ် ကိုအမျိုး မပြတ် ဆက် နွယ် စေဟုအကျွန်ုပ် တို့အား မော ရှေစီရင်
၂၀ ရေးထားခဲ့ပြီး။ ညီအစ်ကိုခု နှစ်ယောက် ရှိ၏။အစ်ကိုအကြီးသည်အိမ်
၂၁ ထောင်၍သားမရှိမှီသေပြီးလျှင် သူ၏မယားကိုသူညီအကြီးသိမ်း
၂၂ ယူ၍သားမရှိမှီသေပြန်လေ၏။ထိုအတူ။တယောက်နောက် တယောက်
ခု နှစ်ယောက်စေ့အောင်ထိုမိမ္မကိုသိမ်းယူ၍သါးကိုမကျန်ရစ်စေကြ။
၂၃ နောက်ဆုံး၌မိမ္မလည်းသေလေ၏။ သို့ဖြစ်လျှင်ထမြောက်ရာကါလသူ
တို့သည်ထမြောက်သောအခါထိုမိမ္မသည် အဘယ်သူ၏မယားဖြစ်ပါ

မည်နည်း။ခုနှစ်ယောက်စလုံးတို့သည်သူနှင့်အိမ်ထောင်ဖက်ပြုကြ
၂၄ ပြီးဟုမေးလျှောက်ကြ၏။ ယေရှုကလည်းသင်တို့သည်ကျမ်းစာကို
နားမလည်၍ဘုရားသခင်၏တန်ခိုးတော်ကိုမသိသဖြင့်မှားသောအ
၂၅ ယူယူကြ၏။ သေခြင်းမှထမြောက်ကြသောအခါအိမ်ထောင်ခြင်းကိုမ
ပြု။ထိမ်းမြားပေးစားခြင်းကိုမပြု။ ကောင်းကင်တမန်ကဲ့သို့ဖြစ်ကြ
၂၆ ၏။ ထိုမှတပါး။သေလွန်သောသူတို့သည်ထမြောက်သည်အရာမှာ
ဘုရားသခင်ကငါသည်အာဗြဟံ၏ဘုရား။ဣဇာက်၏ဘုရား။ယာ
ကုပ်၏ဘုရားဖြစ်သည်ဟုခြုံ၌မောရှေအားမိန့်တော်မူကြောင်းကို
၂၇ မောရှေကျမ်းစာ၌သင်တို့သည်မဖတ်ဘူးသလော။ဘုရားသခင်သည်
သေနေသောသူတို့၏ဘုရားမဟုတ်။အသက်ရှင်သောသူတို့၏ဘုရား
ဖြစ်တော်မူ၏။ထို့ကြောင့်သင်တို့သည်အလွန်မှားကြသည်ဟုမိန့်
၂၈ တော်မူ၏။ ။ထိုသို့ဆွေးနွေးညှင်းခုံကြသည်ကိုကျမ်းပြုဆ
ရာတယောက်သည်ကြား၍ကိုယ်တော်သည်လျှောက်ပတ်စွာပြန်
ပြောတော်မူသည်ကိုသိမြင်လျှင်အထံတော်သို့ချဉ်းကပ်၍ပညတ်
တကာတို့တွင်အဘယ်မည်သောပညတ်သည်သာ၍ကြီးမြတ်သ
၂၉ နည်းဟုမေးလျှောက်လေသော် ယေရှုကပညတ်တကာတို့တွင်အမြတ်
ဆုံးသောပညတ်ဟူမူကား။ ဣသရေလလူတို့။နားထောင်ကြလော့။
၃၀ ထာဝရဘုရားသည်ငါတို့ဘုရားသခင်ဖြစ်၏။ ထာဝရဘုရားသည်
တပါးတည်းဖြစ်တော်မူ၏။ ထာဝရဘုရားတည်းဟူသောသင်၏ဘု
ရားသခင်ကိုစိတ်နှစ်လုံးအကြွင်းမဲ့ညာဏ်ရှိသမျှ။အစွမ်းသတ္တိရှိသ
၃၁ မျှနှင့်ချစ်လော့။ ဤပညတ်သည်ပဌမပညတ်ဖြစ်၏။ ထိုမှတပါး။
ကိုယ်နှင့်စပ်ဆိုင်သောသူကိုကိုယ်နှင့်အမျှချစ်လော့ဟူသောဒုတိယ
ပညတ်သည်ပဌမပညတ်နှင့်သဘောတူ၏။ ဤပညတ်တို့ထက်သာ
၃၂ ၍ကြီးမြတ်သောပညတ်မရှိဟုပြန်၍မိန့်တော်မူ၏။ ကျမ်းပြုဆရာ
ကလည်းအရှင်ဘုရား။ လျှောက်ပတ်ပေ၏။ဟုတ်မှန်စွာမိန့်တော်မူ
၃၃ ၏။ဘုရားသခင်တပါးတည်းရှိ၏။ ထိုဘုရားသခင်မှတပါးအခြား
ဘုရားသခင်မရှိ။ထိုဘုရားသခင်ကိုစိတ်နှစ်လုံးအကြွင်းမဲ့ညာဏ်ရှိ
သမျှ။အစွမ်းသတ္တိရှိသမျှနှင့်ချစ်ခြင်း။ ကိုယ်နှင့်စပ်ဆိုင်သောသူကို
လည်းကိုယ်နှင့်အမျှချစ်ခြင်းအကျင့်သည်မီးရှို့သောယဇ်ကောင်မှစ
၍ယဇ်အမျိုးမျိုးတို့ကိုပူဇော်ခြင်းအကျင့်ထက်သာ၍မြတ်သည်ဟု
၃၄ လျှောက်လေ၏။ ထိုသို့ပညာသတိနှင့်ပြန်လျှောက်သည်ကိုယေရှု

သိမြင်လျှင်သင်သည်ဘုရားသခင်နိုင်ငံတော်နှင့်မဝေးဟုမိန့်တော်
မူ၏။နောက်တဖန်အဘယ်သူမျှမမေးမလျှောက်ဝံ့ကြ။ ။
၃၅ ထိုအခါယေရှုသည်ဗိမာန်တော်၌ဆုမ္မကြွဝါဒပေးတော်မူစဉ်တွင်
ခရစ်တော်သည်ဒါဝိဒ်၏သားဖြစ်သည်ဟုကျမ်းပြုဆရာတို့သည်အ
၃၆ ဘယ်သို့ဆိုကြသနည်း။ ဒါဝိဒ်စကားမှာထာဝရဘုရားကသင်၏
ရန်သူတို့ကိုသင်၏ခြေတင်ရာငါမချမထားမှီတိုင်အောင်ငါလက်ျာ
ဘက်၌ထိုင်နေလော့ဟုငါ့သခင်အားမိန့်တော်မူသည်ဟုသန့်ရှင်း
၃၇ သောဝိညာဉ်တော်အားဖြင့်ဒါဝိဒ်ဆိုသတည်း။ ထိုသို့ဒါဝိဒ်သည်ခ
ရစ်တော်ကိုသခင်ဟူ၍ခေါ်ဝေါ်လျှင်အဘယ်သို့သူ၏သားဖြစ်သ
နည်းဟုမိန့်တော်မူ၏။လူများအပေါင်းတို့သည်အားရဝမ်းမြောက်
၃၈ သောစိတ်နှင့်စကားတော်ကိုနားထောင်ကြ၏။ ။ထိုသို့ဆုမ္မ
ကြွဝါဒပေးစဉ်တွင်တဖန်မိန့်တော်မူသည်ကား။ကျမ်းပြုဆရာတို့ကို
ရှောင်ကြလော့။သူတို့သည်ရှည်သောအင်္ကျီကိုဝတ်လျက်လည်ခြင်း၌
၃၉ အလိုရှိကြ၏။ဈေး၌ရိုသေစွာနှုတ်ဆက်ခြင်းကိုင်၎ ပွဲသဘင်။တရားဇ
၄၀ ရပ်တို့၌မြင့်မြတ်သောနေရာထိုင်ရာကိုင်၎နှစ်သက်ကြ၏။ သူတို့
သည်မုတ်ဆိုးမအိမ်ကိုလုယူသိမ်းစား၍အပြစ်မပေါ်အောင်ရှည်စွာ
သောပဌနာစကားကိုရွတ်တတ်ကြ၏။သူတို့သည်သာ၍ကြီးစွာ
၄၁ သောဒါဏ်ကိုခံရကြမည်ဟုမိန့်တော်မူ၏။ ။ထိုနောက်
ယေရှုသည်ဘဏ္ဍာတိုက်ရှေ့မှာထိုင်တော်မူစဉ်လူများတို့သည်
ကြေးငွေကိုဘဏ္ဍာတိုက်ထဲသို့သွင်းချသည်ကိုရှုမြင်တော်မူ၏။ငွေ
၄၂ ရတတ်သောသူအများတို့သည်များများသွင်းချကြ၏။ ဆင်းရဲသော
မုတ်ဆိုးမတယောက်သည်လာ၍တပဲလောက်တန်သောကြေးနီဒင်္ဂါး
၄၃ နှစ်ပြားကိုသွင်းချ၏။ ကိုယ်တော်သည်တပည့်တော်တို့ကိုခေါ်လျှင်
ငါအမှန်ဆိုသည်ကား။ဘဏ္ဍာတိုက်ထဲသို့သွင်းချသောသူအားလုံး
၄၄ ထက်ထိုဆင်းရဲသောမုတ်ဆိုးမသည်သာ၍သွင်းခဲ့ပြီး။ အဘယ်
ကြောင့်နည်းဟူမူကား။ထိုသူအားလုံးတို့သည်မိမိတို့ကြွယ်ဝသော
စည်းစိမ်ထဲကထုတ်၍သွင်းချကြ၏။ထိုမိန်းမူကားအလွန်ဆင်းရဲ
လျက်ပင်မိမိအသက်မွေးစရာဥစ္စာရှိသမျှအားလုံးကိုသွင်းချလေပြီး
ဟုမိန့်တော်မူ၏။ ❋❋
၁ ကိုယ်တော်သည်ဗိမာန်တော်မှထွက်ကြွတော်မူသည်ရှိသော်တ
ပည့်တော်တယောက်ကအရှင်ဘုရား။ကြည့်တော်မူပါ။ဧရာကျောက်

၂ ကြီးတကား။ဧရာတိုက်ဆောင်ကြီးတကားဟုလျှောက်လျှင် ယေရှု
ကဤကြီးမားသောတိုက်ဆောင်တို့ကိုသင်သည်ယခုမြင်ရ၏။ခဲမြို့မ
၃ ချ။ကျောက်တခုပေါ်မှာတခုမျှမတည်မနေရဟုမိန့်တော်မူ၏။ ထို
နောက်သံလွင်တောင်ပေါ်မှာဗိမာန်တော်ရှေ့ရှုထိုင်နေတော်မူစဉ်
တွင်ပေတရု။ယာကုပ်။ယောဟန်။အန္ဒြေတို့သည်ဆိတ်ကွယ်ရာအ
၄ ရပ်၌မေး၍ ထိုအမှုအရာတို့သည်အဘယ်သောအခါဖြစ်ပါမည်
ကိုငင်ထိုအမှုအရာအားလုံးတို့သည်ပြည့်စုံလုသောအခါအဘယ်
ပုပ္ပနိမိတ်ပေါ်ထွန်းပါမည်ဘိုငင်အမိန့်ရှိတော်မူပါဟုလျှောက်ကြ၏။
၅ ယေရှုကလည်းအဘယ်သူမျှသင်တို့ကိုမလှည့်ဖျားရအောင်သတိပြု
၆ ကြလော့။ အများသောသူတို့ကငါသည်ခရစ်တော်ဖြစ်၏ဟုဆို၍ငါ
အရောင်ဆောင်လျက်ပေါ်လာ၍လူအများတို့ကိုလှည့်ဖျားကြလိမ့်မည်။
၇ သင်တို့သည်စစ်တိုက်ကြောင်းကိုငင်စစ်တိုက်အံ့သောသိတင်းစကား
ကိုငင်ကြားရသောအခါစိုးရိမ်တုန်လှုပ်ခြင်းမရှိကြနှင့်။ထိုသို့ဖြစ်ရ
၈ မည်။ဖြစ်ရသော်လည်းအဆုံးသည်မဖြစ်သေး။ ။လူတမျိုး
နှင့်တမျိုး။တနိုင်ငံနှင့်တနိုင်ငံရန်ဘက်ပြုကြလိမ့်မည်။အရပ်ရပ်၌
မြေကြီးလှုပ်ခြင်းဖြစ်လိမ့်မည်။အစာခေါင်းပါးခြင်းနှင့်မညီမ်မ
သက်ခြင်းတို့သည်လည်းဖြစ်ကြလိမ့်မည်။ထိုသို့ဖြစ်၍ဒုက္ခဆင်းရဲ
၉ အစအဦးဖြစ်သတည်း။ သင်တို့သည်ကိုယ်ကိုကိုယ်သတိပြုကြလော့။
အကြောင်းမူကား။သင်တို့ကိုလွှတ်ရုံးသို့အပ်နှံလိမ့်မည်။တရားဇရပ်
တို့၌ရိုက်လိမ့်မည်။ထိုသူတို့အားသက်သေဖြစ်မည်အကြောင်း။သင်
၁၀ တို့သည်ဝန်မင်း။ရှင်ဘုရင်ထံသို့ငါ့ကြောင့်ရောက်ကြလိမ့်မည်။ ဧဝံ
ဂေလိတရားကိုရှေးဦးစွာလူမျိုးအပေါင်းတို့အားဟောရလိမ့်မည်။
၁၁ သင်တို့ကိုအပ်နှံမည်ပို့ဆောင်ကြသောအခါအဘယ်သို့ပြောဆိုရ
မည်ကိုမစိုးရိမ်ကြနှင့်။ရှေ့မဆွကမဆင်ခြင်ကြနှင့်။ထိုခဏတွင်ပင်
သင်တို့ရသောစကားကိုသာပြောကြလော့။အကြောင်းမူကား။သင်
တို့အလိုအလျောက်ပြောကြသည်မဟုတ်။သန့်ရှင်းသောဝိညာဉ်တော်
၁၂ သည်ပြောတော်မူ၏။ ထိုကာလ၌ညီအစ်ကိုချင်းတယောက်ကိုတ
ယောက်သေစေခြင်းငှါအပ်ကြလိမ့်မည်။အဖသည်လည်းသားကိုအပ်
လိမ့်မည်။သားသမီးတို့သည်လည်းမိဘကိုရန်ဘက်ပြု၍သေစေကြ
၁၃ လိမ့်မည်။ လူအပေါင်းတို့သည်လည်းငါနာမကြောင့်သင်တို့ကိုမုန်း
ကြလိမ့်မည်။အကြင်သူသည်အဆုံးတိုင်အောင်မြဲမြံ၏။ထိုသူသည်

၁၄ ကယ်တင်ခြင်းသို့ရောက်လိမ့်မည်။ ။ဖျက်ဆီးတတ်သော
ရွံရှာဘွယ်အရာသည်မနေသင့်သောအရပ်၌ရိုက်နေသည်ကိုသင်တို့
မြင်ရလျှင်ကျမ်းစာကြည့်သောသူသည်နားလည်ပါလေစေ။ထိုသို့မြင်
ရလျှင်ယုဒပြည်၌ရှိသောသူတို့သည်တောင်ပေါ်သို့ပြေးပါလေစေ။
၁၅ အိမ်မိုးပေါ်မှာရှိသောသူသည်အိမ်ထဲသို့မဆင်းစေနှင့်။အိမ်ထဲကတ
၁၆ စုံတခုကိုယူခြင်းငှါမဝင်စေနှင့်။ လယ်၌ရှိသောသူလည်းမိမိအဝတ်
၁၇ ကိုယူခြင်းငှါနောက်သို့မပြန်စေနှင့်။ ထိုနေ့ရက်၌ကိုယ်ဝန်ဆောင်
၁၈ သောမိန်းမ။နို့စို့သူငယ်ရှိသောမိန်းမတို့သည်အလွန်ခက်လိမ့်မည်။ သင်
တို့ပြေးရသောအချိန်သည်ဆောင်းကာလ၌မကျရမည်အကြောင်းဆု
၁၉ တောင်းကြလော့။ အကြောင်းမူကား။ဘုရားသခင်ဖန်ဆင်းတော်မူသော
ကမ္ဘာဦးမှစ၍ယခုတိုင်အောင်မဖြစ်ဘူး၍နောက်၌လည်းမဖြစ်လတံ့
၂၀ သောဒုက္ခသည်ထိုနေ့ရက်ကာလ၌ဖြစ်လိမ့်မည်။ ထိုကာလကိုဘု
ရားသခင်သည်တာရှည်စေတော်မူလျှင်အဘယ်သူမျှမလွတ်နိုင်ရာ။
ရွေးချယ်တော်မူသောသူတို့အဖို့အလို့ငှါထိုကာလကိုတိုစေတော်မူ
၂၁ ၏။ ။ထိုအခါမည်သူကဤအရပ်၌ခရစ်တော်ရှိ၏။ထိုအ
၂၂ ရပ်၌ရှိ၏ဟုဆိုလျှင်မယုံကြနှင့်။ အကြောင်းမူကား။ခရစ်တော်ယောင်
ဆောင်သောသူ။ပရောဖက်ယောင်ဆောင်သောသူတို့သည်ပေါ်လာ
၍ရွေးချယ်သောသူတို့ကိုပင်လှည့်ဖျားနိုင်လျှင်လှည့်ဖျားလောက်
၂၃ အောင်နိမိတ်လက္ခဏာအံ့ဘွယ်သရဲတို့ကိုပြကြလိမ့်မည်။ သင်တို့
သတိပြုကြလော့။ ထိုအကြောင်းအရာအားလုံးကိုငါဟောပြော
နှင့်ပြီး။

❋❋

၂၄ ထိုကာလ၏ဒုက္ခဆင်းရဲခြင်းနောက်မှာနေမိုက်လိမ့်မည်။လသည်အ
၂၅ ရောင်ကိုမပေး။ကောင်းကင်ကြယ်တို့သည်ကျလိမ့်မည်။ ကောင်း
၂၆ ကင်တန်ခိုးတို့သည်တုန်လှုပ်ခြင်းရှိလိမ့်မည်။ ထိုအခါလူသားသည်
ကြီးစွာသောဘုန်းတန်ခိုးအာနုဘော်ကိုဆောင်လျက်မိုဃ်းတိမ်ကိုစီး
၂၇ ၍ကြွလာတော်မူသည်ကိုမြင်ရကြလိမ့်မည်။ ထိုအခါလူသားသည်
မိမိတမန်တို့ကိုစေလိုက်သဖြင့်မိမိရွေးချယ်သောသူတို့ကိုအရပ်
လေးမျက်နှာ။ကောင်းကင်အောက်ထက်ဝန်းကျင်တို့မှခေါ်၍စုရုံးစေ
၂၈ တော်မူလတံ့။ ။တည်းပင်ကိုအစွဲပြု၍ပုံသက်သေတခုကို
မှတ်ကြလော့။ တည်းပင်သည်အခက်အလက်နု၍အရွက်ပေါက်သော
၂၉ အခါနွေကာလနီးသည်ကိုသင်တို့သိကြ၏။ ထိုနည်းတူ။ဤအကြော

င်းအရာများဖြစ်သည်ကိုမြင်ရလျှင်လူသားသည်တံခါးဝတိုင်အောင
၃၀ င်အနီးသို့ရောက်တော်မူသည်ကိုသိမှတ်ကြလော့။ ငါအမှန်ဆိုသည်
ကား။ယခုရှိသောလူများမကုန်မီ၌အကြောင်းအရာအားလုံးတို့
၃၁ သည်ဖြစ်လိမ့်မည်။ ကောင်းကင်နှင့်မြေကြီးသည်လည်းငါ
၃၂ ၏စကားတည်လိမ့်မည်။ ။ထိုအချိန်နာရီကိုခမည်းတော်မှတ
ပါးအဘယ်သူမျှမသိ။ကောင်းကင်တမန်များမသိ။သားတော်လည်း
၃၃ မသိ။ ထိုအချိန်ကာလသည်အဘယ်သောအခါရောက်မည်ကိုသင်
တို့မသိသောကြောင့်သတိပြု၍ဆုတောင်းလျက်စောင့်နေကြလော့။
၃၄ ဥပမာကား။လူတဦးသည်အခြားပြည်သို့သွားမည်အကြံနှင့်မိမိအိမ်
ကိုငယ်သားတို့လက်သို့အပ်၍သူတို့အသီးအသီးဆောင်ရွက်စရာအမှု
ကိုခွဲခန့်ပြီးမှ၍တံခါးမှူးကိုစောင့်နေစေဟုမှာထားပြီးမှသွားလေသည်
၃၅ ဖြစ်၍ အိမ်ရှင်သည်ညဦးအချိန်။သန်းခေါင်အချိန်။ကြက်ဦးတွန်ချိန်။
နံနက်အချိန်။အဘယ်အချိန်၌လာမည်ကိုသင်တို့မသိသောကြောင့်
၃၆ စောင့်နေကြလော့။ သို့မဟုတ်။အမှတ်တမဲ့လာ၍သင်တို့အိပ်ပျော်သည်
၃၇ ကိုတွေ့လိမ့်မည်။ စောင့်နေကြလော့ဟုသင်တို့အားငါဆိုသည်အတို
င်းခပ်သိမ်းသောသူတို့အားငါဆိုသည်ဟုမိန့်တော်မူ၏။ ။
၁ ထိုနောက်နှစ်ရက်လွန်မှပသခါအစာမပွဲရှိ၏။ ယဇ်ပုရောဟိတ်အ
ကြီး။ကျမ်းပြုဆရာတို့သည်ကိုယ်တော်ကိုပရိယာယ်အားဖြင့်ဖမ်းဆီး
၂ ၍သတ်အံ့သောငှါရှာကြံကြ၏။ သို့သော်လည်းလူအပေါင်းတို့သည်
မညီမညွတ်ရုန်းရင်းခပ်ဖြစ်မည်စိုးရိမ်၍ပွဲနေ့တွင်မပြုနှင့်ဦးဟုပြော
၃ ဆိုကြ၏။ ။ဗေသနိရွာမှာနူနာစွဲဘူးသောသူ။ရှိမုန်၏အိမ်
၌ကိုယ်တော်ရှိတော်မူသည်ဖြစ်၍မိမ္မတယောက်သည်အဖိုးများစွာ
ထိုက်သောနာဒုဆီမွှေးစစ်နှင့်ပြည့်သောကျောက်ဖြူဗူးတလုံးကိုယူ
ခဲ့၍ကိုယ်တော်သည်စားပွဲနားမှာထိုင်နေတော်မူစဉ်ကျောက်ဖြူဗူး
၄ ကိုခွဲပြီးမှခေါင်းတော်ပေါ်၌သွန်းလောင်းလေ၏။ အချို့တို့သည်ဒေါ
သစိတ်ရှိသည်ဖြစ်၍ထိုဆီမွှေးကိုအဘယ်ကြောင့်အကျိုးမဲ့သုံးစေသ
၅ နည်း။ ဒေနာရိအပျားသုံးရာမကသောအဖိုးနှင့်ရောင်း၍ဆင်းရဲ
သောသူတို့အားပေးစရာကောင်းသည်ဟုဆို၍ထိုမိမ္မကိုအပြစ်တင်ကြ
၆ ၏။ ယေရှုကလည်းထိုမိမ္မကိုရှိပါလေစေတော့။အဘယ်ကြောင့်နှောင့်
၇ ရှက်ကြသနည်း။ကောင်းသောအမှုကိုငါ၌သူပြုပြီ။ ဆင်းရဲသောသူ
တို့ကားသင်တို့၌အစဉ်ရှိကြ၏။သင်တို့အလိုရှိတိုင်းသူတို့အားကျေး

၈ ဘုရားပြုနိုင်၏။ငါမှုကားသင်တို့၌အစည်ရှိသည်မဟုတ်။ ဤမိန်းမသည်
တတ်နိုင်သမျှပြုခဲ့ပြီး။ငါ့အလောင်းကိုသင်းဂြိုဟ်မည်ပြင်ဆင်ခြင်း
၉ ငှါငါ့ကိုယ်ကိုဆီမွှေးနှင့်လူးနှင့်သတည်း။ ငါအမှန်ဆိုသည်ကား။ဧဝံ
ဂေလိတရားတော်ကို မြေတပြင်လုံးတွင်ဟောသောအရပ်ရပ်၌ဤမိ
န်းမကိုအောင်းမေ့စရာအဘို့သူပြုသော ဤအမှုကို ကြားပြောရကြလတ့်
၁၀ ဟုမိန့်တော်မူ၏။ ။ထိုအခါတပည့်တော်တကျိပ်နှစ်ပါးအဝင်
ယုဒရှကာရုတ်သည် ကိုယ်တော်ကိုအပ်နှံခြင်းငှါယဇ်ပရောဟိတ်အ
၁၁ ကြီးတို့ဆီသို့သွားလေ၏။ ထိုသူတို့သည်ကြားလျှင်ဝမ်းမြောက်သည့်
ဖြစ်၍ငွေကိုပေးမည်ဟုဝန်ခံကြ၏။ထိုနောက်အဆင်သင့်သောအခါ
ကိုယ်တော်ကိုအဘယ်သို့အပ်ရမည်ကိုရှာနေ၏။

❋❋

၁၂ ပသခါသိုးသငယ်ကိုသက်သောနေ့။အစဖွဲပွဲပဌမနေ့၌တပည့်တော်
တို့သည်အထံတော်သို့ချည်းကပ်၍ကိုယ်တော်သည်ပသခါပွဲကိုစား
တော်မူရအောင်အဘယ်အရပ်၌အကျွန်ုပ်တို့သည်သွား၍ပြင်ဆင်
၁၃ စေခြင်းငှါအလိုရှိတော်မူသနည်းဟုလျှောက်ကြသော် ကိုယ်တော်
သည်တပည့်တော်နှစ်ယောက်တို့ကိုစေလိုက်၍သင်တို့သည်မြို့ထဲ
သို့သွားကြ။ရေအိုးဆောင်သောသူကိုတွေ့လိမ့်မည်။သူနောက်သို့
၁၄ လိုက်၍ သူဝင်သောအိမ်သို့ဝင်ပြီးမှငါသည်ငါ့တပည့်တို့နှင့်တကွ
ပသခါပွဲကိုစားရသောဧည့်သည်အခန်းအဘယ်မှာရှိသနည်း။ဆရာ
၁၅ ကမေးသည်ဟုအိမ်ရှင်ကိုပြောကြလော့။ ထိုသူသည်အသင့်ပြင်ဆင်
လျက်ရှိသောအထက်အခန်းကြီးကိုပြလိမ့်မည်။ထိုအခန်း၌ငါတို့ဘို့
၁၆ ပြင်ဆင်ကြလော့ဟုမိန့်တော်မူ၏။ တပည့်တော်တို့သည်သွား၍မြို့
ထဲသို့ဝင်လျှင်စကားတော်အတိုင်းတွေ့၍ပသခါပွဲကိုပြင်ဆင်ကြ၏။
၁၇ ။ညဦးယံအချိန်ရောက်မှတပည့်တော်တကျိပ်နှစ်ပါးတို့
၁၈ နှင့်အတူကြွလာတော်မူ၏။ စားပွဲ၌ထိုင်၍စားနေကြစဉ်ယေရှုက
ငါအမှန်ဆိုသည်ကား။သင်တို့အဝင်ဖြစ်၍ငါနှင့်အတူစားသောသူ
၁၉ တစုံတယောက်သည်ငါ့ကိုအပ်နှံလိမ့်မည်ဟုမိန့်တော်မူလျှင် တပည့်
တော်တို့သည်ဝမ်းနည်းသည်ဖြစ်၍ အကျွန်ုပ်လော။အကျွန်ုပ်လောဟု
၂၀ တယောက်နောက်တယောက်အသီးအသီးမေးလျှောက်ကြ၏။ ကိုယ်
တော်ကလည်းတကျိပ်နှစ်ပါးအဝင်ဖြစ်၍ ငါနှင့်အတူပုဂံတွင်နှိုက်
၂၁ သောသူသည်ငါ့ကိုအပ်နှံလိမ့်မည်။ ကျမ်းစာလာသည်အတိုင်းလူ

သား ပြန်သွားရ၏။သို့သော်လည်း လူသားကိုအပ်နှံ သောသူသည်အ
မင်္ဂလာ ရှိ၏။ထိုသူသည်မဖွားမြင်လျှင်အနေသာ၍ကောင်းသည်ဟုမိန့်
၂၂ တော်မူ၏။ ။ထိုအခါစားနေကြစဉ်ယေရှုသည်မုန့်ကိုယူ၍
ကျေးဇူးတော်ကိုချီးမွမ်းပြီးမှမုန့်ကိုဖဲ့၍ဤမုန့်ကားငါ၏ကိုယ်ဖြစ်၏။
ယူကြလော့ဟု မိန့် တော်မူလျက် တပည့်တော် တို့အားပေး တော်မူ၏။
၂၃ ခွက်ကိုလည်းယူ၍ ကျေးဇူးတော်ကိုချီးမွမ်းပြီး မှသူတို့အားပေးတော်
၂၄ မူလျှင်အားလုံးတို့သည်သောက်ကြ၏။ ကိုယ်တော်ကလည်းဤခွက်
ကားဝန်ခံခြင်း တရား သစ်နှင့်ဆိုင်၍လူများအမှိုအလို ငါသွန်းသော
၂၅ ငါ၏အသွေးဖြစ်၏။ ငါအမှန်ဆိုသည်ကား။ဤစပျစ်ရည်မျိုးအသစ်
ကိုဘုရားသခင်နိုင်ငံတော်၌ငါမသောက်မှီနေ့တိုင် အောင်ယာခုမှစ၍
၂၆ ငါတဖန်မသောက်ရဟုမိန့်တော်မူ၏။ ထိုနောက် သီချင်း ဆို ပြီးမှ
၂၇ သံလွင်တောင်သို့ထွက်သွားကြ၏။ ။ထိုအခါယေရှုလည်း
ကျမ်းစာလာသည်ကား။သိုးထိန်းကိုငါရိုက် သတ်၍သိုးတို့သည်ဖရိုဖ
ရဲကွဲသွင့် ရကြလတ့်ဟုရေးထားသည် နှင့် အညီ ယခုနေ့ညည့် တွင် သင်
၂၈ တို့အားလုံးသည်ငါကြောင့် စိတ်ပျက်ကြ လိမ့်မည်။ သို့သော်လည်း
ငါသည် ထမြောက် ပြီးမှသင် တို့ ရှေ့ဂါလိ လဲပြည် သို့ငါသွား မည် ဟု
၂၉ မိန့် တော် မူလေ သော် ပေတရုကအား လုံး တို့သည် စိတ် ပျက် သော်
၃၀ လည်း အကျွန်ုပ်သည်စိတ်မပျက် ပါဟုလျှောက် လေ၏။ ယေရှုလည်း
ငါအမှန်ဆိုသည်ကား။ယနေ့ညည့်တွင်ပင်ကြက်နှစ်ကြိမ်မတွန်မှီသင်
သည်သုံးကြိမ်မြောက်အောင်ငါကိုညင်းပယ်လိမ့်မည်ဟုမိန့်တော်မူ
၃၁ လျှင် ပေတရုကကိုယ်တော်နှင့်တကွသေရသော်လည်းအကျွန်ုပ်သည်
ကိုယ်တော်ကိုမညင်းပယ်ပါဟုသာ၍ မြဲမြံသောစကားနှင့်လျှောက်
ပြန်၏။အားလုံးတို့သည်လည်းထိုနည်းတူလျှောက်ဆိုကြ၏။
၃၂ ။ထိုအခါဂေသရှေမန်အရပ်သို့ရောက်ကြလျှင်ကိုယ် တော်ကငါဆု
တောင်း စည်အခါသင် တို့သည် ဤအရပ်၌ထိုင်နေကြဟုတပည့်တော်
၃၃ တို့အားမိန့်တော်မူသော် ပေတရု။ယာကုပ်။ယောဟန်တို့ကိုခေါ်သွား
၃၄ ၍မိန်း မောတွေဝေခြင်း။စိတ် ပင်ပန်းခြင်းသို့ရောက် တော်မူ၏။ ထို
အခါ သုံး ယောက် သော တပည့် တော် တို့ အား ငါ သေလော က် အောင်
စိတ် နှစ် လုံးအလွန်ညှိုးငယ်ခြင်း ရှိ ၏။ ဤ အရပ်၌သင်တို့နေ၍ စောင့်
၃၅ ကြလော့ဟုမိန့်တော်မူ၍ ထို မှအနည်းငယ်လွန်ပြန်လျှင်မြေပေါ်မှာ
၃၆ ပျပ်ဝပ်၍ အဗ္ဗမည်းတော်။ ကိုယ်တော်သည်အလုံးစုံတို့ကိုတတ် နိုင်

တော်မူ၏။ ဤခွက်ကို အကျွန်ုပ်ဆီမှလွှဲတော်မူပါ။ သို့သော်လည်း အ
ကျွန်ုပ်အလိုမဆိုဘဲကိုယ်တော်အလိုအတိုင်း ဖြစ်ပါစေသောဟူ၍ထို
အချိန်နာရီသည်ကိုယ်တော်နှင့်လွန်သွားနိုင်လျှင်လွန်သွားပါမည်အ
၃၇ ကြောင်း ဆုတောင်းတော်မူပြီးမှ ပြန်၍ တပည့်တော်တို့သည် အိပ်
ပျော်နေသည်ကိုတွေ့တော်မူလျှင် ရှိမုန်။ သင်သည်အိပ်ပျော်သလော။
၃၈ တနာရီခန့် မျှစောင့်နေခြင်း ငါမစွမ်းနိုင်သလော။ စုံစမ်းနှောင့်ရှက်
ခြင်းသို့မဝင်ရအောင်ဆုတောင်းလျက်စောင့်နေကြလော့။ စိတ်ဝိညာဉ်
ကားစေတနာရှိသော်လည်းကိုယ်မူကားအားနည်းသည်ဟုပြော
၃၉ တရုအားမိန့်တော်မူသော် တဖန်သွား၍ ရှေ့မြွက်ဆိုသောနည်းတူ
၄၀ ဆုတောင်းတော်မူပြီးမှ တပည့်တော်တို့ဆီသို့ပြန်၍ သူတို့မျက်စိ
လေးလံသဖြင့် တဖန်အိပ်ပျော်နေကြသည်ကိုတွေ့တော်မူ၏။ သူတို့
၄၁ သည်အဘယ်သို့လျှောက်ရမည်ကိုမသိကြ။ သုံးကြိမ်မြောက်အောင်
သူတို့ဆီသို့ပြန်လာလျှင် ယခုအိပ်ပျော်၍ ငြိမ်ဝပ်စွာနေကြလော့။ အ
မှုမလွှတ်နိုင်ရာ။ လူသားကိုဆိုး သူတို့လက်သို့ အပ်နှံရသောအချိန်
၄၂ ရောက်လာပြီ။ ထကြ။ သွားကြစို့။ ငါကိုအပ်နှံသောသူသည်ရောက်
လာပြီးဟုမိန့်တော်မူ၏။ ❋❋
၄၃ ထိုသို့မိန့်တော်မူစဉ်ပင်တပည့်တော်တကျိပ်နှစ်ပါးအဝင်ဖြစ်
သောယုဒရှကာရုတ်နှင့်အတူယဇ်ပုရောဟိတ်အကြီး။ ကျမ်းပြုဆရာ။
လွှတ်အရာရှိတို့စေလိုက်သောလူစုအများတို့သည် ဓားနှင့်ဒုတ်များ
၄၄ ကိုကိုင်လျက်ချက်ချင်းလာကြ၏။ ကိုယ်တော်ကိုအပ်နှံသောသူကငါ
နမ်းသောသူသည်ယေရှုပင်ဖြစ်၏။ သူကိုဖမ်း၍သတိနှင့်ဆောင်သွား
၄၅ ကြဟုထိုသူတို့အားအမှတ်ပေးခဲ့နှင့်သည်အတိုင်း သူသည်ရောက်လျှင်
ကိုယ်တော်ရင်းသို့ချက်ချင်းချဉ်းကပ်၍အရှင်ဘုရား။ အရှင်ဘုရားဟု
၄၆ ဆိုလျက်နမ်းလေ၏။ ထိုသူများသည်လက်၍ကိုယ်တော်ကိုဆွဲကိုင်ဖမ်းဆီး
၄၇ ကြ၏။ အနားချွ ရပ်နေသောသူတယောက်သည်ဓားကိုထုတ်သဖြင့်
ယဇ်ပုရောဟိတ်မင်း၏ ကျွန်တယောက်ကိုခုတ်၍နားရွက်ပြတ်လေ
၄၈ ၏။ ယေရှုကလည်း သင်တို့သည် ဓားမြကိုဖမ်းသကဲ့သို့ငါကိုဖမ်းအံ့
၄၉ သော ငှါဓားနှင့်ဒုတ်များကိုလက်စွဲလျက်လာကြသည်တကား။ ငါ
သည် ဗိမာန်တော်၌ နေ့တိုင်းဆုံမြွက်ဩဝါဒ ပေးလျက် သင်တို့အ
လယ်၌ရှိနေသည်တွင်သင်တို့သည်ငါကိုမဖမ်းဆီးကြ။ ဤအကြောင်း
၅၀ အရာကား။ ကျမ်းစာ ပြည့်စုံမည် အကြောင်း တည်း ဟု ထို လူ

၅၀ များအားမိန့်တော်မူ၏။ ထိုအခါတပည့်တော်အားလုံးတို့သည်
ကိုယ်တော်ကိုစွန့်၍ပြေးကြ၏။ လုလင်တယောက်သည်စောင့်တထည်
သာဝတ်လျက်နောက်တော်သို့လိုက်သည်ဖြစ်၍ မင်းလုလင်တို့သည်
၅၂ သူ့ကိုဖမ်းဆီးကြ၏။ သူသည်လည်းစောင်ကိုစွန့်ပြစ်၍အဝတ်မရှိဘဲ
၅၃ သူတို့ဆီကထွက်ပြေးလေ၏။ ။ထိုသူတို့သည်ယေရှုကိုယဇ်
ပရောဟိတ်မင်းထံသို့ယူသွားကြ၏။ ထိုမင်းထံ၌ ယဇ်ပရောဟိတ်
အကြီး။လွှတ်အရာရှိ။ကျမ်းပြုဆရာအားလုံးတို့သည်စည်းဝေးကြ၏။
၅၄ ပေတရုသည်လည်းယဇ်ပရောဟိတ်မင်းအိမ်ဦးအတွင်းသို့ကိုင်အော
င်ကိုယ်တော်နှင့်အဝေးလိုက်ပြီးလျှင်မင်းလုလင်နှင့်အတူထိုင်နေ၍မီး
၅၅ လှုံလေ၏။ ယဇ်ပရောဟိတ်အကြီး။လွှတ်အရာရှိအားလုံးတို့သည်
၅၆ ယေရှုကိုသတ်လိုသော၄ါ်သက်သေကိုရှာ၍မတွေ့ကြ။ လူအများတို့
၅၇ သည်မမှန်သောသက်သေကိုခံသော်လည်းသက်သေမတည်။ အချို့တို့
၅၈ သည်ထ၍ဤသူကလူတို့လက်ဖြင့်လုပ်သောဤဗိမ်မာန်တော်ကိုငါဖြို
ဖျက်၍လူတို့လက်ဖြင့်မလုပ်သောဗိမ်မာန်တော်တပါးကိုတည်ဆော
၅၉ က်မည်ဟုပြောသည်ကိုအကျွန်ုပ်တို့ကြားရပြီးဟုသက်သေခံကြ၏။
၆၀ သူတို့သက်သေလည်းမတည်။ ယဇ်ပရောဟိတ်မင်းသည်အလယ်၌
မတ်တတ်ထ၍သင်သည်စကားတခွန်းကိုမျှပြန်၍မပြောသလော။ဤ
၆၁ သူတို့သည်အဘယ်သို့သက်သေခံသနည်းဟုယေရှုကိုမေးလျှင် ကို
ယ်တော်သည်တိတ်ဆိတ်နေ၍တခွန်းကိုမျှပြန်ပြောတော်မမူ။တဖန်
ယဇ်ပရောဟိတ်မင်းကသင်သည်ခရစ်တော်တည်းဟူသောမင်္ဂလာ
၆၂ ရှိသောဘုရားသခင်၏သားတော်မှန်သလောဟုမေးပြန်လျှင် ယေ
ရှုကငါမှန်ပေ၏။ နောင်၌လူသားသည်တန်ခိုးတော်လကျာဘက်၌
ထိုင်လျက်မိုဃ်းတိမ်ကိုစီး၍ကြွလာသည်ကိုသင်တို့သည်မြင်ကြလ
၆၃ တံ့ဟုမိန့်တော်မူ၏။ ထိုအခါယဇ်ပရောဟိတ်မင်းသည် မိမိအဝတ်
၆၄ ကိုဆုတ်၍အချားသက်သေကိုအဘယ်အလိုရှိသေးသနည်း။ ဘုရား
ကိုပြစ်မှားသောစကားကိုသင်တို့ကြားရပြီး။အဘယ်သို့ထင်မှတ်
ကြသနည်းဟုဆိုလျှင်ကိုယ်တော်သည်အသေခံထိုက်ကြောင်းကို
၆၅ အားလုံးတို့သည်စီရင်ကြ၏။ ထိုအခါအချို့တို့သည်ကိုယ်တော်ကိုတံ
တွေးထွေးကြ၏။ မျက်နှာတော်ကိုဖုံး၍လက်သီးနှင့်ထိုးလျှင်ပရော
ဖက်ပြု၍ဟောတော်မူပါဟုဆိုကြ၏။မင်းလုလင်တို့သည်လည်းပါး
တော်ကိုလက်နှင့်ပုတ်ကြ၏။

❋❋

၆၆ ပေတရုသည် အောက်မှာအိမ်ဦး၌ ရှိစဉ်ယဇ်ပရောဟိတ်မင်း၏အ
၆၇ စေအပါမိမ္မတယောက်သည်လာ၍ ပေတရုသည်မီးလှုံသည်ကိုမြင်
လေသော်သူကိုစေ့စေ့ကြည့်၍သင်သည်လည်းနာဇရက်မြို့သားယေရှု
၆၈ နှင့် ပေါင်းဖော်သောသူ ဖြစ်၏ဟုဆိုလျှင် ပေတရုသည် ငြင်းခုံ၍
သင်ပြောသောအရာကိုငါမသိ။နားမလည်ဟုဆိုပြီးမှအိမ်ဦး ရှေ့သို့
၆၉ ထွက်၍ကြက်တွန်လေ၏။ နောက်တဖန်အစေအပါမိမ္မသည်ပေတရု
ကိုမြင်လျှင်အနား၌ရပ်နေသောသူတို့အားဤသူသည်ထိုသူတို့အဝင်
၇၀ ဖြစ်၏ဟုဆိုသော် ပေတရုသည်တဖန်ငြင်းခုံ၏။ထိုနောက်များမ
ကြာ။အနား၌ရပ်နေသောသူတို့ကပေတရုအား အကယ်၍သင်သည်
ထိုသူတို့အဝင်ဖြစ်၏။သင်သည်ဂါလိလဲလူဖြစ်၏။သင်စကားလည်း
၇၁ တူ၏ဟုဆိုကြလျှင် ပေတရုသည်ကျိန်ဆိုလျက်မိဿာနပြုလျက်သင်
၇၂ တို့ပြောသောသူကိုငါမသိဟုဆိုသော် တဖန်ကြက်တွန်လေ၏။ယေရှု
က ကြက်နှစ်ကြိမ်မတွန်မှီ သင်သည် သုံးကြိမ်မြောက်အောင်ငါကို
ငြင်းပယ်လိမ့်မည်ဟုမိန့်တော်မူသောစကားကိုပေတရုသတိရသ
၁ ဖြင့်အောင်းမေ့၍ငိုကြွေးလေ၏။ ။နံနက်အချိန်တွင်ယဇ်ပ
ရောဟိတ်အကြီး။ကျမ်းပြုဆရာ။လွှတ်အရာရှိအားလုံးတို့သည်မ
ဆိုင်းမလင့်ဘဲတိုင်ပင်ပြီးမှယေရှုကိုချည်နှောင်ပြီးလျှင်ပိလတ်မင်း
၂ ထံသို့ယူသွား၍အပ်လိုက်ကြ၏။ ပိလာတ်မင်းကသင်သည်ယုဒရှင်ဘု
ရင်မှန်သလောဟုကိုယ်တော်ကိုမေးလျှင်မင်းကြီးမေးသည်အတိုင်း
၃ မှန်ပေ၏ဟုမိန့်တော်မူ၏။ ယဇ်ပရောဟိတ်အကြီးတို့သည်အပြစ်
၄ များများတင်ကြ၏။ တဖန်ပိလာတ်မင်းကသင်သည်တခွန်းကိုမျှမပြန်
သလော။သင်တဖက်၌အဘယ်မျှလောက်သက်သေခံကြသည်ကိုကြည့်
၅ ပါဟုမေးမြန်းပြောဆိုသော်လည်း စကားတခွန်းကိုမျှပြန်တော်မမူ
၆ သည်ကိုပိလတ်မင်းသည်အံ့သြ၍နေလေ၏။ ။ထိုပွဲ၌မြို့
ဝန်မင်းသည်အကျဉ်းထားသောသူတို့တွင်လူများတောင်းသောသူ
၇ တယောက်ယောက်ကိုလွှတ်တတ်၏။ ထိုအခါပုန်ကန်၍လူအသက်ကို
သတ်သောအပြစ်သင့်သော။ဗာရဗ္ဗအမည်ရှိသောသူတယောက်သည်
၈ ပုန်ကန်သောအဖော်တို့နှင့်တကွအကျဉ်းထားလျက်ရှိ၏။ လူအပေ
ါင်းတို့သည်မိမိတို့အားပြုမြဲပြုပါမည်အကြောင်းတောင်းပန်၍
၉ အော်ဟစ်သောအခါ ပိလတ်မင်းကသင်တို့အားယုဒရှင်ဘုရင်ကို

၁၀ လွှတ်စေချင်သလောဟုပြန်မေး၏။ အဘယ်ကြောင့်ဤသို့မေးသနည်း
ဟူမူကား။ ယဇ်ပုရောဟိတ်အကြီးတို့သည်မနာလိုသောစိတ်နှင့်ယေ
၁၁ ရှုကိုအပ်နှံကြောင်းကိုသိ၏။ ပိလတ်မင်းသည်ယေရှုကိုမလွှတ်။ဗာ
ရဗ္ဗကိုလွှတ်စေခြင်းငှါယဇ်ပုရောဟိတ်အကြီးတို့သည် လူအစုအဝေး
၁၂ ကိုနှိုးဆော်ကြ၏။ တဖန်ပိလတ်မင်းကယုဒရှင်ဘုရင်ဟုသင်တို့ခေါ်
၁၃ ခေါ်သောသူကိုအဘယ်သို့ပြုရအံ့နည်းဟုခေါ်ပြန်သော် လူအားလုံး
၁၄ တို့ကသူကို လက်ဝါးကပ်တိုင်မှာရိုက်ထားပါတော့ဟုဟစ်ကြ၏။ ပိ
လတ်မင်းကလည်းအဘယ်ကြောင့်နည်း။ အဘယ်အပြစ်ကို ပြုဘိသ
နည်းဟုမေးလျှင်သူကိုလက်ဝါးကပ်တိုင်မှာရိုက်ထားပါတော့ ဟု လူ
၁၅ များသာ၍ဟစ်ကြ၏။ ပိလတ်မင်းသည်လူများစိတ်ပြေစေခြင်းငှါအ
လိုရှိ၍ဗာရဗ္ဗကို သူတို့အားလွှတ်လေ၏။ ယေရှုကိုကားရိုက်စေပြီးမှ
၁၆ လက်ဝါးကပ်တိုင်မှာသတ်စေခြင်းငှါအပ်လိုက်လေ၏။ ။ထိုအ
ခါစစ်သူရဲတို့သည်ကိုယ်တော်ကို ပြဲတောရိုးတည်းဟူသောအိမ်
တော်ဦးအတွင်းသို့ဆောင်သွား၍စစ်သူရဲတတပ်လုံးကိုစုရုံးစေပြီးမှ
၁၇ ကိုယ်တော်ကိုနီမောင်းသောအဝတ်ဝတ်စေ၏။ဆူးပင်နှင့်ရက်သော
၁၈ ဦးရစ်ကိုတင်ပြီးလျှင် ယုဒရှင်ဘုရင်။ ကိုယ်တော်အားမင်္ဂလာဖြစ်
၁၉ စေသတည်းဟုကောင်းကြီးစကားပြောကြ၏။ ကျူလုံးနှင့်ခေါင်း
တော်ကိုရိုက်ခြင်း။ တံတွေးထွေးခြင်း။ ရှေ့တော်မှာဒူးထောက်၍ပျပ်
၂၀ ဝပ်ခြင်းကိုလည်းပြုကြ၏။ ထိုသို့ကိုယ်တော်ကိုသရော်ပြီးမှနီမောင်း
သောအဝတ်ကိုချွတ်၍ မိမိအဝတ်ကိုဝတ်စေပြန်လျှင်လက်ဝါးကပ်
တိုင်မှာရိုက်ထားစေခြင်းငှါထုတ်သွားကြ၏။

**

၂၁ အာလေဇန္ဒြုနှင့်ရုဖု၏အဖရှိမုန်တည်းဟူသောကုရင်သားတယောက်
သည်တောရွာမှလာ၍လမ်း၌သွားသည်ကိုထိုသူတို့သည်တွေ့လျှင်သူ
၂၂ ကိုအနိုင်ပြု၍လက်ဝါးကပ်တိုင်တော်ကိုထမ်းစေကြ၏။ ဦးခေါင်းခွံအ
ရပ် ဟု ဆိုလိုသော ဂေါလဂေါသအရပ်သို့ကိုယ်တော်ကိုဆောင်
၂၃ သွားပြီးမှ မုရန်နှင့်ရောသောစပျစ်ရည်ကိုကိုယ်တော်သောက်စိမ့်
၂၄ သောငှါပေးလျှင်မခံဘဲနေတော်မူ၏။ လက်ဝါးကပ်တိုင်မှာရိုက်ထား
ကြပြီးလျှင်အဝတ်တော်ကိုစါရေးတံပြုသဖြင့်အသီးအသီးတို့အါးဝေ
၂၅ ဖန်ကြ၏။ ကိုယ်တော်ကိုလက်ဝါးကပ်တိုင်မှာရိုက်ကြသောအချိန်ကား
၂၆ နံနက်တချက်တီးအချိန်ဖြစ်သတည်း။ အပြစ်ဖော်ပြသောကမ္ပည်းလိပ်

၂၇ စာချက်ဟူမှုကားယုဒရှင်ဘုရင်ဟုရေးထားသတည်း။ ကိုယ်တော်
နှင့်တကွခားမြနှစ်ယောက် တို့ကို တယောက် လကျာ်တော်ဘက်။ တ
၂၈ ယောက်လက်ဝဲတော်ဘက်။လက်ဝါးကပ်တိုင်မှာရိုက်ထားကြ၏။ ထို
သို့မတရားသော်သူတို့နှင့်ရေတွက်ဝင်ခြင်းသို့ရောက်သည်ဟုဆိုသော်
၂၉ ကျမ်းစာချက်သည်ပြည့်စုံခြင်းသို့ရောက်သတည်း။ ။လမ်းမှာ
သွားလာသောသူတို့ကလည်း ဟယ်။ဗိတ်မှာန်တော်ကို ဖြိုဖျက်၍သုံး
၃၀ ရက်အတွင်းတွင်တည်ဆောက်ပြန်သောသူ။ ကိုယ် ကို ကိုယ် ကယ်
တင်တော့။လက်ဝါးကပ်တိုင်မှဆင်းတော့ဟုမိမိတို့ခေါင်းကို ညိတ်၍
၃၁ ကဲ့ရဲ့သောစကားကိုပြောကြ၏။ ထိုနည်းကူ။ယဇ်ပုရောဟိတ်အကြီး။
ကျမ်းပြုဆရာတို့ကဤသူသည်သူတပါးတို့ကိုကယ်တင်တတ်၏။ကိုယ်
၃၂ ကိုမကယ်တင်နိုင်သည့်တကား။ ငါတို့မြင်၍ယုံကြည်ရအောင်ဣသရေ
လရှင်ဘုရင်တည်းဟူသောခရစ်တော်သည်လက်ဝါးကပ်တိုင်မှ ယခု
ဆင်းပါလေစေဟုအချင်းချင်းကဲ့ရဲ့ပြောဆိုကြ၏။ကိုယ်တော်နှင့်တကွ
လက်ဝါးကပ်တိုင်မှာရိုက်ထားသောသူတို့သည်လည်းကဲ့ရဲ့ပြစ်တင်ကြ
၃၃ ၏။ ။မွန်းတည့်အချိန်မှစ၍သုံးချက်တီးအချိန်တိုင်အောင်မြေ
၃၄ တပြင်လုံး၌မှောင်မိုက်အတိဖြစ်လေ၏။ သုံးချက်တီးအချိန် ၌ယေရှု
ကဧလိဧလိလာမရှာဗခသာနိဟုကြီးသောအသံနှင့်ကျွေးကျော်တော်
မူ၏။ အနက်ကား။အကျွန်ုပ်ဘုရား။အကျွန်ုပ်ဘုရား။အဘယ်ကြော
၃၅ င့်အကျွန်ုပ်ကိုစွန့်ပြစ်တော်မူသနည်းဟုဆိုလိုသတည်း။ အနား၌ရပ်
နေသောသူအချို့တို့သည်ကြားလျှင်သူသည်ဧလိယကိုခေါ်သည်ဟုဆို
၃၆ ကြ၏။ လူတယောက်သည်ပြေး၍ရေညှိတထွေးကိုပုံးရည် နှင့် ပြည့်
စေပြီးလျှင်ကျူလုံးဖျား၌တပ်၍ ကိုယ်တော်သောက်စိမ့်သော ငှါပေး
လျက်။ရှိစေတော့။ဧလိယသည် သူကိုချလွှတ်ခြင်းငှါလာမည်မလာမည်
၃၇ ကိုကြည့်ကြစို့ဟုဆို၏။ ယေရှုသည်ကြီးသောအသံနှင့်ကျွေးကျော်၍
၃၈ အသက်ချုပ်တော်မူ၏။ ။ထိုအခါဗိတ်မှာန်တော်၏ကုလား
၃၉ ကာသည်အထက် စွန်းမှအောက်စွန်းတိုင် အောင်စုတ်ကွဲလေ၏။ ထို
သို့ကျွေး ကျော်၍ အသက် ချုပ် တော် မူကြော င်း ကိုရှေ့တော်၌ ရပ်နေ
သောတပ်မှူးသည် မြင် လျှင်စင်စစ် ဤ သူသည်ဘုရားသခင်၏သား
၄၀ တော်ဖြစ်ပေ၏ ဟုဆို၏။ မိန်းမအချို့တို့သည်လည်း ထိုအရပ်၌အဝေး
၄၁ ကကြည့်ရှု၍ နေကြ၏။ ထိုမိန်းမတို့တွင်ကိုယ်တော်သည် ဂါလိလဲပြည်
မှာရှိတော်မူစဉ် နောက်တော်၌ အလုပ်အကျွေး လိုက်သောမာဂဒလ

မာရိ။ယာကုပ်ငယ်နှင့်ယောသေ၏အမိဖြစ်သောမာရိနှင့်ရှာလုံတို့မှ
စ၍ခေါက်တော်၌ယေရုရှလင်မြို့သို့လိုက်လာသောအချားမိမ္မအများ
ပါသတည်း။

❋❋

၆၂ ထိုနေ့ကားအဖိတ်နေ့တည်းဟူသောပရစ္စုနေ့ ဖြစ်သော့ကြောင့်ညအ
၆၃ ချိန်ရောက်မှ အသခေ ရှိသောလွှတ် အရာရှိ။အရိမသဲမြို့သားယော
သပ်သည်ဘုရားသခင်နိုင်ငံတော်ကိုမျှော်လင့်သောသူ ဖြစ်သည်နှင့်
ပိလတ်မင်း ထံသို့ရဲရင့် စွာဝင်၍ယေရှု၏အလောင်း တော်ကိုတောင်း
၆၄ လေ၏။ ယေရှုသည်ယခုပင်သေသည် ကိုပိလတ်မင်းသည် အံ့ဩြ
၆၅ ခြင်းရှိသဖြင့်တပ်မှူးကိုခေါ်၍သေသည်ကြာပြီးလောဟုမေး၏။ သေ
မှန်းကိုတပ်မှူးစကားဖြင့်သိလျှင်အလောင်းတော်ကိုယောသပ်အား အပ်
၆၆ ပေး၏။ ယောသပ်သည်ပိတ်ချောကိုဝယ်ပြီးမှကိုယ်တော်ကိုချ၍ပိတ်
ချော နှင့်ထုပ်ရစ်သဖြင့်ကျောက်၌ထွင်းသောသင်းဂြိုင်းတွင်းထဲမှာ
၆၇ ထား၍တွင်းဝ၌ကျောက်ကိုသို့မ့်ထားလေ၏။ မာဂဒလမာရိ။ယောသေ
၏အမိဖြစ်သောမာရိတို့သည်အလောင်းတော်ထားရာအရပ်ကိုကြည့်
၁ မြင်ကြ၏။ ။ဥပုသ်နေ့လွန်မှမာဂဒလမာရိ။ယာကုပ်၏အမိ
ဖြစ်သောမာရိနှင့်ရှာလုံတို့သည်သွား၍အလောင်းတော်ကိုလိမ်းရ
၂ အောင်နံ့သာမျိုးကိုဝယ်ကြ၏။ ခုနှစ်ရက်တွင်ပဌမနေ့ရက်နံနက်
၃ စောစော။နေထွက်သောအချိန်၌သင်းဂြိုင်းတော်သို့သွားကြ၏။ ထိုမိမ္မ
တို့ကတွင်းဝပိတ်သောကျောက်ကိုအဘယ် သူ သည် လှိမ့် လှန်ပေး
၄ မည်နည်းဟုအချင်းချင်းဆိုလျှင် ကြည့်ရှု၍ထိုကျောက်လှိမ့်လှန်လျက်
ရှိသည်ကိုမြင်ကြ၏။ထိုကျောက်ကားအလွန်ကြီးသောကျောက်ဖြစ်
၅ သတည်း။ ထိုမိမ္မတို့သည်တွင်းထဲသို့ဝင်လျှင်လုလင်တယောက်သည်
ရှည်ရှည်။ဖြူဖြူသောအင်္ကျီကိုဝတ်လျက်လကျ်ာဘက်၌ထိုင်နေသည်
၆ ကိုမြင်၍ထိတ်လန့်မိန်းမောခြင်းသို့ရောက်ကြ၏။ ထိုသူကလည်း
ထိတ်လန့်မိန်းမောခြင်းမရှိကြနှင့်။လက်ဝါးကပ်တိုင်မှာသတ်သေါနာ
ဇရက်မြို့သားယေရှုကိုသင်တို့ရှာကြ၏။ သူသည်ထမြောက်ခဲ့ပြီး။ဤ
၇ အရပ်၌မရှိ။အလောင်းတော်ထားရာအရပ်ကိုကြည့်ကြလော့။ သင်
တို့ရှေ့။ဂါလိလဲပြည်သို့ကြွတော်မူကြောင်းကိုပေတရုမှစ၍တပည့်
တော်တို့ဆီသို့သွား၍ပြောကြလော့။အထက်ကမိန့်တော်မူသည်အတို
င်းထိုပြည်၌သင်တို့သည်ကိုယ်တော်ကိုတွေ့မြင်ရလိမ့်မည်ဟုဆိုလေ
၈ ၏။ ထိုမိမ္မတို့သည်လည်းသင်းဂြိုင်းတော်မှထွက်၍ပြေးကြ၏။ကြော

ကဲလန့်တုန် လှုပ်ခြင်း နှင့် မိန်း မောတွေဝေသဖြင့် စကားတ ခွန်းကိုမျှ
၉ အဘယ်သူအားမပြောကြ။ ။ကိုယ်တော်သည်ခု နှစ်ရက်တွင်
ပဌမနေ့ရက်စောစောအချိန်၌ထမြောက်ပြီးမှအထက်ကနတ်ဆိုးခုနှစ်
ပါးကိုနှင်ထုတ် တော်မူသောမာဂဒလမာရိအားရှေ့ဦးစွာကိုယ် ကိုပြ
၁၀ တော်မူ၏။ မာရိလည်း သွား ၍ကိုယ် တော် နှင့် ပေါင်း ဖော်သောသူ
များညည်းတွားငိုကြွေးလျက်နေကြစဉ်သူတို့အား သိတင်းကြားလေ
၁၁ ၏။ ကိုယ်တော်သည်အသက်ရှင်တော်မူသည်ကို၎င်မာရိသည်ကိုယ်
တော်ကိုမြင်ရသည်ကို၎င်သူတို့သည်ကြားလျှင်မယုံကြ။ ။
၁၂ ။ထိုနောက် တပည့် တော်နှစ် ယောက်တို့သည် တောရွာ သို့သွား စဉ်
တွင် ကိုယ် တော်သည်ခြား နား သောအ ရောင်ဆောင် ၍ကိုယ် ကိုပြ
၁၃ တော်မူ၏။ သူတို့သည်ပြန် ၍ ကြွင်းသောတပည့် တော်တို့အားသိတ
၁၄ င်းကြားသော်လည်းမယုံဘဲနေကြ၏။ ။ထိုနောက်တကျိပ်တ
ပါးသော သူတို့သည်စား ပွဲ၌ထိုင်နေစဉ်တွင်ကိုယ်ကိုပြတော်မူ၍ထ
မြောက်လျက် ရှိသောကိုယ်တော်ကိုမြင်သောသူတို့၏ စကား ကိုမယုံ
သော့ကြောင့် သူတို့မယုံတတ် သောစိတ်။ ခိုင် မာသောစိတ် ကိုအပြစ်
၁၅ တင်တော်မူပြီးမှ သင်တို့သည်လောကီနိုင်ငံတလျှောက်လုံးသွား၍
ဝေနေယျသတ္တဝါအပေါင်းတို့အားဧဝံဂေလိတရားကိုဟောကြလော့။
၁၆ ယုံကြည်၍ ရေ နှစ်မင်္ဂလာကို ခံသော သူသည်ကယ်တင်တော်မူခြင်းသို့
ရောက်လတံ့။ မယုံကြည် သော သူမူကား အပြစ် စီရင်ခြင်း ကိုခံရလတံ့။
၁၇ ယုံကြည် သော သူတို့၌ ဖြစ်အံ့သော နိမိတ်လက္ခဏာ ဟူမူကား။ ငါနာမ
ကိုအမှီပြု၍နတ်ဆိုးတို့ကို နှင်ထုတ်ကြလတံ့။ထူး ခြားသောဘာသာစ
၁၈ ကားမျိုးတို့ကိုပြောကြလတံ့။ မြွေတို့ကိုဖမ်းကိုင်ကြလတံ့။သေစေတတ်
သောအဆိပ်အတောက် ကိုသောက်စား လျှင်ဘေးဥပါဒ်နှင့်ကင်းလွ
တ်ကြလတံ့။ မကျန်း မာသော သူတို့ အပေါ်မှာလက် ကိုတင် ၍ ချမ်း သာ
၁၉ ပေးကြလတံ့ဟုမိန့်တော်မူ၏။ ။ထိုသို့သခင်ဘုရားသည်တ
ပည့်တော် တို့အား မိန့် တော်မူ ပြီး မှကောင်းကင်ဘုံသို့တက် ကြွတော်
၂၀ မူ၍ဘုရားသခင်လက်ျာတော်ဘက်၌ထိုင်နေတော်မူ၏။ တပည့်တော်
တို့သည်လည်းထွက်သွား၍သခင်ဘုရားသည်မစတော်မူသည်နှင့်ငြ
သူတို့၌ဖြစ်သောနိမိတ်လက္ခဏာအားဖြင့်နှုတ်ကပတ်တရားတော်ကို
တည်စေတော်မူသည်နှင့်ငြိခပ်သိမ်းသောအရပ်၌တရားဟောကြ၏။
။ရှင်မာကုခရစ်ဝင်ပြီး၏။

။ ရှင်လုကာခရစ်ဝင်။

၁း၂ ရှေဦးစွာမှစ၍နှုတ်ကပတ်တော်ကိုမျက်စိနှင့်မြင်သောသက်သေဖြစ်
၍ အထံတော်၌ အစေအပါခံသောသူ တို့သည် ငါ တို့တွင်ဖြစ်လေပြီး
သောအထုပ္ပတ္တိများကိုငါတို့အားကြား ပြောသည်အစဉ်အတိုင်းမှတ်
၃း၄ သားသောစာကိုစီရင်ရေးထားသောသူအများရှိသည်ဖြစ်၍ ငါသည်
လည်း ထိုအထုပ္ပတ္တိ အားလုံးတို့ကိုရှေဦးစွာမှစ၍စေ့စေ့ဖွေရှာလိုက်
စစ်ပြီးလျှင်ကိုယ်တော်သင်ပြီးသောအကြောင်းအရာတို့သည် ကေန်
အမှန် ဖြစ် ကြောင်း ကို ကိုယ် တော်သိ စေခြင်း ငှါ အစဉ်အတိုင်း ရေး
ထား၍ကြားလိုက်မည်အကြံရှိပါ၏အလွန်မြတ်သောမင်းသော်ဖိလု။
၅ ယုဒပြည်ကိုအစိုးရသောဟေရုဒ်မင်းကြီးလက်ထက်အဗိယအ
သင်းအဝင်ဖြစ်၍ ဇာခရိအမည်ရှိသောယဇ်ပုရောဟိတ်တပါးရှိ၏။
သူ၏ခင်ပွန်းသည်အာရုန်အမျိုးအနွယ်ဖြစ်၍ ဧလိရှဗက်အမည်ရှိ၏။
၆ ထိုသူ နှစ်ယောက် တို့သည် ထာဝရဘုရား ၏ပညတ် တော် တရားအ
မျိုးမျိုးတို့ကိုကျင့်ဆောင် ၍ အပြစ်ဟင်ခြင်း နှင့်လွတ်သဖြင့် ဘုရားသ
၇ ခင်ရှေ့တော်၌ဖြောင့်မတ်ခြင်းပါရမီရှိကြ၏။ ဧလိရှဗက်သည်မြုံသော
ကြောင့် သူတို့၌သားမရှိ။ နှစ်ယောက်စလုံး တို့သည်လည်းအသက်အ
၈ ရွယ်ကြီးရင့်ကြ၏။ ။ဇာခရိသည်မိမိအသင်းနှင့်တကွအ
လှည့်သင့်၍ဘုရားသခင်ရှေ့ယဇ်ပုရောဟိတ်အမှုကိုဆောင်ရွက်သည်
၉ တွင် ယဇ်ပုရောဟိတ် ထုံးစံအတိုင်း စာရေးတံပြုသဖြင့် သူသည်
ထာဝရဘုရား ၏ဗိမ်မာန်တော်အထဲသို့ဝင်၍နံ့သာပေါင်းကိုမီးရှို့ရ
၁၀ ၏။ ထိုသို့နံ့သာပေါင်းကိုမီးရှို့သည်အချိန်တွင်လူများအားလုံးတို့
၁၁ သည်ပြင်၌ဆုတောင်းလျက်နေကြ၏။ ထိုအခါ ထာဝရ ဘုရား၏
ကောင်းကင်တမန်သည် ကိုယ်ပြ၍နံ့သာ ပေါင်းရှို့သောယဇ်ပလ္လင်
၁၂ လက်ျာဘက် ၌ရပ်နေသည်ကို ဇာခရိ မြင်လေ၍စိတ်နှစ်လုံးမညီမ
၁၃ မဝပ်ထိတ်လန့်ခြင်းသို့ရောက်၏။ ကောင်းကင်တမန်ကလည်းဇာခ
ရိ၊ ကြောက်လန့်ခြင်းမရှိနှင့်။ သင်ပြုသောပဌနာကိုနားခံတော်မူပြီ။

သင်၏ခင်ပွန်းဧလိရှဗက်သည်သားယောကျ်ားကိုဖွားမြင်လိမ့်မည်။
၁၄ ထိုသားကိုယောဟန်အမည်ဖြင့်မှည့်ရမည်။ သင်သည်ဝမ်းသာ ရွှင်
-မြူးခြင်း ရှိလိမ့်မည်။ ထိုသား ဖွားမြင်သောအကြောင်းကြောင့် လူအ
၁၅ များတို့သည်ဝမ်းမြောက်ခြင်းသို့ရောက်ကြလိမ့်မည်။ အဘယ်ကြောင့်
နည်းဟူမူကား။ ထိုသားသည် ထာဝရဘုရား ရှေ့တော်၌ ကြီးမြတ်
သော သူ ဖြစ်လိမ့် မည်။ စပျစ်ရည် နှင့် ရစ် မျိုးကို မသောက် ဘဲ အမိ
၁၆ ဝမ်းထဲမှစ၍ ပင်သန့်ရှင်းသောဝိညာဉ်တော်နှင့်ပြည့်ဝလိမ့်မည်။ ဣ
သရေလအမျိုး သား အများတို့ကို သူတို့ဘုရားသခင် တည်းဟူသော
၁၇ ထာဝရဘုရားထံတော်သို့ပြောင်းလဲစေလိမ့်မည်။ အဖတို့ နှင့်သား
တို့ကိုအသင့်အကင့်ဖြစ်စေခြင်းငှါ၎င်းဆန့်သောသူတို့ကိုသူတော်
ကောင်းတို့၏သတိပညာလမ်းသို့ပြောင်းလဲစေသောအားဖြင့်ထာဝရ
ဘုရားအဖို့အလို့ငှါပြင်ဆင် သော လူမျိုးဖြစ်စေခြင်း ငှါ၎င် သူသည်
ဧလိယ၏စိတ်ဝိညာဉ်တန်ခိုးနှင့်ပြည့်စုံလျက်ဘုရားသခင်ရှေ့တော်၌
၁၈ သွားလိမ့်မည်ဟုကောင်းကင်တမန်ဆို၏။ ။ဇာခရိကလည်း၍
စကားမှန်သည်မမှန်သည်ကိုအကျွန်ုပ်သည်အဘယ်သို့သိနိုင်သနည်း။
အကျွန်ုပ်သည် လူအိုဖြစ် ပါ၏။ အကျွန်ုပ်မယားသည် လည်း အသက်
၁၉ အရွယ်ကြီးရင့်ပါပြီးဟုကောင်းကင်တမန်အားဆိုလျှင် ကောင်းကင်
တမန်ကငါသည်ဘုရားသခင်အထံတော်၌ နေသောဂါဗြေလ ဖြစ်၏။
သင်ကိုနှုတ်ဆက်၍ ဤဝမ်းမြောက်စရာ သိတင်းကိုကြားပြောစေခြင်း
၂၀ ငှါဘုရားသခင်သည်ငါ့ကိုစေလွှတ်တော်မူ၏။ သင်သည်ငါ့စကား
ကိုမယုံသောကြောင့် ဤ အကြောင်း အရာမ ဖြစ် မှီကာလ တိုင် အောင်
သင်သည်စကားမပြောနိုင် ဘဲအ ၍ နေရ၏။ ငါ့စကား သည် ကား အ
၂၁ ချိန်တန်လျှင်ပြည့်စုံလိမ့်မည်ဟုဆို၏။ ။လူများတို့သည်ဇာ
ခရိကိုငံ့လင့်၍ဗိမာန်တော်အထဲ၌ကြာကြာနေသည်ကိုအံ့သြခြင်း
၂၂ ရှိကြ၏။ သူသည်ထွက်သောအခါစကားမပြောနိုင်သည်ဖြစ်၍ ဗိမာန်
မှာန်တော်၌ ဗျာဒိတ်တော်ကိုမြင်ပြီးဟုသူများတို့သည်ရိပ်မိကြ၏။
ဇာခရိသည် သူတို့အားအရိပ်အမှတ်သာပေးရ၏. စကားအလျှက်နေ
၂၃ ၏။ ယဇ်ပရောဟိတ် အမှုကိုဆောင် ရွက်ရ သော အ ချိန်ကာလ စေ့
၂၄ သောအခါဇာခရိသည်မိမိအိမ်သို့သွားလေ၏ ထိုနောက်သူ၏ခင်
၂၅ ပွန်းဧလိရှဗက်သည် ပဋိသန္ဓေ စွဲ၍ ငါ သည် လူတို့ တွင်ခံရသောကဲ့ရဲ့

ခြင်းအကြောင်းကို ထာဝရဘုရားသည် ပယ်ရှင်းခြင်းငှါငါ့ကိုကြည့်ရှုတော်မူစည်တွင် ဤကျေးဇူး တော်ကိုပြုတော်မူပြီးဟု ဆိုလျက်ငါး လပတ်လုံး အိမ်တွင် ခို၍အောင်း နေလေ၏။

⁂

၂၆ ငါး လလွန်သောအခါ ဂါလိလဲပြည် နာဇရက်မြို့ သို့ ဒါဝိဒ်အမျိုးသား၊
၂၇ ယောသပ်အမည် ရှိသော သူ နှင့်ထိမ်း မြား ဆောင် နှင်း၍ မရှက်တင် သေးသော သ တို့ သမီး ကညာဆီသို့ဘုရားသခင်သည် ကောင်းကင်တမန်ဂါဗြေလ ကို စေလွှတ်တော်မူ၏။ ထိုသ တို့ သမီး ကညာကား မာရိအမ
၂၈ ည်ရှိ၏။ ကောင်းကင်တမန်သည် ရောက်လာလျှင်ကျေးဇူးတော်ကိုခံသော မိန်းမ သင်အား မင်္ဂလာဖြစ်စေသတည်း။ ထာဝရဘုရား သည် သင် နှင့် အတူ ရှိ တော်မူ၏။ သင် သည် မိန်းမတကာထက်မြတ်စွာသော
၂၉ မင်္ဂလာ ရှိသည်ဟုဆို၏။ မာရိသည် ထိုစကားကိုကြားလျှင်စိတ်နှစ်လုံး မသိမ်မဝပ် ရှိ၍ ဤနှုတ်ဆက် ခြင်းကား အဘယ်သို့ သော နှုတ်ဆက်
၃၀ ခြင်းဖြစ်လိမ့်မည်နည်းဟုတွေးတောဆင်ခြင်၍နေ၏။ ကောင်းကင် တမန် ကလည်း မာရိ။ ကြောက်လန့် ခြင်းမရှိ နှင့်။ သင်သည် ဘုရားသခင်
၃၁ ရှေ့တော်၌မျက်နှာရပြီ။ သင် သည်ပဋိသန္ဓေစွဲယူ၍သားယောကျ်ား
၃၂ တို့ဖွားမြင်လိမ့်မည်။ ထိုသားကို ယေရှုအမည် ဖြင့် မှည့် ရမည်။ ထို သား သည်ကားကြီး မြတ်သော သူဖြစ်လိမ့်မည်။ အမြတ်ဆုံး သော ဘု ရားသခင်၏သား တော်ဟုခေါ်ဝေါ် ခြင်း ကိုခံရလိမ့်မည်။ သူ့ အဘဒါ ဝိဒ်၏ရာဇပလ္လင်ကိုထာဝရအရှင်ဘုရားသခင်သည်သူ့အားပေးတော်
၃၃ မူမည်။ သူသည်လည်း ယာကုပ်အမျိုးအနွယ်၌အစဉ်မပြတ်မင်းပြု လိမ့်မည်။ သူ၏ နိုင်ငံသည်လည်း ဆုံးခြင်း မရှိရဟုဆို၏။ ။
၃၄ မာရိကလည်း ဤအမှုအရာအဘယ်သို့ဖြစ်နိုင်သနည်း။ အကျွန်ုပ်သည် ယောကျ်ား နှင့် မဆက်ဆံ ပါဟုကောင်းကင်တမန် အား ပြန်ပြော၏။
၃၅ ကောင်းကင်တမန်ကလည်း သန့်ရှင်းသောဝိညာဉ်တော်သည်သင်၏အ ပေါ်မှာ သက်ရောက် တော်မူ၍ အမြတ်ဆုံး သော ဘုရား သခင်၏တန် ခိုးအာနုဘော်တော်သည်သင်ကိုလွှမ်းမိုး လိမ့်မည်။ ထို့ကြောင့်ထိုသန့်
၃၆ ရှင်းသောသားသည် ဘုရား သခင် ၏ သား တော် ဟုခေါ်ဝေါ်ခြင်း ကို ခံရလိမ့်မည်။ ထိုမှတပါး။ အမြို့မဟူ၍ခေါ်ဝေါ်သောသင်၏အဆွေအ
၃၇ မျိုး ဧလိရှဗက် သည် ပဋိသန္ဓေ စွဲယူ၍ ယခုခြောက် လအဝင်ရှိပြီ။ ဘု

၃၈ ရားသခင်သည်အလုံးစုံတို့ကိုတတ်နိုင်တော်မူ၏ဟုဆိုလျှင် မာရိ
ကအအကျွန်ုပ်သည်ထာဝရဘုရား၏ကျွန်မဖြစ်ပါ၏။သင်၏စကားအ
တိုင်းအကျွန်ုပ်အား ဖြစ်ပါစေသော ဟုဆိုပြီး မှကောင်းကင်တမန်
၃၉ သည်မာရိထံမှသွားလေ၏။ ။ထိုအခါမာရိသည်ထ၍တောင်
၄၀ ကြားအရပ်၌ရှိသောယုဒမြို့တမြို့သို့အလျှင်အမြန်သွားသဖြင့် ဇာခရိ
၄၁ အိမ်သို့ဝင်၍ဧလိရှဗက်ကိုနှုတ်ဆက်လေ၏။ ထိုနှုတ်ဆက်ခြင်းစကား
ကိုဧလိရှဗက်ကြားစည်တွင်မိမိဝမ်း၌ရှိသောသူငယ်သည် လှုပ်ရှား၍
၄၂ မိမိသည်သန့်ရှင်းသောဝိညာဉ်တော်နှင့်ပြည့်ဝလျှက်သင်သည်မိန်း
မတကာထက်မြတ်စွာသောမင်္ဂလာရှိ၏။ သင်၏ဝမ်း၌ရှိသောသူငယ်
၄၃ သည်လည်းမြတ်စွာသောမင်္ဂလာရှိ၏။ အကျွန်ုပ်သခင်၏မယ်တော်
သည်အကျွန်ုပ်ဆီသို့ကြွလာသောကျေးဇူးကိုအဘယ်အကြောင်းကြောင့်
၄၄ အကျွန်ုပ်ခံရပါသနည်း။ သင်၏နှုတ်ဆက်ခြင်းစကားသံကိုအကျွန်ုပ်
ကြားစည်တွင်အကျွန်ုပ်ဝမ်းထဲ၌သူငယ်သည်ရွှင်လန်းသောစိတ်နှင့်
၄၅ လှုပ်ရှား၏။ ထာဝရဘုရား၏ဗျာဒိတ်တော်ပြည့်စုံမည်အရာကိုယုံသော
မိန်းမသည်မင်္ဂလာရှိသည်ဟုကြီးသောအသံနှင့်မြွက်ဆို၏။ ။
၄၆ မာရိကလည်းငါ့စိတ်နှစ်လုံးသည်ထာဝရဘုရားကိုချီးမွမ်းပါ၏။ ငါကို
၄၇ ကယ်တင်တော်မူသောဘုရားသခင်ကိုအမှီပြု၍ငါ့ဝမ်းသာရွှင်လန်း
၄၈ ခြင်းရှိပါ၏။ အဘယ်ကြောင့်နည်းဟူမူကား။ကိုယ်တော်ကျွန်မ၏
နှိမ့်ချသောအဖြစ်ကိုကြည့်ရှုတော်မူပြီး။ယခုမှစ၍ခပ်သိမ်းသောလူ
အစည်အဆက်တို့သည်ငါ့ကိုမင်္ဂလာရှိသောသူဟူ၍ခေါ်ဝေါ်ကြလတံ့။
၄၉ တန်ခိုးနှင့်ပြည့်စုံတော်မူသောဘုရားသည်အံ့ဖွယ်သောကျေးဇူးတော်
ကိုငါ့အားပြုတော်မူပြီး။ ထိုဘုရား၏နာမတော်သည်ရိုသေဖွယ်ဖြစ်
၅၀ တော်မူ၏။ ကိုယ်တော်ကိုကြောက်ရွံ့သောသူတို့သည်ကားသနား
၅၁ တော်မူခြင်းကျေးဇူးကိုအစည်မပြတ်ခံစားကြ၏။ လက်ရုံးတော်အား
ဖြင့်တန်ခိုးပြတော်မူပြီး။ မာန်မာနကြီးသောသူတို့ကိုဖရိုဖရဲကွဲပြား
၅၂ စေတော်မူပြီး။ ဘုရင်တို့ကိုရာဇပလ္လင်ပေါ်မှချ၍နှိမ့်ချသောသူ
၅၃ တို့ကိုချီးမြှောက်တော်မူပြီး။ငတ်မွတ်သောသူတို့ကိုကောင်းမွန်စွာ
၅၄ ကျွေး၍ရတတ်သောသူတို့ကိုလက်ချည်းလွှတ်လိုက်တော်မူပြီး။ ငါတို့
၅၅ အဖများတို့အားဗျာဒိတ်ထားတော်မူသည်နှင့်အညီအာဗြဟံမှစသော
သူ၏အမျိုးအနွယ်အားအစည်ထာဝရသနားခြင်းကျေးဇူးတော်ကိုပြု

ခြင်း ၎ါသတိထား၍ ကျွန်တော်မျိုးဖြစ်သော ဣသရေလလူတို့ကိုမစ
၅၆ တော်မူပြီး ဟုဆို၏။ မာရိသည်လည်း လေိရှဗက်ဆီမှာ သုံးလလောက်
နေပြီးမှမိမိအိမ်သို့ပြန်လေ၏။

✱✱

၅၇ လေိရှဗက် ဖွားအံ့သောနေ့လစေ့သောအခါ သား ယောက်ျား ကိုဖွား
၅၈ မြင်၏။ ထာဝရဘုရား သည်ကရုဏာ မြတ် သော သနား ခြင်း ကျေးဇူး
တော်ကိုလေိရှဗက်အားပြု တော်မူ သည် ကိုအိမ်နီး ချင်း အဆွေ အမျိုး
၅၉ တို့သည်ကြားလတ်သော်သူ နှင့်အတူဝမ်းမြောက်ဝမ်းသာကြ၏။ ရှစ်
ရက်မြောက်သောနေ့၌သူငယ်အား အရေဖျားလှီးမင်္ဂလာကိုပေးခြင်း
အလို့ငှါလာကြ၍အဘဇေါ်ဝေါ်သောဇာခရိအမည် ဖြင့် မှည့်သောအခါ
၆၀ အမိကထိုသို့မမှည့်ရ။ ယောဟန်အမည်ဖြင့်မှည့်ရမည်ဟုဆိုလျှင် သူ
၆၁ တို့ကလည်း ယောဟန် အမည်ဖြင့်သင်၏ အဆွေအမျိုး တယောက် မျှမ
၆၂ မှည့်ဟုဆိုကြ၍ အဘယ်သို့ မှည့် စေလိုသနည်း ဟု အမှတ် အား ဖြင့်
၆၃ အဖကိုမေးကြ၏။ အဖသည်းလည်းသင်ပုန်းကိုတောင်း၍သူ၏အမည်
ကားယောဟန်ဖြစ်၏ဟုရေး လေသော်အားလုံးတို့သည်အံ့ဩခြင်း
၆၄ ရှိကြ၏။ ထိုခဏချင်းတွင်ဇာခရိ၏ နှုတ်နှင့်လျှာ သည်ပကတိဖြစ်၍
၆၅ စကား အား ဖြင့်ဘုရားသခင်၏ကျေးဇူးတော်ကိုချီးမွမ်းလေ၏။ အိမ်
နီးချင်းအားလုံးတို့သည် ကြောက်ရွံ့ခြင်းရှိ၍ ထိုအမှုအရာများ သည်
၆၆ ယုဒပြည် တောင်ကြားအရပ်တို့၌အနှံ့အပြားကျော်စောလေ၏။ ကြား
သောသူအားလုံး တို့သည်နှစ်လုံး ထဲ၌မှတ်သား ၍ ဤသူငယ်သည်အ
ဘယ်သို့ သောသူဖြစ် မည် နည်း ဟုဆိုကြ၏။ ထာဝရဘုရား ၏လက်
၆၇ တော်သည်လည်း သူငယ်နှင့် အတူ ရှိတော်မူ၏။ ။သူ၏အဖ
၆၈ ဇာခရိသည်သန့်ရှင်းသော ဝိညာဉ်တော်နှင့် ပြည့်ဝလျက် ဣသရေလ
အမျိုး၏ဘုရား သခင်တည်း ဟူသောထာဝရ ဘုရား သည် မင်္ဂလာ ရှိ
၆၉ တော်မူစေသတည်း။ အကြောင်းမူကား။ ကမ္ဘာဦးမှစ၍ ပေါ်ထွန်းသော
၇၀ မိမိ သန့်ရှင်းသောပရောဖက်တို့ နှုတ် ဖြင့် ဗျာဒိတ်ထား တော်မူ သည်
နှင့်အညီငါတို့သည်ရန်သူလက်မှကယ်လွှတ် သောကျေးဇူးတော်ကိုခံ
ရသည်ဖြစ်၍ ဘုရား သခင်ရှေ့တော်၌ တသက် လုံး သန့်ရှင်း ဖြောင့်
မတ်ခြင်းပါရမီအား ဖြင့်ဘုရားဝတ်ကိုရဲရင့်စွာ ပြုရသော အခွင့်ကို
ပေးမည် ဟုငါတို့အဖ အာဗြဟံအားကျိန်ဆိုခြင်းဂတိတော်တည်း ဟူ
သောသန့်ရှင်းသောဝန်ခံခြင်းတရားကိုအောက်မေ့တော်မူသဖြင့်ရင်

ငါတို့အဖများနှင့်ဝန်ခံတော်မူသောသနားခြင်းကျေးဇူးကိုပြုတော်မူ
သဖြင့်ရင်မိမိလူမျိုးကိုအကြည့်အရှုကြွလာ၍ ရွေးနှုတ်ခြင်းကျေးဇူး
ကို ပြုတော်မူပြီ။ ငါတို့ကိုရန် သူလက်မှရင် မုန်းသောသူ ရှိသမျှတို့
၇၄ လက်မှရင် ကယ်လွှတ်မည့် အကြောင်း။ ကယ်လွှတ်သော သခင်ကို
ကိုယ်တော်ကျွန်ဒါဝိဒ်အမျိုးထဲ၌ ငါတို့အား ပေါ်ထွန်း စေတော်မူပြီ၊
၇၆ ။သင်သူငယ်သည်လည်းအမြင့်ဆုံးသောဘုရား၏ပရောဖက်
ဟုခေါ်ဝေါ်ခြင်းကိုခံလတ္တံ့။ အကြောင်းမူကား။ ငါတို့ဘုရားသခင်သ
နားတော်မူခြင်း ကျေးဇူး တော်အားဖြင့် အပြစ်ပြေ၍ကယ်ကင်ခြင်း
သို့ရောက်နိုင်ကြောင်း ကိုဘုရားသခင်၏ လူမျိုး အားဖော်ပြသဖြင့်
ထာဝရဘုရား၏လမ်းခရီး တော်ကိုပြင်ခြင်း ငှါသင်သည် ရှေ့တော်၌
၇၈ သွားလတ္တံ့။ ထိုသနားတော်မူခြင်းကျေးဇူးတော်အားဖြင့် ကောင်း
ကင်မှနေအာရုဏ်သည် ငါတို့အပေါ်သို့တက်သဖြင့်မှောင်မိုက်အထဲ။
သေမင်း၏ အရိပ်ထဲမှာ ရှိနေသောသူတို့၌ အလင်းပေါ်ထွန်း၍ ငါတို့
အား ငြိမ်သက်ခြင်း လမ်းကိုပြ လျက်ရှိ၏ ဟုပရောဖက် ဉာဏ်နှင့်
၈၀ ဟောလေ၏။ ထိုသူငယ်သည်ကားကြီးပွား၍ဉာဏ်သတ္တိနှင့်ပြည့်
စုံ၏။ဣသရေလ လူတို့အား မထင်ရှားမှီတိုင်အောင် တောအရပ်၌နေ
လေ၏။



၁ ထိုအခါတနိုင်ငံလုံးစာရင်းယူစေခြင်းငှါကဲသာဘုရင်ဩဂုတ္တုဇမိန့်
၂ တော်ရှိ၏။ ကုရေနိသည်ရှုရိပြည်ကိုမင်းပြုစဉ်၌ပဌမစာရင်းယူ
၃ ခြင်းဖြစ်သတည်း။ လူအပေါင်းတို့သည်စာရင်းဝင်ခြင်းငှါအသီးအသီး
၄။၅ မိမိမြို့ရွာသို့သွားကြ၏။ ယောသပ်သည်လည်းဒါဝိဒ်အမျိုးအနွယ်ဖြစ်
၍ထိမ်းမြားဆောင်နှင်း သောမယားမာရိနှင့်အတူစာရင်းဝင်ခြင်း
ငှါဂါလိလဲပြည်နာဇရက်မြို့မှယုဒပြည်၌ဗက်လင်အမည်ရှိသောဒါဝိဒ်
၆ ၏မြို့သို့သွား၏။ ထိုအခါမာရိသည်ပဋိသန္ဓေအရင့်အမာရှိ၏။ ဗက်
လင်မြို့၌သူတို့သည်တည်းနေစဉ်မာရိသည်ဖွားအံ့သောနေ့လစေ့သျှင်
၇ သားဦးကိုဖွားမြင်၍အဝတ်နှင့်ထုပ်ရစ်ပြီးမှငြည့်သည် တည်းရာဇ
ရပ်၌သူတို့နေစရာမရှိသည်ဖြစ်၍နွားစားခွက်၌သူငယ်ကိုသိပ်ထား
၈ လေ၏။ ။ထိုပြည်မှာသိုးထိန်းတို့သည်ညဉ့်အခါတောအရပ်
၉ ၌တည်းလျက်မိမိသိုးစုကိုစောင့်နေကြသည်ဖြစ်၍ ထာဝရဘုရား၏
ကောင်းကင်တမန်သည်သူတို့အနားမှာပေါ်လာ၍ပတ်ဝန်းကျင်၌ထာ



ထာဝရဘုရား၏ဘုန်းတော်အရောင်အဝါထွန်းတောက်သဖြင့်သူတို့သည်
၁၀ အလွန်ကြောက်ရွံ့ခြင်းသို့ရောက်ကြ၏။ ကောင်းကင်တမန်ကလည်း ကြောက်ရွံ့ခြင်းမရှိကြနှင့်။လူအပေါင်းတို့သည်အလွန်ဝမ်းမြောက်ဝမ်း
၁၁ သာစရာသိတင်းကိုငါသည်သင်တို့အားကြားပြော၏။ ယနေ့တွင်ဒါ ဝိဒ်၏မြို့၌သခင်ခရစ်တော်တည်းဟူသောကယ်တင်သောအရှင်သည်
၁၂ သင်တို့အလို့ငှါဖွားမြင်တော်မူပြီ။ သင်တို့သည် အဘယ်နိမိတ် ဖြင့်သိရမည်နည်းဟူမူကား။ သူငယ်သည်အဝတ် နှင့်ထုပ်ရစ်၍နွား
၁၃ စားခွက်၌သိပ်ထားလျက်ရှိသည်ကိုတွေ့လိမ့်မည်ဟုဆိုပြီးလျှင် ထို ကောင်းကင်တမန် နှင့် အကျ ကောင်းကင်ဗိုလ်ပါအများတို့သည်ချက်
၁၄ ချင်းထင်ရှား၍ ကောင်းကင်ဘဝက်ဝယ်ဘုရားသခင်ဘုန်းကြီးတော် မူစေသတည်း မြေကြီးပေါ်၌လည်းငြိမ်သက်ခြင်းဖြစ်စေသတည်း။ လူတို့အားမေတ္တာကရုဏာဖြစ်စေသတည်းဟုဘုရားသခင်ကိုချီးမွမ်
၁၅ ၍မြွက်ဆိုကြ၏။ ။ကောင်းကင်တမန်တို့သည်ကောင်းကင်ဘုံ သို့ပြန်ကြပြီးမှသိုးထိန်းတို့ကဗက်လင်မြို့သို့သွားကြစို့။ထာဝရဘုရား သည်ငါတို့အားဖော်ပြတော်မူသောဤအမှုအရာကိုကြည့်ကြစို့ဟုအချင်း
၁၆ ချင်းပြောဆိုကြပြီးလျှင် အလျင်အမြန်သွား၍မာရိနှင့်ယောသပ်နှင့်နွား
၁၇ စားခွက်၌ သိပ်ထားလျက်ရှိသောသူငယ်ကိုတွေ့ကြ၏။ တွေ့မြင် ပြီးမှမိမိတို့ကြားသောထိုသူငယ်၏အကြောင်းစကားကိုအနှံ့အပြား
၁၈ ပြောကြ၏။ သိုးထိန်းတို့ပြောသောစကားကိုကြားသောသူရှိသမျှ
၁၉ တို့သည်အံ့ဩခြင်းရှိကြ၏။ မာရိသည် ထိုအကြောင်းအရာအား
၂၀ လုံးကိုကိုမှတ်ကျုံး၍စဉ်းစားဆင်ခြင်လျက်နေ၏။ သိုးထိန်းတို့သည် လည်း မိမိ တို့အား ပြော နှင့် သည် အ တိုင်း ကြားမြင် သမျှ သော အ ကြောင်းအရာကိုထောက်သဖြင့်ဘုရားသခင်ကိုအံ့ဩချီးမွမ်းလျက်
၂၁ ပြန်သွားကြ၏။ ။သူငယ်အရေဖျားလှီးမင်္ဂလာကိုပေးရ သောနေ့တည်းဟူသောရှစ်ရက်မြောက်သောနေ့ရောက်လျှင်အမိဝမ်း ထဲ၌ပဋိသန္ဓေမယူမှီ ကောင်းကင် တမန် မှည့်သောယေရှုအမည်ဖြင့်
၂၂ မှည့်ကြ၏။ ထိုနောက်မောရှေပညတ်တရားအတိုင်းသန့်ရှင်းခြင်းပြု သောနေ့ရက်စေ့သော အခါ မိဘတို့သည်သူငယ်ကိုယေရုရှလင်မြို့သို့
၂၃ ဆောင်သွား၍ သားဦးယောကျ်ားအားလုံးတို့သည်ဘုရားအဖို့သန့် ရှင်းရမည်ဟုထာဝရဘုရား၏ပညတ်ကျမ်းလာသည်နှင့်အညီထာဝရ
၂၄ ဘုရားအားဆက်ကပ်ပြီး၍ ခိုနှစ်ကောင်။သို့မဟုတ်ချိုးကလေးနှစ်

ကောင်ကိုပူဇော်ရ၏ဟုထာဝရဘုရားပညတ်တော်ကျမ်းလာပြန်သည်နှင့်
အညီယဇ်ပူဇော်ကြ၏။

❊❊

၂၅ ထို အခါ ရှုမောင် အမည် ရှိ သော သူ တ ယောက် သည် ယေ ရု ရှလင်
မြို့ နှ ရှိ ၏။ ထို သူ သည် ဖြောင့် မတ် သော သူ၊ တရား ကို ရိုသေသော
သူဖြစ်၍ဣသရေလအမျိုး ၏သက်သာခြင်းအကြောင်း ကို မျှော် လင့်
လျက်နေစည်တွင်သန့်ရှင်း သောဝိညည်တော်သည် သူ့အပေါ် နှ သက်
၂၆ ရောက် တော်မူ၍ မိမိမသေမှီထာဝရ ဘုရား ၏ခရစ် တော် ကိုမြင်ရ
၂၇ မည်ဟုဗျာဒိတ် တော်ရ ၏။ ထိုအခါသူသည် ဝိညည် တော် အားဖြင့်
ဗိတ်မှာန်တော်သို့သွား၍မိဘ ကိုသည်သူငယ်ယေရှု ကိုပညတ်တရား
၂၈ ထုံးတမ်းအတိုင်းပြုခြင်းငှါဆောင်သွင်းစည်တွင် ရှုမောင်သည်ယေရှု
၂၉ ကိုလက် နှင့်ချီပိုက်၍ ဘုရားသခင်၏ကျေးဇူးတော်ကိုချီးမွမ်းလျက်
အစိုး ရတော်မူ သော အရှင်။ ဗျာဒိတ် တော်အတိုင်း ကိုယ် တော် ကျွန်
သည် သိမ် ဝပ် စွာ စုတေ့ရ သော အ ခွင့် ကို ကိုယ်တော် သည် ယခုတွင်
၃၀ ပေးတော်မူ ၏၊ ကိုယ်တော်လူဣသရေလအမျိုးကိုချီးမြှောက်စေခြင်း
၃၂ ငှါ ရင် တပါးအမျိုးသား တို့ ကို လင်းစေခြင်း ငှါရင်လူအမျိုးမျိုးတို့ရှေ့
မှောက်နှ ပြင်ဆင်တော်မူသောအလင်းတည်းဟူသောကယ်တင်သော
၃၃ သခင်ကိုအကျွန်ုပ်သည် ကိုယ်မျက်စိနှင့်မြင်ရပါ၏ဟုမြွက်ဆို၏ ထိုစ
ကားများကို ယောသပ်နှင့်မယ်တော်သည် ကြား လျှင်အံ့သြခြင်း
၃၄ ရှိကြ၏။ ရှုမောင်သည်လည်းသူတို့ကိုကောင်းကြီးပေး၍ မယ်တော်
မာရိအား ဤသူငယ်ကား ဣသရေလလူအများလဲမည် အကြောင်း၊ အ
များထမည်အကြောင်း၊လူအများတို့၏အကြံအစည်ကိုထင်ရှားစေခြင်း
၃၅ ငှါညှင်းချံစရာဖြစ်မည်အကြောင်း၊ခန့်ထားသောသူဖြစ်၏။ ထိုမှတ
ပါး၊သန်လျက်သည်သင်ဗိတ်နှလုံးကို ခွင်းသိမ့်မည်ဟုမြွက်ဆို၏၊
၃၆ ။အာရှာအမျိုးဖြစ်သောဖနွေလ၏သမီး၊အန္နာအမည်ရှိသော
ပရောဖက်မတယောက်ရှိ၏။ သူသည်ပျိုသောအရွယ်မှစ၍ခုနှစ်နှစ်
၃၇ သာလင်နှင့်နေပြီးလျှင် အသက်ကြီးရင့်၍အနှစ်ရှစ်ဆယ်လေးနှစ်ခန့်
မျှရှိသောမုတ်ဆိုးမဖြစ်လျက်ဆုတောင်းခြင်း၊အစားရှောင်ခြင်းအား
ဖြင့်နေ့ညဥ့်မပြတ်ဘုရားဝတ်ကိုပြု၍ဗိတ်မှာန်တော်နှင့်ဝေးသည်နေ၏၊
၃၈ သူသည်လည်းထိုခဏတွင်ဝင်၍ထာဝရဘုရား၏ကျေးဇူးတော်ကိုချီး
မွမ်းလေ၏၊ ယေရုရှလင်မြို့နှကယ်တင်ခြင်းအရာကိုမျှော်လင့်သောသူ

၃၉ အားလုံးတို့အားထိုသူငယ်၏အကြောင်းကိုပြောလေ၏။ မိဘတို့သည်
ထာဝရဘုရား၏ပညတ်တရားအတိုင်းပြုရသမျှတို့ကိုကုန်စင်အောင်
ပြုပြီးမှဂါလိလဲပြည်၊နာဇရက်အမည်ရှိသောမိမိတို့မြို့သို့ပြန်ကြ၏။
၄၀ သူငယ်သည်လည်းကြီးပွါး၍ဉာဏ်သတ္တိနှင့်ငံပညာနှင့်ငံပြည့်စုံ၏။
ဘုရားသခင်၏ကျေးဇူးတော်သည်သူအပေါ်၌တည်တော်မူ၏။ ။
၄၁ ။မိဘတို့သည်နှစ်တိုင်းအစည်ပသခါပွဲနေ့ရက်တွင်ယေရုရှလင်မြို့သို့
၄၂ သွားကြ၏။ ယေရှုသည်ဆယ်နှစ်နှစ်အရွယ်ရှိသောအခါပသခါပွဲ
၄၃ ထုံးစံအတိုင်းယေရုရှလင်မြို့သို့တက်ကြ၍ ပွဲနေ့ရက်လွန်ပြီးမှမိဘပြန်
ရာတွင်သူငယ်ယေရှုသည်ယေရုရှလင်မြို့၌နေရစ်လေ၏။ ယောသပ်နှင့်
၄၄ မယ်တော်သည်ထိုအကြောင်းကိုမသိ၍ အပေါင်းအဖော်စုထဲမှာသူ
ငယ်ပါသည်ဟုစိတ်ထင်နှင့်တနေ့ခရီးသွား၍ အဆွေအမျိုးအသိအ
၄၅ ကျွမ်းတို့တွင်ရှာကြ၏။ မတွေ့သောအခါယေရုရှလင်မြို့သို့ပြန်၍ရှာ
၄၆ လေ၏။ သူငယ်သည်ဗိမာန်တော်၌ဆရာများအလယ်မှာထိုင်၍
သူတို့နှင့်ဆွေးနွေးမေးမြန်းလျက်ရှိသည်ကိုမိဘတို့သည်သုံးရက်ကြာ
၄၇ ပြီးလျှင်တွေ့ကြ၏။ သူ၏စကားကိုကြားသောသူအားလုံးတို့သည်
၄၈ သူ၏ပညာကိုဥင်စကားဖြေကိုဥင်အံ့သြကြ၏။ မိဘတို့သည်သား
ကိုမြင်လျှင်မိန်းမောတွေဝေ၍မယ်တော်ကငါ့သား။အဘယ်ကြောင့်
ငါတို့အားဤသို့ပြုသနည်း။သို့းငယ်ကြောင့်ကြခြင်းစိတ်နှင့်မိဘတို့
၄၉ သည်မောင်ကိုရှာကြပြီးဟုဆိုလေသော် ယေရှုကမိဘသည်အဘယ်
ကြောင့်ကျွန်တော်ကိုရှာရပါသနည်း။ ကျွန်တော်အဖ၏အိမ်၌ကျွန်
၅၀ တော်နေရသည်ကိုမသိပါသလောဟုဆိုလျှင် သူတို့သည်ထိုစကားကို
၅၁ နားမလည်ဘဲနေကြ၏။ ထိုနောက်ယေရှုသည်မိဘတို့နှင့်အတူသွား
သဖြင့်နာဇရက်မြို့သို့ရောက်၍ သူတို့စကားကိုနားထောင်လျက်နေ
လေ၏။ထိုအကြောင်းအရာအားလုံးတို့ကိုမယ်တော်သည်နှစ်လုံးထဲ
၅၂ ၌မှတ်ကျုံးလေ၏။ ယေရှုသည်အစည်အတိုင်းကြီး၍ပညာတိုးပွား
လျက်ဘုရားသခင်ရှေ့၊လူတို့ရှေ့မှာမျက်နှာရတော်မူ၏။

❋❋

၁ ကဲသာဘုရင်တိဗေရိနန်းစံတဆယ်ငါးနှစ်တွင်ယုဒပြည်၌ပုန္တိပိလတ်
သည်မြို့ဝန်အရာ။ဂါလိလဲပြည်၌ဟေရုဒ်သည်စော်ဘွားအရာ။ ဣတု
၂ ရဲပြည်။တရာခေါနိတ်ပြည်၌လုသနိသည်စော်ဘွားအရာ။ အန္နတ်နှင့်က
ယာဖတို့သည်ယဇ်ပုရောဟိတ်မင်းအရာရှိသောအခါတော၌နေသော

အာနနိနှင့် ကယာဖ ယဇ်ပုရောဟိတ်မင်း ဖြစ်ကြစဉ်အခါ ဇာခရိ၏
၂ ၃ သားယောဟန်သည် ဘုရားသခင်၏ဗျာဒိတ်တော်ကို တောထဲမှာ ခံရ၍ ယော်ဒန်မြစ်နားပတ်ဝန်းကျင်ရှိသမျှသောအရပ်တို့သို့ရောက်လျှင်
ဒုစရိုက်အပြစ်လွှတ်ခြင်းအကြောင်းနောင်တနှင့်ဆိုင်သော ဗတ္တိဇံကို ဟောလေ၏။ သူ၏အသံမှာ တောလည်ခေါင်၌ ဟစ်ကြော်သောသူ၏
အသံဖြစ်သည်။ ထာဝရဘုရား၏လမ်းကိုပြင်ကြလော့၊ လမ်းခရီးတို့ကို ဖြောင့်စေကြလော့။ ချိုင့်ရှိသမျှကို ဖို့ရမည်၊
တောင်ကြီး တောင်ငယ်ရှိသမျှကို နှိမ့်ချရမည်။ ကောက်သောလမ်းများ ကိုဖြောင့်စေရမည်။ ကြမ်းတမ်းသောလမ်းများ ကိုလည်း သုတ်သင်ပြုပြင်
ရမည်။ လူအပေါင်းတို့သည် ဘုရားသခင်၏ ကယ်တင်တော်မူခြင်း
အကြောင်းကိုမြင်ရကြလတံ့ဟု လာသည်နှင့်အညီ ယောဟန်သည်
ယော်ဒန်မြစ်နားခြံအနှံ့အပြားလှည့်လည်၍ အပြစ်လွှတ်ခြင်းအလို့ငှာ
တတ်ရောက်နှင့်ဆိုင်သော ဗတ္တိဇံကိုဟောလေ၏။
၇ ထိုအခါဗတ္တိဇံကိုခံအံ့သောငှါသွားကြသောလူအစုအဝေးတို့
အား ယောဟန် ဟောပြောသည်မှာ၊ အချင်း မြွေဆိုးအမျိုးတို့၊
ရောက်လုသော ဘေးဒဏ်မှ ပြေး သွား စိမ့်သောငှါအဘယ်သူသည်
၈ သင်တို့ကိုသတိပေးဘိသနည်း။ နောင်တရခြင်းနှင့်ထိုက်တန်သော
အကျင့်ကိုကျင့်ကြလော့။ အာဗြဟံသည်ငါတို့အဘဖြစ်သည်ဟူ၍စိတ်
ထဲ၌မအောင်းမေ့ကြနှင့်။ ဘုရားသခင်သည် ဤကျောက်ခဲတို့မှ အာဗြ
ဟံသားတို့ကိုထုတ်ဖော်ဖန်ဆင်းနိုင်တော်မူသည်ဟု ငါအမှန်ဆို၏။
၉ သစ်ပင်အမြစ်နားမှာပေါက်ဆိန်ထားလျက် ရှိသည်ဖြစ်၍ ကောင်း
သောအသီးမသီးသောအပင်ရှိသမျှတို့ကိုခုတ်လှဲ၍ထင်းဖြစ်ရ
၁၀ သည်ဟုဟောပြောလေ၏။ ။လူအစုအဝေးတို့ထည်းသို့ဖြစ်လျှင်
အကျွန်ုပ်တို့သည် အဘယ်သို့ပြုရပါမည်နည်းဟုမေး လျှောက်ကြ
၁၁ သော် ယောဟန်ကအင်္ကျီနှစ်ထည်ရှိသောသူသည်အင်္ကျီမရှိသောသူ
အား မျှပါလေစေ။ စား စရာရှိသောသူသည် လည်းထိုနည်း တူပြုပါ
၁၂ လေစေဟုပြန် ပြော၏။ အခွန်ခံသူ တို့ သည် ဗတ္တိဇံ ကိုခံရ
အောင်လာ၍အရှင်ဘုရား။အကျွန်ုပ်တို့သည် အဘယ်သို့ ပြုရပါမည်
၁၃ နည်းဟုလျှောက်ကြလျှင် သင်တို့သခင်သည်ခွဲဝေစီမံသည်ထက်သာ
၁၄ ၍မခွဲမခံကြနှင့်ဟုပြန်ပြော၏။ စစ်သူရဲ တို့လည်း အကျွန်ုပ်တို့သည်
အဘယ်သို့ပြုရပါမည်နည်းဟုမေးလျှောက်ကြလျှင်သင်တို့သည်အ
ဘယ်သူကိုအနိုင်အထက်မပြုနှင့်။ အဘယ်သူကိုမလျှပ်နှင့်။ ကိုယ်ရ
၁၅ သောအခနှင့်ရောင့်ရဲကြလော့ဟုပြန်ပြော၏။ ။လူများတို့
သည်မျှော်လင့်၍ ယောဟန်သည်ခရစ်တော်မှန်မည်။မမှန်မည်ဟုနှစ်

၁၆ လုံးထဲမှာတွေး တောဆင်ချင်ကြစည့်ယောဟန်သည် လူအပေါင်း တို့
အားပြန်ပြောလေသည်မှာ။ ငါသည်သင်တို့အား ရေ၌သာနှစ်ခြင်းကို
ပေး၏။ ငါထက်တတ်စွမ်းနိုင်သောသူသည်ကြွလာသေး၏။ သူ၏ ခြေ
နင်းတော်ကြိုးကိုဖြည်ခြင်းငှါငါမထိုက်။ ထိုသူသည်သန့်ရှင်းသောဝိ
၁၇ ညည်၌၎င်မီး၌၎င်သင်တို့ကိုနှစ်တော်မူမည်။ လက်တော်တွင်စံကော
ပါလျက်မိမိကောက်နယ်တလင်းကိုရှင်းလင်းစေသဖြင့်ဂျုံစပါးကိုကါး
ကျီ၌စုသိမ်းသွင်းထား၍အဖျင်းကိုကားမညိမ်းနိုင်သောမီးနှင့်ရှို့
၁၈ တော်မူလတ္တံ့ဟုပြောဆို၏။ အချားသောစကားများနှင့်ဆုမ္မသွေး
ဆောင်၍ဧဝံဂေလိတရားကိုလူများတို့အားဟောပြောလေ၏။
၁၉ ။ထိုနောက်စော်ဘွားဟေရုဒ်သည်မိမိညီ၏ခင်ပွန်းဟေရောဒိ
အကြောင်းမှစ၍မိမိပြုသောဒုစရိုက်အပြစ်အားလုံးကိုယောဟန်
၂၀ သည်ဖော်ပြဆုမ္မသော့ကြောင့် ဟေရုဒ်သည်အရင်အပြစ်အားလုံးအ
ပေါ်မှာအပြစ်သစ်ကိုထပ်လောင်း၍ယောဟန်ကိုထောင်ထဲမှာ
လှောင်ထား၏။



၂၁ လူအပေါင်းတို့သည် ရေနှစ်မင်္ဂလာ ကိုခံကြသော အခါ ယေရှု သည်
လည်း ရေနှစ် မင်္ဂလာကိုခံတော်မူ၍ ဆုတောင်း စည့်ကောင်း ကင်ပွင့်
၂၂ လှစ်သဖြင့် သန့်ရှင်းသောဝိညည်တော်သည်ကိုယ်ထင်ရှားလျက်ချိုး
ငှက်ကဲ့သို့ကိုယ်တော်အပေါ်၌ဆင်း သက်တော်မူသည် ဖြစ်၍သင်
ကားငါနှစ်သက်မြတ်နိုးရာငါ၏ချစ်သားပေတည်းဟုကောင်းကင်က
၂၃ အသံတော်ဖြစ်လေ၏။ ။ထိုသို့ယေရှုသည်အစပြုသောအ
ခါအနှစ်သုံးဆယ်လောက်ရှိတော်မူ၏။လူများထင်မှတ်သောအားဖြင့်
၂၄ ကိုယ်တော်အဖကားယောသပ်တည်း။ ယောသပ်အဖဧလိ။ ဧလိအဖ
မဿတ်။မဿတ်အဖလေဝိ။ လေဝိအဖမေလခိ။မေလခိအဖယာန္န။ယာန္န
၂၅ အဖယောသပ်။ ယောသပ် အဖ မတ္တသိ။ မတ္တသိအဖအာမုတ်။ အာ
၂၆ မုတ်အဖနာဟုံ။နာဟုံအဖဧသလိ။ ဧသလိအဖနဂ္ဂဲ။ နဂ္ဂဲအဖမာသ။မာ
သအဖမတ္တသိ။ မတ္တသိအဖရှေမိ။ ရှေမိအဖယောသပ်။ ယောသပ်အဖ
၂၇ ယုဒ။ ယုဒအဖယောဟန္န။ ယောဟန္နအဖရေသ။ ရေသအဖဇောရောဗ
ဗေလ။ ဇောရောဗဗေလအဖရှလသေလ။ ရှလသေလအဖနေရိ။ နေရိအဖ
၂၈ မေလခိ။မေလခိအဖအဒ္ဒိ။ အဒ္ဒိအဖကောသံ။ ကောသံအဖဧလမောဒံ။ဧ
၂၉ လမောဒံအဖဧရ။ ဧရအဖယောသေ။ယောသေအဖဧလျေဇာ။ဧလျေဇာ

၃၀ အဖယောရိမ်။ ယောရိမ်အဖမသတ်။ မသတ်အဖလေဝိ။ လေဝိအ
ဖရှမောင်။ ရှမောင်အဖယုဒ။ ယုဒအဖယောသပ်။ ယောသပ်အဖယော
၃၁ နန်။ ယောနန်အဖဧလျာကိမ်။ ဧလျာကိမ်အဖမေလေ။ မေလေအဖမဲနန်။
၃၂ မဲနန်အဖမတ္တသ။ မတ္တသအဖနာသန်။ နာသန်အဖဒါဝိဒ်။ ဒါဝိဒ်အဖယေ
ရှဲ။ ယေရှဲအဖသြဗက်။ သြဗက်အဖဗောဇ။ ဗောဇအဖစလမုန်။ စလမုန်
၃၃ အဖနာရှုန်။ နာရှုန်အဖအမိနဒပ်။ အမိနဒပ်အဖအာရံ။ အာရံအဖဧ
၃၄ ဇရုံ။ ဧဇရုံအဖဖာရက်။ ဖာရက်အဖယုဒ။ ယုဒအဖယာကုပ်။ ယာ
ကုပ်အဖဣဇာက်။ ဣဇာက်အဖအာဗြဟံ။ အာဗြဟံအဖသာရ။ သာရအ
၃၅ ဖနာခေါ်။ နာခေါ်အဖစေရောက်။ စေရောက်အဖရာဂေါ။ ရာဂေါအဖဖာ
၃၆ လက်။ ဖာလက်အဖဟေဗာ။ ဟေဗာအဖရှာလ။ ရှာလအဖကဣနန်။ က
ဣနန်အဖအာဖာဇဒ်။ အာဖာဇဒ်အဖရှေမ။ ရှေမအဖနောဧ။ နောဧအဖ
၃၇ လာမက်။ လာမက်အဖမာသုရှလ။ မာသုရှလအဖဧနောက်။ ဧနောက်
အဖယာရက်။ ယာရက်အဖမာလေလေလ။ မာလေလေလအဖကဣနန်။
၃၀ ကဣနန်အဖဧနုတ်။ ဧနုတ်အဖရှေသ။ ရှေသအဖအာဒံ။ အာဒံအဖဘုရား
၁ သခင်ပေတည်း။ ။ယေရှုသည် သန့်ရှင်းသော ဝိညာဉ်တော်
နှင့်ပြည့်စုံလျက် ယော်ဒန်မြစ်နားမှပြန်စဉ် တွင်ဝိညာဉ်တော်သည်
၂ တောသို့ပို့ဆောင်တော်မူ၏။ အရက်လေးဆယ်ပတ်လုံးမာရ်နတ်၏
စုံစမ်းသွေးဆောင်ခြင်းကိုခံတော်မူ၏။ ထိုကာလပတ်လုံးအစာအာ
၃ ဟာရကိုသုံးတော်မမူ။ ထိုကာလလွန်ပြီးမှမွတ်သိပ်တော်မူ၏။ မာရ်
နတ်ကလည်းကိုယ်တော်သည် ဘုရားသခင်၏သားတော်မှန်လျှင်ဤ
ကျောက်ခဲကိုမုန့်ဖြစ်အောင် အမိန့်ရှိတော်မူပါဟု လျှောက်လေ၏။
၄ ယေရှုကလည်းလူသည်မုန့်တခုအားဖြင့်သာအသက်ကိုမွေးရသည်မ
ဟုတ်။ ဘုရားသခင်မိန့်တော်မူသမျှအားဖြင့် အသက်ကိုမွေးရ၏ဟု
၅ ကျမ်းစာ၌လာသည် ဟုပြန်ပြောတော်မူ၏။ ။ထိုအခါမာရ်
နတ်သည် ကိုယ်တော်ကိုမြင့်လှသောတောင်ပေါ်သို့ ယူဆောင်၍ဤ
၆ လောက၌ရှိသမျှသောတိုင်းနိုင်ငံတို့ကိုတခဏချင်းပြသွန်၍ ဤဘုန်း
တန်ခိုးအာနုဘော်အားလုံးကိုငါပိုင်သည်။ ငါစိတ်ရှိတိုင်းပေးလိုသော
၇ သူအားငါပေး၏။ အားလုံးကိုကိုယ်တော်အားပေးပါမည်။ ငါ့ကိုကိုး
ကွယ်လျှင်အားလုံးတို့သည်ကိုယ်တော်ဥစ္စာဖြစ်လိမ့်မည်ဟုလျှောက်
၈ လေ၏။ ယေရှုကလည်းသင်၏ဘုရားသခင် ထာဝရဘုရားကိုကိုး
ကွယ်ရမည်။ ထိုဘုရားသခင်ကိုသာဝတ်ပြုရမည်ဟု ကျမ်းစာလာ

၉ သည်ဟုပြန်ပြောတော်မူ၏။ ။ထိုအခါ မာရ်နတ်သည် ကိုယ်
၁၀ တော်ကိုယေရုရှလင်မြို့သို့ယူဆောင်၍ဗိမ်မာန်တော်၏ အထွဋ်၌တင်
၁၁ ထားပြီးလျှင်။ကျမ်းစာလာသည်ကား။သင်ကိုစောင့်ရှောက်စေခြင်းငှါ
ကောင်းကင်တမန် တို့အားသင်အတွက် မှာထား တော် မူသည်ဖြစ်၍
သင်၏ခြေ နှင့်ကျောက်ကို မျှမထိမခိုက်ရ အောင်သူ တို့သည် သင်ကို
လက်နှင့် မစချီပင့်ကြလိမ့် မည်ဟုလာ၏ ထိုကြောင့်ကိုယ်တော်သည်
ဘုရားသခင် ၏ သား တော်မှန် လျှင် ဤအထွဋ် မှအောက်သို့ကိုယ်ကို
၁၂ ကိုယ်ချလိုက်တော်မူပါဟုလျှောက်လေ၏ ယေရှုကလည်း သင်၏ဘု
ရားသခင်ထာဝရဘုရားကိုသင်သည်အစုံအစမ်း မပြုရဟုကျမ်းစကား
၁၃ ရှိသည် ဟုပြန် ပြော တော်မူ၏။ ထိုသို့ မာရ် နတ် သည်စုံ စမ်းသွေး
ဆောင်ခြင်းအမှုအားလုံးကိုကုန်စင် အောင်ပြုပြီးလျှင် အထံတော်မှခ
ဏထွက် သွားလေ၏။

❋❋

၁၄ ယေရှုသည်ဝိညာဉ် တော် တန်ခိုးနှင့်ဂါလိလဲပြည် သို့ပြန်၍ သိတင်း
တော်သည်ပတ်ဝန်းကျင်အရပ်တို့၌အနှံ့အပြားကျော်စောလေ၏။ တ
၁၅ ရားဇရပ်တို့၌ဆုံမှုသြဝါဒပေးတော်မူ၍ လူအပေါင်း တို့သည် ကိုယ်
၁၆ တော်ကိုချီးမွမ်းကြ၏။ ယေရှုသည်ကြီးပွားတော်မူရာနာဇရက်မြို့သို့
ရောက်ပြန်လျှင်ထုံးစံတော် ရှိသည့် အတိုင်း ဥပုသ်နေ့၌ တရားဇရပ်
၁၇ သို့ဝင်၍ကျမ်းစာကိုဖတ်ရွတ်အောင်ထတော်မူ၏။ ဇရပ် စောင့်သည်
ပရောဖက်ဟေရှာ ယ၏ ကျမ်းစာကိုပေးသည်ဖြစ်၍ကျမ်း စာကိုဖွင့်
၁၈ တော်မူလျှင်တွေ့သော အချက် စကားဟူမူကား။ ထာဝရ ဘုရား၏ဝိ
ညာဉ်တော်သည်ငါ့အပေါ် ၌တည် တော်မူ၏ အကြောင်းမူကား။ဆင်း
ရဲသားတို့အားဝမ်း မြောက်စရာ သိတင်းကို ကြားပြောစေ ခြင်းငှါငါ
ကိုဘိသိတ် ပေးတော်မူ ပြီး။ဖမ်းသွား ချုပ်ထားလျက်ရှိ သော သူတို့
အားလွှတ်ခြင်းအကြောင်း၊မျက်စိကန်းသောသူတို့အားမျက်စိမြင်ပြန်
ခြင်းအကြောင်းကိုပြစေခြင်းငှါရင်ညှည်း ဆဲခံသောသူတို့ ကိုကယ်မ
၁၉ စေခြင်းငှါရင်ထာဝရဘုရား ၏မင်္ဂလာ နှစ်ကိုကြား ပြောစေ ခြင်းငှါ
၂၀ ရင်ငါကိုစေလွှတ်တော်မူပြီးဟုလာသတည်း ကျမ်း စာကိုလိပ်၍ဇရပ်
စောင့်အား ပေးပြီးမှထိုင်တော်မူ၏။ဇရပ်၌ ရှိသောသူ အားလုံး တို့
၂၁ သည်ကိုယ်တော်ကိုစေ့စေ့ကြည့်လျက်နေကြ၏။ ။ယေရှုက
လည်းယနေ့ပင်ဤကျမ်းစာချက်သည် သင်တို့ကြားသည့် အတိုင်းပြည့်

၂၂ စုံလေပြီးဟုမိန့်တော်မူ၏။ ထိုသူအားလုံးတို့သည် ကိုယ်တော်ကိုဝန်
ခံ၍တင့်တယ်လျောက် ပတ်သော နှုတ်ထွက်စကားကိုအံ့ ဩသြချီးမွမ်
လျက်၍သူသည်ယောသပ်၏သားမဟုတ်ဝဲလောဟု ဆိုကြ၏။သော့ရှ
၂၃ ကလည်း အကယ်၍သင် တို့သည် ပုံပမာကိုဆောင် လျက် အချင်းဆေး
သမား၊ကိုယ် အနာကိုကိုယ် ညှိမ်းစေတော့။ငါ တို့သည် သိတင်းကြား
သည် အတိုင်းသင်သည် ကပေရနောင်မြို့၌ ပြုသမျှသော အမှုအရာတို့
ကိုကိုယ် နေရင်း မြို့၌ လည်းပြုပါဟူ၍ ငါအားပြောကြ လိမ့်မည်။သို့
၂၄ သော်လည်းငါအမှန် ဆိုသည်ကား။ အဘယ်ပရောဖက်မျှ မိမိနေရင်း
၂၅ မြို့၌မျက်နှာမရတတ်။ ငါအမှန်ဆိုပြန်သည် ကားပရော ဖက်ဧလိယ
လက်ထက်သုံး နှစ်နှင့် ခြောက်လပတ်လုံး မိုဃ်းခေါင် ၍ပြည် နိုင်ငံတ
လျှောက်လုံးအစာ အဟာရ အလွန်ခေါင်းပါး ခြင်းရှိသော အခါဣသ
၂၆ ရေလအမျိုးဖြစ်သောမုတ်ဆိုး မ အများရှိကြ၏။ သို့သော်လည်းထိုမိ
မ္ဆတယောက်ဆီသို့မျှဧလိယကိုစေလွှတ်တော်မမူ။ ဇိဒုန်ပြည် ဇရတ္တမြို့
၂၇ သားဖြစ်သောမုတ်ဆိုးမတယောက်ဆီသို့စေ လွှတ်တော်မူ၏။ ပရော
ဖက်ဧလိရှဲလက် ထက်လည်း ဣသရေလအမျိုးထဲ၌ နူနာစွဲ သော သူအ
များရှိကြ၏။သို့ သော်လည်း နေမန်အမည် ရှိသော ရှုရိလူမှ တပါးအ
၂၈ ဘယ်သူမျှသန့်ရှင်းခြင်းသို့ မရောက်ဟု မိန့်တော်မူ၏။ တရားဇရပ်
၌ရှိသော သူအားလုံးတို့သည်ထိုစကားတော် ကိုကြား လျှင်ပြင်းစွာ
၂၉ အမျက်ထွက်သည်နှင့်ထ၍ကိုယ်တော်ကိုမြို့ပြင်သို့နှင်ထုတ်ပြီးသော်
ထိုမြို့တည်ရာ တောင်ထိပ် စွန်းငူမှချောက်ထိုးတွန်းချခြင်းငှါဆောင်
၃၀ သွားကြ၏။ ကိုယ်တော်သည်သူတို့အလယ်၌ရှောက်၍ကြွသွားတော်
၃၁ မူ၏။ ။ဂါလိလဲပြည်ကပေရနောင်မြို့သို့ရောက် လျှင်ဥပုသ်နေ့
၃၂ ၌ဆုံမ္ဆာသြဝါဒပေးတော်မူ၏။ အာဏာနှင့်ဟောတော်မူသောကြောင့်ပ
၃၃ ရိသတ်တို့သည် ဒေသနာတော်ကို အလွန်အံ့ဩ ကြ၏။ ထိုတရား
၃၄ ဇရပ်၌ညစ်ညူး သော နတ်ဆိုးစွဲ သော သူတယောက်ရှိ၍ သြော်နာဇ
ရက်သား ယေရှု။ကိုယ်တော် သည်အကျွန်ုပ်တို့နှင့်အဘယ်သို့ဆိုင်သ
နည်း။အကျွန်ုပ်တို့ကိုဖျက်ဆီးခြင်းငှါလာသလော။ကိုယ်တော်သည်အ
ဘယ်သူဖြစ်မှန်းကိုအကျွန်ုပ်သိပါ၏။ဘုရားသခင်၏ သန့်ရှင်းတော်
၃၅ မူသော သူဖြစ်ပါ၏ဟုကြီးသောအသံနှင့် ဟစ်ကျော် လေ၏။ ယေရှု
ကလည်းတိတ်ဆိတ်စွာနေတော့။သူ၏အထဲကထွက်သွားတော့ဟုဆုမ္ဆ
တော်မူလျှင် နတ်ဆိုးသည်ထိုလူကိုအလယ်၌လှဲည်း၍ဘေးဥပါတ်မပြု

၃၆ ဘဲထွက်သွား၏။ လူအပေါင်း တို့သည် မိန်း မောတွေဝေ၍ ဤစကား
သည် အဘယ်သို့သောစကားနည်း။ညစ်ညူးသောနတ်တို့ကိုအာ ဏာ
တန်ခိုးနှင့်မှာထား၍သူတို့သည်ထွက်သွားကြသည်တကား ဟုအချင်း
၃၇ ချင်းဆွေးနွေး ပြောဆိုကြ၏။ သိတင်း တော်သည် လည်း ပတ်ဝန်း
ကျင်အရပ်တို့၌နှံ့ပြားကျော်စောလေ၏။

**

၃၈ တရားဇရပ်မှထွက် ပြီးလျှင် ရှိမုန်အိမ် သို့ကြွတော် မူ၏။ရှိမုန်၏
ယောက္ခမသည်ပြင်းစွာသော ဖျားနာစွဲသည် ဖြစ်၍သူ့အတွက်ကိုယ်
၃၉ တော်ကိုတောင်းလျှောက်ကြ၏။ ကိုယ်တော်သည် သူ၏အနားမှာရ
ပ်နေ၍ဖျားနာကိုဆုံးမတော်မူလျှင်အဖျားပျောက်၍ ထိုမိန်းမသည်ချက်
၄၀ ချင်းထသဖြင့်ညှော့သည်ဝတ်ကိုပြုလေ၏။ ။နေဝင်သောအ
ခါအကြင်သူတို့သည်အမျိုးမျိုး သောအနာရောဂါ စွဲသောသူရှိ၏။ထို
သူအားလုံး တို့သည်ထို လူနာတို့ကိုအထံတော်သို့ဆောင်ခဲ့၍အသီးအ
သီးသူတို့အပေါ်၌လက် တော်ကိုတင်သဖြင့်အနာ ရောဂါကိုညှိမ်းစေ
၄၁ တော်မူ၏။ နတ်ဆိုးတို့ လည်းကိုယ် တော် သည်ဘုရားသခင်၏သား
တော်ဖြစ်တော်မူ၏ ဟုဟစ် ကျော် လျက်လူများမှထွက် သွားကြ၏။
ကိုယ်တော်သည် ခရစ်တော် ဖြစ်မှန်းကိုသူ တို့သိကြသော့ကြောင့်စ
ကားတ ခွန်းကိုမျှမပြောမည်အကြောင်းမြစ်တားတော်မူ၏။
၄၂ ။နံ့ခက် အချိန် ရောက်လျှင် တောအရပ်သို့ထွက်ကြွ တော်မူ၍လူ
များတို့သည်ကိုယ်တော်ကိုလိုက်ရှာကြ၏။အထံတော်သို့ရောက်လျှင်
မိမိ တို့ ဆီမှထွက်ကြွ တော် မမူမည် အကြောင်း ကြပ် ကြပ် တောင်း
၄၃ လျှောက်ကြ၏။ ကိုယ်တော်ကလည်း အချား သောမြို့ရွာ တို့၌ ဘုရား
သခင်နိုင်ငံတော်နှင့်ရှည်သော ဧဝံဂေလိတရား ကိုငါဟောပြောရမည်။
၄၄ ထိုသို့အလို့ငှါငါကိုစေလွှတ်လျက် ရှိသည်ဟုမိန့်တော်မူ၍ဂါလိလဲပြည်
မှာတရားဇရပ်တို့၌တရားဟောပြောလျက်နေတော်မူ၏။ ။
၁ တရံရောအခါဂနေ်သရက်အိုင်နားမှာရပ်တော်မူ၍လူများတို့သည်ဘု
ရားသခင်၏နှုတ်ကပတ်တရား ကိုနာရ အောင်ကိုယ် တော်အနီးသို့
တိုးဝင်ကြစည်ကမ်နားမှာဆိုက် သောလှေနှစ်စင်း ကိုမြင်တော်မူ၏။
၂ တံငါတို့သည် လှေထဲကထွက်၍ ပိုက်ကွန် တို့ကိုဆေး ကျော်လျက် နေကြ
၃ ၏။ ထိုလှေတို့တွင်ရှိမုန်၏ လှေထဲသို့ဝင် တော်မူပြီး လျှင်လှေကိုကမ်

နှာ:မှအနည်းငယ် ခွာ ဖွင့် စေခြင်း ငှါရှိမုန်ကိုတောင်းတော်မူ၏။ ထို
လှေပေါ်မှာထိုင်လျက်လူများတို့ကိုဆုမ္ဘြဩဝါဒပေးတော်မူ၏။
၄ ။တရား ဟော၍ပြီး တော်မူသောအခါ ရေနက်ရာအရပ်သို့ရှေဦး
တော့။ ပိုက်ကွန် ကိုချ၍ငါး ကိုဖမ်းစမ်း တော့ ဟုရှိမုန်အားမိန့်တော်မူ
၅ ၏။ ရှိမုန် ကလည်း သခင်။ အကျွန်ုပ် တို့သည် တညည့်လုံး ကျိုး စား
သည် ဖြစ်၍ တကောင်ကိုမျှမရပါ။ သို့သော်လည်းအမိန့် တော်ရှိ လျှင်
၆ ပိုက်ကွန်ကိုချပါမည် ဟုလျှောက်လေ၏။ ထိုသို့ပြုကြပြီးလျှင်အလွှန်
များ စွာ သောငါး တို့ကိုဖမ်း မိကြသဖြင့်ပိုက်ကွန် သည်စုတ် ပျက်စရှိ
၇ ၏။ အခြားသောလှေတစင်း၌ ရှိသောအပေါင်းအဖော်တို့သည်အကူ
လာရအောင်သူတို့ကိုအမှတ်ပေးသဖြင့်သူတို့သည်လာ၍လှေနှစ်စင်း
၈ နှစ်လုမတတ်ငါးနှင့်ပြည့်စေကြ၏။ ရှိမုန်ပေတရုမြင်လျှင်ယေရှု၏ပု
ဆစ်တော်ကိုဦးတိုက်၍သခင်။အကျွန်ုပ်သည်အပြစ်များသောသူဖြစ်
၉ ပါ၏။အကျွန်ုပ်ဆီမှကြွသွား တော်မူပါဟု လျှောက်လေ၏။ အဘယ်
ကြောင့် ဤသို့လျှောက် သနည်း ဟူမူ ကား။ ဖမ်း မိသောငါး များ ကို
တောက်သဖြင့် ရှိမုန် နှင့်သူ၏ အပေါင်းအဖော်။ ဇေဗေဒဲ၏ သားယာ
ကုပ်။ယောဟန်တို့မှစ၍ရှိမုန်၌ပါသမျှသောသူတို့သည်မိန်းမောတွေ
၁၀ ဝေခြင်း ရှိကြ၏။ ယေရှုက လည်း ကြောက်ရွံ့ခြင်း မရှိနှင့်။ သင်သည်
၁၁ ယခုမှစ၍ လူတို့ကိုဖမ်းမိသော သူဖြစ်လိမ့်မည်ဟုမိန့်တော်မူ၏။ ကမ်
နား မှာ လှေကို ဆိုက်ပြီး လျှင် ထိုသူတို့ သည် အား လုံးကိုစွန့် ပြစ်၍
၁၂ နောက်တော်သို့လိုက်ကြ၏။ ။ကိုယ်တော်သည်မြို့တမြို့၌ရှိ
တော်မူစဉ် တကိုယ်လုံးနူနာစွဲ သော သူတယောက် သည်ကိုယ်တော်
ကိုမြင်လျှင်ပျပ်ဝပ်၍ သခင်။အလိုတော်ရှိလျှင်ကျွန်တော်ကိုသန့်ရှင်း
၁၃ စေနိုင်တော်မူ၏ ဟုတောင်းလျှောက်လေ၏။ ယေရှုကလည်းငါအလို
ရှိ၏။သန့်ရှင်းခြင်း သို့ရောက် စေဟု မိန့် တော်မူ လျက်လက် တော်ကို
ဆန့်၍ ထိုသူကိုတို့ တော်မူ၏။ ထိုခဏချင်း တွင်နူနာပျောက် လေ၏။
၁၄ ယေရှုကလည်း ဤအကြောင်းကိုအဘယ်သူအား မပြောနှင့်။ယဇ်ပုရော
ဟိတ်ဆီ သို့သွား၍ ကိုယ်ကို ကိုယ်ပြတော့။ သူတပါး၌ သက်သေဖြစ်
စေခြင်းငှါသန့်ရှင်းခြင်းသို့ရောက်သည်အတွက်မောရှေစီရင်မှာထား
၁၅ သောပူဇော် သကာကိုပြုတော့ ဟုမိန့်တော်မူ၏။ သို့သော်လည်း သိ
တင်းတော်သာ၍ကျော်စောသဖြင့်များ စွာသောလူအပေါင်းတို့သည်

တရားနာရအောင်ငှင်အနာရောဂါညှိမ်းစေခြင်းကျေးဇူးတော်ကိုခံရ
၁၆ အောင်ငှင်ရဝေးလျက်ရှိကြ၏။ ကိုယ်တော်သည်တောအရပ်သို့ကြွ၍
ဆုတောင်းလေ့ရှိတော်မူ၏။

❋❋

၁၇ တနေ့သ၌ ကိုယ်တော်သည်ဆုမ္ပြဩဝါဒပေးတော်မူစဉ်ယေရုရှလင်
မြို့မှစသော ယုဒပြည်။ ဂါလိလဲပြည်မြို့ရွာများ တို့ကရောက် လာသော
ဖာရိရှဲလူ။ နိဿရည်း ဆရာ တို့သည် ထိုင်နေလျက် ရှိကြ၍ အနာရော
ဂါကိုညှိမ်းစေခြင်း ငှါထာဝရဘုရား ၏တန်ခိုး တော်သည်ထင်ရှား ရှိ
၁၈ တော်မူ၏။ ထိုအခါလက်ခြေသေသော သူတယောက်ကိုအိပ်ရာနှင့်တ
ကွအထံတော်သို့ဆောင်ခဲ့၍ရှေ့တော်၌သွင်းထားခြင်းငှါရှာကြံကြ၏။
၁၉ လူရဝေးလျက်ရှိသော ကြောင့်ဝင်စရာလမ်း ကိုမတွေ့သဖြင့် အိမ်မိုးအ
ပေါ်သို့တက်၍အုပ်မိုးကိုဖောက်ပြီးမှလူနာကိုအိပ်ရာနှင့်တကွလူများ
၂၀ အလယ်။ ယေရှု၏ ရှေ့တော်၌ လျှော့ ချကြ၏။ ကိုယ်တော်သည်ထိုသူ
တို့၏ယုံကြည်ခြင်းကိုမြင်လျှင်လူနာအား။အချင်းလူ။သင်၏ အပြစ်လွှတ်
၂၁ ခဲ့ပြီး ဟုမိန့် တော်မူ၏။ ကျမ်းပြုဆရာ။ ဖာရိရှဲလူတို့ကဘုရားကိုပြစ်
မှားသော စကားကိုပြောသော ဤသူသည်အဘယ်သူနည်း။ဘုရားသ
ခင်မှတပါးအဘယ်သူသည်အပြစ် ကိုလွှတ်နိုင် သနည်းဟုအကြံရှိကြ
၂၂ ၏။ ယေရှုသည် ထိုသူတို့၏ အကြံအစည် ကိုသိတော် မူလျှင် သင်တို့
၂၃ စိတ်ထဲမှာ အဘယ် ကြောင့် ကြံစည် ကြသနည်း။ ဘယ်သင်း သာ၍
ပြောလွယ်သနည်း။ သင်၏ အပြစ် လွှတ်ခဲ့ပြီး ဟုပြောလွယ်သလော။
၂၄ သင်ထ၍လှမ်းသွားတော့ဟုပြောလွယ်သလော။လူသားသည်မြေကြီး
ပေါ်မှာ အပြစ် လွှတ်ပိုင်သည်ကိုသင်တို့ သိစေခြင်းငှါ။ထတော့။ ကိုယ်
အိပ်ရာ ကို ဆောင်၍ ကိုယ်အိမ်သို့သွားတော့။ သင်အားငါဆိုသည်ဟုခု
၂၅ လက်ခြေသေသော သူအား မိန့်တော် မူ၏။ ထိုသူ လည်း လူများရှေ့
မှောက်ချက်ချင်းထ၍ အိပ်ရာကိုဆောင်လျက်ဘုရားသခင်ဂုဏ်တော်
၂၆ ကိုချီးမွမ်းလျက် မိမိအိမ်သို့သွား လေ၏။ ထိုသူအပေါင်းတို့သည်မိန်း
မောတွေဝေ၍ကြောက်ရွံ့အားကြီးသည်နှင့်ငါတို့သည်အံ့ဖွယ်သောအ
ရာကိုယနေ့မြင်ခဲ့ပြီး ဟုပြောဆို၍ ဘုရားသခင် ဂုဏ် တော်ကိုချီး မွမ်း
၂၇ ကြ၏။ ။ထိုနောက်ကိုယ်တော်သည် ထွက်ကြွ၍လေဝိအမည်
ရှိသောအ ခွန် ခံသူသည် အ ခွန် ခံရာထဲ၌ ထိုင်နေ သည်ကိုမြင် လျှင်ငါ
၂၈ နောက်သို့လိုက်လော့ဟုသူကိုမိန့်တော်မူ၏။ သူသည်လည်းအားလုံး

ကောင်ကိုပူဇော်ရ၏ဟုထာဝရဘုရားပညတ်ကျမ်းလာပြန်သည်နှင့်
အညီယဇ်ပူဇော်ကြ၏။

❋❋

၂၅ ထို အခါ ရှုမောင် အမည် ရှိ သော သူ တ ယောက် သည် ယေ ရု ရှလင်
မြို့ နှ ရှိ ၏။ ထို သူ သည် ဖြောင့် မတ် သော သူ၊ တရား ကို ရိုသေသော
သူဖြစ်၍ဣသရေလအမျိုး ၏ သက်သာခြင်းအကြောင်း ကို မျှော်လင့်
လျက်နေစဉ်တွင်သန့်ရှင်း သောဝိညာဉ်တော်သည် သူအပေါ် နှ သက်
၂၆ ရောက်တော်မူ၍ မိမိမသေမှီ ထာဝရ ဘုရား ၏ ခရစ်တော် ကိုမြင်ရ
၂၇ မည်ဟုဗျာဒိတ်တော်ရ ၏။ ထိုအခါသူသည် ဝိညာဉ်တော်အားဖြင့်
ဗိမ္မာန်တော်သို့သွား၍မိဘကိုသည်သူငယ်ယေရှုကိုပညတ်တရား
၂၈ ထုံးတမ်းအတိုင်းပြုခြင်းငှါဆောင်သွင်းစဉ်တွင် ရှုမောင်သည်ယေရှု
၂၉ ကိုလက် နှင့်ချီပိုက်၍ ဘုရားသခင်၏ကျေးဇူးတော်ကိုချီးမွမ်းလျက်
အစိုးရတော်မူ သော အရှင်။ ဗျာဒိတ် တော်အတိုင်း ကိုယ် တော် ကျွန်
သည် သိမ် ဝပ် စွာ စုတေ့ရ သော အ ခွင့်ကိုကိုယ်တော်သည် ယခုတွင်
၃၀ ပေးတော်မူ ၏၊ ကိုယ်တော်လူဣသရေလအမျိုးကိုချီးမြှောက်စေခြင်း
၃၁ ဥါဒ် တပါးအမျိုးသား တို့ ကို လင်းစေခြင်း ငှါဒ်လူအမျိုးမျိုးတို့ရှေ့
မှောက်၌ပြင်ဆင်တော်မူသောအလင်းတည်းဟူသောကယ်တင်သော
၃၂ သခင်ကိုအကျွန်ုပ်သည် ကိုယ်မျက်စိနှင့်မြင်ရပါ၏ဟုမြွက်ဆို၏ ထိုစ
၃၃ ကားများကို ယောသပ်နှင့်မယ်တော်သည် ကြား လျှင်အံ့ဩခြင်း
၃၄ ရှိကြ၏။ ရှုမောင်သည်လည်းသူတို့ကိုကောင်းကြီးပေး၍ မယ်တော်
မာရိအား ဤသူငယ်ကား ဣသရေလလူအများလဲမည် အကြောင်း။ အ
များထမည်အကြောင်း။လူအများတို့၏အကြံအစည်ကိုထင်ရှားစေခြင်း
၃၅ ငှါညင်းချုံစရာဖြစ်မည်အကြောင်း။ခန့်ထားသောသူဖြစ်၏။ ထိုမှတ
ပါး။သန်လျက်သည်သင်စိတ်နှလုံးကို ခွင်းသိမ့်မည်ဟုမြွက်ဆို၏။
၃၆ ။အာရှာအမျိုးဖြစ်သောဖနွေလ၏သမီး။အန္နာအမည်ရှိသော
ပရောဖက်မတယောက်ရှိ၏။ သူသည်ပျိုသောအရွယ် မှစ၍ခုနှစ်နှစ်
၃၇ သာလင်နှင့်နေပြီးလျှင် အသက်ကြီးရင့်၍အနှစ်ရှစ်ဆယ်လေးနှစ်ခန့်
မျှရှိသောမုဆိုးမဖြစ်လျက်ဆုတောင်းခြင်း။အစာရှောင်ခြင်းအား
ဖြင့်နေ့ညဉ့်မပြတ်ဘုရားဝတ်ကိုပြု၍ဗိမ္မာန်တော်နှင့်မခွာဘဲနေ၏။
၃၈ သူသည်လည်းထိုခဏတွင်ဝင်၍ထာဝရဘုရား၏ကျေးဇူးတော်ကိုချီး
မွမ်းလေ၏။ ယေရုရှလင်မြို့၌ကယ်တင်ခြင်းအရာကိုမျှော်လင့်သောသူ

၃၉ အားလုံးတို့အားထိုသူငယ်၏အကြောင်းကိုပြောလေ၏။ မိဘတို့သည်
ထာဝရဘုရား၏ပညတ်တရားအတိုင်းပြုရသမျှတို့ကိုကုန်စင်အောင်
ပြုပြီးမှဂါလိလဲပြည်။နာဇရက်အမည်ရှိသောမိမိတို့မြို့သို့ပြန်ကြ၏။
၄၀ သူငယ်သည်လည်းကြီးပွါး၍ညာဏ်သတ္တိနှင့်ဂုဏ်ပညာနှင့်ဂုဏ်ပြည့်စုံ၏။
ဘုရားသခင်၏ကျေးဇူးတော်သည်သူအပေါ်၌တည်တော်မူ၏။ ။
၄၁ ။မိဘတို့သည်နှစ်တိုင်း အစည်ပသခါပွဲနေ့ရက်တွင်ယေရုရှလင်မြို့သို့
၄၂ သွားကြ၏။ ယေရှုသည် ဆယ်နှစ်နှစ်အရွယ်ရှိသောအခါပသခါပွဲ
၄၃ ထုံးစံအတိုင်းယေရုရှလင်မြို့သို့တက်ကြ၍ ပွဲနေ့ရက်လွန်ပြီးမှမိဘပြန်
ရာတွင်သူငယ်ယေရှုသည်ယေရုရှလင်မြို့၌နေရစ်လေ၏။ ယောသပ်နှင့်
၄၄ မယ်တော်သည်ထိုအကြောင်းကိုမသိ၍ အပေါင်းအဖော်စုထဲမှာသူ
ငယ်ပါသည် ဟုစိတ်ထင်နှင့် တနေ့ခရီး သွား၍ အဆွေအမျိုး အသိအ
၄၅ ကျွမ်းတို့တွင်ရှာကြ၏။ မတွေ့သော အခါ ယေရုရှလင်မြို့ သို့ပြန်၍ရှာ
၄၆ လေ၏။ သူငယ် သည် ဗိတ်မှာန်တော်၌ ဆရာများ အလယ် မှာထိုင်၍
သူတို့နှင့်ဆွေးနွေးမေးမြန်းလျက်ရှိသည်ကိုမိဘတို့သည်သုံးရက်ကြာ
၄၇ ပြီးလျှင်တွေ့ကြ၏။ သူ၏စကားကိုကြားသောသူအားလုံး တို့သည်
၄၈ သူ၏ပညာကိုဥင်စကားဖြေကိုဥင်အံ့ဩကြ၏။ မိဘတို့သည်သား
ကိုမြင်လျှင်မိန်းမောတွေဝေ၍မယ်တော်ကငါသား ။အဘယ်ကြောင့်
ငါတို့အားဤသို့ပြုသနည်း ။သို့ ငယ်ကြောင့် ကြခြင်းစိတ်နှင့် မိဘတို့
၄၉ သည်မောင်ကိုရှာကြပြီး ဟုဆိုလေသော် ယေရှုကမိဘသည်အဘယ်
ကြောင့်ကျွန် တော် ကိုရှာရပါသနည်း။ ကျွန်တော်အဖ၏ အိမ်၌ကျွန်
၅၀ တော်နေရသည်ကိုမသိပါသလောဟုဆိုလျှင် သူတို့သည်ထိုစကားကို
၅၁ နားမလည်ဘဲနေကြ၏။ ထိုနောက်ယေရှုသည်မိဘတို့နှင့်အတူသွား
သဖြင့်နာဇရက်မြို့သို့ရောက်၍ သူတို့စကားကိုနားထောင်လျက် နေ
လေ၏။ထိုအကြောင်း အရာအားလုံး တို့ကိုမယ်တော်သည် နှစ်လုံးထဲ
၅၂ ၌မှတ်ကျုံး လေ၏။ ယေရှုသည်အစည် အတိုင်း ကြီး၍ပညာတိုးပွား
လျက်ဘုရား သခင်ရှေ့။လူတို့ရှေ့မှာမျက်နှာရတော်မူ၏။

**

၁ ကဲသာဘုရင်တိဗေရိနန်းစံတဆယ်ငါးနှစ်တွင်ယုဒပြည်၌ပုန္တိပိလတ်
သည်မြို့ဝန်အရာ။ဂါလိလဲပြည်၌ ဟေရုဒ်သည်စော်ဘွားအရာ။ ဣတုရဲ
၂ ရဲပြည်။တရာခေါနိတ်ပြည်၌လုသနိသည်စော်ဘွားအရာ။ အန္နတ်နှင့်က
ယာဖတို့သည်ယဇ်ပုရောဟိတ်မင်းအရာရှိသောအခါတောဘ်၌နေသော

ဇာခရိ၏ သား ယောဟန် သည် ဘုရားသခင်ဗျာဒိတ် တော်ကိုခံရ၏။
၃။၄ ပရောဖက်ဟေရှာယ၏ ကျမ်းစာ၌လာသည်ကား။တောစ်ကျော်သောသူ
၏အသံမှာ။ထာဝရဘုရား ကြွတော်မူရာလမ်းကိုတော၌ပြင်ကြလော့။
လမ်းခရီးတော်ကိုဖြောင့်စေကြလော့။ချိုင့်ဝှမ်းရာ ရှိသမျှတို့ကိုဖို့ရမည်။
တောင်ကြီး တောင်ငယ် ရှိသမျှတို့ကိုဖြို့ရမည်။ ကောက်သောလမ်းများ
ကိုဖြောင့်စေရမည်။ ကြမ်းတမ်းသောလမ်းများ ကိုလည်း သုတ်သင်ပြုပြင်
ဆင်ရမည်။ လူအပေါင်းတို့သည်ဘုရားသခင်၏ကယ်တင်တော်မူခြင်း
အကြောင်း ကိုမြင် ရကြလတ္တံ့ ဟု လာသည်နှင့် အညီ ယောဟန် သည်
ယော်ဒန်မြစ်နားဝန်းကျင်အရပ်ရပ် လှည့်လည်၍ အပြစ်လွှတ်ရာလမ်း။နောင်
တတရားနှင့်စပ်ဆိုင်သောရေနှစ်မင်္ဂလာတရားကိုဟောလေ၏။
၇ ထိုအခါရေနှစ်မင်္ဂလာ ကိုခံလို သော ငှါသွားကြသောလူအစုအဝေးတို့
အား ယော ဟန် ဟော ပြော လေသည် မှာ။ အ ချင်း မြွေဆိုး အမျိုး တို့၊
ရောက်လုသော ဘေး ဒဏ် မှပြေး သွား စိမ့်သော ငှါအဘယ်သူသည်
၈ သင်တို့ကိုသတိပေး သနည်း။ နောင်တရခြင်းနှင့်ထိုက်တန် သော
အကျင့်ကို ကျင့်ကြလော့။ အာ ဗြဟံသည်ငါတို့အဖဖြစ် သည်ဟူ၍ စိတ်
ထဲ၌မအောင်း မေ့ကြနှင့်။ ဘုရား သခင်သည် ဤ ကျောက် ခဲတို့မှ အာဗြ
ဟံသားတို့ကိုထုတ် ဖော်ဖန်ဆင်း နိုင် တော်မူ သည်ဟုငါ အမှန်ဆို၏။
၉ သစ်ပင်အမြစ် နား မှာပေါက်ဆိန် ထား လျက် ရှိ သည် ဖြစ်၍ ကောင်း
သောအသီး မသီး သောအပင် ရှိသမျှတို့ကိုခုတ်လှဲ၍ ထင်း ဖြစ်ရ
၁၀ သည်ဟုဟောပြောလေ၏။ ။လူအစုအဝေးတို့လည်းသို့ဖြစ်လျှင်
အကျွန်ုပ် တို့သည် အဘယ်သို့ ပြုရပါမည် နည်း ဟု မေး လျှောက်ကြ
၁၁ သော် ယောဟန်ကအင်္ကျီနှစ်ထည်ရှိသော သူသည်အင်္ကျီမရှိသောသူ
အား မျှပါလေစေ။ စား စရာ ရှိသော သူသည် လည်းထိုနည်း တူပြုပါ
၁၂ လေစေဟုပြန် ပြော ၏။ အ ခွန် ခံ သူ တို့ သည် ရေနှစ် မင်္ဂလာ ကိုခံရ
အောင်လာ၍အရှင်ဘုရား ။အကျွန်ုပ်တို့သည် အဘယ်သို့ ပြုရပါမည်
၁၃ နည်းဟုလျှောက်ကြလျှင် သင်တို့သခင်သည်ခွဲဝေစီမံသည်ထက်သာ
၁၄ ၍မခွဲမခံကြနှင့်ဟုပြန်ပြော၏။ စစ် သူရဲ တို့လည်း အကျွန်ုပ် တို့သည်
အဘယ်သို့ပြုရပါမည်နည်း ဟုမေးလျှောက်ကြလျှင်သင်တို့ သည်အ
ဘယ်သူကိုအနိုင်အထက်မပြုနှင့်။ အ ဘယ်သူကို မလျှော်နှင့်။ ကိုယ်ရ
၁၅ သောအခနှင့်ရောင့်ရဲကြလော့ဟုပြန်ပြော၏။ ။လူများတို့
သည်မျှော်လင့်၍ ယောဟန်သည်ခရစ်တော်မှန်မည်။မမှန်မည်ဟုနှစ်

၁၆ လုံးထဲမှာတွေးတောဆင်ချင်ကြစဉ်ယောဟန်သည် လူအပေါင်းတို့
အားပြန်ပြောလေသည်မှာ။ငါသည်သင်တို့အား ရေ၌သာနှစ်ခြင်းကို
ပေး၏။ငါထက်တတ်စွမ်းနိုင်သောသူသည်ကြွလာသေး၏။ သူ၏ခြေ
နင်းတော်ကြိုးကိုဖြည်ခြင်းငှါငါမထိုက်။ ထိုသူသည်သန့်ရှင်းသောဝိ
၁၇ ညာဉ်၌၎င်မီး၌၎င်သင်တို့ကိုနှစ်တော်မူမည်။ လက်တော်တွင်စံကော
ပါလျက်မိမိကောက်နယ်တလင်းကိုရှင်းလင်းစေသဖြင့်ဂျုံစပါးကိုကား
ကျီ၌စုသိမ်းသွင်းထား၍အဖျင်းကိုကားမငြိမ်းနိုင်သောမီးနှင့်ရှို
၁၈ တော်မူလတ္တံ့ဟုပြောဆို၏။ အခြားသောစကားများနှင့်ဆုံးမသွေး
ဆောင်၍ဧဝံဂေလိတရားကိုလူများတို့အားဟောပြောလေ၏။
၁၉ ။ထိုနောက်စော်ဘွားဟေရုဒ်သည်မိမိညီ၏ခင်ပွန်းဟေရောဒိ
အကြောင်းမှစ၍မိမိပြုသောဒုစရိုက်အပြစ်အားလုံးကိုယောဟန်
၂၀ သည်ဖော်ပြဆုံးမသောကြောင့် ဟေရုဒ်သည်အရင်အပြစ်အားလုံးအ
ပေါ်မှာအပြစ်သစ်ကိုထပ်လောင်း၍ယောဟန်ကိုထောင်ထဲမှာ
လှောင်ထား၏။



၂၁ လူအပေါင်းတို့သည်ရေနှစ်မင်္ဂလာကိုခံကြသောအခါယေရှုသည်
လည်းရေနှစ်မင်္ဂလာကိုခံတော်မူ၍ဆုတောင်းစဉ်းကောင်းကင်ဖွင့်
၂၂ လှစ်သဖြင့် သန့်ရှင်းသောဝိညာဉ်တော်သည်ကိုယ်ထင်ရှားလျက်ချိုး
ငှက်ကဲ့သို့ကိုယ်တော်အပေါ်၌ဆင်းသက်တော်မူသည်ဖြစ်၍သင်
ကားငါနှစ်သက်မြတ်နိုးရာငါ၏ချစ်သားပေတည်းဟုကောင်းကင်က
၂၃ အသံတော်ဖြစ်လေ၏။ ။ထိုသို့ယေရှုသည်အစပြုသောအ
ခါအနှစ်သုံးဆယ်လောက်ရှိတော်မူ၏။လူများထင်မှတ်သောအားဖြင့်
၂၄ ကိုယ်တော်အဖကားယောသပ်တည်း။ ယောသပ်အဖဧလိ။ ဧလိအဖ
မဿတ်။မဿတ်အဖလေဝိ။ လေဝိအဖမေလ ခိ။မေလ ခိအဖယန္န။ယန္န
၂၅ အဖယောသပ်။ ယောသပ်အဖမတ္တသိ။ မတ္တသိအဖအာမုတ်။ အာ
၂၆ မုတ်အဖနာဟုံ။နာဟုံအဖသေလိ။ သေလိအဖနဂ္ဂဲ။ နဂ္ဂဲအဖမာသ။မာ
သအဖမတ္တသိ။မတ္တသိအဖရှေမိ။ ရှေမိအဖယောသပ်။ ယောသပ်အဖ
၂၇ ယုဒ။ ယုဒအဖယောဟန္န။ယောဟန္နအဖရေသ။ ရေသအဖဇောရောဗ
ဗေလ။ ဇောရောဗဗေလအဖရှာလသေလ။ ရှာလသေလအဖနေရိ။ နေရိအဖ
၂၈ မေလခိ။မေလခိအဖအဒ္ဒိ။ အဒ္ဒိအဖကောသံ။ ကောသံအဖဧလမောဒံ။ဧ
၂၉ လမောဒံအဖဧရ။ ဧရအဖယောသေ။ယောသေအဖဧလျေဇာ။ဧလျေဇာ

၃၀ အဗ ယောရိမ်။ ယောရိမ်အဗ မဿတ်။ မဿတ်အဗလေဝိ။ လေဝိအ
ဗရှိမောင်။ ရှိမောင်အဗယုဒ။ ယုဒအဗယောသပ်။ ယောသပ်အဗယော
၃၁ နန်။ ယောနန်အဗဧလျာကိမ်။ ဧလျာကိမ်အဗမေလေ။ မေလေအဗမဲနန်။
၃၂ မဲနန်အဗမတ္တသ။ မတ္တသအဗနာသန်။ နာသန်အဗဒါဝိဒ်။ ဒါဝိဒ်အဗယေ
ရှဲ။ ယေရှဲအဗဩဗက်။ ဩဗက်အဗဗောဇ။ ဗောဇအဗစလမုန်။ စလမုန်
၃၃ အဗနာရှုန်။ နာရှုန်အဗအမိနဒပ်။ အမိနဒပ်အဗအာရံ။ အာရံအဗဧ
၃၄ ဇရုံ။ ဧဇရုံ အဗဖာရက်။ ဖာရက်အဗယုဒ။ ယုဒအဗယာကုပ်။ ယာ
ကုပ်အဗဣဇာက်။ ဣဇာက်အဗအာဗြဟံ။ အာဗြဟံအဗသာရ။ သာရအ
၃၅ ဗနာခေါ်။ နာခေါ်အဗစေရုက်။ စေရုက်အဗရာဂေါ်။ ရာဂေါ်အဗဖာ
၃၆ လက်။ ဖာလက်အဗဟေဗာ။ ဟေဗာအဗရှာလ။ ရှာလအဗကဣနန်။ က
ဣနန်အဗအာဖာဇဒ်။ အာဖာဇဒ်အဗရှေမ။ ရှေမအဗနောဧ။ နောဧအဗ
၃၇ လာမက်။ လာမက်အဗမာသုရှလ။ မာသုရှလအဗဧနောက်။ ဧနောက်
အဗယာရက်။ ယာရက်အဗမာလေလေလ။ မာလေလေလအဗကဣနန်။
၃၈ ကဣနန်အဗဧနုတ်။ ဧနုတ်အဗရှေသ။ ရှေသအဗအာဒံ။ အာဒံအဗဘုရား
၁ သခင်ပေတည်း။ ။ယေရှုသည် သန့်ရှင်းသော ဝိညာဉ်တော်
နှင့်ပြည့်စုံလျက် ယော်ဒန် မြစ်နား မှပြန်စဉ် တွင်ဝိညာဉ် တော်သည်
၂ တောသို့ပို့ဆောင်တော်မူ၏။ အရက် လေးဆယ်ပတ်လုံးမာရ်နတ်၏
စုံစမ်း သွေးဆောင် ခြင်းကို ခံတော်မူ၏။ ထိုကာလ ပတ်လုံးအစာ အာ
၃ ဟာရကိုသုံးတော်မမူ။ ထိုကာလလွန် ပြီးမှ မွတ်သိပ် တော်မူ၏။ မာရ်
နတ်ကလည်းကိုယ်တော်သည် ဘုရားသခင်၏ သားတော်မှန်လျှင်ဤ
ကျောက်ခဲကိုမုန့် ဖြစ်အောင် အမိန့် ရှိတော်မူပါဟု လျှောက် လေ၏။
၄ ယေရှုကလည်းလူသည်မုန့်တခုအားဖြင့် သာအသက်ကိုမွေးရသည်မ
ဟုတ်။ ဘုရားသခင်မိန့် တော်မူသမျှအားဖြင့် အသက်ကို မွေးရ၏ဟု
၅ ကျမ်းစာ၌လာသည် ဟုပြန် ပြောတော်မူ၏။ ။ထိုအခါမာရ်
နတ်သည် ကိုယ်တော် ကိုမြင့်လှသော တောင်ပေါ်သို့ ယူဆောင်၍ဤ
၆ လောက၌ရှိသမျှသော တိုင်းနိုင်ငံတို့ကိုတခဏချင်း ပြသွန်၍ ဤဘုန်း
တန်ခိုးအာနုဘော်အားလုံးကိုငါပိုင်သည်။ ငါစိတ်ရှိတိုင်းပေးလိုသော
၇ သူအားငါပေး၏။ အားလုံးကိုကိုယ်တော်အားပေးပါမည်။ ငါ့ကိုကိုး
ကွယ်လျှင်အားလုံးတို့သည်ကိုယ်တော်ဥစ္စာ ဖြစ်လိမ့်မည်ဟုလျှောက်
၈ လေ၏။ ယေရှုကလည်းသင်၏ ဘုရားသခင် ထာဝရ ဘုရား ကိုကိုး
ကွယ်ရမည်။ ထို ဘုရားသခင် ကိုသာ ဝတ်ပြုရမည် ဟု ကျမ်း စာ လာ

၉ သည်ဟုပြန်ပြောတော်မူ၏။ ။ထိုအခါမာရ်နတ်သည်ကိုယ်
၁၀ တော်ကိုယေရုရှလင်မြို့သို့ယူဆောင်၍ဗိတ်မှာန်တော်၏ အထွတ်၌တင်
၁၁ ထားပြီးလျှင်။ကျမ်းစာလာသည်ကား။သင်ကိုစောင့်ရှောက်စေခြင်းငှါ
ကောင်းကင်တမန် တို့အားသင်အတွက် မှာထား တော် မူသည်ဖြစ်၍
သင်၏ခြေ နှင့်ကျောက်ကို မျှမထိမခိုက်ရ အောင်သူ တို့သည် သင်ကို
လက်နှင့် မစချီပင့်ကြလိမ့် မည်ဟုလာ၏ ထိုကြောင့်ကိုယ်တော်သည်
ဘုရားသခင်၏သား တော်မှန် လျှင် ဤအထွတ် မှအောက်သို့ကိုယ်ကို
၁၂ ကိုယ်ချလိုက်တော်မူပါဟုလျှောက်လေ၏ ယေရှုကလည်း သင်၏ဘု
ရားသခင်ထာဝရဘုရားကိုသင်သည်အစုံအစမ်မပြုရဟုကျမ်းစကား
၁၃ ရှိသည် ဟုပြန် ပြော တော်မူ၏။ ထိုသို့ မာရ် နတ် သည်စုံ စမ်းသွေး
ဆောင်ခြင်းအမှုအားလုံးကိုကုန်စင်အောင်ပြုပြီးလျှင် အထံတော်မှခ
ဏထွက် သွားလေ၏။



၁၄ ယေရှုသည်ဝိညာဉ် တော် တန်ခိုး နှင့်ဂါလိလဲပြည် သို့ပြန်၍ သိတင်း
တော်သည်ပတ်ဝန်းကျင်အရပ်တို့၌အနှံ့အပြားကျော်စောလေ၏။ တ
၁၅ ရားဇရပ်တို့၌ဆုံးမဩဝါဒပေးတော်မူ၍ လူအပေါင်း တို့သည် ကိုယ်
၁၆ တော်ကိုချီးမွမ်းကြ၏။ ယေရှုသည်ကြီးပွားတော်မူရာနာဇရက်မြို့သို့
ရောက်ပြန်လျှင်ထုံးစံတော် ရှိသည့် အတိုင်း ဥပုသ်နေ့၌ တရားဇရပ်
၁၇ သို့ဝင်၍ကျမ်းစာကိုဖတ်ရွတ်အောင်ထတော်မူ၏။ ဇရပ်စောင့်သည်
ပရောဖက်ဟေရှာယ၏ ကျမ်းစာကိုပေးသည်ဖြစ်၍ ကျမ်းစာကိုဖွင့်
၁၈ တော်မူလျှင်တွေ့သော အချက် စကားဟူမူကား။ ထာဝရဘုရား၏ဝိ
ညာဉ်တော်သည်ငါ့အပေါ်၌တည် တော်မူ၏ အကြောင်းမူကား။ဆင်း
ရဲသားတို့အားဝမ်းမြောက်စရာ သိတင်းကိုကြားပြောစေ ခြင်းငှါငါ့
ကိုဘိသိတ် ပေးတော်မူ ပြီး။ဖမ်းသွား ချုပ်ထားလျက်ရှိ သော သူတို့
အားလွှတ်ခြင်းအကြောင်း။မျက်စိကန်းသောသူတို့အားမျက်စိမြင်ပြန်
ခြင်းအကြောင်းကိုပြစေခြင်းငှါ၎င်ညှဉ်းဆဲခံသောသူတို့ကိုကယ်မ
၁၉ စေခြင်းငှါ၎င်ထာဝရဘုရား၏မင်္ဂလာ နှစ်ကိုကြား ပြောစေ ခြင်းငှါ
၂၀ ၎င်ငါ့ကိုစေလွှတ်တော်မူပြီးဟုလာသတည်း ကျမ်း စာကိုလိပ်၍ဇရပ်
စောင့်အား ပေးပြီးမှထိုင်တော်မူ၏။ဇရပ်၌ ရှိသောသူ အားလုံး တို့
၂၁ သည်ကိုယ်တော်ကိုစေ့စေ့ကြည့်လျက်နေကြ၏။ ။ယေရှုက
လည်းယနေ့ပင်ဤကျမ်းစာချက်သည် သင်တို့ကြားသည့် အတိုင်းပြည့်

၂၂ ရုံလေပြီးဟုမိန့်တော်မူ၏။ ထိုသူအားလုံးတို့သည် ကိုယ်တော်ကိုဝန်
ခံ၍တင့်တယ်လျောက် ပတ်သောနှုတ်ထွက်စကားကိုအံ့ ဩချီးမွမ်
လျက်၍သူသည်ယောသပ်၏သားမဟုတ်ဝဲလောဟု ဆိုကြ၏။သော့ရှ
၂၃ ကလည်းအကယ်၍သင် တို့သည် ပုံပမာကိုဆောင် လျက် အချင်းဆေး
သမား၊ကိုယ် အနာကိုကိုယ် ညှိမ်းစေတော့။ငါ တို့သည် သိတင်းကြား
သည် အတိုင်းသင်သည် ကပေရနောင်မြို့၌ ပြုသမျှသော အမှုအရာတို့
ကိုကိုယ် နေရင်း မြို့၌ လည်းပြုပါဟူ၍ ငါအားပြောကြ လိမ့်မည်။သို့
၂၄ သော်လည်းငါအမှန် ဆိုသည်ကား။ အဘယ်ပရောဖက်မျှ မိမိနေရင်း
၂၅ မြို့၌မျက်နှာမရတတ်။ ငါအမှန်ဆိုပြန်သည် ကားပရော ဖက်ဧလိယ
လက်ထက်သုံး နှစ်နှင့် ခြောက်လပတ်လုံး မိုဃ်း ခေါင် ၍ပြည် နိုင်ငံတ
လျှောက်လုံးအစာ အဟာရ အလွန်ခေါင်းပါး ခြင်းရှိသော အခါဣသ
၂၆ ရေလအမျိုးဖြစ်သောမုတ်ဆိုး မ အများရှိကြ၏။ သို့သော်လည်းထိုမိ
မ္မတယောက်ဆီသို့မျှဧလိယကိုစေလွှတ်တော်မမူ။ဖိဒုန်ပြည် ဇရတ္တမြို့
၂၇ သားဖြစ်သောမုတ်ဆိုးမတယောက်ဆီသို့စေ လွှတ်တော်မူ၏။ ပရော
ဖက်ဧလိရှဲလက် ထက်လည်း ဣသရေလအမျိုးထဲ၌ နူနာစွဲ သောသူအ
များရှိကြ၏။သို့ သော်လည်း နေမန်အမည် ရှိသော ရှုရိလူမှ တပါးအ
၂၈ ဘယ်သူမျှသန့်ရှင်းခြင်းသို့မရောက်ဟုမိန့်တော်မူ၏။ တရားဇရပ်
၌ရှိသောသူအားလုံးတို့သည်ထိုစကားတော် ကိုကြား လျှင်ပြင်းစွာ
၂၉ အမျက်ထွက်သည်နှင့်ထ၍ကိုယ်တော်ကိုမြို့ပြင်သို့နှင်ထုတ်ပြီးသော်
ထိုမြို့တည်ရာ တောင်ထိပ် စွန်းငူမှစောက်ထိုးတွန်းချခြင်းငှါဆောင်
၃၀ သွားကြ၏။ ကိုယ်တော်သည်သူတို့အလယ်၌ရှောက်၍ကြွသွားတော်
၃၁ မူ၏။ ။ဂါလိလဲပြည်ကပေရနောင်မြို့သို့ရောက်လျှင်ဥပုသ်နေ့
၃၂ ၌ဆုမ္မသြဝါဒပေးတော်မူ၏။ အာဏာနှင့်ဟောတော်မူသော့ကြောင့်ပ
၃၃ ရိသတ်တို့သည် ဒေသနာတော်ကို အလွန်အံ့သြ ကြ၏။ ထိုတရား
၃၄ ဇရပ်၌ညစ်ညူး သော နတ်ဆိုးစွဲ သောသူတယောက်ရှိ၍ ဩော်နာဇ
ရက်သား ယေရှု။ကိုယ်တော် သည်အကျွန်ုပ်တို့နှင့်အဘယ်သို့ဆိုင်သ
နည်း။အကျွန်ုပ်တို့ကိုဖျက်ဆီးခြင်းငှါလာသလော။ကိုယ်တော်သည်အ
ဘယ်သူဖြစ်မှန်းကိုအကျွန်ုပ်သိပါ၏။ဘုရားသခင်၏ သန့်ရှင်းတော်
၃၅ မူသောသူဖြစ်ပါ၏ဟုကြီးသောအသံနှင့် ဟစ်ကျော်လေ၏။ ယေရှု
ကလည်းတိတ်ဆိတ်စွာနေတော့။သူ၏အထဲကထွက်သွားတော့ဟုဆုမ္မ
တော်မူလျှင်နတ်ဆိုးသည်ထိုလူကိုအလယ်၌လှည်း၍ဘေးဥပါတ်မပြု

၃၆ ဘဲထွက်သွား၏။ လူအပေါင်း တို့သည် မိန်း မောတွေဝေ၍ ဤစကား
သည် အဘယ်သို့သောစကားနည်း။ညစ်ညူးသောနတ်တို့ကိုအာ ဏာ
တန်ခိုးနှင့်မှာထား၍သူတို့သည်ထွက်သွားကြသည်တကားဟုအချင်း
၃၇ ချင်းဆွေးနွေး ပြောဆိုကြ၏။ သိတင်း တော်သည် လည်း ပတ်ဝန်း
ကျင်အရပ်တို့၌နှံ့ပြားကျော်စောလေ၏။

**

၃၈ တ ရားဇ ရပ်မှထွက် ပြီးလျှင် ရှိမုန်အိမ် သို့ကြွတော် မူ၏။ရှိမုန်၏
ယောက္ခမသည်ပြင်းစွာသော ဖျားနာစွဲသည် ဖြစ်၍သူအတွက်ကိုယ်
၃၉ တော်ကိုတောင်းလျှောက်ကြ၏။ ကိုယ်တော်သည် သူ၏အနားမှာရ
ပ်နေ၍ဖျားနာကိုဆုံမတော်မူလျှင်အဖျားပျောက်၍ ထိုမိမ္မသည်ချက်
၄၀ ချင်းထသဖြင့်ညှော့သည်ဝတ်ကိုပြုလေ၏။ ။နေဝင်သောအ
ခါအကြွင်သူတို့သည်အမျိုးမျိုး သောအနာရောဂါ စွဲသောသူရှိ၏။ထို
သူအားလုံးတို့သည်ထို လူနာတို့ကိုအထံတော်သို့ဆောင်ခဲ့၍အသီးအ
သီးသူတို့အပေါ်၌ လက် တော်ကိုတင်သဖြင့်အနာ ရောဂါကိုညှိမ်းစေ
၄၁ တော်မူ၏။ နတ်ဆိုးတို့ လည်းကိုယ် တော် သည်ဘုရားသခင်၏သား
တော်ဖြစ်တော်မူ၏ ဟုဟစ် ကျော် လျက်လူများမှထွက် သွားကြ၏။
ကိုယ်တော်သည် ခရစ်တော် ဖြစ်မှန်းကိုသူ တို့သိကြသော့ကြောင့်စ
ကားတခွန်းကိုမျှမပြောမည်အကြောင်းမြစ်တားတော်မူ၏။
၄၂ ။နံနက် အချိန် ရောက် လျှင် တောအရပ်သို့ထွက်ကြွ တော်မူ၍လူ
များတို့သည်ကိုယ်တော်ကိုလိုက်ရှာကြ၏။အထံတော်သို့ရောက်လျှင်
မိမိ တို့ ဆီမှထွက်ကြွ တော် မမူမည် အကြောင်း ကြပ် ကြပ် တောင်း
၄၃ လျှောက်ကြ၏။ ကိုယ်တော်ကလည်းအချား သောမြို့ရွာတို့၌ ဘုရား
သခင်နိုင်ငံတော်နှင့်ဆိုင်သော ဧဝံဂေလိတရား ကိုငါဟောပြောရမည်။
၄၄ ထိုသို့အလို့ငှါငါကိုစေလွှတ်လျက် ရှိသည်ဟုမိန့်တော်မူ၍ဂါလိလဲပြည်
မှာတရားဇရပ်တို့၌တရားဟောပြောလျက်နေတော်မူ၏။ ။
၁ တရံရောအခါဂနေ်သရက်အိုင်နားမှာရပ်တော်မူ၍လူများတို့သည်ဘု
ရားသခင်၏နှုတ်ကပတ်တရား ကိုနားရ အောင်ကိုယ် တော်အနီးသို့
တိုးဝင်ကြစဉ်ကမ်းနားမှာဆိုက် သောလှေနှစ်စင်း ကိုမြင်တော်မူ၏။
၂ တံငါတို့သည် လှေထဲကထွက်၍ ပိုက်ကွန် တို့ကိုဆေး ကြော်လျက် နေကြ
၃ ၏။ ထိုလှေတို့တွင်ရှိမုန်၏ လှေထဲသို့ဝင် တော်မူပြီး လျှင်လှေကိုကမ်း

ခွာ:မှအနည်းငယ်ခွာဖွင့်စေခြင်း ဌါရှိမုန်ကိုတောင်းတော်မူ၏။ ထို
လှေပေါ်မှာထိုင်လျက်လူများတို့ကိုဆုံးမြွတ်ဩဝါဒပေးတော်မူ၏။
၄ ။တရား ဟော၍ပြီး တော်မူသောအခါ ရေနက်ရာအရပ်သို့ရွှေ့ဦး
တော့။ပိုက်ကွန်ကိုချ၍ငါး ကိုအုပ်စမ်းတော့ ဟုရှိမုန်အားမိန့်တော်မူ
၅ ၏။ ရှိမုန် ကလည်း သခင်။ အကျွန်ုပ်တို့သည် တညည့်လုံး ကျိုးစား
သည်ဖြစ်၍တကောင်ကိုမျှမရပါ။ သို့သော်လည်းအမိန့် တော်ရှိ လျှင်
၆ ပိုက်ကွန်ကိုချပါမည်ဟုလျှောက်လေ၏။ ထိုသို့ပြုကြပြီးလျှင်အလွန်
များစွာသောငါးတို့ကိုအုပ်မိကြသဖြင့်ပိုက်ကွန်သည်ဆုတ်ဖျက်စရှိ
၇ ၏။ အချားသောလှေတစင်း၌ရှိသောအပေါင်းအဖော်တို့သည်အကူ
လာရအောင်သူတို့ကိုအမှတ်ပေးသဖြင့်သူတို့သည်လာ၍လှေနှစ်စင်း
၈ နစ်လုမတတ်ငါးနှင့်ပြည့်စေကြ၏။ ရှိမုန်ပေတရုမြင်လျှင်ယေရှု၏ပု
ဆစ်တော်ကိုဦးတိုက်၍သခင်။အကျွန်ုပ်သည်အပြစ်များသောသူဖြစ်
၉ ပါ၏။အကျွန်ုပ်ဆီမှကြွသွား တော်မူပါဟု လျှောက်လေ၏။ အဘယ်
ကြောင့်ဤသို့လျှောက် သနည်း ဟူမူ ကား။ အုပ် မိသောငါး များ ကို
ထောက်သဖြင့်ရှိမုန်နှင့်သူ၏ အပေါင်းအဖော်။ဇေဗေဒဲ၏ သားယာ
ကုပ်။ယောဟန်တို့မှစ၍ရှိမုန်၌ပါသမျှသောသူတို့သည်မိန်းမောတွေ
၁၀ ဝေခြင်းရှိကြ၏။ ယေရှုကလည်း ကြောက်ရွံ့ခြင်း မရှိနှင့်။သင်သည်
၁၁ ယခုမှစ၍လူတို့ကိုဖမ်းမိသောသူဖြစ်လိမ့်မည်ဟုမိန့်တော်မူ၏။ ကမ်
ခွာ:မှာလှေကိုဆိုက်ပြီး လျှင် ထိုသူတို့ သည် အား လုံးကိုစွန့် ပြစ်၍
၁၂ နောက်တော်သို့လိုက်ကြ၏။ ။ကိုယ်တော်သည်မြို့တမြို့၌ရှိ
တော်မူစဉ်တကိုယ်လုံးနူနာစွဲသော သူတယောက် သည်ကိုယ်တော်
ကိုမြင်လျှင်ပျပ်ဝပ်၍ သခင်။အလိုတော်ရှိလျှင်ကျွန်တော်ကိုသန့်ရှင်း
၁၃ စေနိုင်တော်မူ၏ ဟုတောင်းလျှောက်လေ၏။ ယေရှုကလည်းငါအလို
ရှိ၏။သန့်ရှင်း ခြင်း သို့ရောက် စေဟု မိန့် တော်မူ လျက်လက် တော်ကို
ဆန့်၍ ထိုသူကိုတို့ တော်မူ၏။ ထိုခဏချင်း တွင်နူနာပျောက် လေ၏။
၁၄ ယေရှုကလည်း ဤအကြောင်းကိုအဘယ်သူအားမပြောနှင့်။ယဇ်ပုရော
ဟိတ်ဆီ သို့သွား၍ ကိုယ်ကို ကိုယ်ပြတော့။ သူတပါး၌သက်သေဖြစ်
စေခြင်းဌါသန့်ရှင်းခြင်းသို့ရောက်သည်အတွက်မောရှေစီရင်မှာထား
၁၅ သောပူဇော် သကာကိုပြုတော့ ဟုမိန့်တော်မူ၏။ သို့သော်လည်း သိ
တင်းတော်သာ၍ကျော်စောသဖြင့်များစွာသောလူအပေါင်းတို့သည်

တရားနာ၍ အောင်ငှာအနာရောဂါညှိမ်းစေခြင်းကျေးဇူးတော်ကိုခံ၍
၁၆ အောင်ငှာစုဝေးလျက်ရှိကြ၏။ ကိုယ်တော်သည်တောအရပ်သို့ကြွ၍
ဆုတောင်းလေ့ရှိတော်မူ၏။

**

၁၇ တနေ့သ၌ ကိုယ်တော်သည်ဆုမ္ပဩဝါဒပေးတော်မူစဉ်ယေရုရှလင်
မြို့မှစသော ယုဒပြည်။ ဂါလိလဲပြည်မြို့ရွာများ တို့ကရောက် လာသော
ဖာရိရှဲလူ။ နိသိရည်း ဆရာ တို့သည် ထိုင်နေလျက် ရှိကြ၍ အနာရော
ဂါကိုညှိမ်းစေခြင်း ငှါထာဝရဘုရား၏တန်ခိုးတော်သည်ထင်ရှား ရှိ
၁၈ တော်မူ၏။ ထိုအခါလက်ခြေသေသော သူတယောက်ကိုအိပ်ရာနှင့်တ
ကွအထံတော်သို့ဆောင်ခဲ့၍ ရှေ့တော်၌သွင်းထားခြင်းငှါရှာကြံကြ၏။
၁၉ လူစုဝေးလျက်ရှိသော့ကြောင့်ဝင်စရာလမ်းကိုမတွေ့သဖြင့် အိမ်မိုးအ
ပေါ်သို့တက်၍အုပ်မိုးကိုဖောက်ပြီးမှလူနာကိုအိပ်ရာနှင့်တကွလူများ
၂၀ အလယ်။ ယေရှု၏ ရှေ့တော်၌ လျှော့ချကြ၏။ ကိုယ်တော်သည်ထိုသူ
တို့၏ ယုံကြည်ခြင်းကိုမြင်လျှင်လူနာအား။ အချင်းလူ။ သင်၏ အပြစ်လွှတ်
၂၁ ခဲ့ပြီး ဟုမိန့်တော်မူ၏။ ကျမ်းပြုဆရာ။ ဖာရိရှဲလူတို့ကဘုရားကိုပြစ်
မှားသော စကားကိုပြောသော ဤသူသည်အဘယ်သူနည်း။ဘုရားသ
ခင်မှတပါးအဘယ်သူသည်အပြစ်ကိုလွှတ်နိုင်သနည်းဟုအကြံရှိကြ
၂၂ ၏။ ယေရှုသည် ထိုသူတို့၏ အကြံအစည် ကိုသိတော်မူလျှင် သင်တို့
၂၃ စိတ်ထဲမှာ အဘယ် ကြောင့် ကြံစည် ကြသနည်း။ ဘယ်သင်း သာ၍
ပြောလွယ်သနည်း။ သင်၏ အပြစ် လွှတ်ခဲ့ပြီး ဟုပြောလွယ်သလော။
၂၄ သင်ထ၍လှမ်းသွားတော့ဟုပြောလွယ်သလော။လူသားသည်မြေကြီး
ပေါ်မှာ အပြစ် လွှတ်ပိုင်သည်ကိုသင်တို့ သိစေခြင်းငှါ။ထတော့။ ကိုယ်
အိပ်ရာကို ဆောင်၍ ကိုယ်အိမ်သို့သွားတော့။ သင်အားငါဆိုသည်ဟု
၂၅ လက်ခြေ သေသော သူအား မိန့်တော် မူ၏။ ထိုသူ လည်း လူများရှေ့
မှောက်ချက်ချင်းထ၍ အိပ်ရာကိုဆောင်လျက်ဘုရားသခင်ဂုဏ်တော်
၂၆ ကိုချီးမွမ်းလျက် မိမိအိမ်သို့သွား လေ၏။ ထိုသူအပေါင်းတို့သည်မိန်း
မောတွေဝေ၍ကြောက်ရွံ့အားကြီးသည်နှင့်ငါတို့သည်အံ့ဖွယ်သောအ
ရာကိုယနေ့မြင်ခဲ့ပြီး ဟုပြောဆို၍ ဘုရားသခင်ဂုဏ်တော်ကိုချီးမွမ်း
၂၇ ကြ၏။ ။ထိုနောက်ကိုယ်တော်သည်ထွက်ကြွ၍လေဝိအမည်
ရှိသောအခွန်ခံသူသည် အခွန်ခံရာထဲ၌ ထိုင်နေသည်ကိုမြင်လျှင်ငါ
၂၈ နောက်သို့လိုက်လော့ဟုသူ့ကိုမိန့်တော်မူ၏။ သူသည်လည်းအားလုံး

၂၉ ကိုစွန့်ပြစ်သဖြင့်ထ၍နောက်တော်သို့လိုက်လေ၏။ ထိုနောက်မှာ
လေဝိသည်ကိုယ်တော်အဖို့အလို့ငှါမိမိအိမ်၌ပွဲကြီးလုပ်၍အခွန်ခံသူ
အများ။ အချားသောသူများအပေါင်းတို့သည် ကိုယ်တော်။ တပည့်
၃၀ တော်တို့နှင့်တကွစားပွဲ၌ထိုင်နေကြ၏။ ကျမ်းပြုဆရာ။ဖာရိရှဲလူတို့
ကသင်တို့သည် အခွန်ခံသူ။ ဆိုးသူတို့နှင့် အတူအဘယ်ကြောင့် စား
သောက်ရကြသနည်းဟုတပည့်တော်တို့ကိုကဲ့ရဲ့အပြစ်တင်ကြ၏၊
၃၁ ယေရှုကလည်း ကျန်းမာသောသူတို့သည်ဆေးသမားကိုအလိုမရှိ နာသော
၃၂ သူတို့သာလျှင်ဆေးသမားကိုအလိုရှိ၏။ ဖြောင့်တတရားလမ်းထဲသို့
ဖြောင့်မတ်သောသူတို့ကိုခေါ်သွင်းရအောင်ငါလာသည်မဟုတ်။ ဆိုး
သောသူတို့ကိုခေါ်သွင်းရအောင်ငါလာသတည်းဟုမိန့်တော်မူ၏။
၃၃ ။လူအချို့တို့က ယောဟန်၏ တပည့်တို့နှင့်ဖာရိရှဲလူတို့သည်
အစားရှောင်ခြင်း။ ဆုတောင်းခြင်းတို့ကိုအဖန်တလဲလဲပြုကြသည်ဖြစ်
၍အဘယ်ကြောင့်ကိုယ်တော်၏တပည့်တို့သည်စားသောက်လျက်နေ
၃၄ သနည်းဟုလျှောက်ကြ၏။ ကိုယ်တော်ကလည်း မင်္ဂလာဆောင်လု
လင်သည်မိမိအပေါင်းအဖော်တို့နှင့်အတူရှိစဉ်တွင်သူတို့ကိုအစား
၃၅ ရှောင်စေနိုင်သလော။ မင်္ဂလာဆောင်လုလင်ကိုသူ၏အပေါင်းအဖော်
တို့နှင့်ခွာ၍ယူသွားသောအချိန်ကာလရောက်လိမ့်မည်။ ထိုကာလအ
၃၆ ခါသူတို့သည်အစားရှောင်ကြလိမ့်မည်။ ဥပမာကား။ အဝတ်ဟောင်း
ကိုအထည်သစ်နှင့်ဖာလေ့မရှိ။ ထိုသို့ဖာလျှင်အထည်သစ်သည်ဆွဲ
ဆုတ်တတ်၏။ ဖာသောအထည်သစ်သည်လည်းအဝတ်ဟောင်းနှင့်မ
၃၇ သင့်မတင့်တတ်။ ဇင်နည်း။ ဟောင်းသောသားရေဘူး၌အသစ်သော
စပျစ်ရည်ကိုထည့်လေ့မရှိ။ ထိုသို့ထည့်လျှင်အသစ်သောစပျစ်ရည်
သည်သားရေဘူးကိုဆုတ်ခွဲသဖြင့်စပျစ်ရည်လည်းဂိုး၍သားရေဘူး
၃၈ လည်းပျက်စီးတတ်၏။ အသစ်သောစပျစ်ရည်ကိုအသစ်သောသား
၃၉ ရေဘူး၌ထည့်ရသည်။ ထိုသို့နှစ်ပါးစလုံးမပျက်စီးဘဲနေ၏။ ဟောင်း
သောစပျစ်ရည်ကိုသောက်ပြီးသောသူသည်အသစ်သောစပျစ်ရည်
ကိုချက်ချင်းအလိုမရှိတတ်။ ဟောင်းသောစပျစ်ရည်သာ၍ကောင်း
သည်ကိုသိ၏ဟုမိန့်တော်မူ၏။

**

၁ ဒုတိယပဌမဥပုသ်နေ့၌ကိုယ်တော်သည်ဂျုံစပါးလယ်ကွက်နား
မှာကြွတော်မူစဉ်တပည့်တော်တို့သည်စပါးအသီးအနှံကိုဆွတ်၍လက်

၂ နှင့်ပွတ်ခုယ်သဖြင့်စားကြ၏။ ဖာရိရှဲလူအချို့တို့ကဥပုသ်နေ့၌မပြု
အပ်သောအမှုကိုအဘယ်ကြောင့်သင်တို့သည်ပြုကြသနည်းဟုဆိုလေ
၃ သော် ယေရှုကဒါဝိဒ်သည်မိမိအဖော်တို့နှင့်တကွ မွတ်သိပ်သောအ
၄ ခါ ဘုရားသခင်၏အိမ်တော်သို့ဝင်၍ယဇ်ပရောဟိတ်တို့မှတပါးအ
ဘယ်သူမျှမစားအပ်သော ရှေ့တော်မုန့် ကိုယူစား၍ မိမိအဖော် တို့
၅ အားပေးသည်အကြောင်းကိုမျှသင် တို့သည် မဖတ်ဘူးသလော။ ထို
မှတပါး။လူသားသည်ဥပုသ် နေ့၏ အရှင်ဖြစ် သည်ဟုမိန့်တော်မူ၏။
၆ ။အချားသောဥပုသ်နေ့၌ ကိုယ်တော်သည်တရားဇရပ်သို့
ဝင်၍ဆုမ္မည်ဩဝါဒပေး တော်မူသည် တွင်ထိုဇရပ် ၌ လကျာလက် သေ
၇ သောသူတယောက်ရှိ၏။ ဥပုသ်နေ့၌သူ၏ရောဂါကိုညိမ်းစေမည်။
မညိမ်းစေမည်ကိုကျမ်ပြုဆရာ။ဖာရိ ရှဲလူတို့ သည်ကိုယ်တော်ကိုတ
၈ ရားတွေ့စရာအ ခွင့်ရအောင်ချောင်းကြည့်ကြ၏။ သူတို့အကြံအစည်
ကိုကိုယ်တော်သိလျှင် လက်သေသော သူအား ထတော့။ အလယ်၌ မတ်
တတ်နေတော့ဟုမိန့်တော်မူသည် ရှိသော်ထိုသူသည်ထ၍မတ်တတ်နေ
၉ ၏။ ယေရှုကလည်းဥပုသ်နေ့၌အဘယ် သို့ပြုအပ်သနည်း။ကျေးဇူးပြု
အပ်သလော။ သူအကျိုးကိုဖျက်ဆီးအပ်သလော။အသက်ကိုကယ်အပ်
သလော။သတ်အပ်သ လောဟုသင် တို့ကိုငါမေး လို၏ဟုပရိသတ်တို့
၁၀ အားမိန့်တော်မူလျှင် သူတို့အား လုံးကိုပတ်လည်ကြည့် ရှုလျက်သင်
လက်ကိုဆန့်တော့ဟုထိုလူအားမိန့်တော်မူ၍သူသည်လက်ကိုဆန့်လျှင်
၁၁ ထိုလက် သည် လက်တဖက် ကဲ့သို့ပကတိဖြစ် လေ၏။ ထိုလူများ တို့
သည်ဒေါသစိတ်နှင့်ရစ်မူး၍ ယေရှုအားအဘယ် သို့ပြုဖြစ် မည်နည်း
၁၂ ဟုအချင်းချင်း ဆွေးနွေးကြ၏။ ။ထိုနေ့ရက်ကာလ၌ကိုယ်တော်
သည်ဆုတောင်းပဌနာ ပြုရအောင် တောင်ပေါ်သို့ကြွ၍ ဘုရားသခင်
၁၃ အားပဌနာပြုရာဇရပ်၌တညဉ့်လုံးနေတော်မူ၏။ နံနက်အချိန်ရောက်
၁၄ လေသော်တပည့်တော်တို့ကိုခေါ်တော်မူ၍ပေတရုအမည်သစ်ကိုရသောရှိ
မုန်နှင့်သူညီအန္ဒြေ။ယာကုပ်နှင့်ယောဟန်။ဖိလိပ္ပုနှင့်ဗာသောလော
မဲ။မဿဲနှင့်သောမ။အာလဖဲ၏သား ယာကုပ်နှင့် ဇေလုတ်ဟု ခေါ်ဝေါ်
သောရှိမုန်။ယာကုပ်ညီယုဒနှင့်။ကိုယ်တော်ကိုအပ်နှံသောယုဒရှကာ
ရုတ်တည်းဟူသောတကျိပ်နှစ်ပါးတို့ကိုရွေးချယ်၍တမန်တော်အမည်
၁၅ ဖြင့်သမုတ်တော်မူ၏။ ။ထိုသူတို့ နှင့်တကွကိုယ်တော်သည်
တောင်ပေါ်ကဆင်းကြွ၍ မြေညီရာအရပ်၌ရပ်တော်မူ၏။တရားနာရ

အောင် ၎င် အနာရောဂါညိမ်း ရအောင်၎င် ယေရုရှလင်မြို့ မှစ ၍ ယုဒ
ပြည်။ပင်လယ်ကမ်းနား။ တုရုမြို့။ဇိဒုန်မြို့။ အရပ်ရပ်တို့ကလာကြသော
၁၇ လူများအပေါင်း။ တပည့်တော်အပေါင်း တို့သည် ရှိကြ၏။ ညစ်ညူး
သောနတ်ညှဉ်း ဆဲသော သူ တို့သည်လည်း လာ ၍ ချမ်းသာ ရကြ၏၊
၁၈ ကိုယ်တော်ထဲကတန်ခိုးထွက်၍လူအား လုံးတို့ကိုသက်သာစေတော်မူ
သည်ဖြစ်၍ပရိသတ်အပေါင်း တို့သည်ကိုယ် တော်ကိုတို့ရအောင်ရှာ
၂၀ ကြံကြ၏။ ။ထိုအခါကိုယ် တော်သည်မျှော်၍တပည့်တော်
တို့ကိုကြည့်ရှုတော်မူလျှင်ဆင်းရဲသော သင်တို့သည်မင်္ဂလာ ရှိ၏။ အ
ဘယ်ကြောင့်နည်းဟူမူကား။ဘုရားသခင်၏နိုင်ငံတော်သည်သင်တို့
၂၁ ၏နိုင်ငံဖြစ်၏။ ယခုတွင်ငတ်မွတ်သောသင်တို့သည်မင်္ဂလာရှိ၏။အ
ဘယ်ကြောင့်နည်းဟူမူကား။သင်တို့သည်ဝပြောခြင်းသို့ရောက်လတံ့။
ယခုတွင်ငိုကြွေးသောသင်တို့သည်မင်္ဂလာရှိ၏။အဘယ်ကြောင့်နည်း
ဟူမူကား။သင်တို့သည် ရယ် လတံ့။သူတပါးတို့သည် လူသား ကြောင့်
၂၂ သင်တို့ကိုမုန်း သော အခါ။ ပယ်ရှား နှင်ထုတ်၍ ကဲ့ရဲ့ခြင်း။ အသရေ
၂၃ ရှုတ် ချခြင်း ပြုသောအခါ သင်တို့သည် မင်္ဂလာ ရှိ၏။ ထိုကာလ၌ဝမ်း
မြောက်ခြင်းရှိကြလော့။ရွှင်မြူး သောစိတ်နှင့်ခုန်ကြလော့။အကြောင်းမူ
ကား။ကောင်းကင်ဘုံ၌သင်တို့၏ အကျိုး သည် ကြီး လှပေ၏။သူတို့အ
၂၄ ဘများသည်ပရောဖက် ဆရာ တို့ကိုထိုသို့ပင် ပြုကြပြီး။ ။တ
ဖန်ကား။သင်တို့တွင်ငွေရတတ်သောသူတို့သည် အမင်္ဂလာရှိ၏။အ
၂၅ ဘယ်ကြောင့်နည်းဟူမူကား။ သင်တို့သည် မိမိသက်သာခြင်းကိုယ
ခုခံကြ၏။သင်တို့တွင်ဝအောင်စားရသော သူတို့သည်အမင်္ဂလာရှိ၏။
အဘယ်ကြောင့်နည်းဟူမူကား။သင်တို့သည်ငတ်မွတ်ခြင်း သို့ရောက်
လတံ့။သင်တို့တွင်ယခုရယ် တတ်သော သူတို့သည် အမင်္ဂလာ ရှိ၏။ အ
ဘယ်ကြောင့်နည်းဟူမူကား။သင်တို့သည် ညည်းတွားငိုကြွေးရလတံ့။
၂၆ လူတို့သည် သင်တို့ကိုချီး မွမ်း သောအခါ သင် တို့သည် အမင်္ဂလာ ရှိ၏။
အဘယ် ကြောင့် နည်း ဟူမူ ကား။ သူတို့အဘများ သည်ပရော ဖက်အ
ယောင်ဆောင်သော သူတို့ကိုထိုသို့ပင်ပြုကြပြီး။

**

၂၇ ငါ့စကား ကိုကြားရသောသင်တို့အား ငါဆိုသည်ကား။ သင်တို့၏ရန်
သူတို့ကိုချစ်ကြလော့။ သင်တို့ကိုမုန်းသောသူတို့အား ကျေးဇူး ပြုကြ
၂၈ လော့။ သင်တို့ကိုကျိန်ဆဲသော သူတို့အား မေတ္တာပို့ကြလော့။ သင်တို့

ကိုနှောင့်ရှက်သောသူတို့အဖို့ဘုရားသခင်ကိုဆုတောင်းကြလော့။
၂၉ သင်၏ပါးတဖက်ကိုပုတ်သောသူအါးပါးတဖက်ကိုပေးဦးလော့။ သင်
ဝတ်လုံကိုသိမ်းယူသောသူအားသင်အင်္ကျီကိုလည်းယူရသောအခွင့်
၃၀ ပေးဦးလော့။ အကြင်သူသည်သင်ကိုတောင်း၏။ထိုသူအါးပေးလော့။
၃၁ သင်ဉစ္စာကိုသိမ်းယူသောသူအားပြန်၍မတောင်းနှင့်။ သင်တို့သည်
၃၂ ကိုယ်၌သူတပါးပြုစေလိုသည်အတိုင်းသူတပါး၌ပြုကြလော့။ သင်
တို့ကိုချစ်သောသူတို့အားသာချစ်တို့ပြုလျှင်အဘယ်ကျေးဇူးတင်သ
နည်း။ဆိုးသောသူတို့သည်ကိုယ်ကိုချစ်သောသူတို့အားချစ်တို့ပြုကြ
၃၃ သည်မဟုတ်လော။ သင်တို့ကိုကျေးဇူးပြုသောသူတို့အားသာကျေး
ဇူးပြုလျှင်အဘယ်ကျေးဇူးတင်သနည်း။ ဆိုးသောသူတို့သည်ဤမျှ
၃၄ လောက်ပြုကြသည်မဟုတ်လော။ ဆပ်ပေးမည်ဟုသင်တို့သည်မျှော်
လင့်လျက်နှင့်သာသူတပါးအားဉစ္စာချေးငှါးလျှင်အဘယ်ကျေးဇူး
တင်သနည်း။ ဆိုးသောသူတို့သည်ကျေးဇူးဆပ်ခြင်းခံရအောင်ဆိုး
၃၅ သောသူချင်းတို့အားချေးငှါးတတ်သည်မဟုတ်လော။ သင်တို့မူကား
ရန်သူတို့ကိုချစ်ကြလော့။ ကျေးဇူးပြုကြလော့၊တစုံတခုကိုရမည်ဟုမ
မျှော်လင့်ဘဲချေးငှါးကြလော့။ ထိုသို့ပြုလျှင်သင်တို့အကျိုးကြီးလိမ့်
၃၆ မည်။အမြတ်ဆုံးသော်ဘုရားသခင်၏သားဖြစ်ကြလိမ့်မည်။ ဘုရားသ
ခင်သည်ကျေးဇူးမသိသောသူဆိုးညစ်သောသဘောရှိသောသူတို့အါး
ကျေးဇူးပြုတော်မူ၏။ထိုကြောင့်သင်တို့အဖသည်သနားခြင်းစိတ်ရှိ
တော်မူသကဲ့သို့သင်တို့သည်လည်းသနားခြင်းစိတ်ရှိကြလော့။
၃၇ ။သူတပါးအမှု၌စစ်ကြောဆုံးဖြတ်ခြင်းကိုမပြုကြနှင့်။သို့ဖြစ်၍
သင်တို့သည်စစ်ကြောဆုံးဖြတ်ခြင်းနှင့်ကင်းလွတ်လိမ့်မည်။ သူတ
ပါးကိုအပြစ်မစီရင်ကြနှင့်။သို့ဖြစ်၍သင်တို့သည်အပြစ်စီရင်ခြင်းနှင့်
ကင်းလွတ်လိမ့်မည်။သူအပြစ်ကိုလွှတ်ကြလော့။သို့ဖြစ်၍ကိုယ်အပြစ်
၃၈ လွတ်လိမ့်မည်။ သူတပါးအားပေးကြလော့။ သို့ဖြစ်၍သူတပါးသည်
သင်တို့အားပေးကြလိမ့်မည်။ အမှန်ချင်ရုံမျှမက သိပ်နှက်လျက်လှုပ်
လျက်လျှံလျက်ရှိသည်ကိုသင်တို့ရင်ခွင်၌ပေးကြလိမ့်မည်။အဘယ်
ကြောင့်နည်းဟူမူကား။အကြင်ချိန်။တင်း။ပမာဏနှင့်သင်တို့သည်သူ
၃၉ တပါးအားပေး၏။ထိုပမာဏအတိုင်းကိုယ်ခံရကြမည်။ ။ဥပ
မာကား။လူကန်းသည်လူကန်းအား လမ်းကိုပြနိုင်သလော။နှစ်ဦးစလုံး
၄၀ သည်တွင်းထဲသို့ကျလိမ့်မည်မဟုတ်လော။ တပည့်သည်ဆရာထက်

မသာ။အပြီးသင်ပြီးသောတပည့်တိုင်း မိမိဆရာကဲ့သို့ဖြစ်လိမ့်မည်။
၄၁ ကိုယ်မျက်စိ၌ ရှိသောတံကျင်ကိုမအောင်းမေ့ဘဲ ညီအစ်ကိုမျက်စိ၌ရှိ
၄၂ သောညောင့်ငယ်ကိုအဘယ်ကြောင့်ကြည့်ရှုသနည်း။ ကိုယ်မျက်စိ၌
ရှိသေါတံကျင်ကိုကိုယ် မမြင်မမှတ်ဘဲလျက်။ ညီအစ်ကို။သင်မျက်စိ၌
ရှိသောညောင့်ငယ်ကိုထုက်ပါရစေဟုညီ အစ်ကိုအားအဘယ်သို့ဆို
ရသနည်း။လျှို့ဝှက်သော သူ။ကိုယ်မျက်စိ၌ရှိသောတံကျင်ကိုရှေဦးစွာ
ထုတ်တော့။နောက်မှာ ညီအစ်ကိုမျက်စိ၌ရှိသောညောင့်ငယ်ကိုထုတ်
၄၃ ရအောင်ရှင်းလင်းစွာ မြင်လိမ့်မည်။ မကောင်းသောအသီးသီးသော
အပင်ကားကောင်းသောအပင်မဟုတ်။ ကောင်းသောအသီးသီးသော
၄၄ အပင်ကား မကောင်းသောအပင် မဟုတ်။ အသီး ကိုထောက်၍အပင်
သဘောကိုသိရ၏။ ဆူးပင် ၌ တည်းသီး ကိုမဆွတ်တတ်။တောခြုံ၌စ
၄၅ ပျစ်သီး ကိုမဆွတ် တတ်။ ကောင်း သောသူသည် ကောင်း သောမိမိ
စိတ်နှလုံး ဘဏ္ဍာတိုက်ထဲကကောင်း သောအရာကိုထုတ် ဖော်တတ်
၏။ မကောင်း သော သူသည် မကောင်း သော မိမိ စိတ်နှလုံး ဘဏ္ဍာ
တိုက်ထဲကမကောင်းသောအရာကိုထုတ်ဖေါ်တတ်၏။အဘယ်ကြောင့်
ခည်းပဲ့မူကား။စိတ်နှစ်လုံးအပြည့်ရှိသည်အတိုင်းနှုတ်မြွက်တတ်၏။
၄၆ ။ငါ့စကားကိုနား မထောင်ဘဲလျက်ငါ့ကိုသခင်။သခင်ဟု
၄၇ အဘယ်ကြောင့်ခေါ် ကြသနည်း။ ငါ့ဆီသို့လာ၍ ငါ့စကား ကိုကြား၍
နားထောင်သောသူသည်အဘယ်သူ နှင့်တူသနည်းဟူမူကား။ တိုက်
၄၈ ကိုတည် သော အခါနက်နက်တူး၍ ကျောက်ပေါ်မှာတိုက်မြစ် ချသော
သူ နှင့်တူ၏။မြစ်ရေထသဖြင့်ရေစီး၍ထိုတိုက်ကိုရိုက်ခတ်သောအခါ
ကျောက် ပေါ်မှာတိုက်မြစ်ကျတည့် လျက်ရှိသော့ ကြောင့်မလှုပ်နိုင်ရ။
၄၉ ငါ့စကားကိုကြား၍ နားမထောင်သော သူသည်ကား အခုအခံမရှိဘဲ
မြေပေါ်မှာတိုက် ကိုတည်သော သူ နှင့်တူ၏။ ရေစီး၍ ထိုတိုက် ကိုရိုက်
ခတ်သောအခါချက်ချင်းလဲ၍ တက်တက်ပြိုပျက်လေ၏ ဟုဟောတော်
မူ၏။

❋❋

၁ ထို ဒေသနာ တော်ကိုယေရှုသည် ပရိသတ်တို့ အား ကြနံစင် အောင်
၂ ဟောတော်မူပြီးလျှင်ကပေရနောင် မြို့သို့ကြွဝင်တော်မူ၏။ ထိုမြို့၌
တ်ပ်မှူး၏ ကျွန် တယောက်သည်သေလုအောင်နာလျက်ရှိ၏။သူ၏သ
၃ ခင်သည်သူကိုချစ်၍ ယေရှု၏သိတင်းတော်ကိုကြားလျှင်ယုဒလူ့ကြီးအ

ရာ ရှိတို့ကိုအထံတော်သို့စေလိုက်သဖြင့်ကိုယ်ကော်သည်ကြွ၍ထိုကျွန်
၄ ကိုချမ်းသာ ပေး တော်မူမည်အကြောင်းတောင်းပန်လေ၏။ ထိုသူတို့
သည်ယေရှုထံတော်သို့ရောက်လျှင်ကျေးဇူးတော်ကိုခံမည်သူသည်ခံ
၅ ထိုက် သော သူဖြစ် ပါ၏။ သူသည်အကျွန်ုပ် တို့အမျိုး ကို နှစ်သက်၍
အကျွန်ုပ်တို့အဖို့တရား ဇရပ်ကိုဆောက်ပါပြီးဟူ၍ကြပ်ကြပ်တောင်း
၆ လျှောက်ကြ၏။ ယေရှုသည်သူတို့နှင့်အတူကြွတော်မူ၏။တပ်မှူးအိမ်
နှင့်မနီး မဝေး ရှိတော်မူ သော အခါ တပ်မှူး သည်မိမိအ ဆွေတို့ကိုစေ
လိုက်၍ သခင်။ ကိုယ်ကိုကိုယ် ပင်ပန်း စေတော်မမူပါနှင့်။ ကျွန်တော်
အိမ်မိုးအောက်သို့ကြွဝင်တော်မူ သော ကျေးဇူးတော်ကိုကျွန်တော်မခံ
၇ ထိုက်ပါ။ ထိုအတူ။ ကျွန် တော် သည် ကိုယ်တော် ထံ သို့ရောက် ထိုက်
သော သူ မဟုတ် သည် ကိုကျွန်တော် ထင်ပါပြီး။ အမိန့် တော်တ ခွန်း ရှိ
၈ လျှင်ကျွန်တော်၏ငယ်သား သည်ချမ်း သာ ပါလိမ့်မည်။ ဥပမာကား။
ကျွန်တော်သည်မင်းအောက်၌ ကျွန်ခံသော သူဖြစ် သော်လည်းစစ်သူ
ရဲများကိုအုပ်စိုး၍တဦး ကိုသွား ချေဟုဆိုလျှင်သွား၏။တဦးကိုလာခဲ့
ဟုခေါ်လျှင်လာ၏။ကျွန်ကိုလည်း ဤအမှုကိုလုပ်တော့ဟုဆိုလျှင် လုပ်
၉ ၏ဟုတပ်မှူး လျှောက်လေ၏။ ထိုစကား ကိုယေရှု သည်ကြား တော်မူ
လျှင်အံ့ ဩခြင်း ရှိ ၍ နောက်တော် ၌ လိုက်သော လူများ ဆီသို့လှည့်
ကြည့်လျှက် ငါဆိုသည် ကား။ ဤမျှလောက် သော ယုံကြည် ခြင်း ကိုဣသ
၁၀ ရေလအမျိုး၌ပင်ငါမတွေ့သေးဟုမိန့်တော်မူ၏။ တပ်မှူးစေလိုက်
သော သူတို့သည်အိမ် သို့ပြန်ပြီး လျှင်အနာ ရောဂါစွဲ သော ကျွန်သည်
၁၁ ကျန်းမာလျှက် ရှိသည် ကိုတွေ့ကြ၏။ ။နက်ဖန်နေ့၌နဣမြို့
သို့ကြွ တော်မူ၍ တပည့်တော်အများနှင့်လူများအပေါင်းတို့သည်နောက်
၁၂ တော်သို့လိုက်ကြ၏။ မြို့တံခါးအနီး သို့ရောက်သောအခါမုတ်ဆိုးမ၌
တယောက်တည်း သောသား အသေ ကောင် ကိုသင်းပြိုဟ် မည် ထုတ်
၁၃ သွား၍မြို့ သူမြို့သားအများတို့သည်လိုက်ကြ၏။ သခင်ဘုရားသည်ထို
မိမ္မကို မြင်လျှင်သနားခြင်းစိတ်တော်ရှိ၍ မငိုနှင့်ဟုမိန့်တော်မူလျှက်
၁၄ အနီး သို့ ကြွ၍ တလား ကိုလက် နှင့် တို့တော် မူသဖြင့် ထမ်း သော သူတို့
သည်ရပ်နေကြ၏။ ကိုယ်တော်ကလည်း အချင်းလုလင်။ ထတော့ဟုသင်
၁၅ အား ငါအမိန့်ရှိသည် ဟုမိန့်တော်မူလျှင် သေသော သူသည်ထိုင်၍စ
ကားပြော၏။ကိုယ်တော်သည်လည်း ထိုသူကိုမိခင်အားအပ်ပေး တော်
၁၆ မူ၏။ လူအားလုံးတို့သည်ကြောက်ခြင်းသို့ရောက်၍ကြီးသော ပရော

ဖက်သည်ငါတို့တွင်ပေါ်ထွန်းပြီ။ ဘုရားသခင်သည်မိမိလူမျိုးကိုအ
ကြည့်အရှုကြွလာတော်မူပြီဟူ၍ဘုရားသခင်ဂုဏ်တော်ကိုချီးမွမ်းကြ
၁၇ ၏။ ထိုသိတင်းတော်သည်ယုဒပြည် မှစ၍ ပတ်ဝန်းကျင်အရပ်တို့၌
၁၈ အနှံ့အပြားကျော်စောလေ၏။ ။ယောဟန်တပည့်တို့သည်
ထိုအကြောင်းအရာအားလုံးတို့ကို မိမိဆရာအားကြားပြောကြ၏၊
၁၉ ယောဟန်သည်လည်း တပည့်နှစ်ယောက်ကိုခေါ်၍ ယေရှုထံတော်သို့
စေလိုက်လျှင်ကိုယ်တော်သည်ကြွလာသောသူမှန်သလော။သို့မဟုတ်။
၂၀ အခြားသောသူကိုမျှော်လင့်ရပါမည်လောဟုလျှောက်စေ၏။ ထိုသူ
တို့သည်အထံတော်သို့ရောက်လျှင်ကိုယ်တော်သည်ကြွလာသောသူ
မှန်သလော သို့မဟုတ်၊ အခြားသောသူကိုမျှော်လင့်ရပါမည်လောဟု
လျှောက်စေခြင်းငှါရေနှစ်မင်္ဂလာ ဆရာယောဟန်သည် အကျွန်ုပ်တို့
၂၁ ကိုကိုယ်တော်ထံသို့စေလိုက်ပါပြီဟုလျှောက် ဆိုကြ၏။ ထိုအချိန်
နာရီ၌ယေရှုသည် အနာရောဂါဝေဒနာဘေး နတ်ဆိုးဘေးနှင့်လူအ
များတို့ကိုကင်းလွတ်စေတော်မူ၏။မျက်စိကန်းသောသူအများတို့လည်း
၂၂ မျက်စိမြင်ပြန်နိုင်အောင်ကျေးဇူးပြုတော်မူ၏။ ထိုအခါယေရှုကသင်
တို့သွားကြလော့။ ကြားရသမျှ၊ မြင်ရသမျှတို့ကိုယောဟန်အား ကြား
လျှောက်ကြလော့ မျက်စိကန်းသောသူတို့သည် မျက်စိမြင်ပြန်ရ၏။
ခြေဆွံ့သောသူတို့သည်လှမ်းသွားရ၏။နူနာစွဲသောသူတို့သည်သန့်ရှင်း
ခြင်းသို့ရောက်ရ၏။ နားပင်းသောသူတို့သည် နားကြားရ၏။ သေ
၂၃ သောသူတို့သည်ထမြောက်ခြင်းသို့ရောက်ရ၏။ ဆင်းရဲသားတို့
သည်လည်း ဝမ်းမြောက်စရာသိတင်းကိုကြားရ၏ ငါကြောင့်စိတ်မ
ပျက်သောသူသည်မင်္ဂလာရှိ၏ဟုပြန်ပြောတော်မူ၏။

❋❋

၂၄ ယောဟန်စေလိုက်သောသူတို့သည်သွားသောနောက်ယေရှုသည်ယော
ဟန်ကိုအကြောင်းပြု၍ ပရိသတ်တို့အား၊ သင်တို့သည် အဘယ်မည်
သောအရာကိုကြည့်ခြင်းငှါတောသို့ထွက်သွားသနည်း။လေလှုပ်သော
၂၅ ကျူပင်ကိုကြည့်ခြင်းငှါသွားသလော။ သို့မဟုတ်။နူးညံ့သောအဝတ်
နှင့်ဝတ်ဆင်သောသူကိုကြည့်ခြင်းငှါသွားသလော။တင့်တယ်သော
အဝတ်နှင့်ဝတ်ဆင်၍ ကောင်းမွန်စွာစားသောက်သောသူတို့သည်
၂၆ မင်းအိမ်၌နေတတ်၏။ ပရောဖက်ကိုကြည့်ခြင်းငှါသွားသလော။မှန်
၂၇ ပေ၏။ ထူးဆန်းသော ပရောဖက်ဟုငါဆို၏။ ကျမ်းစာ၌လာသည်

ကား။ ကြည့်ရှုလော့။ သင်သွားရာလမ်းကိုပြင်ရသောငါ၏တမန်ကို
၂၈ သင်ရှေ့၌ ငါစေလွှတ်၏ဟုဆိုရာ၌ ထိုသူကိုဆိုလိုသတည်း။ ငါဆို
သည်ကား။ မိန်းမဘွားသောသူတို့တွင် ရေနှစ်မင်္ဂလာဆရာယောဟန်
ထက်ကြီးမြတ်သောပရောဖက် တယောက်မျှမရှိ။ သို့သော်လည်းဘု
ရားသခင်နိုင်ငံတော်တွင် အငယ်ဆုံးသောသူသည် သူ့ထက်သာ၍
၂၉ ကြီးမြတ်၏။ အခွန်ခံသူမှစ၍လူအပေါင်းတို့သည် ယောဟန်စကား
ကိုကြားနာလျှင်ဘုရားသခင်ကိုချီးမွမ်း၍ ယောဟန်ပေးသောရေနှစ်
၃၀ မင်္ဂလာကိုခံကြ၏။ ဖာရိရှဲလူ။ ကျမ်းတတ်တို့သည် သူတို့အကျိုးငှါဘု
ရားသခင်ကြံစည်တော်မူသောကျေးဇူးတော်ကိုပယ်၍ ယောဟန်၏
၃၁ ရေနှစ်မင်္ဂလာကိုမခံဘဲနေကြ၏။ ။ထိုကြောင့်ဤလူမျိုးကို
၃၂ အဘယ်ဥပမာနှင့်ပုံပြရအံ့နည်း။ အဘယ်သူနှင့်တူသနည်း။ ပွဲသ
ဘင်၌ထိုင်နေသောသူငယ်ချင်းတို့သည် တယောက်ကိုတယောက်ခေါ်
ကြ၍ ငါတို့သည်သာရာစွာတီးမှုတ်သော်လည်းသင်တို့မကကြ။ ညည်း
တွားစွာမြည်တမ်းသော်လည်းသင်တို့မငိုကြွေးကြဟုပြောဆိုသောသူ
၃၃ ငယ်တို့နှင့်ဤလူမျိုးတူလှ၏။ အဘယ်ကြောင့်နည်းဟူမူကား။ ရေနှစ်
မင်္ဂလာဆရာယောဟန်သည် မုန့်ကိုမစား။ စပျစ်ရည်ကိုမသောက်
ဘဲလာသည်ရှိသော်သင်တို့က ဤသူသည်နတ်ဆိုးစွဲသောသူပါတကား
၃၄ ဟုဆိုကြ၏။ ။လူသားသည် စား၊ သောက်လျက်လာသည်ရှိသော် ဤ
သူသည် စားကျူးသောသူ။ စပျစ်ရည်သောက်ကျူးသောသူပါတ
ကား။ အခွန်ခံသူ။ ဆိုးသူတို့နှင့်မိတ်ဆွေဖွဲ့သောသူပါတကားဟုဆိုပြန်
၃၅ ကြ၏။ သို့သော်လည်း ပညာတရားသည် မိမိအကျင့်ရှိသမျှအားဖြင့်
၃၆ ကဲ့ရဲ့ပြစ်တင်ခြင်းနှင့်လွတ်၏ဟုမိန့်တော်မူ၏။ ။ဖာရိရှဲလူ
တယောက်သည်အစားကိုသုံးဆောင်တော်မူစေခြင်းငှါကိုယ်တော်
၃၇ ကိုခေါ်ပင့်လျှင်ထိုဖာရိရှဲလူအိမ်သို့ကြွ၍စားပွဲ၌ထိုင်တော်မူ၏။ ထို
သို့စားပွဲ၌ထိုင်နေတော်မူသည်ကိုထိုမြို့၌ဆိုးသောမိန်းမတယောက်သိ
၃၈ လျှင်ဆီမွှေးကျောက်ဖြူခွက်တလုံးကိုယူခဲ့၍ နောက်တော်၌ခြေတော်
အနီးမှာရပ်လျက်ငိုကြွေး၍ခြေတော်ပေါ်မှာမျက်ရည်ကျ၍မိမိဆံပင်
နှင့်သုတ်လေ၏။ ခြေတော်ကိုလည်းနမ်း၍ဆီမွှေးနှင့်လိမ်းလျက်နေ
၃၉ လေ၏။ ကိုယ်တော်ကိုခေါ်ပင့်သောဖာရိရှဲလူသည်မြင်လေသော်ဤ
သူသည်ပရောဖက်မှန်လျှင် ခြေတော်ကိုကိုင်သော ဤမိန်းမသည်အ
ဘယ်သို့သောသူဖြစ်သည်ကိုသိတော့မည်။ ဤမိန်းမသည်ဆိုးသောသူ

၄၀ ဖြစ်၏ဟုစိတ်ထဲ၌အကြံရှိ၏။ ။ယေရှုကလည်း၊ရှိမုန်။သင်အား
ငါပြောစရာတခုရှိ၏ဟုမိန့်တော်မူလျှင် အရှင်ဘုရား။အမိန့်ရှိတော်
၄၁ မူပါဟုလျှောက်လေသော် ယေရှုကဥစ္စာရှင်တဦး၌ကျွေးစားနှစ်ဦးရှိ
၏။တယောက်ကားဒေနာရိအပြား ငါးရာကျွေးရှိ၏။တယောက်ကား
၄၂ ငါးဆယ်ရှိ၏။ သူတို့သည် ကျွေးဆပ်ရန်မရှိ သော့ကြောင့် ကျွေးရှင်
သည် ထိုသူ နှစ်ယောက်စလုံးကိုအချည်းနှီးလွှတ်၏။ သို့ဖြစ်လျှင်ထို
သူနှစ်ယောက်တွင်အဘယ်သူသည်ကျွေးရှင်ကိုသာ၍ချစ်အံ့နည်းဟု
၄၃ မေးတော်မူ၏။ ရှိမုန်ကလည်းသာ၍ကျွေးဖိုးကိုခံသောသူသည်သာ၍
ချစ်လိမ့်မည်အကျွန်ုပ်ထင်ပါ၏ဟုလျှောက်လျှင်ယေရှုကသင်ထင်သည်
၄၄ အတိုင်းမှန်ပေ၏ဟုမိန့်တော်မူပြီးမှ ထိုမိန်းမကိုလှည့်ကြည့်၍ရှိမုန်အား
လည်းသင်သည်ဤမိန်းမကိုမြင်သလော။သင်အိမ်သို့ငါဝင်၍သင်သည်
ခြေဆေးရေကိုမပေး။ဤမိန်းမသည်ငါခြေပေါ်မှာမျက်ရည်ကျ၍မိမိဆံ
၄၅ ပင်နှင့်သုတ်လေပြီ။ သင်သည်ငါကိုမနမ်း။ သူသည်အိမ်သို့ဝင်သော
၄၆ အချိန်မှစ၍ ငါခြေကိုနမ်းလျက်မစဲဘဲနေ၏။ သင်သည်ငါခေါင်းကိုဆီ
၄၇ နှင့်မလိမ်း။သူမူကား ငါခြေကိုဆီမွှေးနှင့်လိမ်းလေပြီ။ ထိုကြောင့်ငါ
ဆိုသည်ကား။သူသည်အပြစ်အများတို့နှင့်လွှတ်လျက်ရှိ၏။ထိုကြောင့်
သူသည်အလွန်ချစ်တတ်၏။နည်းသောအပြစ်လွှတ်သောသူသည်အနည်း
၄၈ ငယ်သာချစ်တတ်၏ဟုမိန့်တော်မူ၏။ ထိုမိန်းမအားလည်းသင်သည်အ
၄၉ ပြစ်တို့နှင့်လွှတ်လေပြီးဟုမိန့်တော်မူ၏။ စားပွဲ၌ထိုင်နေသောသူတို့
ကအပြစ်ကိုလွှတ်သောဤသူကားအဘယ်သူနည်းဟု နှစ်လုံးမူကြ၏။
၅၀ ယေရှုသည်ထိုမိန်းမအားသင်၏ယုံကြည်ခြင်းသည်သင်ကိုကယ်တင်ပြီ။
ငြိမ်ဝပ်စွာသွားတော့ဟုမိန့်တော်မူ၏။

❋❋

၁ ထိုနောက်မှာကိုယ်တော်သည် တကျိပ်နှစ်ပါး သောတပည့်တော်တို့
နှင့်အတူမြို့ရွာအစည်အတိုင်းဒေသစာရီလှည့်လည်၍ဘုရားသခင်၏
၂ နိုင်ငံတော်နှင့်ဆိုင်သောဧဝံဂေလိတရားကိုဟောတော်မူ၏။ နတ်ဆိုး
ဘေး။အနာရောဂါဘေးနှင့်ကင်းလွတ်သောမိန်းမအချို့သည်လည်းနောက်
တော်သို့လိုက်ကြ၏။ထိုမိန်းမတို့တွင်နတ်ဆိုးခုနှစ်ပါးထွက်သောမာဂ
၃ ဒလဟုခေါ်ဝေါ်သောမာရိ။ ဟေရုဒ်မင်း၏စားတော်ကဲခုဇ၏မယား
ယောဟန္နနှင့်ရှုရှန္နမှစ၍ မိမိဥစ္စာကိုလှူ၍ ကိုယ်တော်ကိုလုပ်ကျွေး
၄ သောအချားမိန်းမအများပါ၏။ ။များစွာသောလူအပေါင်း

တို့သည်မြို့ ရွာအရပ်ရပ် တို့မှအထံတော်သို့လာ ၍ စုဝေး လျက်ရှိကြ
၅ သောအခါဥပမာစကားအားဖြင့်မြွက်ဆိုတော်မူသည်မှာ။ မျိုးစေ့ကြဲ
သောသူသည်မျိုးစေ့ကိုကြဲခြင်းငှါထွက်သွား၏။ အစေ့ကို ကြဲသည်
တွင်အချို့သောအစေ့တို့သည်လမ်း၌ကျသဖြင့်ကျော်နင်း၍မိုဃ်းကောင်း
၆ ကင်ငှက် တို့ သည် ကောက်စား ကြ၏။ အချို့ သော အစေ့ တို့သည်
ကျောက်ပေါ်၌ကျသဖြင့် အပင်ပေါက် သော အခါမြေဩဇာ မရှိသော
၇ ကြောင့်ညှိုးနွမ်းပျက်စီးခြင်းသို့ရောက်ကြ၏။ အချို့သောအစေ့တို့သည်
ဆူးပင်တို့တွင်ကျသဖြင့် ဆူးပင်တို့သည် အတူပေါက်၍ ညှဉ်း ဆဲကြ
၈ ၏။ အချို့ သောအ စေ့တို့သည် ကောင်း သောမြေ ၌ ကျသဖြင့်အပင်
ပေါက်၍အဆတရာအသီး သီးကြ၏ဟုမိန့်တော်မူပြီး မှကြားစရာနား
ရှိသော သူမည် သည် ကား ကြား ပါလေ စေဟုကြွေး ကျော်တော် မူ၏။
၉ ။တပည့်တော်တို့လည်းထိုဥပမာ၏အဓိပ္ပာယ်အဘယ်သို့နည်း
၁၀ ဟုမေး လျှောက် ကြလျှင် ကိုယ် တော်ကဘုရား သခင်နိုင်ငံ တော်၏
နက်နဲ သော အရာ တို့ကို သိရ အောင်သင် တို့သည်အ ခွင့်ရပြီး။ ကြွင်း
သော သူ တို့သည်မြင် လျက်ပင် အာရုံမပြုဘဲမြင်စေခြင်းငှါ၎င် ကြား
လျက်ပင်အနက်ကိုနားမလည်ဘဲကြားစေခြင်းငှါ၎င်သူတို့အားဥပမာ
၁၁ အားဖြင့်သာဟောရ၏။ ထိုဥပမာအနက်အဓိပ္ပာယ်ကား။မျိုးစေ့သည်
၁၂ ဘုရားသခင်၏တရားစကားဖြစ်၏။ လမ်း၌ရှိသော သူကားတရားစ
ကားကိုကြားသည် ရှိသော်ယုံ ကြည် ခြင်း။ကယ်တင်ခြင်း သို့မရောက်
ရအောင်မာရ်နတ်သည်လာ၍တရားစကားကို နှစ်လုံးထဲမှနှုတ်သော
၁၃ သူကိုဆိုလိုသ တည်း။ ကျောက်ပေါ် ၌ ရှိသော သူကား တရား စကား
ကိုကြား၍ဝမ်းမြောက်သောစိတ်နှင့် ခံယူသော်လည်း စိတ်နှစ်လုံး ၌အ
မြစ်မစွဲ။ခဏသာယုံကြည်သဖြင့် စုံစမ်းနှောင့်ရှက်ခြင်းရောက်သောအ
၁၄ ခါရွေ့လျော့ဖောက် ပြန် သော သူကိုဆိုလို သတည်း။ ဆူး ပင် တွင်ရှိ
သော သူကားတရားစကားကိုကြားသည် ရှိသော်လောကီစိုးရိမ်ခြင်း။
စည်းစိမ်ကြွယ်ဝခြင်း။ကာမဂုဏ်ခံစားခြင်းတို့သည်နှိပ်စက်၍အသီး
၁၅ မသီးသောသူကိုဆိုလိုသတည်း။ ကောင်း သောမြေ၌ရှိသော သူကား
ဖြောင့်မတ်စင်ကြယ်သောစိတ်နှစ်လုံး နှင့်တရားစကားကိုကြားလျှင်
စွဲလမ်း သော အား ဖြင့် မြဲမြံစွာ အသီးသီး သောသူကိုဆို လိုသ တည်း။
၁၆ ။ဆီမီးထွန်းပြီး လျှင်အိုးမှောက်၍ ဖုံးထားလေ့မရှိ။ခုတင်
အောက်၌လည်းထားလေ့မရှိ။ဝင်သော သူသည်အလင်းကိုမြင်အောင်

၁၇ ဆီမီး ခုံအပေါ်မှာတင်ထား လျှက်ရှိ၏။ ဆိတ်ကွယ်ရာ၌ရှိသမျှတို့သည်
ထင်ရှားလိမ့်မည်။ ဝှက်ထား လျှက်ရှိ သမျှ တို့ကိုထင်ရှား စွာဖွင့်လင်း
၁၈ လိမ့်မည်။ ထိုကြောင့်သင်တို့သည်အဘယ်သို့ကြားနာသည်ကိုသတိ
ပြုကြလော့။ အကြောင်းမူကား။ အကြင်သူသည်ရတတ်၏။ ထိုသူအား
ပေးဦးမည်။ အကြင်သူသည်ဆင်းရဲ၏။ ထိုသူ၌ဥစ္စာရှိဟန်ဆောင်သမျှ
၁၉ ကိုပင်နှုတ်လိမ့်မည်ဟုမိန့်တော်မူ၏။ ။ထိုအခါမယ်တော်နှင့်
ညီတော်တို့သည်လာ၍ စည်းဝေးသောသူများသောကြောင့်ကိုယ်
၂၀ တော်ရင်းသို့မချည်းနိုင်ဘဲနေကြ၏။ လူအချို့ကလည်း မယ်တော်
နှင့်ညီတော်တို့သည်ကိုယ်တော်ကိုတွေ့လို၍ ပြင်မှာရပ်နေကြ၏ဟု
၂၁ လျှောက်လျှင် ဘုရားသခင်၏နှုတ်ကပတ်တရားတော်ကိုကြား၍နား
ထောင်သောသူတို့သည်ငါ့အမိ။ ငါ့ညီဖြစ်သတည်းဟုမိန့်တော်မူ၏။

❋❋

၂၂ တနေ့သ၌ယေရှုသည်တပည့်တော်တို့နှင့်အတူလှေထဲသို့ဝင်၍အိုင်
၂၃ တဖက်သို့ကူးကြစို့ဟုမိန့်တော်မူလျှင်လွှင့်သွားကြ၏။ အိုင်ကူးစဉ်
အခါယေရှုသည်ကျိန်းစက်တော်မူ၏။ အိုင်၌မိုဃ်းသက်မုန်တိုင်းဖြစ်
၂၄ ၍လှိုင်းတံပိုးသည်လှေထဲသို့ဝင်သဖြင့်ဘေးရောက်လုဟန်ရှိ၏။ တ
ပည့်တော်တို့သည်ချည်းကပ်၍ ကိုယ်တော်ကိုနှိုးပြီးလျှင်သခင်။သ
ခင်။ အကျွန်ုပ်တို့သည် ပျက်စီးခြင်းသို့ရောက်ပါ၏ဟု လျှောက်လေ
သော်ကိုယ်တော်သည် ထ၍ လေနှင့်လှိုင်းတံပိုးကိုဆုံးမတော်မူသဖြင့်
၂၅ ငြိမ်း၍သာယာလေ၏။ ကိုယ်တော်ကလည်းသင်တို့ယုံကြည်ခြင်းစိတ်
အဘယ်မှာရှိသနည်းဟုမေးတော်မူလျှင်သူတို့သည် ကြောက်ရွံ့အံ့
ဩ၍ဤသူကားအဘယ်သူနည်း။ လေနှင့်ရေကိုပင်မှာထားတော်
မူ၍သူတို့သည်နားထောင်ပါသည်တကားဟုအချင်းချင်းပြောဆိုကြ
၂၆ ၏။ ။ဂါလိလဲပြည်နှင့်အိုင်တဖက်ဖြစ်သောဂါဒရပြည်သို့
၂၇ ရောက်ကြ၍ ယေရှုသည်ကုန်းပေါ်သို့တက်တော်မူသည်တွင်ကာလ
တာရှည်စွာနတ်ဆိုးစွဲသဖြင့်အဝတ်မဝတ်။ အိမ်၌မနေဘဲသင်းချိုင်း
တစပြင်၌နေတတ်သောဂါဒရပြည်သားတယောက်သည်ကိုယ်တော်
၂၈ ကိုဆီးကြိုလေ၏။ ကိုယ်တော်ကိုမြင်လျှင်ပျပ်ဝပ်၍အမြတ်ဆုံးသော
ဘုရားသခင်၏သားတော်ယေရှု။ ကိုယ်တော်သည် အကျွန်ုပ်နှင့်အ
ဘယ်သို့ဆိုင်သနည်း။ အကျွန်ုပ်ကိုညှဉ်းဆဲတော်မမူမည်အကြောင်း။
အကျွန်ုပ် တောင်းပန်ပါသည်ဟု ကြီးသောအသံနှင့်အော်ဟစ်၍

၂၉ လျှောက်လေ၏။ လျှောက်သည့်အကြောင်းကား။နုတ်ဆိုးသည်ထိုလူကို
အဖန်များစွာဖမ်းဆီးလျှပြီး။ ခြေချင်း သံကြိုး နှင့်အကျည်း ထားသော်
လည်းခြေချင်းသံကြိုးကိုဆွဲဖြတ်၍ နုတ်ဆိုးသည်တော အရပ်သို့နှင်မြဲ
ရှိကြောင်းကိုကိုယ်တော်သည် ထောက်၍ ညစ်ညူးသောနုတ်။ ထိုလူမှ
၃၀ ထွက်သွားတော့ ဟုမိန့် တော်မူခဲ့ပြီး။ ယေရှုကလည်း သင်သည် အ
ဘယ်အမည်ရှိသနည်းဟုမေး တော်မူလျှင် ထိုလူကိုနုတ်ဆိုးအများစွဲ
သော့ကြောင့်အကျွန်ုပ်အမည်ကား လေဂေါင်ဖြစ်ပါသည်ဟုလျှောက်
၃၁ ပြီးမှ အနက်ဆုံးအရပ်သို့သွားစေခြင်းငှါမနှင်ပါမည်အကြောင်း။နုတ်
၃၂ ဆိုးတောင်းပန်လေ၏။ ။ထိုအရပ်၌တောင်ပေါ်မှာများစွာ
သော ဝက်အစုသည် ကျက်စား လျက်ရှိ၏။ ထိုဝက် ထဲသို့ဝင်ရပါမည်
အကြောင်း။အခွင့်ပေးတော်မူပါဟုနုတ်ဆိုးတို့သည်တောင်းလျှောက်
၃၃ ပြန်လျှင်အခွင့်ပေးတော်မူ၏။ နုတ်ဆိုးတို့သည်လူမှထွက်၍ဝက်ထဲသို့
ဝင်သဖြင့်ဝက်အစုသည် အိုင်ကမ်စောက်ကိုတဟုန်တည်းပြေးဆင်း၍
၃၄ အသက်ဆုံး လေ၏။ ဝက် ကျောင်း သော သူ တို့သည် ထိုအခြင်း အရာ
၃၅ ကိုမြင်လျှင်ပြေး၍မြို့ရွာတို့၌သိတင်းကြားပြောလေသော် လူများတို့
သည်ထို အမှုအရာကိုကြည့်ရှုခြင်း ငှါထွက်လာကြ၏။ အထံတော်သို့
ရောက်သောအခါနုတ်ဆိုးထွက်သွား သော သူသည်အဝတ်ဝတ်၍ပက
တိစိတ်နှင့်ယေရှု၏ ခြေတော်ရင်း၌ထိုင်နေ သည်ကိုမြင် လျှင် ကြောက်
၃၆ ရွံ့ခြင်းသို့ ရောက်ကြ၏။ နုတ်ဆိုး စွဲသော သူသည် အဘယ် သို့သော
အား ဖြင့်ကျန်းမာပကတိရသည် ကိုသိမြင် သော သူတို့သည် နောက်
၃၇ လာသော သူတို့အားပြန်ကြားပြီးမှ ဂါဒရပြည် သူပြည်သားအပေါင်း
တို့သည်အလွန်ကြောက်လန့်သောစိတ်စွဲ၍ မိမိတို့ဆီကထွက်သွါးတော်
မူမည် အကြောင်း တောင်းလျှောက်ကြ၏။ ကိုယ်တော်သည်လှေထဲသို့
၃၈ ဝင်၍ပြန်တော်မူ၏။ ။နုတ်ဆိုးထွက်သွားသော သူသည်ကိုယ်
၃၉ တော်နှင့်အတူ ရှိပါမည်အကြောင်းတောင်း ပန်သည်ကို ယေရှုကသင်
သည် ကိုယ်အိမ်သို့ ပြန်သွား တော့။ ဘုရား သခင် သည် အဘယ် မျှ
လောက်သောကျေးဇူး ကိုသင် ၌ပြုတော်မူသည်ကိုကြား ပြောလေ့ဟု
၍လွှတ်တော်မူလျှင်သူသည်သွား၍ယေရှုသည် အဘယ်မျှလောက်ကျေး
ဇူးပြုတော်မူသည် ကိုတမြို့လုံး အနှံ့အပြားသိတင်း ကြားပြောလေ၏။

❋❋

၄၀ ယေရှုသည်ပြန်တော်မူလျှင်လူအစုအဝေးအားလုံးတို့သည်ကိုယ်တော်

ကိုမြှော်လင့်လျက် နေသည်ဖြစ်၍ဝမ်မြောက် စွာလက်ခံကြ၏။ ထိုအ
၄၁ ခါယဋ္ဌရအမဥ်ရှိ၍တရားဇရပ်မှူးဖြစ်သောသူတယောက်သည်လာ၍
၄၂ ယေရှု၏ ခြေတော်ရင်း၌ပျပ်ဝပ်လျက် တဆယ်နှစ် နှစ်အ ရွယ်ရှိသော
မိမိ ၌ တယောက်တည်းသမီး သေဆဲဖြစ် သော့ကြောင့်မိမိအိမ်သို့ကြွ
တော်မူမည်အကြောင်း။ကိုယ်တော်ကို တောင်းလျှောက်၏။ ကြွတော်မူ
၄၃ စည်လူအစုအဝေး တို့သည်ကိုယ်တော်ကိုထိခိုက်တိုက်မိကြ၏။ ထိုအ
ခါတဆယ်နှစ်နှစ် ပတ်လုံးသွေးသွန် အနာစွဲသဖြင့်ဥစ္စါရှိသမျှကိုဆေး
သွားတို့အားပေး၍ကုန်သော်လည်း အဘယ်ဆေးသွားဖြင့်ချမ်းသာမ
၄၄ ရနိုင်သောမိန်းမတယောက်သည် နောက်တော်သို့ချည်းကပ်၍အဝတ်
တော်အနားပတ်ကိုတို့ လေ၏။ ထိုခဏချင်း သွေး သွန် အနာ ပျောက်
၄၅ လေ၏။ ယေရှုကလည်း ငါကိုအဘယ် သူတို့သနည်း ဟုမေး တော်မူ
၍လူအားလုံးတို့သည်ငြင်းလတ်သော်ပေတရုမှစ၍သူ၏အပေါင်းအ
ဖော်တို့ကသခင်။ လူအစုအဝေး တို့သည် ကိုယ်တော်ကိုထိခိုက်တိုက်မိ
ကြသည်ဖြစ် ၍ ငါကိုအဘယ်သူတို့သနည်းဟုမေးတော်မူပါသည်တ
၄၆ ကားဟုလျှောက်လေ၏။ ယေရှုကလည်းတစုံတယောက်သောသူသည်
ငါကိုတို့လေပြီ။ ငါကိုယ်မှ တန်ခိုး ထွက်သည်ကိုငါသိ၏ ဟုမိန့်တော်
၄၇ မူ၏။ ထိုမိန်းမသည်မိမိပုန်း၍ မနေနိုင်သည်ကိုသိသောအခါတုန်လှုပ်
လျက်လာ၍ပျပ်ဝပ်လျက် အဘယ် အကြောင်း နှင့်တို့သည် ကိုဋင်ချက်
ချင်းချမ်းသာရသည်ကိုဋင်လူအပေါင်းတို့ရှေ့မှာကြားလျှောက်လေ၏။
၄၈ ကိုယ်တော်ကလည်း ငါ့သမီး။ သင်၏ ယုံကြည်ခြင်း သည်သင် အနာကို
၄၉ ညိမ်း စေပြီ။ ညိမ်ဝပ်စွာသွားတော့ဟုမိန့်တော်မူ၏။ ။ထို
သို့မိန့် တော်မူစည်ပင် တရား ဇရပ်မှူး အိမ် မှလူလာ၍ကိုယ်တော်၏
၅၀ သမီး သေပါပြီ။ဆရာကိုမနှောင့်ရှက်ပါနှင့်ဟုဆို၏။ ယေရှုသည်ကြား
လျှင်မကြောင့်ကြနှင့်။ ယုံခြင်းစိတ် တခုသာ ရှိစေတော့။ သို့ ရှိလျှင်သူ
သည်ဘေး နှင့်လွတ်လိမ့်မည် ဟုတရားဇရပ်မှူး အား မိန့် တော်မူ၏။
၅၁ အိမ်သို့ရောက်လျှင် ပေတရု။ယာကုပ်။ ယောဟန် နှင့်မိန်းမငယ်၏ မိဘ
၅၂ မှတပါးအဘယ်သူမျှအထဲသို့မဝင်ရအောင်ဆီးတားတော်မူ၏။ လူ
အားလုံးတို့သည်ငိုကျွေးမြည်တမ်ကြသည်ကိုကိုယ်တော်ကမငိုကြနှင့်။
၅၃ သူငယ်သေသည်မဟုတ်။ အိပ်ပျော်နေသည် ဟုမိန့်တော်မူလျှင် သူ
ငယ်သေကြောင်းကိုထိုသူတို့သည်သိသဖြင့် ကိုယ်တော်ကိုပြက်ရယ်
၅၄ ပြုကြ၏။ ထိုသူအားလုံးကိုပြင်သို့ထွက်စေပြီးမှသူငယ်လက်ကိုကိုင်



 

၅၅ တော်မူလျှက်သူငယ်။ ထတော့ ဟုခေါ်တော်မူသည်တွင် စိတ်ဝိညည်
၅၆ ပြန်လာ၍မိန်းမငယ်ချက်ချင်းထလေ၏။ သူ့အားစားစရာပေးတော့ပဲ
မိန့်တော်မူ၏။ မိဘတို့သည်မိန်း မောတွေဝေ ခြင်း သို့ရောက်ကြ၏။
ထိုအမှုအရာကို အဘယ်သူ့အား မျှမပြောရမည့် အကြောင်း ပညတ်
၁ တော်မူ၏။ ။တကျိပ်နှစ်ပါးသောတပည့်တော်တို့ကိုစုဝေးစေ
တော်မူပြီး မှနတ်ဆိုး အပေါင်း တို့ကို နိုင်သောတန်ခိုး။ အနာ ရောဂါတို့
၂ ကိုညိမ်းစေခြင်း ငှါအခွင့်တန်ခိုးပေးတော်မူ၏။ ဘုရားသခင်နိုင်ငံ
တော်၏အကြောင်း ကိုဟောပြော စေခြင်း ငှါရင်လူနာ တို့ကိုချမ်းသာ
၃ စေခြင်းငှါရင်စေလွှတ် တော်မူလျှက်သင်တို့သည်လမ်းခရီး အဘို့ဘာ မျှမ
ယူကြနှင့်။ တောင်ဝေး။ လွယ်အိပ်။ မုန့်။ ငွေကိုမယူကြနှင့်။ အင်္ကျီနှစ်
၄ ထည်လည်းမပါစေကြနှင့်။ မည်သည့်အိမ်သို့ဝင်လျှင်ထိုအိမ်တွင်ထို
၅ အရပ်မှ ထွက် မသွား မှီတိုင် အောင် နေကြလော့။ အကြင်သူ တို့သည်
သင်တို့အားဧည့်သည် ဝတ်ကို့မပြုဘဲနေ၏။ ထိုသူတို့နေရာမြို့ မှထွက်
သွားစည် သူတို့ တဖက်သက် သေဖြစ်ရအောင် သင်တို့၏ ခြေဖဝါးမှ
၆ မြေမှုန့်ကို ခါလိုက်ကြလော့ ဟုမိန့် တော်မူ၏။ တပည့်တော် တို့သည်
ထွက်သွား၍ဧဝံဂေလိတရား ကိုဟောလျှက်ခပ်သိမ်း သောအရပ်၌အ
နာရော ဂါကိုညိမ်း စေလျှက်မြို့ ရွာများတို့တွင် ဒေသဇာရီလှည့် လည်
၇ ကြ၏။ ယေရှုပြုတော်မူသမျှ တို့ကိုစော်ဘွား ဟေရုဒ်ကြားလျှင်တွေး
တောသောစိတ်ရှိ၏။အဘယ်ကြောင့် နည်းဟူမူကား။လူအချို့ကယော
၈ ဟန်သည်သေခြင်းမှထမြောက်ခဲ့ပြီးဟုဆို ကြ၏။ အချို့က ဧလိယပေါ်
ထွန်းပြီးဟုဆိုကြ၏။အချို့ကရှေး ပရောဖက်တပါးပါးထပြန်ပြီးဟုဆို
၉ ကြ၏။ ဟေရုဒ်မင်းကလည်း ယောဟန်၏လည်ပင်း ကိုငါဖြတ် ခဲ့ပြီး။
ဤမျှလောက်သောသိတင်း ကိုငါကြားသော ဤသူသည်အဘယ်သူနည်း
ဟုဆိုသဖြင့်ယေရှုကိုမြင်ခြင်းငှါအလို ရှိ၏။

**

၁၀ တမန်တော်တို့သည်အထံတော်သို့ပြန်လာ၍မိမိ တို့ပြုသမျှတို့ကိုကြား
လျှောက် ကြ၏။ ကိုယ်တော် သည် သူတို့ကိုခေါ်၍ ဗက်ဇဲဒမြို့နယ်အ
တွင်း။တော၌ ဆိတ်ကွယ်ရာအရပ် သို့ကြွတော်မူ၏။ လူအစုအဝေးတို့
၁၁ သည်သိလျှင်နောက် တော်သို့လိုက်ကြ၏။ ထိုလူများကိုသက်ခံတော်
မူလျှက်ဘုရားသခင်နိုင်ငံတော်၏အကြောင်းကို ဟောပြော၍အနာရှိ
၁၂ သောသူများကိုချမ်းသာပေးတော်မူ၏။ ။မိုးယွန်းချုပ်သောအ

ခါတကျိပ်နှစ်ပါးသောသူတို့သည်ချဉ်းကပ်လျက်လူများတို့သည်ပတ်
ဝန်းကျင် ရွာဇနပုဒ်တို့သို့သွား၍အိပ်ရာ။စားစရာကိုရအောင်အခွင့်
ပေးတော်မူပါ ဤအရပ်ကား တော အရပ်ဖြစ်ပါ၏ဟုလျှောက်ကြ
၁၃ လျှင်ကိုယ်တော်က သူတို့စား စရာ အို သင်တို့ပေး ကြတော့ဟုမိန့်
တော်မူ၏ တပည့်တော်တို့လည်းအကျွန်ုပ်တို့သွား၍ဤလူအပေါင်းတို့
စားစရာအိုဝယ်ရပါအံ့လော။မဝယ်လျှင်မုန့်ငါးလုံးနှင့်ငါးနှစ်ကောင်
မှတပါးအဘယ်စား စရာမျှ အကျွန်ုပ်တို့ ၌ မရှိပါဟုလျှောက်ကြ၏။
၁၄ ထိုသို့လျှောက်သည် အကြောင်းကား။လူငါး ထောင်မျှလောက် ရှိသ
တည်း ထိုအခါလူများ ကိုတစုငါးဆယ်စီအစုစုထိုင်နေစေဟုအမိန့်
၁၅ တော်ရှိသဖြင့် တပည့်တော်တို့သည်အမိန့်တော်အတိုင်းပြု၍လူအား
၁၆ လုံးတို့ကိုထိုင်နေစေပြီးလျှင် ယေရှုသည်မုန့်ငါးလုံးနှင့်ငါးနှစ်ကောင်
ကိုယူ၍ကောင်းကင်သို့ကြည့်မျှော်လျက်ကျေးဇူး တော်ကိုချီးမွမ်းပြီးမှ
မုန့်ကိုဖဲ့ ၍ လူများရှေ့၌ထည့်စေခြင်းငှါတပည့်တော်တို့အားပေးတော်
၁၇ မူ၏ လူအားလုံးတို့သည်စား၍ဝကြသောအခါကြွင်းရစ်သေါအကျိုး
၁၈ အပဲ့ဆယ်နှစ်တောင်းအပြည့်ကောက်သိမ်းကြ၏။ ။တရံရောအခါ
ယေရှုသည်တပည့်တော်တို့နှင့်တကွဆိတ်ကွယ်ရာအရပ်၌ဆုတောင်း
တော်မူစဉ်ငါသည်အဘယ်သူဖြစ်သည်ကိုလူများဆိုကြသနည်းဟု
၁၉ မေးမြန်းတော်မူလျှင် လူအချို့ကကိုယ်တော်သည်ရေနှစ်မင်္ဂလာဆရာ
ယောဟန်ဖြစ်ကြောင်းကိုဆိုကြ၏။အချို့ကဧလိယဖြစ်ကြောင်းကိုဆို
ကြ၏။ အချို့ကရှေး ပရောဖက်တပါး ပါး ထပြန် သည်ကိုဆိုကြ၏ ဟု
၂၀ လျှောက်ကြလေသော် ငါသည်အဘယ် သူ ဖြစ်သည်ကိုသင်တို့ဆိုကြ
သနည်းဟုမေးမြန်းတော်မူလျှင်ပေတရုကကိုယ်တော်သည်ဘုရားသ
၂၁ ခင်၏ခရစ်တော်ဖြစ်တော်မူ၏ဟုလျှောက်လေ၏ ထိုအကြောင်းကို
အဘယ်သူအားမပြောစိမ့်သောငှါတပည့်တော်တို့ကိုကြပ်ကြပ်ပညတ်
၂၂ တော်မူ၏။ ထိုမှတပါး လူသားသည်များများခံရမည်။သွက်အရာရှိ
ယဇ်ပရောဟိတ်အကြီး။ကျမ်းပြုဆရာတို့ညင်းပယ်ခြင်းကိုငင်အသေ
သတ်ခြင်းကို ငင်ခံရမည်။သုံးရက်မြောက်သောနေ့ ၌ထမြောက်ရမည်
၂၃ ဟူသောအကြောင်းများတို့ကိုမိန့်တော်မူ၏။ ။ထိုမှတပါး။
လူအပေါင်းတို့အားမိန့်တော်မူသည်ကား။ငါ၌ဆည်းကပ်လိုသောသူ
ဖြစ်လျှင်ကိုယ်ကိုကိုယ်ညင်းပယ်ရမည်။ကိုယ်လက်ဝါးကပ်တိုင်ကို
၂၄ နေ့ကိုင်းထမ်း၍ငါ့နောက်သို့လိုက်ရမည်။ အဖြင်သူသည်မိမိအသက်

ကိုကယ်ဆယ်ခြင်းငှါအလိုရှိ၏။ ထိုသူသည် အသက်ရှုံးလိမ့်မည်။ အ
ကြင်သူသည်ငါကြောင့်အသက်ရှုံး၏။ထိုသူသည်မိမိအသက်ကိုကယ်
၂၅ ဆယ်လိမ့်မည်။ စကြဝဠာအားလုံးကိုအစိုးရ၍ကိုယ်ကိုကိုယ်ဆုံးရှုံး
၂၆ သောသူသည် အဘယ်ကျေးဇူးရှိသနည်း။ အကြင်သူသည်ငါကိုငှင်
ငါ့စကားကိုငှင်ရှက်၏။ လူသားသည်မိမိဘုန်း။ မိမိအဖခမည်းတော်
၏ဘုန်း။သန့်ရှင်းသောကောင်းကင်တမန်တို့၏ဘုန်းကိုဆောင်လျက်
၂၇ ကြွလာသောအခါထိုသူကိုရှက်တော်မူလတ့ံ။ ငါအမှန်ဆိုသည်ကား။
ဤအရပ်၌ရှိသောသူအချို့တို့သည်ဘုရားသခင်၏နိုင်ငံတော်ကိုမမြင်
မှီ။ဘဝမပြောင်းရဟုမိန့်တော်မူ၏။

❋❋

၂၈ ထိုသို့မိန့်တော်မူသောနောက် ရှစ်ရက်လောက်လွန် သောအခါယေရှု
သည် ပေတရု။ ယာကုပ်။ ယောဟန် တို့ကိုခေါ်၍ ဆုတောင်းခြင်း ငှါ
၂၉ တောင်ပေါ်သို့တက်ကြွ တော်မူ၏။ ဆုတောင်း တော်မူစဉ် မျက်နှာ
တော်ထူးဆန်းသောအဆင်း အရောင် ရှိ ၍ အဝတ်တော်ကား ပြောင်
၃၀ ပြောင်လက် လက်ဖြူ၏။ မောရှေ နှင့် ဧလိယ တည်းဟူသောလူ နှစ်
၃၁ ယောက်တို့သည်ဘုန်းအသရေနှင့်ထင်ရှားရှိ၍ ကိုယ်တော်နှင့်အတူ
နှုတ်ဆက်လျက်ယေရုရှလင်မြို့၌ရတော့တော်မူမည်အကြောင်းအရာကို
၃၂ ပြောကြ၏။ ပေတရုနှင့်သူ၏အဖော်တို့သည်မျက်စိလေးလံသဖြင့်တ
ငိုက်ငိုက်ရှိကြ၏။နိုးသောအခါဘုန်းအသရေတော်ကိုငှင်ကိုယ်တော်
၃၃ နှင့်ရပ်နေသောလူနှစ်ယောက်ကိုငှင်မြင်ကြ၏။ ထိုလူတို့သည်အထံ
တော်မှသွားကြစဉ်ပေတရုကသခင်။ဤအရပ်၌နေဖွယ်ကောင်းပါ၏။
ကိုယ်တော်ဘို့ဘဲတဆောင်။မောရှေဘို့တဆောင်။ဧလိယဘို့တဆောင်။
တဲသုံး ဆောင်ကို အကျွန်ုပ် တို့ဆောက်လုပ် ပါရစေဟုရှောင် ရမ်း ၍
၃၄ လျှောက် လေ၏။ ထိုသို့လျှောက်ပြီး မှမိုဃ်းတိမ်သည် သူတို့ကိုလွှမ်း
မိုး၍ မောရှေနှင့်ဧလိယသည်တိမ် ထဲသို့ဝင်သည်ကို တပည့် တော်တို့
၃၅ သည်ကြောက်ခြင်းရှိကြသည်ဖြစ်၍ ဤသူကားငါချစ်သားပေတည်း။
သူ၏စကားကိုနားထောင်ကြဟုမိုဃ်း တိမ်ကအသံတော်ဖြစ် လေ၏။
၃၆ ထိုအသံတော်ဖြစ်လေသည့်ခဏချင်း တွင်ယေရှုသည်တယောက်တည်း
ရှိတော်မူ၏။တပည့် တော်တို့သည် မိမိတို့မြင်သောအရာကိုဝှက်ထား
၍ထိုကာလ၌အဘယ်သူအားမျှ ကြားမပြောဘဲနေကြ၏။ ။
၃၇ နက်ဖန်နေ့၌တောင်ပေါ်ကဆင်းကြပြီးသျှင်များစွာသော်လူအစုအဝေး

၃၈ သည်ကိုယ်တော်ကိုကြိုဆိုလာ၏။ အစုအဝေး၌ပါသောသူတယောက်
ကအရှင်ဘုရား။ ကျွန်တော်သားကိုကြည့်တော်မူမည်အကြောင်း။
ကျွန်တော်တောင်းပန်ပါ၏။ကျွန်တော်၌သားတယောက်တည်းရှိပါ၏။
၃၉ နတ်ဖမ်းစားသဖြင့်သူသည်ရုတ်ခနဲအော်၍အမြှုပ်ထွက်လျက်တောင့်
မာခြင်းသို့ရောက်တတ်ပါ၏။ ထိုသို့နာနာနှိပ်စက်ပြီးမှနတ်သည်အ
၄၀ ခွန့်သွားခဲ၏။ ထိုနတ်ကိုနှင်ထုတ်ပါမည်အကြောင်း။တပည့်တော်
တို့အားကျွန်တော်တောင်းပန်၍ သူတို့မတတ်နိုင်ကြပါဟုအော်ဟစ်
၄၁ လျက်လျှောက်လေသော် ယေရှုကရုံခြင်းမရှိ။ဖောက်ပြန်သောအမျိုး။
ငါသည်သင်တို့နှင့်အတူအဘယ်မျှလောက်ကြာ၍နေရအံ့နည်း။သင်
တို့ကိုအဘယ်မျှလောက်ကြာ၍သည်းခံရအံ့နည်း။သင်၏သားကိုငါ့ဆီ
၄၂ သို့ယူခဲ့ကြဟုမိန့်တော်မူ၏။ သူငယ်လာစည်ပင်နတ်ဆိုးသည်မြေ
ပေါ်မှာလှဲ၍တောင့်မာစေ၏။ယေရှုသည်ညစ်ညူးသောနတ်ကိုဆုံးမ၍
၄၃ ထိုသူငယ်ကိုချမ်းသာစေပြီးမှအဘအားအပ်ပေးတော်မူ၏။ လူအ
ပေါင်းတို့သည်ဘုရားသခင်၏မဟာတန်ခိုးတော်ကိုမြင်၍မိန်းမော
၄၄ တွေဝေခြင်းရှိကြ၏။ ။ထိုသို့ယေရှုပြုတော်မူသမျှကိုလူ
အပေါင်းတို့သည်အံ့ဩချီးမွမ်းကြစဉ်တပည့်တော်တို့အားသင်
တို့သည်ငါ၏စကားကိုနားထောင်မှတ်မိကြလော့ လူသားကိုလူတို့လက်
၄၅ ၌အပ်နှံရသောအချိန်နီးပြီးဟုမိန့်တော်မူ၏။ ထိုစကားတော်၏အ
နက်မထင်ရှားသဖြင့်တပည့်တော်တို့သည်နားမလည်။မရိပ်မိဘဲနေ
၄၆ ကြ၏။အနက်ကိုလည်းမမေးမလျှောက်ဝံ့ကြ။ ။ထိုအခါတပည့်
တော်တို့တွင်အဘယ်သူသာ၍ကြီးမြတ်အံ့နည်းဟုအချင်းချင်းညင်း
၄၇ ခုံခြင်းရှိ၏။ ယေရှုသည်သူတို့အကြံအစည်ကိုသိမြင်လျှင်သူငယ်တ
၄၈ ယောက်ကိုယူ၍မိမိအနား၌ထားပြီးမှ အကြင်သူသည်ငါ့ကိုထောက်
၍ဤသူငယ်ကိုသိမ်းဆည်း၏။ထိုသူသည်ငါ့ကိုပင်သိမ်းဆည်း၏။ငါ
ကိုသိမ်းဆည်းသောသူသည်လည်းငါ့ကိုစေလွှတ်တော်မူသောသူကို
ပင်သိမ်းဆည်း၏။ သင်တို့တွင်အငယ်ဆုံးသောသူသည်သာ၍ကြီး
၄၉ မြတ်သောသူဖြစ်လိမ့်မည်ဟုမိန့်တော်မူ၏။ ယောဟန်ကလည်းသ
ခင်။ကိုယ်တော်အခွင့်နှင့်နတ်ဆိုးတို့ကိုနှင်ထုတ်သောသူတယောက်
ကိုအကျွန်ုပ်တို့သည်တွေ့ပါ၏။သူသည်အကျွန်ုပ်တို့နှင့်အတူမလိုက်
သောကြောင့်အကျွန်ုပ်တို့သည်မြစ်တားကြပါ၏ဟုလျှောက်လေသော်

၅၀ ယေရှုက သူကိုမမြစ်တားကြ နှင့်။ သင်တို့ရန်သူဘက် ၌မရှိသောသူ
သည်သင်တို့ဘက်၌ရှိ၏ဟုမိန့်တော်မူ၏။

❊❊

၅၁ ကောင်းကင်သို့ချီတက်တော်မူသော အချိန်ရောက်သောအခါ ယေရုရှ
၅၂ လင်မြို့သို့တရူကြွအံ့ သောငှါသဘောထား တော်မူ၏။ ရှေ့တော်သို့
တမန်တော်တို့ ကိုစေလိုက်တော်မူသဖြင့် သူတို့သည် ကိုယ်တော်အဖို့
၅၃ အလိုငှါပြင်ဆင်ရအောင်သွား၍ရှမာရိရွာတရွာသို့ဝင်ကြ၏။ ကိုယ်
တော်သည် ယေရုရှလင်မြို့သို့သွားအံ့သောအခြင်းအရာကိုထောက်၍
၅၄ ထိုရွာသူတို့သည် လက်မခံကြ။ ထိုအကြောင်းကိုတပည့်တော်ယာ
ကုပ်။ ယောဟန်တို့သည်မြင်လျှင်သခင်။ ဧလိယပြုသကဲ့သို့အကျွန်ုပ်
တို့သည်ကောင်းကင်မှမီးကျစေ၍ သူတို့ကိုလောင်စေခြင်း ငှါအလိုရှိ
၅၅ တော်မူသလော ဟုလျှောက် ကြသော် ယေရှုလှည့်ကြည့်၍ သင်တို့မ
၅၆ ကတိသဘော ကိုသင်တို့မသိကြဟုဆုံးမတော်မူပြီးမှ အခြားရွာသို့
၅၇ ကြွတော်မူ၏။ ။လမ်း၌သွားကြစဉ်မည်သောသူတယောက်
က၊သခင်။ ကိုယ်တော်ကြွလေရာရာ အကျွန်ုပ်လိုက်ပါမည်ဟုလျှောက်
၅၈ လေ၏။ ယေရှုကလည်း မြေခွေးမှုကား မြေတွင်းရှိ၏။ မိုဃ်းကောင်း
ကင်၌ကျင်လည် သောငှက်မှုကားအသိုက်ရှိ၏။ လူသား မှုကား ခေါင်း
၅၉ ထားရာမျှမရှိဟုမိန့်တော်မူ၏။ အခြားသူကိုငါ့နောက်သို့လိုက်တော့
ဟုမိန့် တော်မူလျှင် ထိုသူကသခင်။ အကျွန်ုပ်အဖကိုရှေ့ဦးစွာသွား၍
၆၀ သင်းဂြိုဟ်ရအောင် အခွင့် ပေး တော်မူပါဟုလျှောက်လေသော် ယေ
ရှုကလူသေတို့သည်မိမိလူသေတို့ကိုသင်းဂြိုဟ်ပါလေစေ။ သင်မှုကား
သွား၍ဘုရား သခင်နိုင်ငံတော်၏ အကြောင်း ကိုဟော ပြောလော့ဟု
၆၁ မိန့်တော်မူ၏၊ အခြားသူလည်းသခင်၊ ကိုယ်တော်နောက်သို့အကျွန်ုပ်
လိုက်ပါမည်။ သို့သော်လည်း အကျွန်ုပ်အိမ်၌ ရှိရစ်သော သူတို့ကိုအ
၆၂ ရင်သွား၍အခွင့်ပန်ပါရစေဟု လျှောက်လျှင် ယေရှုကထွန်ကိုင်းကို
ကိုင်၍နောက်သို့လှည့်ကြည့် သော သူမည်သည်ကားဘုရားသခင်နိုင်ငံ
၁ တော်နှင့်မထိုက်မတန်ဟုမိန့် တော်မူ၏။ ။ထိုနောက်သခင်
ဘုရားသည်အခြား သောတပည့် တော်ခုနစ်ကျိပ်တို့ကိုခန့်ထားတော်
မူ၍ ကိုယ်တိုင်ကြွလေအံ့ သောမြို့ ရွာအရပ်ရပ်တို့သို့ရှေ့တော် ၌ နှစ်
၂ ယောက်စီနှစ်ယောက်စီစေလွှတ်တော်မူ၏။ သူတို့အားမိန့် တော်မူ
သည်ကား။ စပါးရိတ်စရာများများရှိ၏။ ရိတ်သောသူနည်း နည်းသာ

ရှိ၏။ထိုကြောင့်လုပ်ဆောင်သောသူတို့ကို စပါးရိတ်စေခြင်းငှါစပါး
၃ ရှင်စေလွှတ်တော်မူမည်အကြောင်းဆုတောင်းကြလော့။ သင်တို့သွား
လေသည် အရာ မှာ တောခွေး ရုထဲသို့သိုး သငယ်တို့ကိုစေလွှတ်သကဲ့
၄ သို့သင် တို့ကို ငါစေ လွှတ် ၏။ ငွေအိပ်။ လွယ်အိပ်။ ခြေနင်းတို့ ကို ဆ
ဆောင်ကြနှင့်။လမ်း၌ သွား စည်အံ့ဘယ် သူကို နှုတ်ဆက် ခြင်း မပြုကြ
၅ နှင့်။ မည်သည့်အိမ်ကိုဝင်သောအခါ ဤအိမ်၌မင်္ဂလာဖြစ်ပါစေသော
၆ ဟုရှေ့ဦးစွာပြောကြလော့။ ထိုအိမ်၌မင်္ဂလာသားရှိလျှင်သင်တို့မြွက်
၇ သောမင်္ဂလာတည်ရောက်လိမ့်မည်။ သို့မဟုတ်။ သင်တို့ဆီသို့ပြန်လာ
လိမ့်မည်။ထိုအိမ်၌နေ၍အစားအသောက်စီရင်ရာကိုစားသောက်ကြ
လော့။အကြောင်းမူကား။ လုပ်ဆောင်သော သူသည် အခကိုခံထိုက်ပေ
၈ ၏။တအိမ်မှတအိမ်သို့အလည်လည်မသွားကြနှင့်။ အကြင်မြို့သို့သင်
တို့ဝင်၍မြို့သား တို့သည်လက် ခံ၏။သင်တို့ရှေ့၌ ထည့်သမျှကိုစားကြ
၉ လော့။ ထိုမြို့၌ လူနာများကိုချမ်း သာပေးကြလော့။ဘုရားသခင်နိုင်ငံ
တော်သည်သင်တို့၌တည်ထောင်သောအချိန်နီးပြီး ဟုသူတို့အားဟော
၁၀ ကြလော့။ အကြင်မြို့သို့ဝင်၍မြို့သားတို့သည် လက်မခံအံ့။ထိုမြို့၏လမ်း
သို့ထွက်ပြီး လျှင်ငါတို့ ၌ ကပ်သော သင်တို့ မြို့၏ မြေမှုန့် ကိုငါတို့ခါ
၁၁ လိုက်ပေ၏။ သို့သော်လည်းဘုရားသခင်နိုင်ငံတော်တည်လုနီးသည်
၁၂ ကိုသိမှတ်ကြဟုသူတို့အားပြောကြလော့။ ငါဆိုသည်ကား။နောက်ဆုံး
၁၃ နေ့၌သောဒုံမြို့ထက်ထိုမြို့သည်သာ၍ခံရလတံ့။ ။အိုခေါရာ
ဇိန်မြို့။သင်သည်အမင်္ဂလာရှိ၏။ ဗက်ဇဲဒမြို့။သင်သည် အမင်္ဂလာ ရှိ
၏။အဘယ်ကြောင့်နည်းဟူမူကား။ သင်တို့တွင်ပြသောတန်ခိုး သည်
တုရုမြို့။ဇိဒုန်မြို့တွင်ပြဘူးလျှင်ထိုမြို့တို့သည်ရှေးကလျှော်တေအဝတ်
၁၄ ဝတ်၍ပြာထဲမှာထိုင်သဖြင့်နောင်တရကြလိမ့်မည်။ တရားဆုံးဖြတ်
၁၅ သောနေ့၌တုရုမြို့။ဇိဒုန်မြို့ထက်သင်တို့သည်သာ၍ခံရလတံ့။ အိုက
ပေရနောင်မြို့။မိုဃ်းကောင်းကင်တိုင်အောင် မြှောက်စားသော်လည်း
၁၆ မရဏာနိုင်ငံတိုင်အောင် နှိမ့်ချလတံ့။ သင်တို့စကားကိုနားထောင်
သောသူသည်ငါ့စကားကိုနားထောင်သောသူဖြစ်၏။သင်တို့ကိုပယ်
သောသူသည်ငါ့ကိုပယ်သောသူဖြစ်၏။ငါ့ကိုပယ်သောသူသည်ငါ့ကို
စေလွှတ်တော်မူသောသူကိုပယ်သောသူဖြစ်သည်ဟုမိန့်တော်မူ၏။

**

၁၇ ထိုခုနစ်ကျိပ်သောတပည့်တော်တို့သည်ဝမ်းမြောက်သောစိတ်နှင့်ပြန်

လာ၍သခင်။ ကိုယ်တော်၏ အခွင့်နှင့်အကျွန်ုပ်တို့သည်နတ်ဆိုးကိုပင်
၁၈ နိုင်ပါသည်ဟုလျှောက်ကြ၏။ ယေရှုကလည်း လျှပ်စစ်ကဲ့သို့စာတန်
၁၉ သည်ကောင်းကင်မှကျသည်ကိုငါမြင်ပြီး။ သင်တို့သည်မြွေ။ကင်း
မြီးကောက်တို့ကိုနင်းရသောအခွင့်။ ရန်သူများကိုနိုင်ရသော အခွင့်
၂၀ တန်ခိုးကိုငါပေး၏။အဘယ်ဘေးမျှသင်တို့ကိုမညှဉ်းဆဲရ။ သို့သော်
လည်းနတ်ဆိုး ကိုနိုင်ရသောကြောင့် သာဝမ်မြောက်ခြင်း မရှိကြနှင့်။
သင်တို့နာမည်များကောင်းကင်စာရင်း ဝင်သည် ကိုဝမ်မြောက်ခြင်း
၂၁ ရှိကြလော့ဟုမိန့်တော်မူ၏။ ။ထိုအခါယေရှုသည်ဝမ်မြောက်
တော်မူခြင်းစိတ်ရှိသဖြင့်ကောင်းကင်။မြေကြီးကိုအစိုးရတော်မူသော
အဖ။ကိုယ်တော်သည် ပညာ အလိမ္မာနှင့် ပြည့်စုံသောသူတို့အား ဤ
အရာများကိုထိမ်ဝှက်ကွယ်ထား လျက်သူငယ်တို့အား ဖော်ပြတော်မူ
သည်ဖြစ်၍ကျေးဇူးတော်ကိုအကျွန်ုပ်ချီးမွမ်ပါ၏။ထိုသို့အလိုတော်ရှိ
၂၂ သောကြောင့်မှန်ပါ၏အဖ။ငါခမည်းတော်သည်ခပ်သိမ်းသောအရာတို့
ကိုငါ၌အပ်တော်မူပြီး။သားတော်ကားအဘယ်သူဖြစ်သည်ကိုခမည်း
တော်မှတပါးအဘယ်သူမျှမသိ။ခမည်းတော်ကားအဘယ်သူဖြစ်တော်
မူသည် ကိုသားတော် နှင့် သားတော် လင်း စေလိုသောသူ မှတပါးအ
၂၃ ဘယ်သူမျှမသိဟုမိန့်တော်မူ၏။ ထိုအခါဆိတ်ကွယ်ရာအရပ်၌တပည့်
တော်တို့ဆီသို့လှည့်ကြည့်၍ ယခုမြင်သမျှသောအရာတို့ကိုသင်တို့မြင်
၂၄ သောကြောင့်သင်တို့မျက်စိသည်မင်္ဂလာရှိ၏။ ငါဆိုသည်ကား။သင်
တို့မြင်ရသော အရာကိုပရောဖက် အများ။ရှင်ဘုရင်အများ တို့သည်
မြင်ခြင်းငှါအလိုရှိသော်လည်းမမြင်ရကြ။ သင်တို့ကြားရသောအရာ
ကိုကြားခြင်းငှါအလို ရှိသော်လည်းမကြားရကြဟုမိန့်တော်မူ၏။
၂၅ ။တရံရောအခါကျမ်တတ်တယောက်ထ၍ကိုယ်တော်ကိုစုံစမ်
နှောင့်ရှက်သောအား ဖြင့်အရှင်ဘုရား။ထာဝရအသက်ကိုအ မွေခံအံ့
သောငှါအကျွန်ုပ်သည် အဘယ်အမှု ကိုပြုရပါမည်နည်း ဟုလျှောက်
၂၆ လေသော် ကိုယ်တော်ကပညတ္တိကျမ်၌ အဘယ်သို့လာသနည်း။သင်
၂၇ သည်အဘယ်သို့ဖတ်သနည်းဟုမေးတော်မူလျှင် ထိုသူကသင်၏ဘု
ရားသခင်ထာဝရဘုရား ကိုဒိတ်နှစ်လုံး အကြွင်းမဲ့ အစွမ်သတ္တိရှိသ
မျှ၊ညာဏ်ရှိသမျှနှင့်ချစ်လော့။ ကိုယ်နှင့်စပ်ဆိုင်သောသူကိုကိုယ်နှင့်
၂၈ အမျှချစ်လော့ဟုပြန်လျှောက်လေ၏။ ကိုယ်တော်ကလည်း သင်စကား
၂၉ မှန်ပေ၏။ ထိုသို့ပြုလျှင်အသက်ကိုရမည်ဟုမိန့်တော်မူ၏။ ထိုသူက

လည်းအဘယ်သူကားအကျွန်ုပ်နှင့်စပ်ဆိုင်သောသူဖြစ်ပါသနည်းဟု
၃၀ မိမိအပြစ်မရှိဟုံပြုလိုသောစိတ်နှင့်ယေရှုကိုလျှောက်လေသော် ယေ
ရှုကလူတယောက်သည် ယေရုရှလင်မြို့မှယေရိခေါမြို့သို့သွားရာတွင်
ခိုးမြနှင့်တွေ့ကြုံလေ၏။ခိုးမြတို့သည် သူ့အဝတ်ကိုချွတ်၍နာနာ
၃၁ ရိုက်နှက်ပြီးမှသေလုမတတ်ရှိသည်ကိုပြစ်ထား၍သွားကြ၏။ ထိုလမ်း
မှာယဇ်ပုရောဟိတ်တယောက်သည် အမှတ်တမဲ့သွား၍ ထိုလူနာကို
၃၂ မြင်လျှင်လွှဲရှောင်၍သွားလေ၏။ ထိုနည်းတူ။လေဝိလူတယောက်
သည်ထိုအရပ်သို့ရောက်သောအခါလာ၍ကြည့်မြင်လျှင်လွှဲရှောင်၍
၃၃ သွားလေ၏။ ရှမာရိလူတယောက်သည်ခရီးသွားရာတွင်ထိုလူနာရှိ
၃၄ ရာသို့ရောက်၍မြင်လျှင်ကရုဏာစိတ်ရှိသည်နှင့် လူနာဆီသို့သွား၍
အနာများကိုဆီနှင့်စပျစ်ရည်ထည့်၍သဖြင့်အဝတ်နှင့်စည်းပြီးမှမိမိမြင်း
နွားပေါ်မှာတင်၍ဇရပ်တခုသို့ဆောင်သွားပြုစုလေ၏။ နက်ဖန်နေ့၌
၃၅ ထွက်သွားသောအခါ ဒေနာရိနှစ်ပြားကိုထုတ်၍ ဇရပ်ရှင်အားပေး
လျက်၍သူ့ကိုကြည့်ရှုပြုစုပါ။ ကုန်သမျှကိုငါပြန်လာသောအခါဆပ်
၃၆ ပေးမည်ဟုဆို၏။သင်သည်အဘယ်သို့ထင်သနည်း။ထိုသူသုံးယောက်
တို့တွင်အဘယ်သူသည်ခိုးမြလက်သို့ရောက်သောသူနှင့်စပ်ဆိုင်
၃၇ သောသူဖြစ်သနည်းဟုပြန်၍မေးတော်မူလျှင်ကျမ်းတတ်ကလည်းလူ
နာကိုသနားသောသူသည်စပ်ဆိုင်သောသူဖြစ်ပါ၏ဟုလျှောက်လေ
သော်ယေရှုကသင်သွား၍ထိုနည်းတူပြုလော့ဟုမိန့်တော်မူ၏။

❋❋

၃၈ ယေရှုသည်တပည့်တော်တို့နှင့်ခရီးသွားကြသည်ရွာတရွာသို့ဝင်တော်
မူ၍မာသအမည်ရှိသောမိန်းမတဦးသည်မိမိအိမ်၌ကိုယ်တော်ကိုသိမ်း
၃၉ ဆည်း၏။ ထိုမိန်းမ၌မာရိအမည်ရှိသောညီမတယောက်ရှိ၏။ထိုမာရိ
သည်ယေရှု၏ခြေတော်ရင်း၌ထိုင်လျက်စကားတော်ကိုနားထောင်
၄၀ လျက်နေ၏။ မာသမူကားလုပ်ကျွေးမှုများ၌စိတ်ပူပန်ခြင်းရှိသဖြင့်
အထံတော်သို့ချဉ်းကပ်၍သခင်။ကျွန်မ၏ညီမသည်ကျွန်မတယောက်
တည်းလုပ်ကျွေးစေခြင်းငှါကျွန်မကိုပြစ်ထားသည်အရာကိုလျစ်လျူ
သောစိတ်ရှိတော်မူသလော။ သူသည်ကျွန်မနှင့်ကူညီလုပ်ကျွေးမည်
၄၁ အကြောင်း။အမိန့်ရှိတော်မူပါဟုလျှောက်လေသော် ယေရှုကမာသ။
၄၂ မာသ။သင်သည်အမှုများတို့၌စိုးရိမ်နှောင့်ရှက်ခြင်းရှိ၏။ လိုသော
အရာတခုတည်းရှိ၏။မာရိကားကောင်းသောအဖို့ကိုရွေးယူပြီး။ထို

၁ အဗ္ဗိကိုအဘာယ်သူမျှမနှုတ်မယူရာဟုမိန့်တော်မူ၏။ ။တရံရော
အခါကိုယ်တော်သည်တစုံတခုသောအရပ်တွင်ဆုတောင်းတော်မူ၍
ပြီးလျှင်တပည့်တော်ကယောက်ကသခင်။ယောဟန်သည်မိမိတပည့်
တို့ဆုတောင်းရအောင်ခ္ဆည်းပေးသကဲ့သို့အကျွန်ုပ်တို့အားခ္ဆည်းပေး
၂ တော်မူပါဟုလျှောက်သော် ကိုယ်တော်ကသင်တို့သည်ဆုတောင်း
သောအခါမှာ။ အဖ။ ကိုယ်တော်၏နာမတော်အားရိုသေလေးမြတ်
၃ ခြင်းရှိပါစေသော။ နိုင်ငံတော်တည်ထောင်ပါစေသော။အသက်မွေး
လောက်သောအစာကိုအကျွန်ုပ်တို့အားနေ့ရက်အစည်အတိုင်ပေးသ
၄ နားတော်မူပါ။သူတပါးသည်အကျွန်ုပ်တို့ကိုပြစ်မှားသောအပြစ်ရှိသမျှ
တို့ကိုအကျွန်ုပ်တို့သည်လွှတ်သောကြောင့်အကျွန်ုပ်တို့၏အပြစ်များ
ကိုလွှတ်တော်မူပါ။ အပြစ်သွေးဆောင်ရာသို့လိုက်စေတော်မမူပါနှင့်
၅ ဟုဆုတောင်းကြလော့ဟုမိန့်တော်မူ၏။ ။တဖန်မိန့်တော်မူ
သည်ကား။ သင်တို့တွင်မည်သည်သူ၌အဆွေခင်ပွန်းရှိသ ဖြစ်၍သန်း
ခေါင်အချိန်မှာထိုအဆွေခင်ပွန်းအိမ်သို့သွား၍ အဆွေ။ မုန့်သုံးလုံး
၆ ချေးပါ။ အဆွေခင်ပွန်းတယောက်သည်ခရီးသွား၍အကျွန်ုပ်ဆီသို့
၇ ရောက်လာပြီး။ အကျွန်ုပ်၌သူကိုကျွေးစရာမရှိပါဟုဆိုသော် အိမ်ရှင်
ကလည်းငါ့ကိုမနှောင့်ရှက်နှင့်။ တံခါးပိတ်လျက်ရှိ၏။ငါ့သားသမီးများငါ
နှင့်အိပ်လျက်ရှိကြ၏။ ငါမထနိုင်။သင်အားမပေးနိုင်ဟုအိမ်ထဲကပြန်
၈ ပြော၏။ ငါဆိုသည်ကား။အဆွေခင်ပွန်းဖြစ်သည်ကိုထောက်၍မထ။
မပေးသော်လည်းကြာကြာတောင်း၍နေသောကြောင့်ထ၍လိုချင်သ
၉ မျှကိုပေးလိမ့်မည်။ တဖန်ငါဆိုသည်ကားတောင်းကြလော့။ တောင်း
လျှင်ရမည်။ ရှာကြလော့။ ရှာလျှင်တွေ့မည်။ တံခါးကိုခေါက်ကြလော့။
၁၀ ခေါက်လျှင်ဖွင့်မည်။ တောင်းသောသူမည်သည်ကားရ၏။ ရှာသော
၁၁ သူလည်းတွေ့၏။ခေါက်သောသူအားလည်းတံခါးဖွင့်၏။ သင်တို့တွင်
အဖဖြစ်သောသူမူကားသားသည်မုန့်ကိုတောင်းလျှင်ကျောက်ကို
ပေးမည်လော။ငါးကိုတောင်းလျှင်ငါးအစား၌မြွေကိုပေးမည်လော။
၁၂ ဥကိုတောင်းလျှင်ကင်းမြီးကောက်ကိုပေးမည်လော။ သင်တို့သည်အ
၁၃ ဆိုးဖြစ်လျက်ပင်ကိုယ်သားတို့အားကောင်းသောအရာကိုပေးတတ်
လျှင်ထိုမျှမကကောင်းကင်ဘုံ၌ရှိတော်မူသောသင်တို့အဖသည်ဆု
တောင်းသောသူတို့အားသန့်ရှင်းသောဝိညာဉ်တော်ကိုသာ၍ပေး
တော်မူမည်မဟုတ်လောဟုမိန့်တော်မူ၏။

❋❋

၁၄ တရံရောအခါ၌ စကားအသောနတ်ဆိုးကိုနှင်ထုတ်တော်မူ၍ နတ်ဆိုး
ထွက်သောနောက် အသောသူသည် စကားပြော၏။ အစုအဝေးတို့
၁၅ သည်လည်း အံ့ဩကြ၏။ အချို့တို့က၊ ထိုသူသည် နတ်ဆိုးမင်းဗေ
၁၆ လဇေဗုလကိုအမှီပြု၍နတ်ဆိုးတို့ကိုနှင်ထုတ်သည်ဟုဆိုကြ၏။ အချို့
တို့သည်လည်းစုံစမ်းနှောင့်ရှက်ခြင်းငှါမိုဃ်းကောင်းကင်၌နိမိတ်လက္ခ
၁၇ ဏာကိုတောင်းကြ၏။ သူတို့စိတ်ကိုသိတော်မူသည်ဖြစ်၍တိုင်းနိုင်
ငံမည်သည်ကား မိမိနှင့် မသင့် မတင့် ကွဲပြားလျှင် ပျက်စီးခြင်းသို့
ရောက်လိမ့်မည်။အိမ်မည်သည်ကားမိမိနှင့်မသင့်မတင့်ကွဲပြားလျှင်
၁၈ လဲလိမ့်မည်။ ငါသည်ဗေလဇေဗုလကိုအမှီပြု၍နတ်ဆိုးတို့ကိုနှင်ထုတ်
သည်ဟုသင်တို့ဆိုသည်အတိုင်း စာတန်သည်မိမိနှင့်မသင့်မတင့်ကွဲ
၁၉ ပြားလျှင်သူ၏နိုင်ငံသည် အဘယ်သို့တည်နိုင်သနည်း။ ငါသည်ဗေ
လဇေဗုလကိုအမှီပြု၍နတ်ဆိုးတို့ကို နှင်ထုတ်သည်မှန်လျှင်သင်တို့၏
သားတို့သည်အဘယ်သူကိုအမှီပြု၍ နှင်ထုတ်ကြသနည်း။ ထိုကြောင့်
၂၀ သူတို့သည်သင်တို့အားတရားစီရင်သောသူဖြစ်ကြလိမ့်မည်။ ငါသည်
ဘုရားသခင်၏တန်ခိုးတော်ကိုအမှီပြု၍နတ်ဆိုးတို့ကိုနှင်ထုတ်သည်
မှန်လျှင်အကယ်၍သင်တို့၌ဘုရားသခင်၏နိုင်ငံတော်တည်ချိန်ရောက်
၂၁ လေပြီ။ သူရဲသည်လက်နက်စုံနှင့်မိမိအိမ်ဦး၌စောင့်နေစဉ်အခါသူ
၂၂ ၏ဥစ္စာများလုံခြုံစွာရှိ၏။ သာ၍စွမ်းနိုင်သောသူသည်လာ၍သူကို
အောင်ပြီးလျှင်သူကိုးစားသောလက်နက်စုံကိုသိမ်းယူ၍ ဥစ္စာပရိက္ခ
၂၃ ရာများကိုခွဲဝေလိမ့်မည်။ ငါဘက်မနေသောသူသည် ငါရန်ဘက်ဖြစ်
၏။ငါနှင့်အတူမစုမသိမ်းသောသူသည်ကြဲဖြန့်သောသူဖြစ်၏။
၂၄ ။ညစ်ညူးသောနတ်သည်လူထဲကထွက်လျှင်ချောက်ကပ်သော
အရပ်တို့၌လည်၍ညိမ်ဝပ်ခြင်းကိုရှာတတ်၏။ မတွေ့မူကား ငါထွက်ခဲ့
၂၅ သောငါနေမြဲအိမ်သို့ငါပြန်ရဦးမည်ဟုဆို၍ရောက်သောအခါထိုအိမ်
၂၆ သည်သုတ်သင်လျက်ဆင်ပြင်လျက်ရှိသည်ကိုတွေ့လျှင်မိမိထက်သာ၍
ညစ်ညူးသောနတ်ဆိုးခုနစ်ယောက်ကိုခေါ်သဖြင့်ထိုလူထဲသို့ဝင်၍နေ
ကြ၏။ထိုလူ၏နောက်ဖြစ်ဟန်သည်ရှေ့ဖြစ်ဟန်ထက်သာ၍ဆိုး၏ဟု
၂၇ မိန့်တော်မူ၏။ ။ထိုသို့မိန့်တော်မူစဉ်မိန်းမတယောက်သည်လူအစု
အဝေးထဲကခေါ်၍ ကိုယ်တော်ကိုလွယ်သောဝမ်း၊ နို့ချိုတော်မူသောသ
၂၈ မြိတ်သည်မင်္ဂလာရှိ၏ဟုဆိုလျှင် ကိုယ်တော်က ထိုမျှမကဘုရားသ

ခင်၏နှုတ် ကပတ်တရား တော်ကိုနာ ၍ကျင့် စောင့်သော သူတို့သည်
၂၉ မင်္ဂလာ ရှိ၏ ဟုမိန့် တော်မူ၏။ ။လူအစုအဝေး တို့သည် ထူထပ်
လျက် ရှိသောအခါ ကိုယ်တော်က ဤလူမျိုး သည်ဆိုး ညစ် သော အမျိုး
ဖြစ် ၏။ နိမိတ်လက္ခဏာ ကိုတောင်း သည်မှာ ယောနခု၏ နိမိတ် လက္ခ
၃၀ ဏာမှတပါးအဘယ်လက္ခဏာ ကိုသူတို့အားမပြရာ။ ယောနခု သည်နိ
နေဝေမြို့သား တို့အားနိမိတ် လက္ခဏာဖြစ်သကဲ့သို့ လူသား သည် ဤ
၃၁ လူမျိုးအားဖြစ်လိမ့်မည်။ တောင်ပြည်ကိုအစိုးရသောမိဘုရားသည်
ဤလူမျိုး ကိုတရား တွေ့ဘက် ပြု၍ အရှုံး ခံစေ လတံ့။ အဘယ် ကြောင့်
ခည်းဟူမူကား။ထိုမိဘုရား သည်ရှောလောမုန်မင်းကြီး ပညာစကား
ကိုနား ထောင် ရအောင် မြေ ကြီးစွန်း မှလာ၏။ ဤအရပ် ၌ကား ရှော
၃၂ လောမုန်ထက်သာ၍ ကြီးမြတ်သော သူရှိ၏။ နိနေဝေမြို့သားတို့သည်
ဤ လူမျိုး ကိုတရား တွေ့ဘက် ပြု၍ အရှုံး ခံစေ လတံ့။ အ ဘယ် ကြောင့်
ခည်းဟူမူကား။ ထိုသူတို့သည် ယောနခု၏ ဒေသနာ ကြောင့် နောင် တရ
၃၃ ကြ၏။ ဤအရပ်၌ကားယောနခုထက်သာ၍ကြီးမြတ်သောသူရှိ၏။ ဆီ
မီးထွန်း၍ကွယ်ရာ၌ဖုံးထားလေ့မရှိ။တောင်း ဇလား အောက်၌လည်း
ထားလေ့မရှိ။ ဝင်လာသောသူ တို့သည်အလင်း ကိုရ အောင် ဆီမီး ခုံအ
၃၄ ပေါ်မှာတင်ထားလေ့ရှိ၏။ ကိုယ်၏ဆီမီးကားမျက်စိတည်း။ထိုကြောင့်
မျက်စိကြည်လင် သော အခါ တ ကိုယ် လုံးလင်း လိမ့် မည်။ မျက်စိ မြွေး
၃၅ ရှက် သောအခါ တကိုယ် လုံး မိုက် လိမ့်မည်။ ကိုယ်၌ ရှိသော အလင်း
၃၆ သည်မှောင်မိုက်မဖြစ်ရအောင်သတိပြုလော့။ အင်္ဂါတခုမျှမမိုက်ဘဲ
တကိုယ်လုံးလင်းလျှင်ဆီမီးအရောင်နှင့်လင်းစေသကဲ့သို့လုံးလုံးလင်း
လျက်ရှိလိမ့်မည်ဟုမိန့်တော်မူ၏။

**

၃၇ ထိုသို့မိန့် တော်မူစဉ် ဖာရိရှဲလူတယောက်သည် အစားကိုသုံးဆောင်
တော်မူစေခြင်း ငှါကိုယ်တော်ကိုခေါ်ပင့်လျှင်သူ၏အိမ်သို့ကြွ၍စားပွဲ
၃၈ ၌ထိုင်တော်မူ၏။ အစားမစား မှီရေနှစ်ခြင်းပြုတော်မမူသည်ကိုဖာ
၃၉ ရိရှဲလူသည်မြင်၍ အံ့သြလေ၏။ ထိုအခါသခင်ဘုရားကဖာရိရှဲလူ
ဖြစ်သောသင် တို့သည် ဖလား။လင်ပန်း အပြင်ကို ဆေး၏။ အတွင်းမူ
၄၀ ကားလုယူခြင်း။ဆိုးညစ်ခြင်းနှင့်ပြည့်လျက် ရှိ၏။ လူမိုက်တို့။အပြင်
ကိုဖန်ဆင်း သော သူ သည် အတွင်း ကိုလည်း ဖန်ဆင်း သည် မဟုတ်
၄၁ လော။ သာ၍ကောင်း သောနည်းမူကား။ တတ်နိုင်သ မျှအတိုင်း ဆင်း

ရဲသား တို့ အား စွန့်ကြဲကြလော့။ သို့ပြုလျှင် ခပ်သိမ်း သော အရာ တို့
၄၂ သည် သင် တို့ အား သန့်ရှင်း လိမ့်မည်။ ဖာရိရှဲ လူတို့။ သင်တို့ သည် အ
မင်္ဂလာ ရှိ၏။ အ ဘယ် ကြောင့် နည်း ဟူမူ ကား။သင်တို့ သည် မိန်လ
ရွက်။ပေဂန်ရွက်မှစ၍မျက်ပင်ရွက်အမျိုးမျိုးကိုဆယ်ဖို့တဖို့လှူကြသည်
ဖြစ်၍ တရားသဖြင့် စီရင်ခြင်း။ ဘုရားသခင်ကိုချစ်ခြင်းအမှုကိုကား
လှပ်ကြ၏။ အရင်ဆိုသော အရာ တို့ကိုမလှပ် ဘဲနောက်ဆိုသောအရာ
၄၃ တို့ကိုကျင့် ရ၏။ ဖာရိရှဲလူတို့။ သင်တို့သည်အမင်္ဂလာရှိ၏။ အဘယ်
ကြောင့်နည်းဟူမူကား။ သင်တို့သည်တရားဇရပ်၌ မြင့်မြတ်သောနေ
ရာထိုင် ရာကိုရှင်ဈေး၌ရှိသေစွာနှုတ်ဆက်ခြင်းကိုရှင်နှစ်သက်ကြ၏။
၄၄ သင်တို့သည် အမင်္ဂလာရှိ၏။ အဘယ် ကြောင့်နည်း ဟူမူကား။သင်တို့
သည်မထင်ရှားသောသင်းဂြိုင်း တွင်းနှင့်တူ၏။ထိုတွင်းအပေါ်မှာသွား
လာ သော သူတို့ သည် သင်း ဂြိုင်းတွင်း ရှိမှန်း မသိဟုမိန့် တော်မူ၏။
၄၅ ။ ။ကျမ်း တတ် တ ယောက် ကလည်း အရှင်ဘုရား။ ထိုသို့ဆို
လျှင် အကျွန်ုပ် တို့ကို ပင်ကဲ့ ရဲ့အပြစ် တင်တော်မူ၏ ဟု လျှောက် လေ
၄၆ သော် ကျမ်း တတ်တို့။ သင်တို့သည် အမင်္ဂလာ ရှိ၏။ အ ဘယ် ကြောင့်
နည်း ဟူမူ ကား။ ထမ်းခဲ သော ဝန် ကိုသင်တို့ သည် သူတပါး အပေါ်မှာ
၄၇ တင်တတ်၏။ မိမိ တို့မူကား လက်ဖျားနှင့် မျှမတို့ကြ။ သင်တို့သည်အ
မင်္ဂလာ ရှိ၏။ အဘယ် ကြောင့် နည်း ဟူမူကား။ သင် တို့ သည် ပရော
ဖက်တို့၏ သင်း ဂြိုင်း များ ကိုတည် လုပ် သည်ဖြစ်၍ သင်တို့ အဖများ
၄၈ သည် သူတို့ ကိုသတ်ကြ၏။ အကယ်၍ သင်တို့သည် ကိုယ်အဖများတို့
၏အပြုအမူ ကိုလက်ခံကြ၏။ အဖများ တို့ကား ပရောဖက် တို့ကိုသတ်
၄၉ ကြပြီး။သင်တို့ကားသင်းဂြိုင်း တို့ကိုတည်လုပ်ကြ၏။ ။ထို
ကြောင့်ဘုရားသခင်ဉာဏ်စီရင်တော်မူသည်ကား။ ပရောဖက်။တ
မန်တော်တို့ကိုသူတို့ဆီသို့ငါ စေလွှတ်မည်။ သူတို့သည်ထိုပရောဖက်။
တမန်တော်အချို့တို့ကိုညှဉ်းဆဲလိမ့်မည်။ အချို့တို့ကိုသတ်လိမ့်မည်။
၅၀ သို့ဖြစ်လျှင်အာဗေလ၏ အသွေး မှစ၍ ယဇ်ပလ္လင်နှင့် အိမ်တော်၏ အ
ကြား၌ သတ်ခဲ့ပြီး သောဇာ ခရိ၏အသွေး တိုင် အောင် ကမ္ဘာဦး မှစ၍
သွန်းပြီး သော ပ ရော ဖက် အပေါင်း တို့၏ အသွေး ကြောင့်ယခုရှိသော
၅၁ လူများ တို့သည်စစ် ကြောခြင်း ကိုခံရကြ၏။ ငါအမှန်ဆိုသည် ကား။
ယခု ရှိသောလူများ တို့သည်ထိုစစ် ကြောခြင်း ကိုခံရကြ၏။ ။
၅၂ ကျမ်းတတ်တို့။ သင်တို့သည်အမင်္ဂလာရှိ၏။ အဘယ်ကြောင့်နည်းဟူမူ

ကား။ သင်တို့သည် ပညာ ဖွင့် သောသော့ ကိုသိမ်း ထား ပြီး။ မိမိ တို့
လည်းမဝင်။ ဝင်လိုသော သူတို့ကိုလည်း ဆီးတားကြ၏ ဟုမိန့်တော်မူ
၅၃ ၏။ ထိုသို့ပရိသဿတ် တို့အား မိန့် တော်မူစဉ်ကျမ်ပြုဆရာ။ဖာရိရှဲလူ
၅၄ တို့သည်ကိုယ်တော်ကိုတရားတွေ့စရာအကြောင်း ရှိရအောင် ချောင်း
မြောင်း၍စကား တော်ကိုဖမ်းခြင်း ငှါရှာကြံ သောအားဖြင့်ကြပ်ကြပ်
တိုက်တွန်း၍ အရာရာတို့၌မေးစစ်ကြ၏။



၁ ထိုအခါ အတိုင်းမသိများ သောလူတို့သည် စုဝေး၍အချင်း ချင်းနင်းမိ
အောင်သိပ်နေသည် ရှိသော်ယေရှုသည် တပည့်တော်တို့အားမိန့်တော်
မူသည်ကား။လျှို့ဝှက်ခြင်းတည်း ဟူသောဖာ ရိရှဲလူတို့၏တဆေး ကို
၂ ရှေဦး စွာကြည့် ရှောင်ကြလော့။ ဖုံးထား လျက်ရှိသ မျှသော အရာတို့
ကို ဖွင့် လိမ့် မည်။ ဆိတ်ကွယ် ရာ ၌ ရှိသ မျှတို့ သည် လည်း ထင်ရှား
၃ လိမ့်မည်။သင်တို့သည် မှောင်မိုက်၌ ပြော သမျှသောအရာများ ကိုသူ
တပါးတို့သည်အလင်း၌ကြား လိမ့်မည်။သင်တို့သည် အခန်းထဲမှာ
နားအပါး၌ ပြော သော အရာများ ကိုအိမ်မိုး ပေါ်မှာ ဟစ် ကျော်လိမ့်
၄ မည်။ ငါ့အဆွေတို့။သင်တို့အား ငါဆိုသည် ကား။ကိုယ်ခန္ဓာကို သတ်
၅ ၍နောက် တဖန် အလျှင်းမပြုနိုင် သော သူတို့ကို မကြောက်ကြနှင့်။ အ
ဘယ်သူကိုကြောက်ရမည်နည်း ဟူမူကား။ကိုယ်ခန္ဓာကိုသတ်ပြီးမှင
ရဲထဲသို့ချနိုင် သော သူကိုကြောက်ကြလော့။ ငါအမှန်ဆိုသည်ကား။ ထို
၆ သူကို ကြောက်ကြလော့။ စာငှက်ငါး ကောင်ကိုအသသ ရိနှစ်ပြား အဖိုး
နှင့်ဝယ်ရသည် မဟုတ်လော။ထိုစာငှက်တကောင်ကိုမျှဘုရားသခင်
၇ မေ့လျော့ တော်မမူ။ သင်တို့ဆံပင် လည်း အကုန် အစင် ရေတွက် လျက်
ရှိ၏။ ထိုကြောင့် မကြောက်ကြနှင့်။ သင်တို့သည် စာငှက် အများ တို့ထ
၈ က်သာ၍ မြတ်ကြ၏။ ။ငါဆိုသည်ကား။ အကြင်သူသည်လူ
တို့ရှေ့ မှာ ငါ ကိုဝန်ခံအံ့။ ဘုရား သခင်၏ ကောင်းကင်တမန် တို့ရှေ့မှာ
၉ လူသား သည်ထိုသူကိုဝန်ခံမည်။ အကြင်သူ သည် လူတို့ရှေ့မှာ ငါကို
ငြင်းပယ်အံ့။ဘုရား သခင်၏ကောင်းကင်တမန်တို့ရှေ့မှာထိုသူကိုငါ
၁၀ ငြင်းပယ်မည်။ လူသားကို နှုတ်ဖြင့်ပြစ်မှားသောသူမည်သည် ကား
အပြစ်လွှတ်သောအ ခွင့်ကိုရနိုင်၏။ သန့်ရှင်းသောဝိညာဉ်တော်ကိုကဲ့
၁၁ ရဲ့သော သူမည်သည်ကားအပြစ်လွှတ်သောအ ခွင့်မရှိနိုင်ရာ။ သင်တို့
ကိုတရား ဇရပ်သို့၎င်အကဲအမှူး။ မင်းများ ရှေ့သို့ ၎င်ပို့ဆောင်ကြသော

၁၂ အခါအဘယ်သို့ပြန်ပြောရမည်ကို မစိုးရိမ်ကြနှင့်။ အကြောင်းမူကား
ထိုခဏတွင်ပင် အဘယ်သို့ပြောရမည့်ကို သန့်ရှင်းသောဝိညာဉ်တော်
၁၃ သည်အကြံပေး မည်ဟုမိန့်တော်မူ၏။ ။လူအစုအဝေး၌ပါ
သောသူ တယောက် ကအရှင်ဘုရား။ ကျွန်တော်အစ်ကိုသည် အမွေ
ဥစ္စာ ကိုကျွန် တော်နှင့် ဝေပါမည် အကြောင်း။ အမိန့်ရှိ တော် မူပါဟု
၁၄ လျှောက်လျှင်ကိုယ်တော်ကအချင်းလူ။အဘယ်သူ သည် သင်တို့အမှု
၁၅ ကိုစီရင်ခွဲဝေသောအ ခွင့်ကိုငါ့အားအပ်ပေးသနည်းဟုမေးတော်မူ၏။
ထိုမှတပါး။လောဘလွန် ကျူးခြင်း ကိုသတိနှင့် ကြည်ရှောင်ကြလော့။
အကြောင်းမူကား။စည်းစိမ်ရှိသော်လည်း၊စည်းစိမ်သည်အသက်ကိုမ
၁၆ စောင့်ရှောက်နိုင်ဟုမိန့်တော်မူ၏။ ။တဖန်ဥပမာစကားကို
၁၇ မိန့်တော်မူသည် ကား။သဌေး တဦး၌မြေကောင်း၍အသီး အနှံများလှ
၏။ထိုသဌေးကငါသည် အအဘယ်သို့ပြုရမည်နည်း။ အသီးအနှံများကို
၁၈ သိုထား စရာ အရပ်မရှိ။ ပြုမည်အကြံမူကား။ငါတိုက်များ ကိုဖျက်၍
ကျယ်သော တိုက် ကိုဆောက်ပြီး မှငါ အသီး အနှံ ဥစ္စာ ရှိသမျှတို့ ကိုသို
၁၉ ထား မည်။ ငါဝိညာဉ်အားလည်းအချင်းဝိညာဉ်။သင်သည်နှစ်ပေါင်း
များစွာသုံးလောက်အောင်များသောဥစ္စာသိုထါးလျက်ရှိပြီး။ငြိမ်ဝပ်
စွာနေတော့။ စားသောက်ခြင်း။ ပျော်မွေ့ခြင်းကိုပြုတော့။ ငါပြောမည်
၂၀ ဟုသဌေး အကြံ ရှိ၏။ ထိုသို့အကြံရှိစဉ်တွင် ဘုရားသခင်ကအချင်း
လူမိုက်။ယနေ့ညဉ့်ပင်သင်၏ဝိညာဉ် ကိုရုတ်သိမ်းရာ အချိန် ရောက်
ပေိမ့်မည်။သို့ဖြစ်၍ သင်သည်ပြင် ဆင်သိုထား သောဥစ္စာကိုအဘယ်
၂၁ သူပိုင် မည် နည်း ဟုသဌေး အား မိန့် တော် မူ၏။ ထိုအ တူ။ ကိုယ်အို့
ဘဏ္ဍာများ ကိုဆည်းဘူး၍ဘုရားသခင်ရှေ့တော်၌ဆင်းရဲသောသူ
မည်သည်ကားထိုသဌေးနှင့်တူသည်ဟုမိန့်တော်မူ၏။

❋❋

၂၂ တဖန်တပည့် တော် တို့အား မိန့်တော်မူ သည်ကား။ ထိုကြောင့်သင်တို့
သည်အအဘယ်သို့စား ရမည်ဟူ၍အသက်အဖို့မစိုးရိမ်ကြနှင့်။အဘယ်
၂၃ သို့ဝ တ်ရမည်ဟူ၍ ကိုယ်အဖို့မစိုး ရိမ်ကြနှင့် ငါဆို၏။ အစား ထက်အ
သက် မြတ်သည် မဟုတ်လော။ အဝတ် ထက် ကိုယ် မြတ်သည် မဟုတ်
၂၄ လော။ကျီးကန်းများ ကိုကြည့်ရှုဆင် ချင်ကြလော့။ ထိုငှက်တို့သည်မျိုး
စေ့ကိုမစိုက် မကြဲ။ စပါးကိုမရိတ်။ စပါး ကျီမရှိ။ ဘဏ္ဍာတိုက်မရှိ၊သို့
သော်လည်း ဘုရားသခင်သည် သူတို့ကိုကျွေး မွေးတော်မူ၏။ ထိုငှက်

၂၅ ထိုထက်သင်တို့သည် အလွန်မြတ်သည်မဟုတ်လော။ အဘယ်သူသည်
စိုးရိမ်ခြင်းအားဖြင့်မိမိအသက်အရွယ်ကို တခုရိပ်မျှတိုးပွားစေနိုင်
၂၆ သနည်း။ ထိုသို့အငယ်ဆုံးသောအမှုကိုမတတ်နိုင်လျှင်ကြွင်းသော
၂၇ အမှုကိုအဘယ်ကြောင့်စိုးရိမ်ကြသနည်း။ နှင်းပင်တို့သည် အဘယ်
သို့သောအားဖြင့်ကြီးပွားသည်ကိုကြည့်ရှုဆင်ခြင်ကြလော့။ ထိုအ
ပင်တို့သည် အလုပ်လည်းမလုပ်။ ချည်ကိုလည်းမငင်မဝင့်။ သို့သော်
လည်းဘုန်းကြီးသောရှောလောမုန်မင်းကြီးအဝတ်သည်ထိုအပင်တ
၂၈ ပင်မျှ၏အဝတ်ကိုမမှီပါဟုငါဆို၏။ ရုံကြည်အားနည်းသောသူတို့။ ယ
နေ့ရှင်လျက်နက်ဖန်မီးဖိုထဲသို့ရောက်သောတောမျက်ပင်ကိုဘုရား
သခင်သည်ထိုသို့သောအဝတ်နှင့်ဖုံးလွှမ်းတော်မူလျှင်ထိုမျှမကသင်
၂၉ တို့ကိုအဝတ်နှင့်ဖုံးလွှမ်းတော်မူမည်မဟုတ်လော။ ထိုကြောင့်အဘယ်
သို့စားရအံ့နည်း။ အဘယ်သို့သောက်ရအံ့နည်းဟူ၍မရှာဖွေကြနှင့်။
၃၀ သောကဖွေနှောက်ခြင်းလည်းမရှိကြနှင့်။ ထိုအရာများကိုလောကီ
သားအမျိုးမျိုးတို့သည်ရှာဖွေတတ်၏။ ထိုအရာများကိုသင်တို့သည်
အသုံးလိုကြောင်းကိုသင်တို့အဖသိတော်မူ၏။ သင်တို့မူကား ဘုရား
၃၁ သခင်၏နိုင်ငံတော်ကိုရှာကြလော့။ နောက်မှထိုအရာများကိုထပ်၍
၃၂ ပေးတော်မူလတ့ံ။ သိုးစုငယ်။ သင်တို့သည်မကြောက်ကြနှင့်။ သင်တို့
၃၃ အားနိုင်ငံကိုပေးခြင်းငှါသင်တို့အဖသည်အလိုရှိတော်မူ၏။ သင်တို့
ဥစ္စာများကိုရောင်း၍ဆင်းရဲသားတို့အားစွန့်ကြဲကြလော့။ မဆွေးမ
ဟောင်းတတ်သောအိပ်တို့ကိုကိုယ်သုံးဘို့လုပ်ကြလော့။ သူခိုးမရော
က်။ ပိုးများမဖျက်ဆီးရာအရပ်။ ကောင်းကင်ဘုံ၌ မကုန်မဆုံးတတ်
၃၄ သောဘဏ္ဍာကိုဆည်းဘူးကြလော့။ အကြောင်းမူကား။ အကြင်အရပ်
၌သင်တို့၏ဘဏ္ဍာရှိ၏။ ထိုအရပ်သို့သင်တို့၏စိတ်နှစ်လုံးရောက်
၃၅ တတ်၏။ ။သင်တို့သည်ခါးပန်းစည်းလျက်ဆီမီးထွန်းလျက်
၃၆ နေ၍ရှင် သခင်သည်မင်္ဂလာဆောင်ပွဲမှရောက်လာ၍တံခါးကိုခေါက်
သောအခါချက်ချင်းဖွင့်ရအောင်သခင်လာမည်ကိုမျှော်လင့်၍နေသော
၃၇ ကျွန်ကဲ့သို့ပြုနေကြလော့။ အကြင်ကျွန်တို့သည်စောင့်နေသည်ကိုသ
ခင်ပြန်လာ၍တွေ့၏။ ထိုကျွန်တို့သည်မင်္ဂလာရှိ၏။ ငါအမှန်ဆိုသည်
ကား။ သခင်သည်ခါးပန်းစည်း၍ကျွန်တို့ကိုစားပွဲ၌ထိုင်နေစေပြီးမှ
ကိုယ်တိုင်လာ၍သူတို့အားလုပ်ကျွေးလိမ့်မည်။ နှစ်ချက်တီးအချိန်

၃၈ ဖြစ်စေ။ သုံးချက်တီးအချိန် ဖြစ် စေ။ သခင် လာ၍ ထိုသို့ တွေ့ လျှင်ထို
၃၉ ကျွန်တို့သည်မင်္ဂလာရှိ၏။ အိမ်ရှင်သည် သူခိုးလာမည့်အချိန်နာရီကို
သိရလျှင် မိမိအိမ် ကိုမထွင်းမဖောက်ရ အောင် စောင့် နေလိမ့်မည့်အ
၄၀ ကြောင်းကိုသင် တို့သိကြ၏။ ထိုကြောင့် သင်တို့သည်ပြင်ဆင်လျက်
နေကြလော့။ အကြောင်းမူကား။ သင်တို့ မထင် သော အချိန် ၌ လူသား
၄၁ လာလိမ့်မည်ဟုမိန့်တော်မူ၏။ ။ပေတရုကလည်း။သခင်။
အကျွန်ုပ် တို့ ကို သာ၍ ဥပမာမိန့် တော် မူ သ လော။ လူအ ပေါင်း တို့ကို
၄၂ မိန့်တော်မူ သလော ဟုလျှောက် လျှင် သခင် ဘုရား က အိမ် ရှင် သည်
မိမိ အိမ်သား တို့ အား အချိန် တန် လျှင် အ စား အသောက် ဝေဖန် စိမ့်
သော ငှါ အအုပ်အ ချုပ် ထား သော။ သစ္စာ နှင့် ဉာဏ်သတိ ပညာ နှင့် ဉာဏ်
၄၃ ပြည့်စုံသောကျွန်ကား အဘယ်သူနည်း။ အကြင်ကျွန်သည် ဤသို့ပြုနေ
၄၄ သည်ကိုအရှင်သည်ပြန်လာ၍တွေ့၏။ ထိုကျွန်သည်မင်္ဂလာရှိ၏။ ငါအ
မှန်ဆိုသည်ကား။ အရှင်သည်မိမိဥစ္စာရှိသမျှတို့ကိုထိုကျွန်၌အပ်လိမ့်
၄၅ မည်။ သို့မဟုတ် မူကား။ အကြင်ကျွန် ကငါ အရှင် လာ ခဲ့သည် ဟုစိတ်
ထဲ၌အောင်း မေ့လျက်ကျွန်ချင်း ယောကျ်ားမိန်းမတို့ကိုရိုက်ပုတ်၍ စား
၄၆ သောက်ရစ် မူး၍နေ၏။ ထိုကျွန်မကြည့် မျှော် သော နေ့ ရက်။ မသိမ
ကြား သော အချိန်နာရီ၌ သခင်ရောက်လာလျှင် သူကိုပြင်းပြစွာဆုံးမ
၄၇ ကွပ်မျက်၍သစ္စာမရှိသော သူတို့ နှင့်တကွနေရာချလတံ့။ အကြင် ကျွန်
သည် မိမိ သခင် အလိုကို သိလျက် နှင့် အသင့် မနေ။ သခင်အလို ကိုမ
၄၈ ဆောင်။ ထိုကျွန်သည်များ စွာသော ဒဏ်ကိုခံရ၏။ သခင်အလိုကိုမ
သိဘဲလျက်ဒဏ်ခံထိုက်သောအမှုကိုပြု မိသော သူသည်ကား အနည်း
ငယ်သောဒဏ် ကိုသာ ခံရ၏။ အကြင်သူသည်များသော ကျေးဇူးကိုခံ
၏။ ထိုသူသည်အများကိုဆပ်ရ၏။ အကြင်သူ၌များသောဥစ္စာကိုအပ်
၄၉ နှင်း၏။ ထိုသူကိုများများ တောင်းလိမ့်မည်။ ။မြေပေါ်၌မီး
လောင် စေခြင်းငှါ ငါလာသတည်း။ ထိုမီးမည်သို့မှို တိုင်အောင် ငါအလိုမ
၅၀ ပြည့်စုံ။ နှစ်ခြင်း တ ခုကိုလည်း ငါခံစရာ ရှိ၏။ ထိုနှစ်ခြင်း ကိုမခံမှီတိုင်
၅၁ အောင်ငါ သည်အလွန် ညှိုးငွေ့ သောစိတ်ရှိ၏။ မြေပေါ်၌ငြိမ်သက်
ခြင်း ကိုပေး ခြင်း ငှါငါလာသည်ဟုထင်ကြသလော။ ထိုသို့သောအလို
ငှါငါလာသည်မဟုတ်။ အချင်းချင်း ကွဲပြားစေခြင်း ငှါငါလာသည်ဟု
၅၂ ငါဆို၏။ အဘယ်သို့ နည်း ဟူမူကား။ ယခု မှစ၍ အိမ်တ ဆောင် ၌နေ

သော လူငါး ယောက် တို့သည် နှစ်ယောက် တရု။ သုံး ယောက် တရုအ
၅၃ ချင်း ချင်းကွဲပြား လိမ့်မည်။ အဖနှင့်သား။ အမိနှင့်သမီး။ ယောက္ခမနှင့်
ချွေး မအချင်းချင်းကွဲပြားလိမ့်မည်ဟုမိန့်တော်မူ၏။

❋❋

၅၄ တဖန် လူအရုအဝေး တို့အား မိန့် တော်မူ သည် ကား။ သင်တို့သည်အ
နောက်မျက်နှာ၌မိုဃ်းရိပ် တက်သည် ကို မြင်သောအခါမိုဃ်း ရွာမည်
၅၅ ဟုချက်ချင်းဆိုတတ်၏။ ဆိုသည်အတိုင်းလည်း ဖြစ်တတ်၏။ တောင်
လေလာ သည် ကိုမြင် သော အခါ နေပူမည် ဟုဆိုတတ်၏။ ဆိုသည် အ
၅၆ တိုင်းလည်းဖြစ်တတ်၏။ လျှို့ဝှက်သော သူတို့။ သင်တို့သည်မိုဃ်းကော
င်းကင်၏ မျက်နှာကိုပိုင်း ချား၍သိနိုင်ကြ၏။ ယခုကပ်ကာ လကိုအဘ
၅၇ ယ်ကြောင့်ပိုင်းချား မသိနိုင်ကြသနည်း။ ထိုမှတပါး။ ဖြောင့်မတ်ခြင်း
၅၈ တရားကိုအ ဘယ် ကြောင့် အလို လိုပိုင်းချား မသိကြ သနည်း။ သင်
သည် တရား တွေ့ ဘက် နှင့် အကျမင်း ထံသို့သွား သောအခါ အမှုပြေ
အောင်လမ်း၌ကျိုး စားလော့။ သို့မဟုတ်။ တရားတွေ့ ဘက်သည်တရား
သူကြီး ရှေ့သို့ဆွဲမည်။ တရား သူကြီး သည် လုလင်ခေါင်း ၌ အပ်မည်။
လုလင် ခေါင်းသည်လည်း ထောင် ထဲ ၌လှောင်ထား မည်။ ရော်ပြစ်ငွေ
၅၉ ရှိသမျှကို မရော်မှီတိုင်အောင် ထောင်ထဲက မထွက် ရငါဆိုသည်ဟု
၁ မိန့်တော်မူ၏။ ။ထိုအခါ လူအချို့ တို့သည် လာ၍ပိလတ်
မင်း သည်ဂါလိလဲလူ အချို့ တို့၏ အသွေး ကိုမိမိ တို့ပူဇော်သော ယဇ်
၂ ကောင်တို့နှင့်ရော နှောကြောင်း ကိုလျှောက်လျှင် ယေရှုကထိုဂါလိလဲ
လူတို့သည် ထို သို့ခံသောကြောင့်ဂါလိလဲလူ အပေါင်း တို့ထက် သာ၍
၃ ဆိုးသည် ဟုသင် တို့ထင်သလော။ သာ၍ ဆိုး သည်မဟုတ်။ သင်တို့
အားလုံး သည် လည်း နောင်တမရ လျှင်ပျက်စီး ခြင်းသို့ရောက် လိမ့်
၄ မည်ငါဆို၏။ ထိုမှ တပါး။ ရှိလောင်မြို့ဦး လဲ၍ပိသော သူတကျိပ်ရှစ်
ယောက်တို့သည်ယေရုရှလင်မြို့သားအပေါင်း တို့ထက်သာ၍ဆိုးသည်
၅ ဟုသင် တို့ ထင်သ လော။ သာ၍ဆိုးသည် မဟုတ်။ သင် တို့ အား လုံး
သည်လည်း နောင်တမရလျှင် ပျက်စီးခြင်း သို့ရောက် လိမ့်မည် ငါဆို
၆ သည်ဟုမိန့်တော်မူ၏။ ။တဖန်ဥပမာကိုမိန့်တော်မူသည်
ကား။ လူတယောက်သည်ဥယျာဉ်၌စိုက်သော သင်္ဘောသဖန်းပင်တပင်ရှိ၏။ ထို
၇ အပင် ဆီသို့လာ သဖြင့်အသီးကိုရှာ၍မတွေ့။ ထိုအခါဥယျာဉ်စောင့်
အားလည်း သုံးနှစ်ပတ်လုံး ဤသဖန်း ပင်ဆီသို့ငါ လာသဖြင့် အသီးကို

ရှာ၍ မတွေ့မရ။ ခုတ်ပြစ်လိုက်ပါ။ အဘယ်ကြောင့် မြေကိုနှောင့်ရှက်ရ
၈ သနည်းဟုဆိုလေသော် ဥယျာဉ်စောင့်ကသခင်။ ယခုနှစ်ရှိပါစေဦး။ ကျွန်
၉ တော်သည်အပင်ခြား ပတ်လည်တူးဆွ၍ နောက်ချေးကိုဖို့ပါမည်။ အ
သီးသီးကောင်းသီးလိမ့်မည်။ သို့မဟုတ်။ နောက်မှခုတ်ပြစ်တော်မူပါ
၁၀ ဟုဆိုလေသည်ဟုမိန့်တော်မူ၏။ ။တနေ့သောဥပုသ်နေ့၌
၁၁ ယေရှုသည်တရားဇရပ်တွင်ဆုံးမဩဝါဒပေးတော်မူစဉ် တဆယ်ရှစ်
၁၂ နှစ်ပတ်လုံးရောဂါဖြစ်စေသော နတ်စွဲသောမိန်းမ တယောက်ရှိ၏။ ထို
မိန်းမသည် ကြောကုန်း၍ကိုယ်ကိုအလျှင်း မဆန့်နိုင်။ ယေရှုသည်ထို
မိန်းမကိုမြင်တော်မူလျှင် အထံတော်သို့ခေါ်၍အချင်း မိန်းမ။သင်သည်အ
၁၃ နာရောဂါနှင့်လွတ်၏ဟုမိန့်တော်မူ၍ သူ့အပေါ်မှာလက်တော်ကိုတင်
တော်မူသဖြင့် သူသည် ချက်ချင်း တည့်မတ်ခြင်း သို့ရောက်၍ဘုရား
၁၄ သခင်ဂုဏ်တော်ကိုချီးမွမ်းလေ၏။ ထိုသို့ဥပုသ်နေ့၌ ယေရှုသည်အ
နာရောဂါကိုငြိမ်းစေတော်မူသော့ကြောင့်တရားဇရပ်မှူးအမျက်ထွ
က်၍အလုပ်လုပ်ရသော နေ့ရက်ခြောက်ရက်ရှိ၏။ ထိုနေ့ရက်တွင်လာ
၍အနာရောဂါငြိမ်းခြင်းကိုခံကြလော့။ဥပုသ်နေ့၌ မလာမခံကြနှင့်ဟု
၁၅ ပရိသတ်တို့ အားဆို၏။ သခင်ဘုရား ကလည်း လျှို့ဝှက်သော သူ။
သင်တို့အားလုံးသည်ဥပုသ် နေ့၌မြင်းနွားကိုတင်းကုတ်မှထုတ်၍ရေ
၁၆ တိုက်ခြင်းငှါဆောင်သွားသည်မဟုတ်လော။ တဆယ်ရှစ်နှစ်ပတ်လုံး
စာတန်ချည်နှောင်သော။အာဗြဟံ၏သမီး ဖြစ်သော ဤမိန်းမကိုဤချည်
နှောင်ခြင်းမှဥပုသ် နေ့၌မလွှတ်ရသလောဟုမိန့်တော်မူ၏။ထိုသို့မိန့်
၁၇ တော်မူပြီးမှရန်ဘက် ခဲသော သူအားလုံးတို့သည်ရှက်ကြောက်ခြင်း
ရှိ၍ ပြုတော်မူသောအံ့ဘွယ်သရဲများ တို့ကိုလူအပေါင်းတို့သည်နှစ်
သက်ဝမ်းမြောက်ကြ၏။



၁၈ တဖန်မိန့်တော်မူသည်ကား။ဘုရားသခင်၏နိုင်ငံတော်သည် အဘာနှင့်
၁၉ တူသနည်း။ အဘယ်သို့ပုံပြ ရအံ့နည်း။ လူယူ၍ဥယျာဉ်၌ စိုက်သော
မုံညင်း စေ့နှင့်တူ၏။ ထိုအစေ့သည်ကြီးပွား၍အပင်ကြီး ဖြစ်လေ၏။
မိုဃ်းကောင်းကင်ငှက်တို့သည်လည်းအကိုင်းအခက်တို့၌နား နေမှီခိုကြ
၂၀ ၏ဟုမိန့် တော်မူ၏။ တဖန်မိန့်တော်မူသည်ကား။ ဘုရားသခင်၏ နိုင်
၂၁ ငံတော်ကိုအဘယ် သို့ပုံပြရအံ့နည်း။ မိန်းမတယောက်သည်တဆေးကို
ယူ၍မုန့်ညက်သုံးတင်း၌ထည့်ပြီးမှမုန့်ညက် အားလုံးကိုဖောင်းကြွ

၂၂ စေတတ်သော တဆေးနှင့်တူသည် ဟုမိန့်တော်မူ၏။ ။ထိုအ
ခါယေရှုသည် မြို့ရွာ တို့ ကိုဒေသစာရီကြွလျက်ဆု မွန်ဩဝါဒပေး လျက်
၂၃ ယေရု ရှလင်မြို့သို့ခရီးသွားတော်မူ၏။ လူတဦးကလည်းသခင်။ကယ်
တင်ခြင်းသို့ရောက်သော သူတို့သည် များသလော။နည်းသလောဟုမေး
၂၄ လျှောက်လျှင် ကျည်းမြောင်း သောတံခါးဝသို့ဝင်ရအောင်ကျိုးစား
အားထုတ်ကြလော့။ အကြောင်း မူကား။ အများ သော သူတို့ သည်ဝင်
၂၅ ခြင်း ငှါအလို ရှိသော်လည်း မစွမ်းနိုင်ငါဆို၏။ အိမ်ရှင်သည်တခါထ
၍တံခါးကိုပိတ်ပြီးမှသင်တို့သည်ပြင်၌ရပ်၍တံခါးကိုခေါက်လျက်သ
ခင်။သခင်။အကျွန်ုပ်တို့အား ဖွင့်ပါဟုတောင်း လျှောက်သော်လည်းသ
ခင်ကသင်တို့သည် အဘယ်ဆီကလာ သည် ကိုငါမသိဟုပြန်ပြောလိမ့်
၂၆ မည်။ ထိုအခါသင်တို့လည်းအကျွန်ုပ်တို့သည်အထံတော်၌စားသောက်
ပါပြီး။အကျွန်ုပ်တို့နေသောမြို့ရွာ ၌ ကိုယ်တော်သည်ဆု မွန်ဩဝါဒပေး
၂၇ တော်မူပြီးဟုလျှောက်ပြန်သော်လည်း သခင်ကသင်တို့သည်အဘယ်
ဆီကလာသည် ကိုငါမသိ ငါဆိုပြီး။ မတရား သောအမှုကို ပြုသောသူ
၂၈ အားလုံးတို့။ငါ့ထံမှဖယ်သွားကြဟုပြောလိမ့်မည်။ ထိုအခါအာဗြဟံ။
ဣဇာက်။ယာကုပ်မှစသောပ ရောဖက် အပေါင်း တို့သည် ဘုရား သ
ခင်နိုင်ငံ တော်ထဲသို့ဝင်၍ သင်တို့ သည် ပြင်သို့ နှင်ထုတ်ခြင်း ကိုခံရ
၂၉ သောအခါငိုကြွေး ခြင်း။ အံသွား ခဲကြိတ်ခြင်း ရှိလတ့်။ ထိုအခါအရှေ့
အနောက်တောင်မြောက်အရပ်လေးမျက်နှာကလာ၍ဘုရားသခင်နိုင်ငံ
၃၀ ထဲတွင်ကျေးမွေး ခြင်း ကိုခံရကြလတ့်။ နောက် ကျသော သူအချို့တို့
သည်အရင် ကျလိမ့် မည်။ အရင်ကျသောသူ အချို့ တို့သည် နောက်ကျ
၃၁ လိမ့်မည်ဟုမိန့်တော်မူ၏။ ။ထိုအခါ ဖာရိ ရှဲလူ အချို့တို့သည်
အထံတော်သို့လာ ၍ ဤအရပ်မှထွက်သွားပါ။ ဟေရုဒ်မင်းသည်ကိုယ်
တော်ကိုသတ်မည်အကြံရှိပါ၏ဟုလျှောက်ကြလျှင်ကိုယ်တော်ကသင်
၃၂ တို့သွားကြလော။ ယနေ့။နက်ဖန်နေ့။ နတ်ဆိုး တို့ကိုငါနှင်ထုတ်၏။အ
နာရောဂါကို ညီမ်းစေ၏။ သုံးရက် မြောက် သောနေ့ ၌ စုံလင်ခြင်းသို့
၃၃ ရောက်မည်အရာကို ထိုတောခွေးအား ပြောကြလော။ သို့သော်လည်း
ယနေ့။နက်ဖန်နေ့။သံဘက်နေ့ ၌ ငါးသွား ရသေး၏။ အဘယ်ကြောင့်
နည်းဟူမူကား။ယေရု ရှလင်မြို့ပြင်မှာ မည်သည် ပရောဖက်မဆုံးဖြစ်
၃၄ ရာ။ အိုယေရု ရှလင်မြို့။ယေရု ရှလင်မြို့။သင်သည်ပရောဖက်တို့ကိုသတ်
မြဲရှိ၏။ သင်ဆီသို့စေလိုက် သောသူတို့ကိုလည်း ကျောက်ခဲ နှင့်ပြစ်မြဲ

ရှိ၏။ကြွက်မသည်မိမိသားငယ်တို့ကိုမိမိအတောင်အောက်၌စုရုံးသ
ကဲ့သို့သင်၏သားတို့ကိုစုရုံးခြင်းငှါကြိမ်ဖန်များစွာငါအလိုရှိခဲ့ပြီး။
၃၅ သင်မူကားအလိုမရှိ။ သင်တို့နေရာအရပ်သည်လူဆိတ်ညံ့ရာအရပ်
ဖြစ်လိမ့်မည်။ငါဆိုသည်ကား။ထာဝရဘုရား၏အခွင့်နှင့်ကြွလာ
သောသူအားမင်္ဂလာဖြစ်စေသောဟုသင်တို့မပြောမှီတိုင်အောင်ယခု
မှစ၍သင်တို့သည်ငါမျက်နှာကိုမမြင်ရဟုမိန့်တော်မူ၏။

**

၁ တနေ့သောဥပုသ်နေ့၌ကိုယ်တော်သည်အစားကိုသုံးဆောင်ခြင်းငှါ
အရာရှိ။ဖာရိရှဲလူတယောက်၏အိမ်သို့ဝင်တော်မူ၍ ထိုသူတို့သည်
၂ ကိုယ်တော်ကိုချောင်းကြည့်ကြ၏။ ရေဖျဉ်းနာစွဲသောသူတယောက်
၃ သည်ရှေ့တော်၌ရှိ၏။ဥပုသ်နေ့၌အနာရောဂါကိုငြိမ်းစေအပ်သလော
၄ ဟုဖာရိရှဲလူ။ ကျမ်းတတ်တို့ကိုမေးတော်မူလျှင် သူတို့သည်တိတ်
တိတ်နေကြ၏။ ယေရှုသည်ထိုလူကိုယူ၍အနာရောဂါနှင့်ကင်းလွတ်
၅ စေပြီးမှသူကိုလွှတ်လိုက်တော်မူ၏။ ပရိသတ်တို့ကိုလည်း သင်တို့
မြင်းနွားသည်ဥပုသ်နေ့၌တွင်းထဲသို့ကျလျှင်ချက်ချင်းဆွဲတင်မည်မ
၆ ဟုတ်လောဟုမေးတော်မူလျှင် သူတို့သည်စကားတခွန်းကိုမျှမပြန်
၇ နိုင်ကြ။ ။ထိုအခါခေါ်ဖိတ်သောသူတို့သည်မြင့်မြတ်သောနေ
ရာထိုင်ရာကိုရွေးကြသည်ကိုမြင်တော်မူလျှင်သူတို့အားဥပမာကို
၈ မိန့်တော်မူသည်ကား။ သူတပါးသည်မင်္ဂလာဆောင်ပွဲသို့သင်ကို
ခေါ်ဖိတ်သောအခါမြင့်မြတ်သောနေရာ၌မထိုင်နှင့်။ထိုသို့ထိုင်လျှင်
၉ သင်ထက်သာ၍မြတ်သောသူသည်ခေါ်ဖိတ်၍လာသည်ရှိသော် နှစ်
ယောက်စလုံးကိုခေါ်ဖိတ်သောသူကဤသူအားနေရာကိုပေးတော့ဟု
သင်ဆီသို့လာ၍ပြောလိမ့်မည်။ထိုအခါသင်သည်ရှက်ကြောက်ခြင်း
၁၀ နှင့်နိမ့်သောနေရာသို့ရွှေ့ရတော့မည်။ သူတပါးတို့သည်သင်ကိုခေါ်
ဖိတ်သောအခါသွား၍နိမ့်သောနေရာ၌ထိုင်နေလော့။ထိုသို့ပြုလျှင်
သင်ကိုခေါ်ဖိတ်သောသူလာသည်ရှိသော် အဆွေ။ တက်ပါဟုသင်
ကိုဆိုလိမ့်မည်။ ထိုအခါသင်နှင့်အတူထိုင်နေသောသူတို့ရှေ့မှာ
၁၁ သင်အသရေထင်ရှားလိမ့်မည်။ ကိုယ်ကိုကိုယ်ချီးမြှောက်သောသူ
မည်သည်ကားနှိမ့်ချခြင်းသို့ရောက်လတံ့။ ကိုယ်ကိုကိုယ်နှိမ့်ချသော
သူမည်သည်ကားချီးမြှောက်ခြင်းသို့ရောက်လတံ့ဟုမိန့်တော်မူ၏။
၁၂ ။ကိုယ်တော်ကိုခေါ်ပင့်သောသူအားတဖန်မိန့်တော်မူသည်

ကား။သင်သည်နံနက်စာ။ညစာကိုလုပ်ကျွေး သောအခါ အဆွေခင်
ပွန်း။ညီအစ်ကို။အမျိုးသားချင်း။ငွေရတတ်သောအိမ်နီးချင်းများကို
မခေါ်မဖိတ်နှင့်။သို့မပြုတတ်။သူတို့သည်နောက်တဖန်သင်ကိုခေါ်ဖိတ်၍
၁၃ ကျေးဇူးဆပ်လိမ့်မည်။ သင်သည်ပွဲလုပ်သောအခါဆင်းရဲသောသူ။
အင်္ဂါချို့တဲ့ သောသူ။ ခြေဆွံ့သောသူ။ မျက်စိကန်း သောသူများ ကိုခေါ်
၁၄ ဖိတ်လော့။ ထိုသို့ပြုလျှင်မင်္ဂလာရှိလိမ့်မည်။အဘယ်ကြောင့်နည်းဟူ
မူကား။ထိုသူတို့သည်ကျေးဇူး မဆပ်နိုင်သည်ဖြစ်၍ဖြောင့်မတ်သော
သူတို့သည်ထမြောက်သည်ကာလသင်သည်ကျေးဇူးဆပ်ခြင်းအကျိုး
၁၅ ကိုရလတံ့ဟုမိန့်တော်မူ၏။ ။စားပွဲ၌ ထိုင်နေသောသူတ
ယောက်သည်ထိုစကားတော်ကိုကြားလျှင်ဘုရားသခင်နိုင်ငံတော်၌
၁၆ ပွဲဝင်သောသူသည် မင်္ဂလာရှိ၏ဟုလျှောက် လေသော် ကိုယ်တော်
၁၇ ကလူတဦးသည်ပွဲကြီးကိုလုပ်၍များ သောသူကိုခေါ်ဖိတ်လေ၏။ ပွဲ
ချိန် ရောက် သော အခါခေါ် ဖိတ် သော သူတို့ကိုလာကြပါ။အား လုံး တို့
၁၈ သည်အသင့်ရှိပြီးဟုမှာ၍ အစေ အပါကို စေလိုက်၏။ ခေါ်အပ်သော
သူအား လုံး တို့သည် တညီ တညွတ် တည်း ပရိယာယ် ပြုကြ၏။ တ
ယောက်ကအကျွန်ုပ်သည်မြေရာ ကိုဝယ်ပါပြီး။သွား၍ကြည့်ရမည်။
၁၉ အကျွန်ုပ်ကိုလွှတ်ပါဦး တော့ ဟုတောင်း ပန်လေ၏။ တယောက်ကအ
ကျွန်ုပ်သည်နွားငါးရှည်ကိုဝယ်ပါပြီး။သွား၍စမ်ရမည်။အကျွန်ုပ်ကို
၂၀ လွှတ်ပါဦး တော့ ဟုတောင်း ပန်လေ၏။ တယောက်က အကျွန်ုပ်သည်
မယားနှင့်လက်ထပ်ပါပြီး။ထိုကြောင့် အကျွန်ုပ်မသွား နိုင်ပါဟုဆို၏။
၂၁ ထိုအစေအပါသည်သခင်ဆီသို့ပြန်လာ၍ထိုအကြောင်းများကိုလျှောက်
လေ၏။ထိုအခါအိမ်ရှင်သည် အမျက်ထွက်၍မြို့၏လမ်းမလမ်းကြားသို့
အသော့သွားချေ။ဆင်းရဲသောသူ။ အင်္ဂါချို့တဲ့ သောသူ။ ခြေဆွံ့ သော
သူ။မျက်စိကန်း သောသူများ ကိုခေါ်သွင်း ချေဟုအစေ အပါကိုဆို၏။
၂၂ အစေအပါကလည်း သခင်။ စီရင် တော်မူသည် အတိုင်းပြုပါပြီး။ သို့
သော်လည်း လပ်သောနေရာ ထိုင်ရာ ရှိပါသေးသည် ဟုလျှောက် လေ
၂၃ သော်သခင်ကမြို့ပြင်။လမ်းမ။ခြံနားဆီသို့သွားဦးတော့။အနိုင်အထက်
၂၄ ပြု၍ ငါအိမ် အပြည့် ခေါ်သွင်း တော့။ အထက် ကခေါ် ဖိတ်သော သူတ
ယောက်မျှငါပွဲ သို့မဝင်ရငါအမိန့် ရှိ၏ ဟုအစေ အပါ ကိုဆိုသည် ဟု
မိန့်တော်မူ၏။

❋❋

၂၅ လူများအပေါင်းတို့သည်နောက်တော်သို့လိုက်ကြသည်ကိုယေရှုလှည့်
၂၆ ကြည့်တော်မူလျှင် အကြင်သူသည်ငါထံသို့လာ၍မိဘ။သားမယား။
ညီအစ်ကို။နှမတို့ကိုငှင်ထိုမျှမကမိမိအသက်ကိုငှင်မမုန်းဘဲနေ၏၊
၂၇ ထိုသူသည်ငါ့တပည့်မဖြစ်နိုင်ရာ။ အကြင်သူသည်မိမိလက်ဝါးကပ်
တိုင်ကိုထမ်း၍ငါ့နောက်သို့မလိုက်။ထိုသူသည်ငါ့တပည့်မဖြစ်နိုင်ရာ။
၂၈ သင်တို့တွင်အဘယ်သူသည်တိုက်ကိုတည်မည်အကြံရှိလေသော်ထို
တိုက်ပြီးအောင်ငွေလောက်မည်။မလောက်မည်ကိုသိခြင်းငှါရှေ့ဦးစွာ
၂၉ ထိုင်၍ကုန်စရိတ်ကိုမချင့်တွက်သနည်း။ သို့မဟုတ်။တိုက်မြစ်ကို
၃၀ တည်၍တိုက်ကိုမပြီးနိုင်လျှင်သိမြင်သောသူအားလုံးတို့က ဤသူသည်
၃၁ တည်စပြု၍အစမသတ်နိုင်ဟုကဲ့ရဲ့လိမ့်မည်။ တနည်းကား။အဘယ်
ရှင်ဘုရင်သည်အချားရှင်ဘုရင်နှင့်စစ်ပြိုင်မည်အကြံရှိလေသော်လူ
နှစ်သောင်းနှင့်ချီလာသောရှင်ဘုရင်ကိုလူတသောင်းနှင့်ခံနိုင်သည်။
၃၂ မခံနိုင်သည်ကိုရှေ့ဦးစွာထိုင်၍မဆင်ချင်သနည်း။ မခံနိုင်သည်မှန်
လျှင်အချားရှင်ဘုရင်သည်ဝေးသေးသောအခါသံတမန်ကိုလွှတ်၍
၃၃ စစ်ငြိမ်းမည်အကြောင်းတောင်းပန်တတ်သည်မဟုတ်လော။ ထိုနည်း
တူ။သင်တို့တွင်အကြင်သူသည်မိမိ၌ရှိသမျှတို့ကိုမစွန့်ဘဲနေ၏။ထို
၃၄ သူသည်ငါ့တပည့်မဖြစ်နိုင်ရာ။ ဆားမူကားကောင်း၏။သို့သော်
ဆားသည်အငန်ကင်းပျောက်လျှင်ဝန်သောအရသာကိုအဘယ်သို့ရပြန်
၃၅ မည်နည်း။ မြေဘို့မကောင်း။အမှိုက်ပုံဘို့မကောင်း။ထိုဆားကိုပြင်သို့
ပြစ်လိုက်တတ်၏။ ကြားစရာနားရှိသောသူမည်သည်ကားကြားပါ
၁ လေစေဟုမိန့်တော်မူ၏။ ။အခွန်ခံသောသူတို့နှင့်ဆိုးသော
သူအပေါင်းတို့သည်နားထောင်ရအောင်အထံတော်သို့ချဉ်းကပ်
၂ သည်ဖြစ်၍ ဖာရိရှဲလူ။ကျမ်းပြုဆရာတို့က ဤသူသည်ဆိုးသောသူ
တို့ကိုလက်ခံ၍သူတို့နှင့်အတူစားသည်တကားဟုကဲ့ရဲ့အပြစ်တင်ကြ
၃ ၏။ ထိုအခါဥပမာစကားကိုမိန့်တော်မူသည်ကား။ သင်တို့တွင်အ
၄ ဘယ်သူသည်သိုးတရာရှိ၍ သိုးတကောင်ပျောက်လျှင်ကိုးဆယ်ကိုး
ကောင်သောသိုးကိုတောၐထားရစ်သဖြင့်ပျောက်သောသိုးတကောင်
၅ ကိုမတွေ့မှီတိုင်အောင်သွား၍မရှာသနည်း။ တွေ့ပြီးလျှင်ဝမ်းမြောက်
၆ သောစိတ်နှင့်ပခုံးပေါ်မှာတင်ထမ်း၍ မိမိအိမ်သို့ရောက်သောအခါအ
ဆွေခင်ပွန်း။အိမ်နီးချင်းများကိုခေါ်၍ ပျောက်သောသိုးကိုငါတွေ့
၇ ပြီး။ငါနှင့်အတူဝမ်းမြောက်ကြလေဟုဆိုတတ်သည်မဟုတ်လော။ ထို

ထိုနည်းတူ။ ဖြောင့်မတ်၍ နောင်တရ စရာအကြောင်း မရှိသော သူကိုး
ဆယ်ကိုးယောက်တို့ ၌ ကောင်းကင်သားတို့သည်ဝမ်းမြောက်သည်
ထက်ဆိုး သော သူတယောက်သည် နောင်တရသည် ကိုသာ ၍ ဝမ်း
၈ မြောက်ခြင်းရှိသည်ဟုငါဆို၏။ ။တနည်းကား။အဘယ်မိန်းမ
သည်ငွေဆယ်ပြားရှိ၍ တပြားပျောက်လျှင်ဆီမီးကိုထွန်း၍မတွေ့မှီ
၉ တိုင်အောင်တအိမ်လုံးကိုလှဲ၍ စေ့စေ့မရှာသနည်း။ တွေ့ပြီး လျှင်အ
ဆွေခင်ပွန်း။အိမ်နီးချင်းများကိုခေါ်၍ပျောက်သောငွေကိုငါတွေ့ပြီး။
၁၀ ငါနှင့်အတူဝမ်းမြောက်ကြလေဟုဆိုတတ်သည်မဟုတ်လော။ ထိုနည်း
တူ။ဆိုးသောသူတယောက်သည်နောင်တရသည်ကိုဘုရားသခင်၏
ကောင်းကင်တမန် တို့သည်ဝမ်းမြောက်ခြင်းရှိသည်ဟုငါဆို၏ ဟုမိန့်
တော်မူ၏။

**

၁၁ တဖန်မိန့် တော်မူသည် ကား။ တစုံတ ယောက် သော သူ ၌ သား နှစ်
၁၂ ယောက်ရှိ၏။ သား အငယ်သည် အဖဆီသို့သွား၍ အဖ။ အမွေဥစ္စာ
ကိုဝေ၍ အကျွန်ုပ် ရထိုက်သော အဖို့ကိုပေးပါဟုတောင်းပန်လျှင်အဖ
၁၃ သည်ဥစ္စာများကိုဝေ၍သားတို့အားပေးလေ၏။ ထိုနောက်များမကြာ။
သား အငယ် သည် မိမိ ဥစ္စာ များ ကိုသိမ်း ယူ၍ ဝေး စွာသော ပြည်သို့
သွားပြီး လျှင်ထိုပြည် မှာကာမဂုဏ်၌ လွန်းကျူး၍ ဥစ္စာ ပြုန်း တီး၏။
၁၄ ရှိသမျှ ကုန်သောအခါ ထိုပြည် ၌ ကြီး စွာ သော အစာခေါင်း ပါးခြင်း
၁၅ ဖြစ်၍ သူသည် အလွန်ဆင်းရဲ ခြင်း သို့ရောက်၏။ ထိုအခါ ပြည်သား
တယောက်ဆီသို့သွား၍အစေခံလျှင် ဝက်တို့ကိုကျောင်းစေခြင်းငှါသူ
၁၆ သခင်သည် သူကိုတောဆီသို့စေလိုက်၏။ ဝက်စားသောဖွဲကိုပင်စား
ချင်သည် တိုင် အောင်ငတ် မွတ် လျက်နေ၏။ အဘယ် သူမျှအစားကိုမ
၁၇ ကျွေး။ ထိုအခါသတိရလျှင်ငါ့အဖ၏ အိမ် ၌ အခစား သော သူအများ
တို့သည်ဝအောင်စားရကြ၏။ ငါမူကား ဤပြည် ၌ သေအောင်အငတ်ခံ
၁၈ ရ၏။ ငါထ၍အဖဆီသို့သွား မည်။အဖ။ ကျွန်တော်သည်ကောင်းကင်
၁၉ ကိုရှင်ကိုယ်တော်ကိုရှင်ပြစ်မှားပါပြီ။ ယခုမှစ၍ ကိုယ်တော်၏သား
ဟူ၍ခေါ်ခြင်းကိုမခံထိုက်ပါ။သူငှါးအရာ၌ကျွန်တော်ကိုထားပါဟုငါ
၂၀ ပြောမည်ဟူ၍အကြံရှိသည်နှင့် ထ၍အဖဆီသို့သွားလေ၏။သွား၍ဝေး
သေး သောအခါ အဖသည် သူကိုမြင်လျှင်သနားသောစိတ်ရှိသည် နှင့်
၂၁ ပြေး သွား၍သားလည်ပင်း ကိုပိုက်ဖက်လျက် နမ်းရှုပ်လေ၏။ သားက

လည်းအဖ။အကျွန်ုပ်သည်ကောင်းကင်ကိုဒ်ကိုယ်တော်ကိုဒ်ပြစ်မှားပါ
ပြီး။ယခုမှစ၍ ကိုယ်တော်၏သားဟူ၍ခေါ်ခြင်းကိုမခံထိုက်ပါဟုဆို
၂၂ လျှင် အဖကမြတ်သောဝတ်လုံကိုယူခဲ့၍သူကိုခြုံကြ။ သူလက်၌လက်
၂၃ စွပ်တန်ဆာ ဆင်ကြ။ ခြေနင်းကိုလည်းစီးစေကြ။ဆူအောင်ကျွေးသော
နွားကလေးကိုယူသတ်ကြ။သို့ပြီးမှစါးကြစို့။ပျော်မွေ့ခြင်းကိုပြုကြစို့၊
၂၄ ငါ့သါးသည်အထက်ကသေ၏။ယခုရှင်ပြန်၏။အထက်ကပျောက်၏။ယ
ခုတွေ့ပြန်၏ဟုအစေအပါတို့ကိုဆိုပြီးမှအားလုံးတို့သည်ပျော်မွေ့ခြင်း
၂၅ ကိုပြုကြ၏။ ။သား အကြီး သည်တောကလာ၍အိမ်အနီး
၂၆ သို့ရောက်သော အခါကခြင်း။ တီး မှုတ် ခြင်း အသံကိုကြား လျှင် ငယ်
၂၇ သားတယောက်ကိုခေါ်၍ဘယ်သို့ဖြစ်သနည်းဟုမေး၏။ ငယ်သါးက
သခင်ညီးရောက်လာပြီး။ဘေးနှင့်ကင်းလွတ်လျက်ရှိသည်ကိုအဖတွေ့
သောကြောင့်ဆူအောင်ကျွေး သောနွားကလေး ကိုသတ်ခဲ့ပြီး ဟုဆို၏။
၂၈ သားအကြီးသည်စိတ်ဆိုး၍အိမ်သို့မဝင်ဘဲနေ၏။ အဖသည်သူဆီသို့
၂၉ ထွက်၍ချော့မော့ရ၏။ သားကြီးကလည်းအကျွန်ုပ်သည်ကာလတာ
ရှေစွာအဖ၏ အစေကိုခံပါပြီး။ အဖ၏အလိုကိုတခါမျှမလွန်ကျူး ပါ။
သို့သော်လည်းအကျွန်ုပ်သည် အဆွေတို့ နှင့်အတူပျော်မွေ့ခြင်းကိုပြု
၃၀ ရအောင်အဖသည်ဆိတ်ကလေးတကောင်ကိုတခါမျှမပေး။ ပြည်တန်
ဆာမိန္မတို့ နှင့်ပေါင်း၍မိမိဥစ္စာကိုဖြုန်းသော၊သား ငယ်ရောက်လာ
သောအခါအဖသည်ဆူအောင်ကျွေး သောနွားကလေး ကိုသတ်လေပြီး
၃၁ တကားဟုဆို၏။ အဖကလည်းငါ့သား။သင်သည်ငါ့ဆီမှာအစဉ်နေ
၃၂ ၏။ ငါ့ဥစ္စာအားလုံး သည်သင်ဥစ္စာဖြစ်၏။ သင်ညီသည် အထက်က
သေ၏။ ယခု ရှင်ပြန် ၏။ အထက် ကပျောက် ၏။ ယခု တွေ့ပြန်၏၊ ထို
ကြောင့် ပျော်မွေ့ဝမ်း မြောက်စရာအကြောင်း ရှိသည်ဟုအဖဆို၏ဟု
မိန့်တော်မူ၏။

❋❋

၁ တပည့်တော်တို့အားတဖန်မိန့်တော်မူသည်ကား။ ငွေရတတ်သောသူ
တယောက်၌ ဘဏ္ဍာစိုး ရှိ၏။ ထိုဘဏ္ဍာစိုး သည် သခင်ဥစ္စာများ ကို
ဖျက်ဆီးကြောင်း ကိုသူတပါးကသခင်ရှေ့ ၌ ပြစ်တင် ပြောဆိုသည်ရှိ
၂ သော် သခင်သည်ဘဏ္ဍာစိုးကိုခေါ်၍သင်အမှုအရာ ၌ငါကြားသောစ
ကားကားအဘယ်သို့နည်း။ဘဏ္ဍာစိုးအရာ ၌မှတ်သားသောစာရင်း
၃ ကိုပေးတော့။ယခု မှစ၍ဘဏ္ဍာစိုး မလုပ်ရဟုဆို၏။ ထိုအခါဘဏ္ဍာ

ဗိုးကငါသည်အဘယ်သို့ပြုရမည်နည်း။ငါ့သခင်သည်ဘဏ္ဍာစိုးအရာ
ကိုနှုတ်လေ၏။ထယ်လုပ်ခြင်းငှါမစွမ်းနိုင်။သူတောင်းစားလုပ်ခြင်းငှါ
၄ ရှက်ကြောက်၏။ ဘဏ္ဍာစိုးအရာမှကျသောနောက်သူတပါးတို့သည်မိ
မိအိမ်၌ငါ့ကိုသိမ်းဆည်းရအောင်အဘယ်သို့ငါပြု မည်ကိုငါသိ၏ဟု
၅ ၍စိတ်ထဲ၌ကြံစည်ပြီးမှ သခင်ငွေရှိသောသူအားလုံးတို့ကိုခေါ်၍ငါ
သခင်ကိုဆပ်ပေးရန်သင်၌အဘယ်မျှလောက်ရှိသနည်းဟုတယောက်
၆ ကိုမေးလျှင် ထိုသူကဆီအခွက်တထောင်ပေးရန်ရှိသည်ဟုဆို၏။
ဘဏ္ဍာစိုးကလည်း သင်စာရင်းကိုယူ၍အသော့ထိုင်သဖြင့် အခွက်
၇ ငါးရာကိုရေးမှတ်တော့ဟုဆို၏။ ထိုနောက် အချားသူကိုခေါ်၍ငါ့သ
ခင်ကိုဆပ်ပေးရန်သင်၌ အဘယ်မျှ လောက်ရှိသနည်း ဟုမေးလျှင်ထို
သူကဂျုံစပါးအတင်းတထောင်ပေး ရန်ရှိသည်ဟုဆို၏။ ဘဏ္ဍာစိုးက
လည်းသင်စာရင်း ကိုယူ၍အတင်းရှစ်ရာကိုရေး မှတ်တော့ ဟုဆို၏။
၈ ထိုမတရား သောဘဏ္ဍာစိုးသည်လိမ္မာ စွာ ပြုသည်ကိုသခင် သည်ချီး
မွမ်းလေ၏ ။အကယ်၍လောကီသားတို့သည် မိမိတို့အမှုကိုဆောင်ရွက်
၉ ရာတွင်အလင်းသို့ရောက်သော သူတို့ထက်သာ၍လိမ္မာကြ၏။ တဖန်
ငါဆိုသည် ကား။သင်တို့သည် ရှုတေ့ သောအခါ အစည် ထာဝရ တည်
သောဗိတ်မှာနေ၌သင်တို့ကိုသိမ်း ဆည်း လတ္တံ့သော အဆွေရှိရအောင်
၁၀ မဖြောင့်သော လောကီစည်းစိမ်ကိုသုံးဆောင်ကြလော့။ ။အနည်း
ငယ်သောအမှု၌သစ္စာရှိသော သူသည်ကြီးသောအမှု၌လည်းသစ္စာရှိ
လိမ့်မည်။အနည်းငယ်သောအမှု၌သစ္စာ မရှိသော သူသည်ကြီး သော
၁၁ အမှု၌လည်းသစ္စာမရှိ။ သို့ဖြစ်၍မဖြောင့်သောလောကီစည်း စိမ်ကိုသုံး
ရာတွင်သင်တို့သည်သစ္စာမရှိလျှင်မှန်သောစည်း စိမ်ကိုသင်တို့၌အ
၁၂ ဘယ်သူအပ်မည်နည်း။ သူတပါးအမှု ၌သင်တို့သည်သစ္စာ မရှိလျှင်
၁၃ အဘယ် သူသည် အပိုင်ပေးမည်နည်း။ အဘယ် မည် သော အစေခံ
သည်သခင်နှစ်ဦးအစေကိုမခံနိုင်။ သခင်တဦးကိုမုန်းမည်။တဦးကိုချစ်
မည်။သခင်တဦးကိုမှီခိုမည်။ တဦးကိုမခန့်မညားပြုမည်။သင်တို့သည်
ဘုရားသခင်၏အစေကိုရင်လောကီစည်း စိမ်၏ အစေကိုရင်မခံ နိုင်
၁၄ ကြဟုမိန့်တော်မူ၏။ ။ငွေကိုတပ်မက်သောဖာရိရှဲလူတို့သည်
၁၅ ထိုစကားများကိုကြားလျှင်ကိုယ်တော်ကိုကဲ့ရဲ့ကြ၏။ ယေရှုကလည်း
သင်တို့သည် လူများရှေ့မှာဖြောင့်မတ်ကျွန်ပြုသော်လည်း ဘုရားသ
ခင်သည်သင်တို့စိတ်နှစ်လုံးကိုသိမြင်တော်မူ၏။ လူသဘောအားဖြင့်

အမြတ်ထားသောအရာသည် ဘုရားသခင်ရှေ့တော်၌ စက်ဆုပ်ရွံရှာ
၁၆ ဘွယ်ဖြစ်၏။ ယောဟန်မရောက်မှီတိုင်အောင်ပညတ္တိကျမ်း၊ အနာ
ဂတ္တိကျမ်းရှိ၏။ ယောဟန်လက်ထက်မှစ၍ဘုရားသခင်နိုင်ငံတော်နှင့်
ဆိုင်သောဧဝံဂေလိတရားကိုဟောလျက်ရှိ၏။ လူများတို့သည်လည်း
၁၇ နိုင်ငံတော်ကိုအနိုင်အထက်ဝင်ကြ၏။ ကောင်းကင်နှင့် မြေကြီးပျက်
စီးလွယ်၏။ ပညတ္တိကျမ်း၌အငယ်ဆုံးသောဗိန္ဒုတလုံးမျှမရွှင်းနိုင်
၁၈ ရာ။ အကြင်သူသည်မိမိမယားနှင့်ကွာ၍ အချားမိန်မ နှင့်အိမ်ထောင်
ဖက်ပြု၏။ ထိုသူသည်မိမိမယားကိုပြစ်မှား၏။ လင်နှင့်ကွာသောမိန်မ
နှင့်အိမ်ထောင်ဖက်ပြုသောသူသည်လည်း သူ့မယားကိုပြစ်မှားသည်
ဟုမိန့်တော်မူ၏။

✱✱

၁၉ တဖန်တုံ။ ငွေရတတ်သောသဌေးတယောက်သည် နီမောင်းသောကမ္ဗ
လာနှင့် ပိတ်ချောကိုဝတ်ဆင်၍ ကာမဂုဏ်စည်းစိမ်၌ နေ့တိုင်းပျော်
၂၀ မွေ့လျက်နေ၏။ လာဇရုအမည်ရှိသောလူဆင်းရဲတယောက်သည်တ
၂၁ ကိုယ်လုံးအနာစိမ်းပေါက်၍ သဌေး၏စားပွဲမှကျသောစားနုပ်စား
ပေါက်ကိုစားပါရစေဟုတောင့်တသောစိတ်နှင့်သဌေးအိမ်တံခါးနား
၂၂ မှာချထားလျက်နေ၏။ ခွေးတို့သည်လာ၍ အနာစိမ်းများကိုလျက်ကြ
၏။ တနေ့သ၌ ထိုဆင်းရဲသားသေလွန်၍ ကောင်းကင်တမန်တို့သည်
အာဗြဟံ၏ရင်ခွင်သို့ ပို့ဆောင်ကြ၏။ သဌေးသည်လည်းသေလွန်
၂၃ ၍သင်းဂြိုဟ်ခြင်းကိုခံလေ၏။ မရဏာနိုင်ငံ၌ပြင်းပြစွာသော ဝေဒနာ
ကိုခံလျက်မျှော်ကြည့်၍ အာဗြဟံကိုင်အာဗြဟံရင်ခွင်၌လာဇရုကိုင်အ
၂၄ ဝေးကမြင်လျှင် အဘအာဗြဟံ။ အကျွန်ုပ်ကိုကယ်မသနားပါ။ ဤမီးလျှံ
၌အကျွန်ုပ်ပြင်းစွာခံရသောကြောင့်။ လာဇရုသည်လက်ဖျားကိုရေ၌
နှစ်၍အကျွန်ုပ်လျှာကိုချေခြင်းငှါသူကိုအကျွန်ုပ်ဆီသို့စေလွှတ်ပါဟု
၂၅ ဟစ်ကျော်လေ၏။ အာဗြဟံကလည်းငါ့သား။ သင်သည် အသက်ရှင်
တုန်းခါချမ်းသာရသည်ကိုင်လာဇရုသည်ဆင်းရဲစွာနေရသည်ကို
ဝင်အောင်းမေ့လော့။ ယခုမူကားသူသည်သက်သာခြင်းရှိ၏။ သင်သည်
၂၆ ဒုက္ခဝေဒနာကိုခံရ၏။ ထိုမှတပါး။ ငါတို့သင်တို့စပ်ကြား၌ အလွန်
နက်လှသောချောက်ကြီးတည်လျက်ရှိ၏။ သို့ဖြစ်လျှင်ဤအရပ်မှသင်
တို့ဆီသို့ကူးချင်သောသူမကူးနိုင်။ ဟိုဘက်မှငါတို့ဆီသို့ကူးချင်
၂၇ သောသူလည်းမကူးနိုင်ဟုဆို၏။ သဌေးကလည်းအဖ။ ထိုသို့မှန်လျှင်

အကျွန်ုပ်၌ညီငါးယောက်ရှိပါသည်ဖြစ်၍ သူတို့သည် ဤပြင်းပြစွာခံ
ရာအရပ်သို့မရောက် ရအောင် သူတို့အား သက် သေခံစေ ခြင်း ငှါအ
ကျွန်ုပ်အဖ၏ အိမ်သို့လာဇရုကို စေလိုက်ပါ။ အကျွန်ုပ် တောင်း ပန်၏
၂၉ ဟုဆိုလျှင် အာဗြဟံ ကသင်ညီတို့ ၌ မောရှေမှစ၍ ပရောဖက်များ
၃၀ ရှိ၏။ ပရောဖက်စကားကိုနားထောင်ပါလေစေဟုဆို၏။ သခင်းက
လည်းမဟုတ်ပါအဖအာဗြဟံ။သေသောလူစုထဲကတယောက်သေါ်သူ
သည်ထမြောက်၍သူတို့ဆီသို့သွားလျှင်သူတို့သည်နောင်တရလိမ့်မည်
၃၁ ဟုဆိုလေသော် အာဗြဟံကသူတို့သည် မောရှေစကား။ပရောဖက်စ
ကား ကိုနားမထောင် လျှင် တ ယောက် သော သူသည် သေခြင်း မှထ
မြောက်သော်လည်း မရုံကြည် နိုင်ကြဟုအာဗြဟံဆိုသည်ဟုမိန့်တော်
၁ မူ၏။ ။တပည့်တော်တို့အားတဖန်မိန့်တော်မူသည်ကား။ထိမိ
၍လဲစရာအကြောင်းရှိရမည်။သို့သော်လည်းထိမိ၍လဲစရာ အကြောင်း
၂ ကိုဖြစ်စေသောသူသည်အမင်္ဂလာရှိ၏။ ဤသူငယ်တစုံတယောက်ကို
လဲစေသည်ထက်လည်ပင်း၌ ကြိတ်ဆုံကျောက်ပျား ဆွဲ၍ပင်လယ်၌ချ
၃ သော်သာ၍ကောင်း၏။ သင်တို့သည်ကိုယ်ကိုကိုယ်သတိပြုကြလော့။
သင်၏ညီအစ်ကိုသည် သင်ကိုပြစ်မှားလျှင်သူကိုဆုံးမလော့။သူသည်
နောင် တရလျှင် သူ အပြစ် ကိုလွှတ်လော့။ တနေ့ချင်း တွင်ခု နှစ် ကြိမ်
၄ မြောက်အောင်ပြစ်မှား၍ ခု နှစ် ကြိမ်မြောက်အေါင်သင်ဆီသို့လာ၍
နောင်တရပါ၏ဟုဆိုလျှင်သူ၏အပြစ်ကိုလွှတ်လော့ဟုမိန့်တော်မူ၏။
၅ ။တမန်တော်တို့ကအကျွန်ုပ်တို့ရုံကြည်ခြင်းစိတ်ကိုတိုးပွားစေ
၆ တော်မူပါဟု သခင်ဘုရားကိုတောင်း လျှောက်ကြလျှင်သခင်ဘုရား
ကမုံညင်းစေ့ပမာဏရှိသောရုံခြင်းသင်တို့၌ရှိလျှင်ထိုတည်းပင်ကိုအ
ချင်းတည်းပင်။သင်သည်အမြစ်နှင့်တကွနှုတ် ၍ ပင်လယ်၌စိုက်လျက်
၇ နေတော့ဟုဆိုကြလျှင်သင်တို့စကားကိုနားထောင်လိမ့်မည်။ အစေအ
ပါသည်လယ်ထွန်သော်၎င်နွားသိုးကျောင်းသော်၎င်လယ်ပြင်မှလါ၍အိမ်
သို့ဝင်သောအခါထိုအစေအပါကိုအသော့လာ၍ စားပွဲ၌ထိုင်နေတော့
၈ ဟုသင်တို့တွင်အဘယ်သူဆိုမည်နည်း။ ထိုအစေအပါကိုငါစားစရာ
ပြင်တော့။ငါစါးသေါက်စဉ်ခါးပန်းကိုစည်း၍ငါကိုလုပ်ကျွေးတော့။ထို
၉ နောက်သင်သည်စားသောက်ရမည်ဟုဆိုမည်မဟုတ်လော။ ထိုအစေ
အပါသည်သခင်စီရင်သည်အတိုင်းပြုသော့ကြောင့်သခင်၌ကျေးဇူးတင်
၁၀ သလော။ကျေးဇူးမတင်။ ထိုနည်းတူ။သင်တို့သည်ပညတ်တော်သာတိုင်း

ကျင့်ပြီးမှငါတို့သည်သခင်၌ကျေးဇူးပြုသောအစေအပါဖြစ်သည်မဟု
တ်။ငါတို့သည်ဝတ်ပြေရုံမျှသါရှိသည်ဟုကိုယ်ကိုကိုယ်ပြောကြလော့ဟု
၁၁ မိန့်တော်မူ၏။ ။ယေရှုရှလင်မြို့သို့ခရီးသွားတော်မူစဉ်ရှမာရိ
၁၂ ပြည်အလယ်။ဂါလိလဲပြည်အလယ်မှာရှောက်သွားတော်မူ၏။ ရွာတ
ရွာသို့ဝင်တော်မူသည်တွင်နူနာစွဲသောသူတကျိပ်တို့သည်ကြိုဆို၍အ
၁၃ ဝေးကရပ်နေလျက် သခင်။ယေရှု။ကျွန်တော်တို့ကိုကယ်မသနားတော်
၁၄ မူပါဟုဟစ်ကျော်ကြ၏။ ယေရှုသည်မြင်တော်မူလျှင်သင်တို့သည်
ယဇ်ပုရောဟိတ်ဆီသို့သွား၍ကိုယ်ကိုကိုယ်ပြကြလော့ဟုမိန့်တော်မူ
၁၅ သည်အတိုင်းသူတို့သည်သွား၍သန့်ရှင်းခြင်းသို့ရောက်ကြ၏။ ထိုသူ
တို့တွင်တယောက်သောသူသည်အနာရောဂါကင်းလွတ်သည်ကိုသိ
မြင်လျှင်ပြန်လာ၍ကြီးသောအသံနှင့်ဘုရားသခင်ဂုဏ်တော်ကိုချီး
၁၆ မွမ်းလေ၏။ ခြေတော်ရင်း၌ပျပ်ဝပ်၍ကျေးဇူးတော်ကြီးလှပါ၏ဟု
၁၇ ဝန်ခံလေ၏။ထိုသူသည်ရှမာရိလူဖြစ်သတည်း။ ယေရှုကလည်းတ
ကျိပ်သောသူတို့သည်သန့်ရှင်းခြင်းသို့ရောက်သည်မဟုတ်လော။ကြွင်း
၁၈ ယောက်သောသူတို့သည်အဘယ်မှာရှိသနည်း။ ဤတပါးအမျိုးသား
ကိုထား၍ဘုရားသခင်ဂုဏ်တော်ကိုချီးမွမ်းခြင်းငှါပြန်လာသောသူ
၁၉ တယောက်မျှမရှိသလောဟုမေးတော်မူပြီးမှ ထိုသူကိုထသွားလော့။
သင်၏ယုံကြည်ခြင်းသည်သင်အနာကိုညိမ်းစေပြီးဟုမိန့်တော်မူ၏။
၂၀ ။ဖာရိရှဲလူတို့သည်လာ၍ဘုရားသခင်နိုင်ငံတော်သည်အ
ဘယ်သောခါတည်ပါမည်နည်းဟုမေးလျှောက်ကြလျှင် ယေရှုက
၂၁ ကောင်းကင်နိုင်ငံတော်သည်မျက်မြင်အရာနှင့်မတည်။ ဤအရပ်၌
ကြည့်ပါ။ထိုအရပ်၌ကြည့်ပါဟုပြောစရာအကြောင်းမရှိ။အဘယ်
ကြောင့်နည်းဟူမူကား။ဘုရားသခင်နိုင်ငံတော်သည်လူအထဲ၌ရှိ
သည်ဟုမိန့်တော်မူ၏။



၂၂ တဖန်တပည့်တော်တို့အားမိန့်တော်မူသည်ကား။သင်တို့သည်လူသား
၏နေ့ရက်တရက်ကိုမျှတွေ့မြင်လို၍မတွေ့မမြင်ရသောအချိန်ကာလ
၂၃ ရောက်လိမ့်မည်။ ဤအရပ်၌ကြည့်ပါ။ထိုအရပ်၌ကြည့်ပါဟုသင်တို့
၂၄ အားပြောဆိုသော်လည်းမလိုက်မသွားကြနှင့်။ ကောင်းကင်တဖက်မှ
ပြက်သောလျှပ်စစ်သည်ကောင်းကင်အနှံ့အပြားထွန်းလင်းသကဲ့သို့
၂၅ လူသားသည်မိမိနေ့ရက်၌ဖြစ်တော်မူလတံ့။ ထိုသို့မဖြစ်မှီသူသည်

များစွာသော ဆင်းရဲဒုက္ခကိုဂင် ယခုလူမျိုး၏ညှင်းပယ်ခြင်းကိုဂင်ခံ
၂၆ ရမည်။ ။နောဧလက်ထက်၌ဖြစ်သကဲ့သို့လူသားလက်ထက်၌
၂၇ ဖြစ်လိမ့်မည်။ နောဧသည်သင်္ဘောထဲသို့ဝင်၍ရေကြီးသွှမ်မိုးခြင်း
ဖြစ်၍လူအားလုံးတို့ကိုသုတ်သင်ပယ်ရှင်းသည့်နေ့တိုင်အောင်လူများ
၂၈ တို့သည်စားသောက်ထိမ်းမြားအိမ်ထောင်လျက်နေကြ၏ ထိုနည်း
တူ။လောတလက်ထက်၌လူများတို့သည်စားသောက်ရောင်းဝယ်လျက်
၂၉ ဥယည်စိုက်လျက်အိမ်ဆောက်လျက်နေသကဲ့သို့ငင် လောတသည်
သောဒုံမြို့မှထွက်သောနေ့၌ကောင်းကင်မှကန့်နှင့်ရောသောမီးမိုဃ်း
၃၀ ရွာ၍ထိုလူအားလုံးတို့ကိုသုတ်သင်ပယ်ရှင်းသကဲ့သို့ငင် လူသား
၃၁ ပေါ်ထွန်းသောနေ့ ၌ ဖြစ်လိမ့်မည်။ ထိုနေ့ရက်၌အိမ်မိုးပေါ်မှာရှိ
သောသူသည်မိမိအိမ်ထဲမှာရှိသောဥစ္စာကိုယူခြင်းငှါမဆင်းစေနှင့်။
၃၂ ထိုအတူ။ လယ်၌ ရှိသောသူသည်နောက်သို့လှည့်၍ မပြန်လာစေနှင့်။
၃၃ လောတ၏မယားကိုအောင်းမေ့ကြလော့။ အကြင်သူသည်မိမိအသက်
ကိုကယ်ဆယ်ခြင်း ငှါရှာကြံ၏။ ထိုသူသည် အသက်ရှုံးလိမ့်မည်။ အ
ကြင်သူသည်အသက်ရှုံး၏။ထိုသူသည် မိမိအသက် ကယ်ဆယ်ခြင်း
၃၄ သို့ရောက်လိမ့်မည်။ ငါဆိုသည်ကား။ထိုနေ့ညည့်တွင်အိပ်ရာတခု၌
ရှိသောသူ နှစ်ယောက်တို့တွင် တယောက်ကိုသိမ်းယူ ၍ တယောက်
၃၅ ကားနေရစ်လတ့ံ။ ကြိတ်ဆုံလုပ်သောသူ နှစ်ယောက် တို့တွင်တ
ယောက်ကိုသိမ်းယူ၍တယောက်ကားနေရစ်လတ့ံဟုမိန့်တော်မူလျှင်
၃၆ သခင်။အဘယ်အရပ်၌ ဤသို့ဖြစ်ပါမည်နည်းဟုမေးလျှောက်ကြသော်
အသေကောင်ရှိရာအရပ်၌ လင်းယုန်ငှက်တို့သည်စုဝေးကြလတ့ံဟု
၁ မိန့်တော်မူ၏။ ။လူတို့သည်အားမလျှော့ဘဲကျိုးစားဆုတောင်း
၂ ရမည်အကြောင်း။ဥပမာစကားကိုမိန့်တော်မူသည်ကား။ မြို့တမြို့၌
ဘုရားသခင်ကိုမကြောက်ရွံ့။လူကိုအါးမနာတတ်သေါတရားသူကြီး
၃ တယောက်ရှိ၏။ ထိုမြို့၌နေသောမုတ်ဆိုးမတယောက်သည်တရား
သူကြီးဆီသို့သွား၍ ကျွန်မရန်ဘက်ကိုခေါ်ပါ။ ကျွန်မဘက်တရားစီ
၄ ရင်ပါဟုတောင်းလျှောက်သော်လည်း တရားမစီရင်ဘဲကြာမြင့်စွာ
နေ၏။ထိုနောက်တရားသူကြီးကငါသည်ဘုရားသခင်ကိုမကြောက်
၅ ရွံ့။လူကိုအားမနာတတ်သောသူဖြစ်သော်လည်း ဤမုတ်ဆိုးမသည်
ငါကိုနှောင့်ရှက်သော့ကြောင့်သူဘက်တရားစီရင်မည်။သို့မဟုတ်။အ
စည်လာ၍ ငါကိုပင်ပန်းစေတော့မည်ဟုစိတ်ထဲ၌အကြံရှိ၏။ထိုမတ

ဏ။၇ ရား သော တရား သူ ကြီး ၏ အကြံ ကို မှတ်ကြလော့။ ဘုရား သခင်ရွေး
ကောက် တော်မူ သော သူ တို့ သည် ညည့် နေ့ မပြတ် အော်ဟစ် တောင်း
လျှောက်သည်ဖြစ်၍ ဘုရားသခင် သည် သူတို့ဘက် တရား မစီရင်ဘဲ
၈ နေတော်မူမည်လော။ကြာမြင့်စွာသည်းခံတော်မူမည်လော။ ငါဆိုသည်
ကား။သူတို့ဘက်အလျင်အမြန်တရားစီရင်တော်မူမည်။သို့သော်လည်း
လူသားသည်ကြွလာသောအခါထိုသို့သောယုံခြင်းကိုမြေကြီးပေါ်မှာ
၉ တွေ့မည်လောဟုမိန့်တော်မူ၏။ ။ကိုယ်ကိုသိလ်ကိုအမှီပြု၍
သူတပါးကိုမထီမဲ့မြင်ပြုတတ်သောသူအချို့တို့အား မိန့်တော်မူသော
၁၀ ဥပမာကား။ လူနှစ်ယောက်တို့သည်ဆုတောင်း ပဌနာပြုခြင်းငှါဗိမာန်
မှာန်တော်အပေါ်သို့တက်ကြ၏။တယောက်ကားဖာရိရှဲလူဖြစ်၏။တ
၁၁ ယောက်ကားအခွန်ခံဖြစ်၏။ ဖာရိရှဲလူသည်တယောက်တည်းရပ်
နေလျက်အိုဘုရားသခင်။အကျွန်ုပ်သည်အနိုင်အထက်လုယူသောသူ။
မတရားသဖြင့်ကျင့်သောသူ။သူမယားကိုပြစ်မှားသောသူတည်းဟူ
သောအချားလူတို့ကဲ့သို့မဟုတ်။ ဤအခွန် ခံကဲ့သို့လည်းမဟုတ်သည်
၁၂ ဖြစ်၍ကျေးဇူးတော်ကိုချီးမွမ်းပါ၏။ အကျွန်ုပ်သည်ခုနှစ်ရက်တွင်နှစ်
ရက်အစားရှောင်ပါ၏။ဥစ္စာရှိသမျှတို့ကိုဆယ်ဖို့တဖို့လှူပါ၏ဟူ၍ဆု
၁၃ တောင်းပဌနာပြု၏။ အခွန်ခံသူသည်ကားအဝေးကရပ်နေ၍ကောင်း
ကင်ကိုမမျှော်မကြည့်ဝံ့ ဘဲရင်ဖတ် ကိုခတ် လျက်အိုဘုရား သခင်။ အ
ပြစ်များသောသူအကျွန်ုပ်ကိုသနားခြင်းကရုဏာစိတ်ရှိတော်မူပါဟု
၁၄ ဆုတောင်းလေ၏။ ငါဆိုသည်ကား။ထိုသူသည်အပြစ်ပြေလျက် မိမိ
အိမ်သို့ပြန်သွား၏။ဖာရိရှဲလူအပြစ်မပြေ။အဘယ်ကြောင့်နည်းဟူမူ
ကား။ကိုယ်ကိုကိုယ်ချီးမြှောက်သောသူမည်သည်ကားနှိမ့်ချခြင်းသို့
ရောက်လတံ့။ကိုယ်ကိုကိုယ်နှိမ့်ချသောသူမည်သည်ကား ချီးမြှောက်
ခြင်းသို့ရောက်လတံ့ဟုမိန့်တော်မူ၏။

❋❋

၁၅ ထိုအခါသူငယ်တို့ကိုလက်တော်နှင့်တို့စေခြင်းငှါအထံတော်သို့ဆောင်
၁၆ ခဲ့သည်ကိုတပည့်တော်တို့မြင်လျှင်အပြစ်တင်ကြ၏။ ယေရှုသည်ထို
သူငယ်တို့ကိုခေါ်တော်မူ၍ သူငယ်တို့သည်ငါထံ သို့လာပါလေစေ။ မ
ဆီးတားကြနှင့်။ဘုရားသခင်နိုင်ငံတော်သည်ထိုသို့သောသူတို့၏နိုင်ငံ
၁၇ ဖြစ်၏။ ငါအမှန်ဆိုသည်ကား။အကြင်သူသည်ဘုရား သခင်နိုင်ငံ
တော်ကိုသူငယ်ကဲ့သို့ မခံမယူ။ ထိုသူသည် နိုင်ငံ တော်သို့ မဝင်ရဟု

၁၈ မိန့်တော်မူ၏။ ။အရာရှိတယောက်ကကောင်းမြတ်သောဆ
ရာ။ ထာဝရအသက်ကိုအမွေခံအံ့သောငှါအကျွန်ုပ်သည်အဘယ်အမှု
၁၉ ကိုပြုရပါမည်နည်းဟုလျှောက်သော် ယေရှုကငါ့ကိုကောင်းမြတ်သည်
ဟုအဘယ်ကြောင့်ခေါ်ဝေါ်သနည်း။ ဘုရားသခင်တပါးတည်းသာ
၂၀ ကောင်းမြတ်တော်မူ၏။ သင်သည်ပညတ်တော်တို့ကိုသိသည်မဟုတ်
လော။သူ့မယားကိုမပြစ်မှားနှင့်။ လူ့အသက်ကိုမသတ်နှင့်။သူ့ဥစ္စာကို
မခိုးနှင့်။ မမှန်သောသက်သေကိုမခံနှင့်။ မိဘတို့အားရိုသေစွာကျင့်
၂၁ လော့ဟုမိန့်တော်မူလျှင် အရှင်ဘုရား။ ထိုပညတ်အားလုံးကိုငယ်
သောအရွယ်မှစ၍အကျွန်ုပ်စောင့်ရှောက်ပါပြီးဟုလျှောက်ပြန်သည်
၂၂ ကိုယေရှုသည်ကြားလျှင်သင်သည်တခုလိုသေး၏။ ကိုယ်ဥစ္စာရှိသမျှ
တို့ကိုရောင်း၍ ဆင်းရဲသောသူတို့အားပေးဝေလော့။ ထိုသို့ပြုလျှင်
ကောင်းကင်ဘုံ၌ဘဏ္ဍာကိုရလိမ့်မည်။ သို့ပြီးမှလာ၍ငါ့နောက်သို့
၂၃ လိုက်လော့ဟုမိန့်တော်မူ၏။ ထိုသူသည်များသောဥစ္စာကိုရတတ်
သောသူဖြစ်၍ထိုစကားကိုကြားလျှင်အလွန်စိတ်မသာသည်နှင့်သွား
၂၄ လေ၏။ ။ထိုသို့စိတ်မသာသည်ကိုယေရှုမြင်တော်မူလျှင်ဥစ္စာရ
တတ်သောသူတို့သည်ဘုရားသခင်နိုင်ငံတော်သို့ဝင်ခြင်းငှါအဘယ်
၂၅ မျှလောက်ခက်လှ၏။ ကုလားအုတ်သည်အပ်နဖားကိုလျှိုလွယ်၏။ ငွေ
ရတတ်သောသူသည်ဘုရားသခင်နိုင်ငံတော်သို့ဝင်ခဲသည်ဟုမိန့်
၂၆ တော်မူ၏။ ကြားသောသူတို့ကသို့ဖြစ်လျှင်အဘယ်သူသည်ကယ်
၂၇ တင်တော်မူခြင်းသို့ရောက်နိုင်သနည်းဟုပြောဆိုကြ၏။ ကိုယ်တော်
ကလည်းလူမတတ်နိုင်သောအမှုကိုဘုရားသခင်တတ်နိုင်တော်မူသည်
၂၈ ဟုမိန့်တော်မူ၏။ ။ထိုအခါပေတရုကအကျွန်ုပ်တို့သည်
အားလုံးကိုစွန့်ပြစ်၍ကိုယ်တော်နောက်သို့လိုက်ပါပြီးဟုလျှောက်
၂၉ လေသော် ကိုယ်တော်လည်းငါအမှန်ဆိုသည်ကား။ အကြင်သူသည်
ဘုရားသခင်နိုင်ငံတော်ကြောင့်အိမ်ရာ။ မိဘ။ ညီအစ်ကို။ သားမ
၃၀ ယား။ တစုံတပါးကိုစွန့်၏။ ထိုသူသည်ယခုကာလ၌အဆများစွာ
သောအကျိုးကိုရင်နောင်ဘဝ၌ထာဝရအသက်ကိုရင်ခံရလတ့်ဟုမိန့်
၃၁ တော်မူ၏။ ။ထိုအခါကိုယ်တော်သည်တကျိပ်နှစ်ပါးသော
တပည့်တော်တို့ကိုခေါ်၍ငါတို့သည်ယေရုရှလင်မြို့သို့ယခုသွားကြ၏။
၃၂ ပရောဖက်များရေးမှတ်သမျှတို့သည်လူသား၌ပြည့်စုံလိမ့်မည်။ တ
ပါးအမျိုးသားတို့လက်သို့အပ်နှံခြင်း။ ကဲ့ရဲ့ညှဉ်းဆဲခြင်း။ တံတွေး

၃၃ တွေးခြင်းကိုခံရလိမ့်မည်။ သူတို့သည်လူသားကိုရိုက်ပုတ်၍သတ်ကြ
လိမ့်မည်။သုံးရက်မြောက်သောနေ့၌ထမြောက်လိမ့်မည်ဟုမိန့်တော်
၃၄ မူ၏။ ထိုစကားတော်တခွန်းကိုမျှတပည့်တော်တို့သည်နားမလည်ကြ။
ထိုအကြောင်းအရာသည်ဖွက်ထားလျက်ရှိ၍ မိန့်တော်မူချက်အနက်ကို
၃၅ မရိပ်မိကြ။ ။ယေရိခေါမြို့အနီး၌ရှိတော်မူစဉ်လူကန်းတယောက်
၃၆ သည်လမ်းနားမှာထိုင်လျက်တောင်းခံလေ၏။ထိုလူကန်းသည်လမ်း၌လူ
၃၇ များသွါးသံကိုကြားလျှင်အဘယ်သို့နည်းဟုမေး၏။ နာဇရက်မြို့သါး
၃၈ ယေရှုကြွသွားကြောင်းကိုသူတပါးပြောလျှင် ဒါဝိဒ်၏သားတော်ယေ
၃၉ ရှု။ကျွန်တော်ကိုကယ်မသနားတော်မူပါဟုဟစ်ကျော်လေ၏။ သူသည်
တိတ်ဆိတ်စွာနေမည် အကြောင်း။ ရှေ့တော်၌ သွား သော သူတို့သည်
ငေါက်၍ဆိုသော်လည်းဒါဝိဒ်၏သားတော်။ကျွန်တော်ကိုကယ်မသနား
၄၀ တော်မူပါဟုသာ၍ဟစ်ကျော်လေသော် ယေရှုသည်ရပ်တော်မူလျက်
သူကိုခေါ်ခဲ့ဟုအမိန့်တော်ရှိ၏။လူကန်းသည်အထံတော်သို့ချဉ်းကပ်
၄၁ ပြီးမှသင်၌ငါအဘယ်သို့ပြုစေလိုသနည်းဟုမေးတော်မူလျှင် သခင်။
ကျွန်တော်မျက်စိမြင်ပြန်စေခြင်း ငှါပြုတော်မူပါဟုလျှောက် ဆိုသည်
၄၂ ကို ယေရှုကမျက်စိမြင်ပြန်စေ။သင်၏ယုံကြည်ခြင်းသည်သင်ကိုကယ်
၄၃ မပြီးဟုမိန့်တော်မူ၏။ ထိုခဏချင်းသူသည်မျက်စိမြင်ပြန်၍ဘုရား
သခင်ဂုဏ် တော်ကိုချီး မွမ်းလျက်နောက် တော်သို့လိုက် လေ၏။ လူအ
ပေါင်းတို့သည်မြင်လျှင်ဘုရားသခင်ကိုအံ့ဩချီးမွမ်းကြ၏။

❋❋

၁၉။၂ ယေရှုသည်ယေရိခေါမြို့သို့ဝင်၍ရှောက်သွားတော်မူ၏။ ထိုအခါဇက္ခဲ
အမည်ရှိသောအခွန်ဝန်တယောက်ရှိ၏။ ထိုသူသည်ငွေရတတ်သော
၃ သူဖြစ်၏။ ယေရှုသည်အဘယ်သို့သောသူဖြစ်သည်ကိုထိုသူကြည့်
လို၍လူအစုအဝေးများသည်နှင့်မိမိအရပ်လည်းနိမ့်သည်နှင့်မမြင်နိုင်။
၄ ထိုကြောင့်ကြွတော်မူမည်လမ်းတွင်ရှေ့သို့ပြေး၍ကိုယ်တော်ကိုမြင်ရ
၅ အောင် တည်း ပင်တပင် ကိုတက် လေ၏။ ထိုအရပ် သို့ယေရှု သည်
၆ ရောက်တော်မူသောအခါမျှော်ကြည့်၍ထိုသူကိုမြင်တော်မူလျှင် ဇက္ခဲ။
မြန်မြန်ဆင်းလော့။သင်အိမ်၌ယနေ့ငါတည်းနေရမည်ဟုမိန့်တော်မူ၏။
ဇက္ခဲသည်မြန်မြန်ဆင်း၍ဝမ်းမြောက်သောစိတ်နှင့်ကိုယ်တော်ကိုမိမိ
၇ အိမ်၌သိမ်းဆည်းလေ၏။ ထိုအကြောင်းကိုလူအပေါင်းတို့သည်မြင်
လျှင်ဆိုးသောသူ့ဆီမှာဝင်၍လုပ်ကျွေးခြင်းကိုခံတော်မူသည်တကား

၈ ဟုကဲ့ရဲ့အပြစ်တင်ကြ၏။ ဇာကဲသည်လည်း ရပ်နေ၍သခင်။အကျွန်ုပ်
ဥစ္စာ တဝက်ကို ဆင်းရဲ သောသူတို့အား ပေးပါမည်။ တစုံတ ယောက်
သောသူ၏ဥစ္စာအနည်းငယ်ကိုအကျွန်ုပ်ယူမိလျှင်လေးဆကိုပြန်၍ပေး
၉ ပါမည်ဟုသခင်ဘုရားကိုလျှောက်ဆို၏။ ယေရှုကလည်း၊ဤသူသည်
အာဗြဟံ၏ သားဖြစ်သည် နှင့်အလျောက် ယနေ့ပင်ကယ်တင် တော်မူ
၁၀ ခြင်း ကျေးဇူးသည် ဤအိမ်အပေါ်မှာဆင်း သက်၏။ လူသားသည်
ပျောက်သောသူတို့ကိုရှာ၍ ကယ်တင် အံ့သော ငှါ ကြွလာသတည်း ဟု
၁၁ မိန့်တော်မူ၏။ ။ထိုအခါယေရုရှလင်မြို့အနီးသို့ရောက်တော်မူ
၍ဘုရားသခင်နိုင်ငံတော်သည်ချက်ချင်းပေါ်ထွန်းမည်ဟုလူများထင်
သောကြောင့်ပရိသတ်အံလယ် ၌ ထပ်၍မိန့်တော်မူသောဥပမာကား။
၁၂ အမတ်ကြီးတယောက်သည်မင်းကြီးအရာကိုခံလို၍မိမိပြည်သို့ပြန်လာ
၁၃ မည်အကြံနှင့်ဝေးသောပြည်သို့သွား၏။ မသွားမှီမိမိငယ်သားတကျိပ်
ကိုခေါ်၍ငွေတပိဿာစီအပ်ပေး လျက်ငါ မပြန် လာမှီတိုင် အောင်ကုန်
၁၄ သွယ်ပြုကြလော့ဟုမှာထားလေ၏။ ပြည်သားအချို့တို့သည်ထိုအမတ်
ကြီး ကိုမနှာလို၍ ထိုသူ၏ အအုပ် အချုပ် ကိုငါတို့မခံလို ဟုတမန်ကို
၁၅ သူနောက်စေလွှတ်ကြ၏။ ထိုအမတ်ကြီး သည်မင်းအရာကိုခံ၍ ပြန်
လာတော်မူသော အခါ ငွေခံသော ငယ်သား တို့သည် အသီး အသီး အ
ဘယ်မျှလောက်အမြတ်ရသည်ကိုသိရအောင်သူတို့ကိုခေါ်ချေဟုအမိန့်
၁၆ တော်ရှိ၏။ ။ပဌမသူသည်လာ၍သခင်။ကိုယ်တော်ပေးသော
ငွေ တပိဿာအား ဖြင့် အခွက် တဆယ် အမြတ်ရပါ ပြီး ဟု လျှောက်
၁၇ လျှင် သခင်ကသာရ။ငယ်သားကောင်း။ သင်သည် အမှုငယ်၌ သစ္စာ
၁၈ စောင့်ခဲ့ပြီး။ မြို့ဆယ်မြို့ကိုအုပ်စိုးလော့ဟုမိန့် တော်မူ၏။ ဒုတိယသူ
သည်လာ၍သခင်။ ကိုယ် တော်ပေး သောငွေ တပိဿာအား ဖြင့် ငါး
၁၉ ပိဿာအမြတ်ရပါပြီးဟုလျှောက်လျှင် သခင်ကသင်သည်မြို့ငါးမြို့ကို
၂၀ အုပ်စိုး လော့ဟုမိန့် တော်မူ၏။ အချား သောသူသည်လာ ၍ သခင်။
ကျွန်တော်ပဝါ ၌ ထုတ်ထား သော ကိုယ် တော် ငွေ တပိဿာရှိပါ၏။
၂၁ ကိုယ်တော်သည်ခဲရည်းသောသူ ဖြစ်လျက်ကိုယ်မသိုမထားသောဥစ္စာ
ကိုသိမ်းယူ ၍ ကိုယ်မစိုက်မပျိုး သောလယ် ၌ ရိတ်တတ်သည်ကိုကျွန်
၂၂ တော်ထောက်၍ကိုယ်တော်ကိုကြောက် ပါသည်ဟုလျှောက်လျှင် သ
ခင်ကဆိုးညစ်သောငယ်သား။သင်စကားကိုသါလိုက်၍သင်အမှုကိုငါ
စီရင်မည်။ငါသည်ခဲရည်းသောသူ ဖြစ်လျက်ကိုယ်မသိုမထားသေါဥစ္စာ

ကိုသိမ်းယူ၍ကိုယ်ခရိုက်မပျိုးသောလယ်၌ရိတ်သည်ကိုသင်သိသည်
၂၃ မှန်လျှင် ငါ့ငွေကိုပွဲစားလက်၌အဘယ်ကြောင့်မအပ်သနည်း။ထိုသို့
အပ်လျှင်ငါပြန်လာသောအခါအရင်းနှင့်အတိုးကိုရနိုင်၏ဟုမိန့်တော်
၂၄ မူပြီးသော် အခြွေအရံတို့အား ငွေတပိဿာကိုသူ့လက်မှနုတ်ကြ။အခွက်
၂၅ တဆယ်ရှိသောသူအားပေးကြဟုမိန့်တော်မူ၏။ အခြွေအရံတို့လည်း
၂၆ သခင်။သူသည်အခွက်တဆယ်ရှိပါ၏ဟုလျှောက်ကြလျှင် ငါဆိုသည်
ကား။ အကြွင်း သူသည် ရတတ်၏။ ထိုသူအား ပေးဦး မည်။ အကြွင်းသူ
၂၇ သည်ဆင်းရဲ၏။ထိုသူ၌ ရှိသမျှကိုပင် နုတ်လိမ့်မည်။ ထိုမှတပါး။ငါ
၏အအုပ်အချုပ် ကိုမခံလိုသောငါ၏ ရန် သူတို့ကိုခေါ်ခဲ့ကြ။ ငါ့ရှေ့မှာ
သတ်ကြဟုစီရင်တော်မူသည်ဟုမိန့်တော်မူ၏။



၂၈ ထိုသို့မိန့်တော်မူပြီးမှတပည့်တော်တို့ရှေ့၌ကြွ၍ယေရုရှလင်မြို့သို့ခရီး
၂၉ သွားတော်မူ၏။ သံလွင်အမည်ရှိသောတောင်ခြေရင်း၌ဗက်ဖာဂေ
ရွာ။ဗေသနိ ရွာအနီး သို့ရောက် တော်မူ သောအခါ တပည့် တော်နှစ်
၃၀ ယောက်တို့ကိုစေလွှတ်၍ သင်တို့ရှေ့၌ ရှိသော ရွာသို့သွားကြ။ထိုရွာ
သို့ရောက်ရာတွင်အဘယ်သူမျှမစီးဘူးသောမြည်းကလေးတကောင်ချည်
နှောင်လျက်ရှိ သည်ကိုသင်တို့တွေ့လိမ့်မည်။ကြိုးကိုဖြည်၍ ဆောင်ခဲ့
၃၁ ကြ။ သူတပါးကအဘယ်ကြောင့်ကြိုး ကိုဖြည်သနည်း ဟုသင် တို့ကို
မေး လျှင်သခင်အလို ရှိ၏ ဟုပြန်ပြောကြလော့ဟု မှာထားတော်မူ၏။
၃၂ ထိုသို့စေလိုက်သော သူတို့သည်သွား၍ စကား တော်အတိုင်း တွေ့ကြ
၃၃ ၏။ မြည်းကြိုးကိုဖြည်စဉ် တွင်မြည်းရှင်တို့ကအဘယ်ကြောင့် မြည်းကြိုးကို
၃၄ ဖြည်သနည်းဟုမေးလျှင် သခင်အလို ရှိ၏ဟုပြန်ပြောကြ၏။ယေရှု
၃၅ ထံတော်သို့မြည်းကလေးကိုဆောင်ခဲ့၍ မြည်းကြောပေါ်မှာမိမိတို့အဝတ်ကို
၃၆ ထားပြီးလျှင်ကိုယ်တော်ကိုစီးစေကြ၏။ ခရီးသွားတော်မူစဉ်းလူများ
၃၇ တို့သည်မိမိအဝတ်ကိုလမ်း၌ခင်းကြ၏။ သံလွင်တောင်ပေါ်ကဆင်း
ရာအရပ်သို့ရောက် တော်မူ သော အခါတပည့်တော်များ အပေါင်းတို့
သည်မိမိတို့မြင်ခဲ့ပြီးသောတန်ခိုး တော်များကိုထောက်၍ဝမ်းမြောက်
၃၈ သောစိတ်နှင့်ဘုရားသခင်ကိုထောမနာပြု၍ ထာဝရဘုရား၏အခွင့်
နှင့်ကြွလာတော်မူသောရှင်ဘုရင်အား မင်္ဂလာဖြစ်စေသတည်း။ကောင်း
ကင်ဘုံ၌ ငြိမ်သက်ခြင်း ဖြစ်စေသ တည်း။ ကောင်းကင်ဘဝတ် ဝယ်
၃၉ ဘုန်းကြီးပါစေသတည်း ဟုကြွေး ကြော်ကြ၏။ လူအစုအဝေး၌ပါ

သောဖာရိရှဲလူအချို့တို့က အရှင်ဘုရား။ ကိုယ်တော်၏တပည့်တို့ကို
၄၀ ဆုံးမပါဟုလျှောက်ကြသော် ယေရှုလည်း ငါဆိုသည့်ကား။ ဤသူတို့
သည်တိတ်တိတ်နေလျှင်ကျောက်ခဲတို့သည်ချက်ချင်းကြွေးကျော်လိမ့်
၄၁ မည်ဟုမိန့်တော်မူ၏။ ။ယေရုရှလင်မြို့အနီးသို့ရောက်၍ကြည့်
၄၂ မြင်လျှက်ငိုကြွေးတော်မူ၍ အချင်းမြို့။သင်၏ညိမ်သက်ခြင်းနှင့်စပ်
ဆိုင်သောအရာတို့ကိုသင်၏ လက်ထက်ယခုကာလ၌ ပင်သင်သည်သိ
ရလျှင်မင်္ဂလာရှိ၏။ယခုမူကား သင်မမြင်အောင်ထိုအရာတို့သည်ဖွက်
၄၃ ထားလျှက်ရှိ၏။ အဘယ်ကြောင့်နည်းဟူမူကား။သင်ကိုကြည့်ရှုပြုရ
တော်မူသောကျေးဇူးကိုသင်သည်မသိမမှတ်သောကြောင့်သင်၏ရန်
သူတို့သည်သင်ပတ်လည်တပ်တည်၍ လေးမျက်နှာ၌ ဝိုင်းရံချုပ်ပိတ်
၄၄ ဆီးတားလိမ့်မည်။ သင်ကိုငှင်သင်၏သားတို့ကိုငှင်မြေနှင့်တညီ
တည်းညှိလိမ့်မည်။သင်၌ ကျောက်တခုပေါ်မှာတခုထပ်ဆင့်၍မကျန်
၄၅ ရစ်အောင်ပြုလိမ့်မည်ဟုမိန့်တော်မူ၏။ ။ဗိတ်မှာန်တော်သို့
ဝင်တော်မူလျှင်ဗိတ်မှာန်တော်၌ရောင်းဝယ်သောသူတို့ကိုနှင်ထုတ်
၄၆ လျှက် ငါ့အိမ်သည်ဆုတောင်းရာအိမ်ဖြစ်၏ဟုကျမ်းစာ၌လာသော်
လည်းသင်တို့သည်ထိုအိမ်ကိုခိုးမြတွင်းဖြစ်စေကြပြီးတကားဟုမိန့်
၄၇ တော်မူ၏။ ကိုယ်တော်သည်နေ့တိုင်းဗိတ်မှာန်တော်၌ ဆုံးမဩဝါဒ
ပေးတော်မူ၏။ယဇ်ပုရောဟိတ်အကြီး။ ကျမ်းပြုဆရာ။ လူအကြီးအ
၄၈ ကဲတို့သည်ကိုယ်တော်ကိုသတ်ရအောင်ရှာကြံသော်လည်း လူအပေါင်း
တို့သည်ဒေသနာတော်ကို စေ့စေ့နားထောင်သောကြောင့် သတ်နိုင်
သောအခွင့်ကိုမတွေ့ရကြ။



၁ တနေ့သ၌ကိုယ်တော်သည်ဗိတ်မှာန်တော်တွင်လူများကိုဆုံးမဩဝါဒ
ပေး၍ဧဝံဂေလိတရားကိုဟောတော်မူစဉ်ယဇ်ပုရောဟိတ်အကြီး။ကျမ်း
၂ ပြုဆရာ။လွှတ်အရာရှိတို့သည်လာ၍ ကိုယ်တော်သည်ဤအမှုများကိုအ
ဘယ်အခွင့်နှင့်ပြုသည်ကိုငှင်ထိုအခွင့်ကိုအဘယ်သူပေးသည်ကိုငှင်
၃ အကျွန်ုပ်တို့အားပြောပါဟုဆိုကြသော် ကိုယ်တော်ကငါသည်တစုံတခု
၄ ကိုမေးဦးမည်။သင်တို့ဖြေကြတော့။ ယောဟန်၏ရေနှစ်မင်္ဂလာသည်
၅ ဘုရားကဖြစ်သလော။လူကဖြစ်သလောဟုမေးတော်မူ၏။ ထိုသူတို့
သည်အချင်းချင်းဆင်ချင်၍ဘုရားကဖြစ်သည်ဟုငါတို့ဖြေလျှင်သင်
တို့သည်ယောဟန်ကိုအဘယ်ကြောင့်မယုံသနည်းဟုသူမေးဦးမည်။

၆ လူကဖြစ်သည်ဟုငါတို့ဖြေလျှင် ယောဟန်သည်ပရောဖက်ဖြစ်သည်
ကိုလူများ အပေါင်း တို့သည် ရုံသဖြင့် ငါတို့ကိုကျောက်ခဲနှင့် ပြစ်ထိမ့်
၇ မည်ဟုအချင်းချင်း ဆင်ခြင်ပြီးမှ အဘယ်ကဖြစ်သည် ကိုအကျွန်ုပ်
၈ တို့မသိပါဟုပြန်ပြောကြ၏။ ယေရှုကလည်းထိုအတူ။ဤအမှုများကိုအ
၉ ဘယ်အခွင့်နှင့်ငါပြုသည်ကိုငါမပြောဟုမိန့်တော်မူ၏။ ။ထိုအ
ခါပရိသတ်တို့အားမိန့်တော်မူသောဥပမာစကား။လူတဦးသည်စပျစ်
ဥယျာဉ်ကိုစိုက်ပျိုးပြီးမှလုပ်ဆောင် သောသူတို့အား ဥယျာဉ်ကို ငှါး၍
၁၀ အချားပြည်သို့ကြာမြင့်စွာ သွားနေ၏။ ကာလအချိန်တန် လျှင်လုပ်
ဆောင်သောသူတို့သည်စပျစ်သီးအချို့ကိုပေးစေခြင်းငှါဥယျာဉ်ရှင်သည်
ငယ်သားကိုစေလိုက်လေ၏။ဥယျာဉ်စောင့်တို့သည် ငယ်သားကိုရိုက်
၁၁ ၍လက်ချည်းလွှတ်လိုက်ကြ၏။ နောက်တဖန်အချား ငယ်သားကိုစေ
လိုက်ပြန်လျှင်ဥယျာဉ်စောင့် တို့သည် သူကိုရိုက် ၍ အရှက်ခွဲပြီးမှလက်
၁၂ ချည်းလွှတ်လိုက်ကြ၏။ နောက်တဖန်အချားငယ်သားကိုစေလိုက်ပြန်
၁၃ လျှင်သူကိုဒါဏ်ရာပေါ်အောင်နှာနှာရိုက်၍နှင်ထုတ်ကြ၏။ ထိုအခါ
ဥယျာဉ်ရှင်ကငါသည်အဘယ်သို့ ပြုရမည်နည်း။ငါချစ်သားကိုငါစေ
လိုက်မည်။သူတို့သည် ငါသားကို မြင်လျှင်အား နာကောင်း အားနာ
၁၄ လိမ့်မည်ဟုဆို၏။ ဥယျာဉ်စောင့်တို့သည်သားကိုမြင်လျှင်ဤသူသည်
အမွေခံဖြစ်၏။လာကြ။ သူကိုသတ်ကြစို့။ ထိုသို့သူ၏အမွေဥစ္စာကိုငါ
၁၅ တို့ရလိမ့်မည်ဟုအချင်းချင်းတိုင်ပင်ပြီးမှ ဥယျာဉ်ရှင်၏သား ကိုဥ
ယျာဉ်ပြင်သို့ထုတ်၍သတ်ပြစ်ကြ၏။ သို့ဖြစ်၍ဥယျာဉ်ရှင်သည်ဥယျာဉ်
၁၆ စောင့်တို့ကိုအဘယ်သို့ပြုမည်နည်း။ ဥယျာဉ်ရှင်သည်လာ၍ထိုသူ
တို့ကိုသုတ်သင်ပယ်ရှင်းပြီးမှထိုဥယျာဉ်ကိုအချားသူတို့အားပေးမည်
ဟုမိန့်တော်မူ၏။ ပရိသတ်တို့သည်ကြားလျှင်ထိုသို့မဖြစ်ပါစေနှင့်
၁၇ ဟုလျှောက်ကြလေသော် ကိုယ်တော်သည် သူတို့ကိုကြည့်ရှု၍ တိုက်
ကိုတည်လုပ်သော သူများ ပယ်ထားသော ကျောက် သည်နောက်တဖန်
တိုက်ထောင့်အထွဋ်ဖြစ်သို့ရောက်ပြန်၏ဟူသောကျမ်းစာချက်သည်
၁၈ အဘယ်သို့ဆိုလိုသနည်း။ အကြင်သူသည် ထိုကျောက်အပေါ်မှာကျ
၏။ထိုသူသည်ကျိုးလတံ့။အကြင်သူ၏အပေါ်မှာထိုကျောက်ကျ၏။ထို
၁၉ သူကိုညက်ညက်ကျေစေလတံ့ဟုမိန့်တော်မူ၏။ ထိုအခါယဇ်ပရော
ဟိတ်အကြီး။ ကျမ်းပြုဆရာတို့ သည်မိမိတို့ကိုရည်စောင်၍ထို ဥပမာ
စကားကိုဟောပြောတော် မူသည် ကိုသိကြသဖြင့် ကိုယ်တော်ကိုဖမ်

ဆီးခြင်းငှါရှာကြံကြ၏။သို့သော်လည်း လူအပေါင်းကိုကြောက်၍နေရ
၂၀ ကြ၏။ ။ထိုအခါဖာရိရှဲလူတို့သည်ကိုယ်တော်ကိုချောင်း
ကြည့်သောအားဖြင့်စကားတော်၌အပြစ်တွေ့၍မြို့ဝန်လက်သို့အပ်နှံ
သောအခွင့်ရှိစေခြင်းငှါသူတော်ကောင်းဖြစ်ရောင်ဆောင်သောသူ
၂၁ လျှိုတို့ကိုအထံတော်သို့စေလိုက်ကြ၏။ ထိုသူလျှိုတို့ကအရှင်ဘုရား။
ကိုယ်တော်သည်လူမျက်နှာကိုမထောက်ဘဲလျှက်ဖြောင့်မတ်စွာဆုမ္မ
ဩဝါဒပေး၍ ဘုရားသခင်၏တရားလမ်းကိုဟုတ်မှန်စွာပြတော်မူ
၂၂ သည်ကိုအကျွန်ုပ်တို့သိပါ၏။ အကျွန်ုပ်တို့သည်ကဲသာဘုရင်အား
အခွန်ဆက်အပ်သလော။ မဆက်အပ်သလောဟုမေး လျှောက်ကြ၏။
၂၃ ကိုယ်တော်သည်သူတို့ပရိယာယ်ကိုသိမှတ်တော်မူလျှင် သင်တို့သည်
၂၄ ငါကိုအဘယ်ကြောင့်စုံစမ်းနှောင့်ရှက်သနည်း။ ဒေနာရိတပြားကိုပြ
ပါ။အဘယ်သူပုံ။အဘယ်သူလိပ်စာပါသနည်းဟုမေးတော်မူလျှင်ကဲ
၂၅ သာဘုရင်၏ပုံလိပ်စာပါသည်ဟုလျှောက်ကြသော် ကိုယ်တော်က
ကဲသာဘုရင်၏ဥစ္စာကိုကဲသာဘုရင်အားဆက်ပေးကြလော့။ ဘုရား
သခင်၏ဥစ္စာကိုကားဘုရားသခင်အားဆက်ပေးကြလော့ဟုမိန့်တော်
၂၆ မူ၏။ ထိုသူတို့သည်လူများရှေ့တွင်စကားတော်၌အပြစ်မတွေ့နိုင်
သဖြင့်ပြန်ပြောတော်မူသောစကါးကိုအံ့ဩ၍တိတ်တိတ်နေကြ၏။

**

၂၇ ထမြောက်ရှင်ပြန်ခြင်းမရှိဟုညင်းခုံတတ်သော ဇဒ္ဒုကဲလူအချို့သည်
၂၈ သည်း အထံတော်သို့ချည်းကပ်၍ အရှင်ဘုရား။ မယားရှိသောသူ
မည်သည်ကားသားမရှိမှီသေလျှင်သူ၏မယားကိုသူညီသိမ်းယူ၍
အစ်ကိုအမျိုးမပြတ်ဆက်နွယ်စေဟုအကျွန်ုပ်တို့အားမောရှေစီရင်
၂၉ ရေးထားခဲ့ပြီး။ ညီအစ်ကိုခုနှစ်ယောက်ရှိ၏။အစ်ကိုအကြီးသည်
၃၀ အိမ်ထောင်၍သားမရှိမှီသေလျှင် သူ၏မယားကိုသူညီအကြီးသိမ်း
၃၁ ယူ၍သားမရှိမှီသေပြန်လေ၏။ ထိုနောက်တတိယသူသည်သိမ်းယူ
လေ၏။ထိုအတူ။တယောက်နောက်တယောက်ခုနှစ်ယောက်စေ့အောင်
၃၂ ထိုမိန်းမကိုသိမ်းယူ၍သားကိုမကျန်ရစ်စေဘဲသေသွားကြ၏။ နောက်
၃၃ ဆုံး၌မိန်းမသည်လည်းသေလေ၏။ သို့ဖြစ်လျှင်တမြောက်ရာကာလ
ထိုမိန်းမသည်အဘယ်သူ၏မယားဖြစ်ပါမည်နည်း။ ခုနှစ်ယောက်စ
လုံးတို့သည်သူနှင့်အိမ်ထောင်ဖက်ပြုကြပြီးဟုလျှောက်ကြ၏။
၃၄ ။ယေရှုကလည်းယခုဘဝသားတို့သည်အိမ်ထောင်ခြင်း။ထိမ်းမြား

၃၅ ပေးစားခြင်းကိုပြုတတ်၏။ နောင်ဘဝကိုရင်သေခြင်းမှထမြောက်
ခြင်းကိုရင်ရထိုက်သောသူတို့သည် အိမ်ထောင်ခြင်း။ ထိမ်းမြား ပေး
၃၆ စားခြင်းကိုမပြုတတ်။ သေခြင်းနှင့်အစည်ကင်းလွတ်၍ကောင်းကင်
တမန်ကဲ့သို့ဖြစ်သည်သာမကထမြောက်ခြင်း၏သါးဖြစ်သော့ကြောင့်
၃၇ ဘုရားသခင်၏သားဖြစ်ကြ၏။ ထိုမှတပါး။ မောရှေသည်ချုံ၌ထာဝရ
ဘုရားကိုအါဗြဟံ၏ဘုရား။ဣဇာက်၏ဘုရား။ယာကုပ်၏ဘုရားဟု
ခေါ်ဝေါ်သောအခါသေလွန်သောသူတို့သည်ထမြောက်ကြောင်းကိုဖော်
၃၈ ပြခဲ့ပြီး။ ဘုရားသခင်သည်သေနေသောသူတို့၏ဘုရားမဟုတ်။အ
သက်ရှင်သောသူတို့၏ဘုရားဖြစ်တော်မူ၏။ အားလုံးတို့သည်ဘု
၃၉ ရားသခင်ရှေ့တော်၌အသက်ရှင်ကြသည်ဟုမိန့်တော်မူ၏။ ကျမ်းပြု
ဆရာအချို့တို့ကအရှင်ဘုရား။ ကိုယ်တော်စကားသည် လျောက်ပတ်
၄၀ ပေ၏ဟုလျှောက်ကြ၏။ နောက်တဖန်အလျှင်းမမေးမလျှောက်ဝံ့ကြ။
၄၁ ။ယေရှုကလည်းခရစ်တော်သည်ဒါဝိဒ်၏သားဖြစ်သည်ဟုအ
၄၂ ဘယ်သို့ဆိုကြသနည်း။ ဒါဝိဒ်စကားမှာ။ထာဝရဘုရားကသင်၏ရန်
သူတို့ကိုသင်၏ခြေတင်ရာငါမချမထားမှီတိုင်အောင်ငါလက်ျာဘက်
၄၃ ၌ထိုင်နေလော့ဟု ငါ့သခင်အားမိန့်တော်မူသည်ဟုဆာလံကျမ်းစာ
၄၄ ၌ဒါဝိဒ်ဆိုသတည်း။ ထိုသို့ဒါဝိဒ်သည် ခရစ်တော်ကိုသခင်ဟူ၍ခေါ်
ဝေါ်လျှင်အဘယ်သို့သူ၏သားဖြစ်သနည်းဟုမိန့်တော်မူ၏။
၄၅ ။ပရိသတ်များနားထောင်စဉ်တွင်တပည့်တော်တို့အားတဖန်မိန့်
၄၆ တော်မူသည်ကား။ ကျမ်းပြုဆရာတို့ကိုရှောင်ကြလော့။သူတို့သည်ရှေ
သောအင်္ကျီကိုဝတ်လျက်လည်ခြင်းငှါအလိုရှိကြ၏။ ဈေး၌ရိုသေစွာ
နှုတ်ဆက်ခြင်းကိုရင်ပွဲသဘင်၌ တရားဇရပ်တို့၌ မြင့်မြတ်သောနေ
၄၇ ရာထိုင်ရာကိုရင်နှစ်သက်ကြ၏။ သူတို့သည်မုတ်ဆိုးမအိမ်ကိုလုယူ
သိမ်းစား၍အပြစ်မပေါ်အောင်ရှေ့စွာသောပဌနာစကားကိုရွတ်တတ်
ကြ၏။သူတို့သည်သာ၍ကြီးစွာသောဒါဏ်ကိုခံရကြလတ့်ဟုမိန့်တော်
၁ မူ၏။ ။ထိုနောက်ကိုယ်တော်သည်မျှော်ကြည့်၍ငွေရတတ်
သောသူတို့သည်အလှူများကိုဘဏ္ဍာတိုက်ထဲသို့သွင်းချသည်ကိုမြင်
၂ တော်မူ၏။ ဆင်းရဲသောမုတ်ဆိုးမတယောက်သည်လည်းကြေးနီဒင်္ဂါး
၃ နှစ်ပြားကိုသွင်းချသည်ကိုမြင်တော်မူလျှင် ငါအမှန်ဆိုသည်ကား။
ထိုဆင်းရဲသားမုတ်ဆိုးမသည်အချားသူအားလုံးထက်သာ၍သွင်းချ
၄ ပြီး။ အဘယ်ကြောင့်နည်းဟူမူကား။ထိုသူအားလုံးတို့သည်မိမိတို့

ကြွယ်ဝ သောစည်း စိမ်ထဲက ထုတ်၍ ဘုရား သခင်၏ အလှူရုထဲသို့
သွင်းချကြ၏။ထိုမိဖွဲမုဆိုးမူကား အလွှန်ဆင်းရဲလျက် ပင် မိမိ အသက်မွေး
စရာဥစ္စာရှိသမျှကိုသွင်းချလေပြီးဟုမိန့်တော်မူ၏။

✻✻

၅ လူအချို့တို့သည်လာ၍ ဗိတ်မှာန် တော်သည်တင့် တယ်သော ကျောက်
များနှင့်ရင်အလှူဒါနများနှင့် ရင် ဆင် ပြင်လျက်ရှိပါ၏ ဟုလျှောက်ကြ
၆ လျှင် ကိုယ်တော်က၍အရာများကိုသင်တို့သည်ယခုမြင်ကြ၏။မဖြို
မချ။ကျောက်တခုပေါ်မှာတခုမျှမတည်မနေရသောအချိန်ကာလရောက်
၇ လိမ့်မည်ဟုမိန့်တော်မူ၏။ သူတို့ကအရှင်ဘုရား။ ထိုအမှုအရာတို့
သည်အဘယ်သောခါဖြစ်ပါမည်နည်း။ ထိုအမှု အရာတို့သည်ဖြစ်လု
သော အခါ အဘယ်ပုပ္ပနိမိတ်ပေါ် ထွန်း ပါမည် နည်း ဟုလျှောက် ကြ
၈ လျှင် ကိုယ်တော်ကအဘယ်သူ မျှသင်တို့ကိုမလှည့်ဖြားရအောင်သ
ထိပြုကြလော့။ အများ သောသူတို့က ငါသည်ခရစ်တော်ဖြစ်၏။အချိန်
ကာလလည်းရောက်လါပြီးဟုဆို၍ငါအရောင်ဆောင်လျက်ပေါ်လာလိမ့်
၉ မည်။သူတို့နောက်သို့မလိုက်ကြနှင့်။ သင်တို့သည်စစ်တိုက်ခြင်းအ
ကြောင်း ကိုရင်ပုန်ကန်ခြင်း အကြောင်းကိုရင်သိတင်းကြားရသောအခါ
စိုးရိမ်ခြင်းတုန်လှုပ်ခြင်းမရှိကြနှင့်။ထိုအမှုအရာများသည်အရင်ဖြစ်
ရမည်။ဖြစ်ရသော်လည်းအဆုံးသည်အလျှင်အမြန်မဖြစ်သေး။
၁၀ ။ထို မှတပါး။လူတမျိုးနှင့်တမျိုး။တနိုင်ငံနှင့်တနိုင်ငံရန်ဘက်ပြုကြ
၁၁ လိမ့်မည်။ အရပ်ရပ်၌ကြီး စွာသောမြေကြီး လှုပ်ခြင်း။အစားခေါင်း
ပါးခြင်း။ကါလနာများပြားခြင်းတို့သည်ဖြစ်ကြလိမ့်မည်။မိုဃ်းကောင်း
ကင်၌လည်းကြောက်မက် ဖွယ် သောအရာနှင့်ကြီး စွာသောပုပ္ပနိမိတ်
၁၂ တို့သည်ပေါ်ထွန်းလိမ့်မည်။ ထိုအမှုအရာများမဖြစ်မှီလူများတို့သည်
ငါ့နာမကြောင့်သင်တို့ကိုဖမ်းဆီးညှဉ်းဆဲ၍ တရားဇရပ်၌ရင်ထောင်
ထဲ၌ရင်အပ်နှံလိမ့်မည်။ ရှင်ဘုရင်။ ဝန်မင်း ထံသို့ဆောင် သွား လိမ့်
၁၃ မည်။ ထိုသို့သောအားဖြင့်သင်တို့သည်သက်သေခံရသောအ ခွင့်ရှိ
၁၄ လိမ့်မည်။ ထိုကြောင့်သင်တို့သည် အဘယ်သို့ပြန်ပြောရမည်ကိုရှေ
၁၅ မဆွကမဆင်ချင်ရအောင်စိတ်ထဲ၌မှတ်ကြလော့။ အကြောင်းမူကား။
ရန် သူအပေါင်း တို့သည် မညင်း ခံမဟန့် တား နိုင်သောနှုတ် သတ္တိ။
၁၆ ညာဏ်သတ္တိကိုငါပေးမည်။ သင်တို့မိဘ။ညီအစ်ကို။ပေါက်ဖော်။အ
ဆွေခင်ပွန်းတို့သည် သင်တို့ကိုအပ်နှံ ကြလိမ့်မည်။ အချို့တို့ကိုလည်း

၁၇ သတ်ကြလိမ့်မည်။ လူအပေါင်းတို့သည်လည်းငါနာမကြောင့်သင်တို့
၁၈ ကိုမုန်းကြလိမ့်မည်။ သို့သော်လည်းသင်တို့ဆံချည်တပင်မျှမပျက်
၁၉ စီးရ။ သင်တို့သည်မြဲမြံသောအားဖြင့်ကယ်တင်ခြင်းသို့ရောက်ကြ
၂၀ လော့။ ။ယေရုရှလင်မြို့ကိုဗိုလ်ခြေများဝန်းရံလျက်ရှိသည်ကို
သင်တို့မြင်သောအခါထိုမြို့သည်ပျက်စီးခြင်းသို့ရောက်လုသည်ကို
၂၁ သိမှတ်ကြလော့။ ထိုအခါယုဒပြည်၌ရှိသောသူတို့သည်တောင်ပေါ်
သို့ပြေးပါလေစေ။ မြို့ထဲ၌ရှိသောသူတို့သည်မြို့ပြင်သို့ထွက်ပါလေ
၂၂ စေ။တောရွာမှာရှိသောသူတို့သည်မြို့ထဲသို့မဝင်စေနှင့်။ အကြောင်း
မူကား။ ထိုနေ့ရက်ကာလသည်ကျမ်းစာချက်များပြည့်စုံရသောဒဏ်
၂၃ စီရင်ခြင်းနေ့ရက်ကာလဖြစ်သတည်း။ ထိုနေ့ရက်၌ကိုယ်ဝန်ဆောင်
သောမိမ္မ။ နို့စို့သူငယ်ရှိသော မိမ္မတို့ သည် အလွန် ခက်လိမ့် မည်။ အ
ဘယ်ကြောင့်နည်းဟူမူကား။ ယုဒပြည်၌ ကြီး သောဆင်းရဲဒုက္ခရှိ၍
၂၄ ယုဒအမျိုးအပေါ်၌ အမျက်ဒေါသသင့်ရောက်လိမ့်မည်။ သူတို့သည်
ဓားဘေးဖြင့်ပျက်စီးခြင်းသို့ရောက်လိမ့်မည်။အချားပြည်အရပ်ရပ်
သို့ဖမ်းသွားကြလိမ့်မည်။တပါးအမျိုးသားတို့သည်မိမိတို့ကာလအချိန်
မပြည့်စုံမှီတိုင်အောင်ယေရုရှလင်မြို့ကိုခြေနှင့်နင်းကြလိမ့်မည်။
၂၅ ။ထိုအခါနေလကြယ်နက္ခတ်တို့၌ပုပ္ပနိမိတ်ထင်ရှားလိမ့်မည်။မြေ
ကြီးပေါ်မှာလည်းလူအမျိုးမျိုးမညီမ်မသက်စိုးရိမ်ကြောင့်ကြခြင်း။သ
၂၆ မုဒ္ဒရာလှိုင်းတံပိုးဟုံးခြင်း။ မြေကြီးပေါ်မှာဖြစ်လတံ့သောဘေးများ
ကိုမျှော်လင့်ကြောက်လန့်သဖြင့် လူများအသက်ဆုံးခြင်း အမှုအရာတို့
သည်ဖြစ်ကြလိမ့်မည်။ အဘယ်ကြောင့်နည်းဟူမူကား။ ကောင်းကင်
၂၇ တန်ခိုးတို့သည်တုန်လှုပ်ခြင်းရှိလိမ့်မည်။ ထိုအခါလူသားသည်ကြီး
စွာသောဘုန်းတန်ခိုးအာနုဘော်ကိုဆောင်လျက်မိုဃ်းတိမ်ကိုစီးလျက်
၂၈ ကြွလာသည်ကိုမြင်ရကြလိမ့်မည်။ ထိုအမှုအရာတို့သည်ဖြစ်စရှိသော
အခါသင်တို့ ကယ်တင် သော အချိန် ကာလရောက် လုသည်ကိုထောက်
သဖြင့်မျှော်ကြည့်၍ခေါင်းကိုကြွကြလော့ဟုမိန့်တော်မူ၏။ ။
၂၉ ထပ်၍ မိန့်တော်မူသောဥပမာကား။တည်းပင်မှစ၍သစ်ပင်များတို့ကို
၃၀ မှတ်ကြလော့။ အရွက်ပေါက်သောအခါနွေကာလနီးသည်ကိုသင်တို့အ
၃၁ လိုလိုသိမြင်ကြ၏။ ထိုနည်းတူ။ထိုအကြောင်းအရာများဖြစ်သည်ကို
မြင်ရလျှင်ဘုရားသခင်နိုင်ငံတော်တည်လုနီးသည်ကိုသိမှတ်ကြလော့။
၃၂ ငါအမှန်ဆိုသည်ကား။ ယခုရှိသောလူများမကုန်မှီထိုအကြောင်းအရာ

၃၃ အားလုံးတို့သည်ဖြစ်လိမ့်မည်။ ကောင်းကင်နှင့်မြေကြီးမတည်သော်
၃၄ လည်းငါ၏စကားတည်လိမ့်မည်။ သင်တို့သည်ကိုယ်ကိုကိုယ်သတိပြု
ကြလော့။ သို့မဟုတ်။ စားကျူး သောက် ကျူး ခြင်း။ လောကီအမှုများ
ခြင်းနှင့်စိတ်နှစ်လုံးပင်ပန်းသည်ဖြစ်၍ထိုအချိန်နေ့ရက်သည်အမှတ်
၃၅ တမဲ့သင်တို့နှင့်တွေ့ကြုံလိမ့်မည်။ ထိုအချိန်နေ့ရက်သည်ပိုက်ကွန်ကဲ့
၃၆ သို့မြေ တပြင်လုံး၌ နေသောလူအပေါင်း တို့ကိုဒုပ်မိလိမ့်မည်။ ထို
ကြောင့်ဖြစ်လတံ့သောအမှုအရာတို့ နှင့်သင် တို့သည်ကင်းလွတ် ခြင်း
ကိုငင်လူသားထံသို့ရောက်ခြင်း ကိုငင်ခံထိုက်မည်အကြောင်း။အစဉ်
၃၇ ဆုတောင်းလျက်စောင့်နေကြလော့ဟုမိန့်တော်မူ၏။ ။ထိုသို့
ကိုယ်တော်သည် နေ့ရက်အစဉ် အတိုင်း ဗိတ်မှာန်တော်၌ဆုံးမဩဝါဒ
ပေးတော်မူ၏။ ညအချိန်ရောက်လျှင်သံလွင်အမည်ရှိသောတောင်သို့
၃၈ သွား၍ကျိန်းဝပ်တော်မူ၏။ နံနက်စောစောလူများအပေါင်းတို့သည်
ဗိတ်မှာန်တော်သို့သွား၍အထံတော်၌ဒေသနာတော်ကိုနားထောင်ကြ
၁း၂ ၏။ ။ပသခါအမည်ရှိသောအဇုမပွဲခံခါနီးတွင် ယဇ်ပုရော
ဟိတ်အကြီး။ ကျမ်းပြုဆရာ တို့သည်ကိုယ်တော်ကိုသတ်အံ့သော ငါရှာ
ကြကြ၏။ အဘယ်ကြောင့် ရှာကြံ ရသနည်း ဟူမူကား။ လူများ တို့ကို
၃ ကြောက်ကြ၏။ ထိုအခါတပည့်တော်တကျိပ်နှစ်ပါးအဝင်။ယုဒရှကာ
၄ ရုတ်အထဲသို့စာတန်ဝင်လေပြီး။ ထိုသူသည် ယဇ်ပရောဟိတ်အကြီး။
စစ်ကဲမင်းတို့ဆီသို့သွား၍ကိုယ်တော်ကိုအဘယ် သို့အပ်ရမည်နည်း
၅ ဟူ၍တိုင်ပင်လေ၏။ ထိုသူတို့သည် ဝမ်း မြောက်သည်ဖြစ် ၍ ငွေကို
၆ ပေးမည်ဟုဝန်ခံကြ၏။ ယုဒရှကာရုတ်သည်လည်းဝန်ခံပြီးမှလူများမရှိ
စဉ်ကိုယ်တော်ကိုအပ်ရအောင်အဆင်သင့်သောနေ့ ရက်ကိုရှာနေ၏။

**

၇ ပသခါသိုးသငယ်ကိုသတ်ရသောနေ့။ အဇုမပွဲနေ့ရောက် သော အခါ
၈ ကိုယ်တော်ကငါတို့သည်ပသခါပွဲကိုစားရအောင်သင်တို့သွား၍ ပြင်
၉ ဆင်ကြလော့ဟုပေတရုနှင့်ယောဟန်ကိုစေလိုက်တော်မူ၏။ သူတို့က
အဘယ်အရပ်၌ပြင်ဆင်စေခြင်းငှါအလို ရှိတော်မူသနည်းဟုလျှောက်
၁၀ ကြသော် ကိုယ်တော်ကသင် တို့သည်မြို့ထဲသို့ဝင် သော အခါရေအိုး
ဆောင် သော သူကိုတွေ့ လိမ့်မည်။ သူနောက်သို့လိုက် ၍ သူဝင်သော
၁၁ အိမ်သို့ဝင်ပြီးမှ ငါသည် ငါတပည့်တို့ နှင့် တကွ ပသခါပွဲကိုစား ရ
သောဧည့်သည်အခန်းအဘယ်မှာရှိသနည်း။ဆရာကမေးသည်ဟုအိမ်

၁၂ ရှင်ကိုပြောကြလေ့။ ထိုသူသည်ပြင်ဆင်လျက်ရှိသောအထက်အခန်
ကြီးကိုပြလိမ့်မည်။ထိုအခန် ၌ ပြင်ဆင်ကြလေ့ဟုမိန့်တော်မူ၏။
၁၃ တပည့်တော်တို့သည်သွား၍စကားတော်အတိုင်းတွေ့ပြီးလျှင်ပသခါ
၁၄ ပွဲကိုပြင်ဆင်ကြ၏။ ။အချိန်ရောက်မှတမန်တော်တကျိပ်နှစ်
၁၅ ပါးတို့နှင့်အတူစားပွဲ၌ထိုင်နေတော်မူ၍ ငါသည်အသေမခံမှီ ဤပသ
၁၆ ခါပွဲကိုသင်တို့နှင့်အတူစားခြင်းငှါအလွန်အလိုရှိလေပြီး။ ငါဆိုသည်
ကား။ဘုရားသခင်နိုင်ငံတော်၌ပသခါပွဲမပြည့်စုံမှီတိုင်အောင်ယခုမှ
၁၇ စ၍ဤပွဲကိုတဖန် ငါမစားရဟုမိန့်တော်မူလျက် ခွက်ဖလားကိုယူ၍
ကျေးဇူးတော်ကိုချီးမွမ်းပြီးမှ ဤခွက်ကိုယူ၍အချင်းချင်း ဝေကြလေ့။
၁၈ ငါဆိုသည်ကား။ ဘုရားသခင်နိုင်ငံ တော်မတည် မှီတိုင်အောင်ယခု
၁၉ မှစ၍စပျစ်ရည်ကိုတဖန် ငါမသောက်ရဟုမိန့်တော်မူ၏။ ထိုအခါ
မုန့်ကိုယူ၍ကျေးဇူးတော်ကိုချီးမွမ်းပြီးမှမုန့်ကိုဖဲ့၍ ဤမုန့်ကားသင်
တို့အဖို့အလို ငှါစွန့်သောငါ၏ကိုယ်ဖြစ်၏။ ငါကိုအောင်းမေ့ဖို့ရာ ဤ
၂၀ သို့ပြုကြလေ့ဟုမိန့်တော်မူ၏။ ထိုနည်းတူ။ညစာစားပြီးမှ ခွက်ကို
လည်းယူ၍ ဤခွက်ကားသင်တို့အဖို့အလို ငှါသွန်းသောငါ၏အသွေး၌
၂၁ တည်သောဝန်ခံခြင်းတရားသစ်ဖြစ်၏။ သို့သော်လည်းငါကိုအပ်နှံ
၂၂ သောသူ၏လက်သည်စားပွဲပေါ်မှာငါလက်နှင့်အတူရှိ၏။ ခွဲခန့်မှတ်
သားတော်မူသည်အတိုင်း လူသားပြန်သွားရ၏။ သို့သော်လည်း လူ
၂၃ သားကိုအပ်နှံသောသူသည်အမင်္ဂလာရှိ၏ဟုမိန့်တော်မူ၏။ တပည့်
တော်တို့သည် လည်း ထိုအမှုကိုအဘယ်သူ ပြုအံ့နည်း ဟုအချင်းချင်း
၂၄ မေးမြန်းကြ၏။ ။ထိုမှတပါး။တပည့်တော်သည်မိမိတို့တွင်
အဘယ်သူသည်သာ၍ကြီးမြတ်သနည်း ဟုအချင်းချင်း ညင်းခုံခြင်း
၂၅ ရှိသည်ဖြစ်၍ ကိုယ်တော်ကလော ကီမင်းတို့သည်အစိုးတရပြုတတ်
၏။ အာဏာထား သောသူတို့ကိုလည်းကျေးဇူး ပြုသောသူဟူ၍ခေါ်
၂၆ ဝေါ်ကြ၏။ ထိုနည်းတူသင်တို့မပြုရ။သင်တို့တွင်အကဲအမှူးပြုသော
သူကိုငယ်သားကဲ့သို့ဖြစ်စေ။ အုပ်စိုးသောသူကိုလည်း အစေခံကဲ့သို့
၂၇ ဖြစ်စေ။ အဘယ်သူသာ၍ကြီးသနည်း။စားပွဲ၌ထိုင်သောသူကြီးသ
လော။လုပ်ကျွေးသောသူကြီးသလော။စားပွဲ၌ထိုင်သောသူကြီးသည်
မဟုတ်လော။ ငါမူကား သင်တို့တွင်လုပ်ကျွေး သောသူကဲ့သို့ ဖြစ်၏။
၂၈ ငါသည်စုံစမ်းနှောင့်ရှက်ခြင်း ကိုခံစဉ်တွင်သင်တို့သည်ငါ၌မှီဝဲသော
၂၉ သူဖြစ်ကြ၏။ ငါခမည်းတော်သည်ငါအားနိုင်ငံကိုပေးတော်မူသည်

၃၀ နှင့်အညီ သင်တို့သည်ငါနိုင်ငံတွင်စားပွဲ၌စားသောက်သောအခွင့်
ကိုရင်၍ဣသရေလလူဆယ်နှစ်မျိုးကိုအုပ်စိုး၍ တရားပလ္လင်ပေါ်၌ထိုင်
သောအခွင့်ကိုရင်ငါသည်သင်တို့အားပေး၏ဟုမိန့်တော်မူ၏။
၃၁ ။တဖန်သခင်ဘုရားကရှိမုန်။ရှိမုန်။ဂျုံစပါးဆံကိုဆံခါနှင့်ချသကဲ့
၃၂ သို့စာတန်သည်သင်တို့ကိုချရသောအခွင့်တောင်းသည်ဖြစ်၍ သင်
၏ဂုံကြည်ခြင်းမရှေ့မလျော့ရအောင်ငါသည်သင်အဖို့တောင်းလေပြီ။
သင်သည်သတိရပြန်သောအခါသင်ညီအစ်ကိုတို့ကိုမြဲမြဲစေလော့ဟု
၃၃ မိန့်တော်မူလျှင် ပေတရုကသခင်။ကိုယ်တော်နှင့်အတူထောင်ထဲသို့
ရင်အသေသတ်ခြင်းကိုရင် လိုက်ခြင်းငှါအကျွန်ုပ် အသင့် ရှိပါ၏ဟု
၃၄ လျှောက်လေသော်သခင်ဘုရားကပေတရု။ငါဆိုသည် ကား။ယနေ့တွင်
ကြက်မတွန်မှီသင်သည် ငါကိုမသိဟုသုံး ကြိမ် မြောက် အောင်ညင်း
၃၅ လိမ့်မည်ဟုမိန့်တော်မူ၏။ ။တဖန်မိန့်တော်မူသည်ကား။အ
ထက်ကငွေအိတ်။လွယ်အိတ်။ခြေနင်း မပါဘဲသွားကြလော့ဟုသင်တို့
ကိုငါစေလွှတ်သောအခါတစုံတခုလိုသလောဟုမေးလျှင်တစုံတခုမျှမ
၃၆ လိုပါဟုလျှောက်ကြသော် ယခုမူကား ငွေအိတ်ရှိသောသူသည်ယူပါ
လေစေ။လွယ်အိတ်ရှိသောသူသည်ယူပါလေစေ။ဓားမရှိသောသူသည်
၃၇ အဝတ်ကိုရောင်း၍ဓားကိုဝယ်ပါလေစေ။ အကြောင်းမူကား။ထိုသူ
သည်မတရားသောသူတို့နှင့်ရေတွက်ဝင်ခြင်းသို့ရောက်၏ဟူသော
၃၈ ကျမ်းစာချက်သည်ငါ၌ယခုပြည့်စုံရ၏။ ငါအမှုအရာတို့သည်ပြီး
စီးခြင်းသို့ရောက်ခဲ့ပြီးဟုမိန့်တော်မူ၏။သူတို့ကလည်းသခင်။ဓားနှစ်
စင်းရှိပါ၏ဟုလျှောက်လျှင်တန်ပြီးဟုမိန့်တော်မူ၏။

❋❋

၃၉ ထိုနောက်အလေ့တော်ရှိသည့်အတိုင်းသံလွင်တောင်ဆီသို့ထွက်ကြွ
၄၀ တော်မူ၍တပည့်တော်တို့သည်နောက်တော်သို့လိုက်ကြ၏။ ထိုအရပ်
သို့ရောက် တော်မူလျှင် စုံစမ် နှောင့်ရှက်ခြင်း သို့မဝင်ရ အောင် ဆု
၄၁ တောင်းကြလော့ဟုမိန့်တော်မူပြီးမှ တပည့်တော်တို့နှင့်ကျောက်ခဲတ
၄၂ ပြစ်လောက် ခွာသွား၍ ဒူးထောက်လျက် အဖ။ အလိုတော် ရှိလျှင်ဤ
ခွက်ကိုအကျွန်ုပ်ဆီမှ လွှဲတော် မူပါ။သို့သော်လည်း အကျွန်ုပ်အလိုမ
ဖြစ်ပါစေနှင့်။ကိုယ်တော် အလိုဖြစ်ပါစေသောဟုဆုတောင်းတော်မူ
၄၃ ၏။ ကောင်းကင်တမန်သည်ထင်ရှားလာ၍ကိုယ်တော်ကိုအားပေး
၄၄ လေ၏။ ပြင်းစွာသောဝေဒနာခံလျက်အလွန်သဖြင့်ကျိုးစား၍ဆု

တောင်း တော်မူ၏။ ထွက်တော်မူသောချွေး သည်မြေပေါ်၌ကျ သော
၄၅ သွေးစက်ခဲကဲ့သို့ဖြစ်လေ၏။ ထိုသို့ဆုတောင်းပြီးမှယေရှုသည်ထ၍
ဖြင့်ထပည့်တော်တို့ဆီသို့ပြန်၍ သူတို့ဝမ်းနည်း သော စိတ် ရှိသည် နှင့်
၄၆ အိပ်ပျော်နေသည်ကိုတွေ့တော်မူလျှင် သင်တို့သည်အဘယ်ကြောင့်
အိပ်ပျော်သနည်း။ ထကြ။ စုံစမ်း နှောင့် ရှက်ခြင်း သို့မဝင် ရအောင်ဆု
၄၇ တောင်းကြလော့ဟုမိန့်တော်မူ၏။ ။ထိုသို့မိန့် တော်မူစည်
ပင်တပည့် တော်တကျိပ်နှစ်ပါးအဝင် ဖြစ် သောယုဒရှကာရုတ်သည်
လူအပေါင်းကိုလမ်းပြလျက်လာ၏ ယေရှုကိုနမ်း ရအောင်ချဉ်းကပ်လေ
၄၈ ၏။ ယေရှုကလည်းအိုယုဒ။သင်သည်နမ်းခြင်းကိုပြုသဖြင့်လူသားကို
၄၉ အပ်သလောဟုမေးတော်မူ၏။ ယေရှုနှင့်အတူ ရှိသော သူတို့သည်
ဖြစ်အံ့သောအမှုကိုမြင်၍ သခင်။ အကျွန်ုပ် တို့သည် ဓား နှင့် ခုတ်ရသ
၅၀ လောဟုလျှောက်ပြီးလျှင် တယောက်ကယဇ်ပရောဟိတ်မင်း၏ကျွန်
၅၁ တယောက်ကိုခုတ်၍လက်ျာနားရွက်ပြတ်လေ၏။ ယေရှုကလည်းတန်
စေဟုမိန့်တော်မူ၍နား ရွက်ကိုလက်တော်နှင့် တို့သဖြင့်အနာပျောက်
၅၂ စေတော်မူ၏။ ထိုအခါ အထံ တော်သို့ရောက် လာ သောယဇ်ပရော
ဟိတ်အကြီး။ဗိတ်မှာန်မှူး။ လွှတ်အရာ ရှိတို့အား ယေရှုကသင် တို့သည်
ဓားမြကိုဖမ်းသကဲ့သို့ငါကိုဖမ်းအံ့ သော ဌါဓား နှင့်ဒုတ်များ ကိုလက်စွဲ
၅၃ လျက်လာကြသည်တကား။ ငါသည်ဗိတ်မှာန်တော် ၌သင်တို့နှင့်အတူ
ရှိနေစည်တွင်သင်တို့သည် ငါကိုမဖမ်းဆီးကြ။ သို့ သော်လည်းယခုအ
ချိန်ကား သင်တို့အချိန် ဖြစ်၏ မှောင် မိုက်တန်ခိုး လည်း ဖြစ်၏ ဟုမိန့်
၅၄ တော်မူ၏။ ။ထိုသူတို့သည်ကိုယ်တော်ကိုဖမ်းဆီး၍ယဇ်ပရော
ဟိတ် မင်းအိမ်သို့ ယူသွားကြ၏။ ပေတရုသည် လည်းသူတို့နှင့်အဝေး
၅၅ လိုက်လေ၏။ အိမ်ဦးအလယ်၌မီးမွေး ပြီးမှလူများ တို့သည်စုဝေး၍
၅၆ ထိုင်ကြလျှင်ပေတရုသည်လည်းသူတို့အထဲ၌ထိုင်နေ၏။ ထိုသို့ပေတ
ရုမီးလှုံ ၍ နေသည်ကိုအစေအပါမိန်းမတယောက် မြင်လျှင် သူကိုစေ့စေ့
ကြည့် ၍ ဤသူသည် ယေရှု နှင့် ပေါင်း ဖော် သော သူဖြစ် သည်ဟုဆို
၅၇ သော် ပေတရုက အချင်း မိန်းမ။ ထိုသူ ကိုငါ မသိဟု ငြင်းလေ၏။ ထို
၅၈ နောက်များ မကြာ။ အချား သော သူသည်ပေတရုကိုမြင်လျှင် သင်
သည်လည်းထိုသူတို့အဝင်ဖြစ်၏ဟုဆိုသော် ပေတရုကအချင်း လူ။ ငါ
၅၉ သည်သူတို့အဝင်မဟုတ်ဟုဆို၏။ တဖန်နှစ်နာရီလောက်ကြာပြီးမှ
အချားသော သူကအကယ်၍ဤသူသည် ယေရှု နှင့်ပေါင်းဖော်သောသူ

၆၀ ဖြစ်၏။ ဂါလိလဲ လူလည်းဖြစ်၏ ဟုခိုင် မာစွာဆိုလျှင် ပေတရုက အ
ချင်း လူ။ သင် ပြောသော အရာကိုငါမသိဟုဆို၏။ ထိုစကား ကိုပြော
၆၁ သော ခဏချင်းပင်ကြက် တွန်လေ၏။ ထိုအခါ သခင်ဘုရား သည်
လှည့် ၍ ပေတရုကိုကြည့် တော်မူ၏။ကြက်မတွန်မှီသင်သည်သုံးကြိမ်
မြောက် အောင်ငါကို ညင်း ပယ်လိမ့်မည် ဟုမိန့်တော်မူသော စကား
၆၂ ကိုပေတရုသတိရသဖြင့်ပြင်သို့ထွက် ၍ ပြင်း စွာငိုကျွေးလေ၏။
၆၃ ။ယေရှုကိုဖမ်ဆီးသောသူတို့သည်ကိုယ်တော်ကိုကဲ့ရဲ့ရိုက်ပုတ်
၆၄ ကြ၏။ မျက်နှာ တော် ကိုဖုံး ၍ လက်နှင့် ပုတ်လျှက်ကိုယ် တော်ကိုအ
၆၅ ဘယ်သူပုတ်သည်ကိုပရောဖက်ပြု၍ဟောတော်မူပါဟုဆိုကြ၏။ အ
ချားသောစကားများဖြင့်လည်း ကိုယ်တော်ကိုပြစ်မှား ၍ ပြောဆိုကြ
၆၆ ၏။ ။နံနက်အချိန်ရောက်သောအခါလူများကိုအုပ်စိုးသောလွှတ်
အရာ ရှိ။ ယဇ်ပရောဟိတ်အကြီး။ကျမ်ပြုဆရာ တို့သည် စည်း ဝေး၍
၆၇ ကိုယ်တော်ကိုလွှတ်တော်ဆီသို့ယူ ဆောင်ပြီး လျှင် သင်သည် ခရစ်
တော်မှန်သလော။ငါတို့အားပြောတော့ဟုဆိုကြ၏။ ယေရှုကလည်း ငါ
၆၈ ပြောလျှင်သင်တို့မရုံ။ ငါမေးလျှင်လည်းသင်တို့မပြေဘဲငါကိုမလွှတ်
၆၉ ဘဲနေလိမ့်မည်။ နောင်၌လူသားသည်ဘုရားသခင်၏ တန်ခိုး တော်
၇၀ လက်ျာဘက်၌ထိုင်တော်မူလတ့ံဟုမိန့်တော်မူလျှင် အားလုံး တို့ကသို့
ဖြစ်၍သင်သည်ဘုရားသခင်၏ သားတော်မှန်သည် တကားဟုဆိုကြ
၇၁ သော်သင်တို့ဆိုသည်အတိုင်း ငါမှန်ပေ၏ ဟုမိန့် တော်မူ၏။ သူတို့
ကလည်းအချား သက်သေကိုအဘယ်အလိုရှိသေးသနည်း။ သူစကား
ကိုငါတို့ကိုယ်တိုင်ကြားရပြီးဟုဆိုကြ၏။

**

၁ ထိုအခါမင်း အရာ ရှိအပေါင်း တို့သည်ထ ၍ ကိုယ်တော်ကို ပိလတ်မင်း
၂ ထံသို့ ပို့ဆောင်ကြလျှင် ဤသူသည်ပြည် သူပြည်သား များကိုလှည့်
စား၍ မိမိသည်ခရစ် တော်တည်းဟူသော ရှင်ဘုရင် ဖြစ်ကြောင်း ကို
ဆိုသဖြင့် ကဲသာ ဘုရင် ကိုအ ခွန် မဆက် ရဟု မြစ်တား သည် ကိုအ
၃ ကျွန်ုပ်တို့တွေ့ပါပြီး ဟုအပြစ်တင်ကြ၏။ ပိလတ် မင်းကသင် သည်
ယုဒရှင်ဘုရင်မှန်သလောဟု ယေရှုကိုမေး လျှင်မင်း ကြီးမေး သည် အ
၄ တိုင်းမှန်ပေ၏ဟုမိန့်တော်မူ၏။ ပိလတ်မင်းက ဤလူ၌ အဘယ်အပြစ်
ကိုမျှ ငါ မတွေ့ ဟုယဇ်ပရောဟိတ် အ ကြီး။ လူ အပေါင်း တို့ အား ဆို
၅ လျှင် သူတို့သည်သာ ၍ ပြင်း သောအသံ နှင့် ဟစ်ကျော်လျှက်ဤသူ

သည်ဂါလိလဲပြည် မှစ၍ ယုဒပြည် အနှံ့အပြား ဤအရပ်ထိုင်အောင်
ဆုံးမွှတြာဝါဒပေးသဖြင့် လူများကို နှိုးဆော်သော သူဖြစ်ပါသည်ဟု
၆ လျှောက်ဆိုကြ၏။ ။ပိလတ်မင်းသည်ဂါလိလဲဟူသောစကားကိုကြား
၇ လျှင်သူသည်ဂါလိလဲလူဖြစ်သလောဟုမေးမြန်း၍ ဟေရုဒ်မင်းပိုင်
သော သူဖြစ်သည်ကိုသိသော အခါဟေရုဒ်မင်းဆီသို့ပို့စေ၏။ ဟေရုဒ်
၈ မင်းသည်ထိုအခါယေရုရှလင်မြို့ ၌ရှိသတည်း။ ။ဟေရုဒ်မင်း
သည်ယေရှုကိုမြင်လျှင်အလွန်ဝမ်းမြောက်ခြင်း ရှိ၏။ အဘယ်ကြောင့်
နည်းဟူမူကား။အထက်ကသိတင်းတော်များကိုကြား၍ကိုယ်တော်ကို
မြင်ခြင်းငှါကြာမြင့်စွာအလိုရှိသည်ဖြစ်၍ ပြတော်မူသောနိမိတ်လက္ခ
၉ ဏာတစုံတခုကိုမြင်ရမည်ဟုမျှော်လင့်လျက်နေ၏။ ထိုအခါဟေရုဒ်
မင်းသည်ကိုယ်တော်ကိုအစစ မေးမြန်းသော်လည်း အဘယ်စကား
၁၀ ကိုမျှပြန်တော်မမူ။ယဇ်ပုရောဟိတ်အကြီး။ ကျမ်းပြုဆရာ တို့သည်ထ
၁၁ ၍ပြင်းထံစွာအပြစ်တင်ကြ၏။ ဟေရုဒ်မင်းသည်စစ်သူရဲတို့နှင့်တ
ကွကိုယ်တော်ကိုမခန့်ညား သော စိတ်နှင့်ကဲ့ရဲ့ ၍ တင့်တယ် သောအ
၁၂ ဝတ်ဝတ်စေပြီး မှပိလတ်မင်းဆီသို့ ပို့ပြန်စေ၏။ ထိုနေ့၌ပိလတ်မင်း၊
ဟေရုဒ်မင်း တို့သည် အချင်း ချင်းအဆွေဖွဲ့ကြ၏။ အထက်ကရန်ဘက်
၁၃ ဖြစ်သတည်း။ ။တဖန်ပိလတ်မင်းသည်ယဇ်ပုရောဟိတ်အကြီး။
၁၄ မင်းအရာရှိ။လူများတို့ကိုခေါ်၍ ပြည်သူပြည်သားများကိုပုန်ကန်
စေသောသူကဲ့သို့ ဤလူကိုသင်တို့သည် ငါထံသို့ ဆောင်ခဲ့ပြီးဖြစ်၍
သင်တို့ရှေ့မှာငါစစ်ကြောလျှင်သင်တို့တင်သော အပြစ် တစုံတခုကို
၁၅ သူ၌ငါမတွေ့။ ဟေရုဒ်မင်းသည်လည်းမတွေ့။ထိုမင်းဆီသို့ငါပို့စေခဲ့
၁၆ ပြီး။ဤသူသည်သေထိုက်သောအပြစ်တစုံတခုကိုမပြု။ ထို့ကြောင့်
၁၇ သူ့ကိုငါဆုံးမ၍လွှတ်မည်ဟုဆိုလေ၏။ ထိုပွဲ၌တစုံတယောက်သော
၁၈ သူကိုလူအပေါင်းတို့အားမလွှတ်ဘဲမနေရသတည်း။ လူအပေါင်းတို့
ကထိုသူကိုထုတ်ပါတော့။ အကျွန်ုပ်တို့အား ဗာရဗ္ဗကိုလွှတ်ပါတော့ဟု
၁၉ တညီတညွတ်တည်းဟစ်ကျော်ကြ၏။ ထိုဗာရဗ္ဗကားမြို့ထဲ၌ပုန်ကန်
ခြင်း။လူအသက်ကိုသတ်ခြင်းအပြစ်ကြောင့် ထောင်ထဲ၌ လှောင်ထား
၂၀ သောသူဖြစ်သတည်း။ ။ပိလတ်မင်းသည်ယေရှုကိုလွှတ်ချင်
၂၁ သောစိတ်ရှိ၍သူတို့အားတဖန်ပြောဆိုလေ၏။ သူတို့ကလည်းယေရှု
ကိုလက်ဝါးကပ်တိုင်မှာရိုက်ထားပါ။ရိုက်ထားပါဟုဟစ်ကျော်ကြ၏။
၂၂ ပိလတ်မင်းကသူသည်အဘယ်အပြစ်ကိုပြုဘိသနည်း။သေထိုက်သော

အပြစ်တစုံတခုကိုသူ၌ငါမတွေ့။ ထိုကြောင့် သူကိုငါဆုံးမ၍ လွှတ်မည်
၂၃ ဟုသုံး ကြိမ်မြောက်အောင်ဆိုလျှင် လူများတို့သည် သူကိုလက်ဝါး
ကပ်တိုင် မှာရိုက် ထား စေခြင်း ငှါကြီး စွာသော အသံနှင့် ကြပ်ကြပ်
တောင်းသဖြင့်သူတို့အသံနှင့်ယဇ်ပရောဟိတ်အကြီးတို့၏အသံသည်
၂၄ နိုင်လေ၏။ ပိလတ်မင်းကသူတို့တောင်းသည် အတိုင်း ဖြစ် စေဟုစီ
၂၅ ရင်၍ ပုန်ကန်ခြင်း။လူအသက်ကိုသတ်ခြင်းအပြစ်ကြောင့် ထောင်ထဲ
၌လှောင်ထားသောလူကိုလူများတောင်းသည် အတိုင်းလွှတ်ပြီးမှယေ
၂၆ ရှုကိုသူတို့အလိုသို့အပ်လိုက်လေ၏။ ။ကိုယ်တော်ကိုထုတ်သွား
ကြစဉ်ရှိမုန် အမည်ရှိသော ကုရင်ပြည်သား တယောက်သည် တော
ရွာမှလာသည်ကိုသူတို့တွေ့လျှင်ဖမ်းဆီး၍ ယေရှု နောက် တော်၌ လက်
၂၇ ဝါးကပ်တိုင်တော်ကိုထမ်း စေကြ၏။ နောက်တော်သို့လိုက်သောလူ
များအပေါင်းတို့တွင်ကိုယ်တော်ကိုငိုကျွေးမြည်တမ်းသောမိမ္မအချို့ပါ
၂၈ ၏။ ထိုသူတို့ကိုယေရှုလှည့်ကြည့်၍ ယေရုရှလင်မြို့သမီးတို့။ ငါကိုမငို
၂၉ ကြနှင့်။မိမိတို့ကိုငှင်မိမိတို့သားများကိုငှင်ငိုကြလော့။ အကြောင်း
မူကား။မိမ္မမြုံနေ်လာ ရှိ၏။ပဋိသန္ဓေမယူဘူးသောဝမ်း။နို့မစို့ဘူးသော
သမြတ်မင်္ဂလာ ရှိ၏ ဟုပြောရသောနေ့ရက် ကာလရောက် လိမ့်မည်။
၃၀ ထိုအခါသူတို့ကငါတို့အပေါ်၌ တောင်များကျပါစေ။ကုန်းများဖုံး အုပ်
၃၁ ပါစေဟုတောင်းပန်ကြလိမ့်မည်။ အဘယ် ကြောင့်နည်း ဟူမူကား။
စိမ်းသောအပင်၌ဤသို့ဖြစ်လျှင်ချောက်သောအပင်၌အဘယ်သို့ဖြစ်
၃၂ မည်နည်းဟုမိန့်တော်မူ၏။ ထိုအခါကိုယ်တော်နှင့်အတူလူဆိုးနှစ်
ယောက်တို့ကိုလည်းသတ်အံ့သောငှါထုတ်သွားကြ၏။



၃၃ ကရာနိအမည်ရှိသော အရပ်သို့ ရောက် ကြသော်ကိုယ် တော်နှင့် တကွ
ထိုလူဆိုး တို့ကို လက်ျာ တော် ဘက် တယောက်။ လက်ဝဲ တော်ဘက်တ
၃၄ ယောက်။ လက်ဝါးကပ်တိုင်မှာရိုက်ထားကြ၏။ ယေရှုကလည်း အဘ။
သူတို့အပြစ်ကိုလွှတ်တော်မူပါ။သူတို့သည် ကိုယ်ပြု သောအမှုကိုမသိ
ကြပါဟုမြွက်ဆိုတော်မူ၏။ အဝတ်တော် ကိုလည်း စာရေး တံပြု၍ ဝေ
၃၅ ဖန်ကြ၏။ လူများတို့သည်လည်းကြည့်ရှုလျက်ရပ်နေကြ၏။ သူတို့နှင့်
တကွမင်းအရာရှိတို့ကသူသည် သူတပါးတို့ကိုကယ်တင်တတ်၏။ဤသူ
သည် ခရစ်တော်တည်း ဟူသောဘုရားသခင်ရွေး ချယ်တော်မူသော
၃၆ သူမှန်လျှင်ကိုယ်ကိုကိုယ်ကယ်တင်ပါလေစေဟူ၍ကဲ့ရဲ့ကြ၏။ စစ်

၃၇ သူရဲတို့သည်လည်းလာ၍ပုံးရည်ကိုကပ်ပေးလျက် သင်သည်ယုဒရှင်
ဘုရင်မှန်လျှင်ကိုယ်ကိုကယ်တင်တော့ဟူ၍ကဲ့ရဲ့သောအားဖြင့်ဆို
၃၈ ကြ၏။ ခေါင်းတော်ပေါ်မှာတပ်၍အပြစ်ဖော်ပြသောကမ္ပည်းလိပ်စာ
ချက်ဟူမူကား။ ဤသူသည်ယုဒရှင်ဘုရင်ပေတည်းဟုဟေဗြဲဘာသာ
အားဖြင့်ဂရိဟေလသဘာသာအားဖြင့်ဂရောမဘာသာအားဖြင့်
၃၉ ဂရိရေး၍ခေါင်းတော်ပေါ်မှာတပ်သတည်း။ ။ဆွဲထားသောလူ
ဆိုးနှစ်ယောက်တွင်တယောက်ကသင်သည်ခရစ်တော်မှန်လျှင်ကိုယ်
၄၀ ကိုင်ငါတို့ကိုင်ကယ်တင်တော့ဟုကိုယ်တော်ကိုကဲ့ရဲ့၍ဆိုလေ၏။ တ
ယောက်ကမိမိအဖော်ကိုဆုံးမ၍သင်သည် ဤသူခံည်းတူအပြစ်ဒဏ်
၄၁ ခံလျက်ပင်ဘုရားသခင်ကိုမကြောက်သလော။ ငါတို့မူကားမိမိပြု
သောအမှုတို့၏အပြစ်ကိုသာခံရသည်ဖြစ်၍တရားသဖြင့်ခံသတည်း။
၄၂ ဤသူမူကားအဘယ်အပြစ်ကိုမျှမပြုဟုဆိုပြီးမှ သခင်။ကိုယ်တော်
သည်နိုင်ငံတော်သို့ဝင်စားသောအခါအကျွန်ုပ်ကိုအောင်းမေ့တော်မူ
၄၃ ပါဟုယေရှုကိုလျှောက်ဆို၏။ ယေရှုကလည်းငါအမှန်ဆိုသည်ကား။ယ
နေ့တွင်သင်သည်ငါနှင့်အတူပရဒိသုဘုံ၌ဖြစ်လိမ့်မည်ဟုမိန့်တော်
၄၄ မူ၏။ ။ထိုအချိန်သည်မွန်းတည့်အချိန်လောက်ဖြစ်၍သုံးချက်
၄၅ တီးအချိန်တိုင်အောင်မြေတပြင်လုံးမှောင်မိုက်အတိဖြစ်လေ၏။ နေ
အရောင်ကွယ်ပျောက်လေ၏။ဗိတ်မှာန်တော်၏ကုလားကာသည်နှစ်
၄၆ ပြားကွဲလေ၏။ ယေရှုသည်လည်းကြီးသောအသံနှင့်ကျွေးကျော်ပြီး
လျှင်အဖ။အကျွန်ုပ်စိတ်ဝိညာဉ်ကိုကိုယ်တော်လက်၌အကျွန်ုပ်အပ်ပါ
၄၇ ၏ဟုမိန့်တော်မူသဖြင့်အသက်ချုပ်တော်မူ၏။ ထိုအခြင်းအရာတို့
ကိုတပ်မှူးမြင်လျှင်စင်စစ်ဤသူသည်ဖြောင့်မတ်သောသူဖြစ်လေ
၄၈ ၏ဟုဆို၍ဘုရားသခင်ကိုချီးမွမ်းလေ၏။ ထိုအမှုကိုအကြည့်အစုံ
လာသောသူအားလုံးတို့သည်ထိုအခြင်းအရာများကိုမြင်လျှင်ရင်
၄၉ ဖတ်ကိုခတ်၍ပြန်သွားကြ၏။ ဂါလိလဲပြည်မှနောက်တော်၌လိုက်လာ
သောမိန္မတို့နှင့်ကိုယ်တော်ကိုသိကျွမ်းသောသူအားလုံးတို့သည်လည်း
၅၀ အဝေးကကြည့်ရှု၍ရပ်နေကြ၏။ ။ထိုအခါယုဒပြည်အရိမသဲ
မြို့သား။ယောသပ်အမည်ရှိသောလွှတ်အရာရှိတယောက်သည်အ
၅၁ ချားသောလွှတ်အရာရှိတို့တိုင်ပင်စီရင်ခြင်းကိုဝန်ခံသောသူမဟုတ်။
ဘုရားသခင်နိုင်ငံတော်ကိုမျှော်လင့်သောသူတော်ကောင်း။သူတော်
၅၂ မြတ်ဖြစ်သည်နှင့်ပိလတ်မင်းထံသို့ဝင်၍ယေရှု၏အလောင်းတော်ကို

၅၃ တောင်းပြီးလျှင် အလောင်းတော်ကိုချ၍ပိတ်ချောနှင့်ထုတ်ရစ်ပြီးမှ
ဖြင့်တယောက်ကိုမျှမသင်းဂြိုဟ်ဘူးသောကျောက်သင်းဂြိုင်းတွင်းဌ်
၅၄ ထားလေ၏။ ထိုနေ့ကားအဖိတ်နေ့တည်းဟူသောပရက္ကူနေ့ဖြစ်သ
၅၅ တည်း။ ဂါလိလဲပြည်ကကိုယ်တော်နှင့်အတူလာသော မိမ္မများသည်
သင်းဂြိုင်းတော်ကိုင်အလောင်းတော်အဘယ်သို့ထားသည်ကိုင်အကြည့်
၅၆ အရှုလိုက်လာကြ၏။ ထိုနောက်ပြန်သွားသဖြင့်ဆီမွှေးနံ့သာမျိုးကို
ပြင်ဆင်၍ပညတ်တော်အတိုင်းဥပုသ်နေ့၌အလုပ်မလုပ်ဘဲနေကြ၏။

❊❊

၁ ခုနှစ်ရက်တွင်ပဌမနေ့ရက်။အာရုဏ်တက်သေါအချိန်၌ထိုမိမ္မတို့သည်
အချားမိမ္မတို့နှင့်တကွမိမိတို့ပြင်ဆင်သောနံ့သာမျိုးကိုဆောင်လျက်
၂ သင်းဂြိုင်းတော်ဆီသို့သွားကြ၏။ ရောက်သောအခါတွင်းဝပိတ်
သောကျောက်သည်လှိမ့်လှန်လျက်ရှိသည်ကိုတွေ့မြင်၍အတွင်းသို့
၃။၄ ဝင်ပြီးလျှင် သခင်ယေရှု၏ အလောင်းတော်ကို မတွေ့ကြ။ ထိုအ
ကြောင်းကြောင့်သူတို့သည်တွေးတောသောစိတ်ရှိစဉ်တွင်လူနှစ်
ယောက်တို့သည်ပြိုးပြိုးပြက်ပြက်သောအဝတ်နှင့်ဝတ်ဆင်လျက်ပေါ်
၅ လာ၏။ ထိုမိမ္မတို့သည်ကြောက်လန့်သောစိတ်နှင့်ငုံ့နေစဉ်ထိုသူတို့
ကသင်တို့သည်အသေကောင်ထားရာအရပ်၌အသက်ရှင်သောသူကို
၆။၇ အဘယ်ကြောင့်ရှာသနည်း။ ဤအရပ်၌မရှိ။ထမြောက်ခဲ့ပြီး။လူသား
သည်ဆိုးသူတို့လက်သို့အပ်နှံခြင်း။လက်ဝါးကပ်တိုင်မှာအသေသတ်
ခြင်းကိုခံရမည်။သုံးရက်မြောက်သောနေ့၌ထမြောက်ရမည်ဟုဂါလိ
လဲပြည်၌ရှိတော်မူစဉ်သင်တို့အားမိန့်တော်မူသောစကားတော်ကို
၈ အောင်းမေ့ကြဦးဟုဆိုကြသည်ရှိသော် ထိုမိမ္မတို့သည်စကားတော်
၉ ကိုသတိရသည်ဖြစ်၍ သင်းဂြိုင်းတော်ကပြန်လျှင်ထိုအကြောင်းအ
ရာအားလုံးတို့ကိုတကျိပ်တပါးသောသူမှစ၍ကြွင်းသောတပည့်တော်
၁၀ အပေါင်းတို့အားပြန်ကြားကြ၏။ ။ထိုအကြောင်းအရာကိုတ
မန်တော်တို့အားပြောသောသူကား မာဂဒလမာရိ။ ယောဟန္န။ ယာ
၁၁ ကုပ်၏အမိဖြစ်သောမာရိမှစ၍အချားသောမိမ္မဖြစ်သတည်း။ သူ
တို့စကားကိုဒဏ္ဍာရီစကားကဲ့သို့ထင်၍တမန်တော်တို့သည်မယုံကြ။သို့
၁၂ သော်လည်း ပေတရုထသဖြင့်သင်းဂြိုင်းတော်ဆီသို့ပြေး၍ရောက်သည်
ရှိသော်ငုံ့ကြည့်၍ပိတ်ပုဆိုးသာရှိရစ်သည်ကိုမြင်လျှင်ထိုအကြောင်း
၁၃ အရာကိုအံ့ဩ၍မိမိအိမ်သို့ပြန်သွား၏။ ။ထိုမှတပါး။တ

ပည့်တော်နှစ်ယောက်တို့သည် ယေရုရှလင်မြို့နှင့် ခရီးလေးတိုင်ကွာ
၁၄ သောဧမောက်အမည်ရှိသောရွာသို့ထိုနေ့၌သွားကြစဉ်တွင် ဖြစ်ခဲ့
ပြီးသောအကြောင်းအရာအားလုံးတို့ကိုအချင်းချင်းဆွေးနွေးပြောဆို
၁၅ ကြ၏။ ထိုသို့ဆွေးနွေးပြောဆိုကြစဉ်တွင် ယေရှုသည်ချဉ်း၍သူ
၁၆ တို့နှင့်အတူသွားလေ၏။ သူတို့သည်မျက်စိချုပ်လျက်ရှိ၍ကိုယ်တော်
၁၇ ဖြစ်မှန်းကိုမသိကြ။ ကိုယ်တော်ကလည်းသင်တို့သည်ခရီးသွား၍အ
ချင်းချင်းဆွေးနွေးသောစကားကားအဘယ်စကားနည်း။သင်တို့မျက်
၁၈ နှာလည်းအဘယ်ကြောင့်ညှိုးငယ်သနည်းဟုမေးတော်မူလျှင် သူတို့
တွင် ကလောဖအမည်ရှိသောသူတယောက်ကသင်သည် တယောက်
တည်းယေရုရှလင်မြို့၌ဧည့်သည်ဖြစ်၍ ယခုအခါထိုမြို့၌ဖြစ်ခဲ့သော
၁၉ အကြောင်းအရာတို့ကိုမသိသလောဟုပြန်ဆို၏။ ကိုယ်တော်ကလည်း
အဘယ်အကြောင်းအရာနည်းဟုမေးတော်မူလျှင် ထိုသူတို့ကနာဇ
ရက်မြို့သားယေရှု၏အကြောင်းအရာပေတည်း။ထိုသူသည်ဘုရားသ
ခင်ရှေ့၊လူအပေါင်းတို့ရှေ့မှာနှုတ်သတ္တိ၊လက်သတ္တိနှင့်ပြည့်စုံသောပ
၂၀ ရောဖက်ဖြစ်၏။ ထိုသူကိုယဇ်ပရောဟိတ်အကြီး၊ငါတို့မင်းများ
သည်အသေသတ်ခြင်းကိုခံစေခြင်းငှါအပ်နှံ၍ လက်ဝါးကပ်တိုင်မှာ
၂၁ ကွပ်မျက်ကြပြီ။ ထိုသူသည် ဣသရေလအမျိုးကိုကယ်တင်အံ့သော
သူဖြစ်သည်ကိုကျွန်ုပ်တို့သည်အထက်ကထင်မှတ်မျှော်လင့်ကြ၏။ထို
၂၂ မျှမက၊ ဤအကြောင်းအရာဖြစ်၍ ယခုသုံးရက်ရှိပြီ။ ကျွန်ုပ်တို့အ
ပေါင်းအဖော်မိန်းမအချို့တို့သည်လည်း သင်းဂြိုင်းတော်ဆီသို့စောစော
၂၃ သွား၍ အလောင်းတော်ကိုမတွေ့လျှင်သခင်ယေရှုသည်အသက်ရှင်
တော်မူသည်ဟုပြောသောကောင်းကင်တမန်ထင်ရှားရာရူပါရုံကိုမိမိ
တို့မြင်ကြောင်းကိုပြန်လာ၍ ပြောဆိုသဖြင့် ကျွန်ုပ်တို့သည်မိန်းမော
၂၄ တွေ့ဝေခြင်းရှိကြ၏။ ထိုအခါကျွန်ုပ်တို့တွင် အချို့သောသူတို့သည်
သင်းဂြိုင်းတော်ဆီသို့သွား၍ မိန်းမတို့ဆိုသည့်အတိုင်းတွေ့သော်လည်း
၂၅ ကိုယ်တော်ကိုမမြင်ရဟုပြောဆိုကြ၏။ ။ကိုယ်တော်ကလည်း
ပရောဖက်ဟောပြောသောစကားများကိုမယုံနိုင်အောင်စိတ်နိုင်မာ၍
၂၆ ဉာဏ်မရှိသောသူတို့။ ခရစ်တော်သည်ဤသို့ပင်အသေခံ၍ခံပြီးမှ
မိမိဘုန်းစည်းစိမ်တော်ကိုဝင်စားရသည်မဟုတ်လောဟုမိန့်တော်မူ
၂၇ ၏။ ထိုအခါမောရှေကျမ်းစာမှစ၍ ပရောဖက်ကျမ်းစာများ၌ကိုယ်
တော်ကိုရည်၍ရေးထားသမျှသောကျမ်းစာချက်အနက်ကိုရှင်းလင်း

၂၈ စွာဖော်ပြတော်မူ၏။ ထိုတပည့်တော်တို့သည်သွားသောရွာအနီး
သို့ရောက်သောအခါကိုယ်တော်သည် ထိုရွာကိုလွန်၍ သွားအံ့သော
၂၉ အခြင်းအရာကိုပြတော်မူလျှင် သူတို့ကကျွန်ုပ်တို့ နှင့်အတူဝင်၍နေ
ပါ။ ညဦးယံရှိပြီး။မိုးသည်းလည်း ချုပ်ခဲ့ပြီးဟူ၍ကိုယ်တော်ကိုကြပ်ကြပ်
သွေးဆောင်ကြ၏။ထိုကြောင့်သူတို့နှင့် အတူ နေရအောင်ဝင်တော်မူ
၃၀ ၏။ စားပွဲ၌သူတို့ နှင့်အတူထိုင်နေတော်မူစဉ် မုန့်ကိုယူ၍ကျေးဇူး
၃၁ တော်ကိုချီးမွမ်းပြီးမှမုန့်ကိုဖဲ့၍သူတို့အားပေးတော်မူသည်တွင် သူ
တို့သည်မျက်စိဖွင့်လင်း ၍ ကိုယ်တော်ဖြစ်မှန်း ကိုသိကြ၏။ ထိုအခါ
၃၂ လည်းကိုယ်တော်သည်ကွယ်တော်မူ၏။ တပည့်တော်တို့လည်းလမ်း
ခရီး၌ကျွန်ုပ်တို့နှင့်ပောပြော၍ကျမ်းစာအနက်ကိုဖွင့်ပြတော်မူသော
အခါကျွန်ုပ်တို့စိတ်နှစ်လုံးသည်မီးစွဲလောင်သကဲ့သို့ ဖြစ်သည်မဟုတ်
လောဟုအချင်းချင်း ပြောဆိုကြ၏။

❋❋

၃၃ ထိုတပည့်တော်နှစ်ယောက်တို့သည် ချက်ချင်းထ၍ယေရုရှလင်မြို့သို့
ပြန်ပြီးမှတကျိပ်တပါးသောသူတို့သည်အပေါင်း အဖော်တို့ နှင့်အတူ
၃၄ စုဝေးလျက်ရှိသည်ကိုတွေ့ကြ၏။ စုဝေးသောသူတို့လည်းသခင်ဘု
ရားသည်အမှန်ထမြောက်တော်မူပြီး။ ရှိမုန်အားကိုယ်ကိုပြတော်မူ
၃၅ ပြီးဟုဆိုလျှင် ထိုတပည့်တော်နှစ်ယောက်တို့သည်လမ်း၌ ဖြစ်သော
အကြောင်းအရာ ကိုဥင်မုန့်ကိုဖဲ့စဉ်တွင်ထင်ရှားရှိတော်မူကြောင်း
၃၆ ကိုဥင်ပြန်ကြားကြ၏။ ။ထိုသို့အချင်းချင်း ပြောဆိုသောအခါ
ယေရှုသည်သူတို့အလယ်၌ ရပ်တော်မူလျက်သင်တို့အား ငြိမ်သက်
၃၇ ခြင်းဖြစ်စေသတည်းဟုမိန့်တော်မူ၏။ တပည့်တော်တို့သည်စဍ္ဍေကို
မြင်သည်ဟုစိတ်ထင်နှင့် ထိတ်လန့် ကြောက်ရွံ့ခြင်း သို့ရောက်ကြ၏။
၃၈ ကိုယ်တော်ကလည်းအဘယ်ကြောင့်ပူပန်သောက်ခြင်းရှိကြသနည်း။ အ
၃၉ ဘယ်ကြောင့်အထူးထူးအထွေထွေသောစိတ်ရှိကြသနည်း။ ငါလက်
ကိုကြည့်ပါ။ငါခြေကိုလည်းကြည့်ပါ။ငါကိုယ်ပင်ဖြစ်၏။ငါကိုကြည့်ရှု
စမ်းသပ်ကြပါ။ငါသည်သင်တို့မျက်မှောက်၌ထင်ရှားစွာအရိုးအသားရှိ
၄၀ သကဲ့သို့စဍ္ဍေမည်သည်ကားအရိုးအသားမရှိဟုမိန့်တော်မူလျှင် လက်
၄၁ တော်ခြေတော်တို့ကိုတပည့်တော်တို့အားပြတော်မူ၏။ သူတို့သည်
အလွန်အံ့ဩ၍ဝမ်းမြောက်သောအားဖြင့်မယုံနိုင်ဘဲနေသေးသောအ
၄၂ ခါစားစရာတစုံတခုသင်တို့၌ရှိသလောဟုမေးတော်မူလျှင် ငါးကင်

၄၃ တတစ်နှင့်ပျားလပို့ကိုကပ်ပေးကြ၏။ ကိုယ်တော်သည်ယူ၍သူတို့
၄၄ ရှေ့မှာစားတော်မူ၏။ ။တဖန်မိန့်တော်မူသည်ကား။ မောရှေ
ပညတ္တိကျမ်းစာ၌၎င်ပရောဖက်ကျမ်းစာ၌၎င်ဆာလံကျမ်းစာ၌၎င်ငါ
ကိုရည်၍ရေးမှတ်သမျှသောအချက်တို့သည်ပြည့်စုံရမည်ဟုငါသည်
သင်တို့နှင့်အတူရှိဘုန်းခါသင်တို့အားဟောပြောသောအကြောင်းအ
၄၅ ရာတို့ကား ဤအကြောင်းအရာပေတည်း ဟုမိန့်တော်မူ၏။ ထိုအခါ
ကျမ်းစာကို နားလည်စေခြင်း ငှါတပည့်တော်တို့၏ဉာဏ်ကို ဖွင့်
၄၆ တော်မူလျှင် ဤသို့ကျမ်းစာလာ၏။ဤသို့ ခရစ်တော်သည်အသေခံ၍
၄၇ ခံပြီးမှသုံးရက်မြောက်သောနေ့၌ သေခြင်းမှထမြောက်ရ၏။ ခရစ်
တော်အခွင့်အား ဖြင့်နောင် တတရား နှင့် အပြစ်လွှတ်ခြင်း တရားကို
၄၈ ယေရုရှလင်မြို့မှစသော လူမျိုးတကာတို့အား ဟောပြောရ၏။ သင်
၄၉ တို့သည်လည်း ဤအကြောင်းအရာ တို့၏သက်သေဖြစ်ကြ၏။ ငါခ
မည်းတော်၏ဂတိရှိသည်အတိုင်း သင်တို့၌ငါဖြုဦးမည်။သို့ဖြစ်၍သင်
တို့သည်ကောင်းကင်ကတန်ခိုးကိုမခံမှီတိုင် အောင်ယေရုရှလင်မြို့၌ဧ
၅၀ ဦးကြလော့ဟုမိန့်တော်မူ၏။ ။ထိုနောက်တပည့်တော်တို့ကို
ယေရုရှလင်မြို့ ပြင်ဗေသနိရွာတိုင်အောင်ဆောင်သွားတော်မူပြီးမှ
၅၁ လက်တော်ကိုချီ၍ကောင်းကြီးပေးတော်မူ၏။ ထိုသို့ကောင်းကြီးပေး
တော်မူ စဉ်တပည့်တော်တို့ နှင့် ကွာ ၍ ကောင်း ကင်ဘုံသို့ ချီတင်
၅၂ ဆောင်သွားတော်မူ၏။ တပည့်တော်တို့သည်ကိုယ်တော်ကိုပျပ်ဝပ်
ကိုးကွယ်ပြီးမှအလွန် ဝမ်းမြောက်ဝမ်းသာခြင်းနှင့်ယေရုရှလင်မြို့သို့
၅၃ ပြန်သွားကြ၏။ ဘုရားသခင်ကို အံ့ဩ ချီး မွမ်းလျက် ဗိတ်မှာန်
တော်၌အစဉ်နေမြဲနေကြကုန်၏။

။ရှင်လုကာခရစ်ဝင်ပြီး၏။

# ။ရှင်ယောဟန်ခရစ်ဝင်။

၁ အစအဦး၌နှုတ်ကပတ်တော်ရှိ၏။နှုတ်ကပတ်တော်သည်ဘုရားသခင်
နှင့်အတူရှိ၏။နှုတ်ကပတ်တော်သည်လည်း ဘုရားသခင်ဖြစ်တော်မူ
၂ ၏။ ထိုနှုတ်ကပတ်တော်သည်အစအဦး၌ ဘုရား သခင်နှင့် အတူ ရှိ
၃ ၏။ ထိုနှုတ်ကပတ်တော်သည် ခပ်သိမ်းသောအရာ တို့ကိုဖန်ဆင်း
၄ တော်မူ၏။ဖန်ဆင်းတော်မမူ။အလွတ်ဖြစ်သောအရာမည်မျှမရှိ။ ထို
နှုတ်ကပတ်တော်သည်အသက်နှင့် ပြည့်စုံ၏။ ထိုအသက် သည် လည်း
၅ လူတို့၏အလင်းဖြစ်၏။ ထိုအလင်းသည်လည်းမှောင်မိုက်၌ထင်းသည်
၆ ဖြစ်၍မှောင်မိုက်သည်ဖုံးလွှမ်းခြင်းငှါမတတ်နိုင်။ ။ယော
ဟန်အမည် ရှိသော သူတယောက်ကိုဘုရားသခင်စေလွှတ်တော်မူ၏။
၇ ထိုသူသည်သက်သေခံဖြစ်၍ လူအပေါင်းတို့သည် သူ့ကိုအမှီပြုသဖြင့်
ယုံကြည်ရအောင်အလင်းတော်၏ အကြောင်း ကိုသက်သေခံခြင်းငှါလာ
၈ ၏။ ထိုသူသည်အလင်း တော်မဟုတ်။ အလင်းတော်၏ အကြောင်းကို
၉ သက် သေခံခြင်း ငှါသာ လာ၏။ ဟုတ်မှန် သောအလင်းမူကား ဤလော
ကသို့ကြွလာသဖြင့် ခပ်သိမ်းသောလူအပေါင်းတို့အားအလင်းကိုပေး
၁၀ သောသူဖြစ်သတည်း။ ။ထိုသူသည် ဤလောက၌ရှိတော်မူလေ
ပြီ။ဤလောကကိုလည်းဖန်ဆင်း တော်မူလေပြီ။သို့သော်လည်းဤလော
၁၁ ကသည်ထိုသူကိုမသိ။ သူသည်မိမိဒေသအရပ်သို့ကြွလာသော်လည်း
၁၂ မိမိလူမျိုးတို့သည် သူ့ကိုလက်မခံဘဲနေကြ၏။ နာမ တော်ကိုယုံကြည်
သည် နှင့် ထိုသူကိုလက်ခံသမျှ သော သူတို့အား ဘုရား သခင်၏ သား
၁၃ ဖြစ်ရသောအ ခွင့်ကိုပေးတော်မူ၏။ ထိုသားတို့မူကား လူမျိုးနှင့်စပ်
ဆိုင်၍ ဖွားသောသားမဟုတ်။မေထုန်သံဝါသအားဖြင့်ဖွားသောသား
မဟုတ်။လူ့အလိုအလျောက် ဖွားသောသားမဟုတ်။ဘုရားသခင် ဖွား
၁၄ တော်မူသောသားဖြစ်သတည်း။ ။နှုတ်ကပတ်တော်သည်
လည်း လူ့ဇာတိအဖြစ်ကိုခံယူ၍ ကျေးဇူး တော်နှင့် ဂုဏ်သစ္စာ တော်နှင့်
ငင်ပြည့်စုံလျက်ငါတို့တွင်တည်း ခိုတော်မူသည်ဖြစ်၍ခမည်းတော်၌

တပါးတည်းသောသားတော်၏ဘုန်းကဲ့သို့သူ၏ဘုန်းတော်ကိုငါတို့
၁၅ သည်မြင်ရကြပြီး။ ယောဟန်သည်ထိုသခင်၏အကြောင်းကိုသက်
သေခံ၍ကျွေးကျော်လေသည်မှာ။ ငါနောက်ကြွလာသောသူသည်ငါ့
ရှိမှီရှိနှင့်သည်ဖြစ်၍ငါထက်သာ၍ကြီးမြတ်သည်ဟုငါဆိုရာ၌ထိုသူ
၁၆ ကိုဆိုလိုသည်ဟုယောဟန်သက်သေခံလေ၏။ ထိုသူ၏ပြည့်စုံခြင်းမှ
လည်းကျေးဇူးတပါး၌ထပ်ဆင့်၍ကျေးဇူးတပါးကိုငါတို့အားလုံး
၁၇ သည်ခံရကြပြီး။ အဘယ်ကြောင့်နည်းဟူမူကား။ ပညတ်တရားတော်
ကိုမောရှေလက်တွင်ပေးတော်မူသည်ဖြစ်၍ ကျေးဇူးတရားနှင့်သစ္စာ
၁၈ တရားသည်ယေရှုခရစ်အားဖြင့်ဖြစ်၏။ ဘုရားသခင်ကိုအဘယ်သူ
မျှမမြင်စဖူး။ ခမည်းတော်ရင်ပြင်နှား၌ရှိ၍တပါးတည်းသောသား
၁၉ တော်သည်ဘုရားသခင်ကိုထင်ရှားစေတော်မူပြီး။ ။ယုဒလူ
တို့ကသင်သည်အဘယ်သူနည်းဟုယောဟန်ကိုမေးမြန်းအောင်ယဇ်
ပရောဟိတ်နှင့်လေဝိလူတို့ကိုယေရုရှလင်မြို့မှစေလိုက်သောအခါ
၂၀ ယောဟန်သည်သက်သေခံချက်ဟူမူကား။ ငါသည်ခရစ်တော်မ
၂၁ ဟုတ်ဟုထိမ်ဝှက်ခြင်းမရှိဘဲအတည့်အလင်းပြောဆို၏။ ထိုသူတို့က
လည်းသို့ဖြစ်လျှင်သင်သည်အဘယ်သူနည်း။ ဧလိယဖြစ်သလောဟု
မေးမြန်း၏။ ယောဟန်ကငါသည်ဧလိယမဟုတ်ဟုဆို၏။ ထိုပရောဖက်
၂၂ ဖြစ်သလောဟုမေးပြန်လျှင်မဟုတ်ဟုဆိုပြန်၏။ ထိုသူတို့ကလည်း
သင်သည်အဘယ်သူနည်း။ ငါတို့ကိုစေလိုက်သောသူတို့အားပြန်
လျှောက်စရာရှိအောင်သင်သည်ကိုယ်ကိုအဘယ်သို့ဆိုသနည်းဟု
၂၃ မေးပြန်ကြ၏။ ယောဟန်ကလည်းပရောဖက်ဟေရှာယဟောပြော
သည်နှင့်အညီထာဝရဘုရား၏လမ်းခရီးတော်ကိုတော၌ဖြောင့်စေကြ
၂၄ လော့ဟုဟစ်ကျော်သောသူ၏အသံငါဖြစ်သည်ဟုဆို၏။ စေလိုက်
၂၅ သောသူတို့ကားဖာရိရှဲလူဖြစ်သတည်း။ ထိုသူတို့ကလည်းသင်သည်
ခရစ်တော်မဟုတ်။ ဧလိယမဟုတ်။ ထိုပရောဖက်မဟုတ်သည်မှန်လျှင်
၂၆ အဘယ်ကြောင့်ရေနှစ်မင်္ဂလာကိုပေးသနည်းဟုမေးပြန်ကြ၏။ ယော
ဟန်ကလည်းငါသည်ရေ၌သာနှစ်ခြင်းကိုပေး၏။ သင်တို့အလယ်၌
၂၇ သင်တို့မသိသောသူတယောက်ရှိ၏။ ထိုသူသည်ငါနောက်ကြွလာ
၏။ ထိုသူ၏ခြေနင်းဖော်ကြိုးကိုဖြည်ခြင်းငှါငါမထိုက်ဟုပြန်ဆို၏။
၂၈ ဤအကြောင်းအရာတို့သည်ယောဟန်ရေနှစ်မင်္ဂလာကိုပေးရာအရပ်။
ယော်ဒန်မြစ်နား။ ဗေသနိရွာ၌ဖြစ်သတည်း။



၂၉ ခက်ဖန်နေ့၌ယောဟန်သည်ယေရှုကြွလာသည်ကိုမြင်လျှင်ဤလောကီ
သားတို့၏ အပြစ်များကိုပယ်ရှင်းသော ဘုရား သခင်၏ သိုးသငယ်
၃၀ ကိုကြည့်ပါ။ ငါမရှိမှီရှိနှင့် သည်ဖြစ်၍ငါထက်သာ၍ကြီးမြတ်သော
၃၁ သူသည်ငါနောက်ကြွလာသည်ဟုငါဆိုရာ၌ထိုသူကိုဆိုလို၏။ အစ
ကထိုသူကိုငါမသိ။သို့သော်လည်း ထိုသူကိုဣသရေလလူတို့အားထင်
၃၂ ရှားစေခြင်းငှါငါသည်ရေ၌နှစ်ခြင်းမင်္ဂလာကိုပေးလျက်လာ၏။ ထို
မှတပါး။ဝိညည်တော်သည်ကောင်းကင်မှချိုးငှက်ကဲ့သို့ဆင်းသက်၍
၃၃ ထိုသူ၏အပေါ်၌ခုနားတော်မူသည်ကိုငါမြင်ခဲ့ပြီ။ အစကထိုသူကိုငါ
မသိ။ရေ၌နှစ်ခြင်းမင်္ဂလာကိုပေး ရအောင်ငါကိုစေလွှတ်တော်မူသော
သူကအကြင်သူ၏အပေါ်၌ဝိညည်တော်ဆင်းသက်၍ နားတော်မူသည်
ကိုသင်သည်မြင်၏။ထိုသူကား သန့်ရှင်းသောဝိညည်တော်၌နှစ်ခြင်း
၃၄ ကိုပေးသောသူပေတည်းဟုမိန့်တော်မူသည်နှင့်အညီ ငါသည်မြင်
၍ဤသူသည် ဘုရား သခင်၏ သား တော်ဖြစ်တော်မူကြောင်း ကိုငါ
၃၅ သည်သက်သေခံ၏ဟုယောဟန်ဆိုလေ၏။ ။ခက်ဖန်နေ့၌တဖန်
၃၆ ယောဟန်သည် တပည့် နှစ်ယောက် တို့ နှင့်အတူရပ်နေ ၍ ယေရှု ကြွ
တော်မူသည်ကိုမြင်လျှင်ဘုရားသခင်၏သိုးသငယ်ကိုကြည့်ပါဟုဆို
၃၇ ၏။ တပည့်နှစ်ယောက်တို့သည်ထိုစကားကိုကြားလျှင်ယေရှုနောက်
၃၈ တော်သို့လိုက်ကြ၏။ ယေရှုသည်လှည့်၍ ထိုသူတို့လိုက်ကြသည်ကို
မြင်တော်မူလျှင်အဘယ်အလို ရှိသနည်း ဟုမေး တော်မူ၏။ထိုသူ တို့
က။ရဗ္ဗိ။ကိုယ်တော်သည်အဘယ်မှာနေတော်မူသနည်းဟုမေးလျှောက်
၃၉ ၏။ရဗ္ဗိအနက်ကားအရှင်ဘုရားဆိုလိုသတည်း။ ယေရှုကလည်းလာ၍
ကြည့်ပါဟုမိန့်တော်မူ၏။ ထိုသူတို့သည်သွား၍ နေတော် မူရာ အရပ်
ကိုကြည့်ကြ၏။ထိုအချိန်သည်ဆယ်နာရီအချိန်ဖြစ်၍မိုးယံးချုပ်သည်
၄၀ တိုင်အောင် အထံ တော် ၌ နေကြ၏။ ယော ဟန် စကား ကို ကြား ၍
နောက်တော်သို့လိုက်သောသူနှစ်ယောက်တို့တွင်တယောက်ကား ရှိမုန်
၄၁ ပေတရုညီ။အန္ဒြေပေတည်း။ ထိုသူသည်မိမိအစ်ကိုရှိမုန်ကိုရှေ့ဦးစွာ
၄၂ တွေ့လျှင်ငါတို့သည် မေရှိ ကို တွေ့ ခဲ့ပြီး ဟုဆိုသဖြင့် သူကိုယေရှုထံ
သို့ပို့ဆောင်လေ၏။မေရှိဟူသည်ကား ခရစ်တော်ဆိုလိုသတည်း။ယေ
ရှုသည်ထိုသူကိုကြည့်ရှု၍သင်သည်ယောန၏သားရှိမုန်ဖြစ်၏။သင်
သည်ကေဖအမည်သစ်ကိုရလတံ့ဟုမိန့်တော်မူ၏။ကေဖဟူသည်ကား

၄၃ ပေတရုဆိုလိုသတည်း။ ။နက်ဖန်နေ့၌ဂါလိလဲပြည်သို့ကြွခြင်း
ငှါအလိုတော်ရှိလျှင်ဖိလိပ္ပုကိုတွေ့၍ငါနောက်သို့လိုက်လော့ဟုမိန့်
၄၄ တော်မူ၏။ ဖိလိပ္ပုကား အန္ဒြေနှင့်ပေတရုနေ သောဗက် ဇဲဒမြို့မှလာ
၄၅ သောသူ ဖြစ်သတည်း။ ဖိလိပ္ပုသည်နာသနေလကိုတွေ့လျှင်မော
ရှေသည်ပညတ္တိကျမ်း၌ ၎င်း ပရောဖက်တို့သည်သူတို့ကျမ်း၌၎င်းအ
ကြောင်းပြု၍ရေးထားသောသူ။နာဇရက်မြို့သားဖြစ်သောယောသပ်
၄၆ ၏သားယေရှုကိုငါတို့သည်တွေ့ကြပြီးဟုဆို၏။ နာသနေလကလည်း
နာဇရက်မြို့ထဲက ကောင်းသော အရာတစုံတခုထွက်နိုင်သလောဟု
၄၇ မေးလျှင်ဖိလိပ္ပုကလာ၍ကြည့်ပါဟုဆို၏။ ယေရှုသည်နာသနေလ
လာသည်ကိုမြင်တော်မူလျှင်လှည့်စားခြင်းအပြစ်နှင့်ကင်းလွတ်သော
ဣသရေလလူစစ်ကိုကြည့်ပါဟုထိုသူကိုအမှတ်ပြု၍မိန့်တော်မူ၏။
၄၈ နာသနေလကလည်း ကိုယ်တော်သည် အဘယ်သို့သောအားဖြင့် အ
ကျွန်ုပ်ကိုသိတော်မူသနည်းဟုမေးလျှောက်၏။ယေရှုကလည်းဖိလိပ္ပု
သည်သင်ကိုမခေါ်မှီတည်းပင်အောက်၌ရှိနေသေါ်သင်ကိုငါမြင်ပေသည်
၄၉ ဟုပြန်၍မိန့်တော်မူ၏။ အရှင်ဘုရား။ကိုယ်တော်သည်ဘုရားသခင်
၏သားတော်ဖြစ်တော်မူ၏။ဣသရေလလူတို့၏ရှင်ဘုရင်ဖြစ်တော်မူ
၅၀ ၏ဟုနာသနေလလျှောက်ပြန်၏။ တဖန်ယေရှုကတည်းပင်အောက်၌
သင်ကိုငါမြင်ပေသည်ဟုငါဆိုသော့ကြောင့်သင်သည်ယုံသလော။ဤမှ
ကသာ၍ကြီးသောအကြောင်းအရာကိုသင်သည်မြင်ရလတ့ံ။သင်
၅၁ တို့အားငါအမှန်အကန်ဆိုသည်ကား။ ကောင်းကင်ဖွင့်လှစ်သည်ကို
၎င်ဘုရားသခင်၏ကောင်းကင်တမန်တို့သည်လူသား၏အပေါ်၌
ဆင်းလျက်တက်လျက်ရှိနေသည်ကို၎င်ခေါင်၌သင်တို့သည်မြင်ရကြ
လတ့ံဟုမိန့်တော်မူ၏။

**

၁ သုံးရက်မြောက်သောနေ့၌ဂါလိလဲပြည်ကာနမြို့တွင်မင်္ဂလာဆောင်ပွဲ
၂ ကိုခံကြစဉ်ယေရှု၏မယ်တော်ရှိ၏။ ယေရှုနှင့်တပည့်တော်တို့ကိုလည်း
၃ ထိုပွဲဆီသို့ခေါ်ပင့်ကြ၏။ စပျစ်ရည်ကုန်သောအခါယေရှု၏မယ်တော်
၄ ကစပျစ်ရည်မရှိဟုကြား ပြော၏။ ယေရှုကလည်း အချင်းမိန်းမ။သင်
သည်ငါနှင့်အဘယ်သို့ဆိုင်သနည်း။ ငါအချိန်မရောက်သေးဟုမိန့်
၅ တော်မူ၏။ မယ်တော်ကလည်း သူစေခိုင်းသမျှတို့ကိုပြုကြတော့
၆ ဟုအစေခံတို့အားဆိုလေ၏။ ယုဒဘာသာအလျှောက်သန့်ရှင်းခြင်း

မင်္ဂလာအမှုအလိုငှါ ထိုအရပ်၌ နှစ်တင်းသုံးတင်းလောက်ဝင်သော
၇ ကျောက်အိုးခြောက်လုံးထားလျက်ရှိ၏။ ယေရှုသည်လည်း
ထိုရေအိုးတို့ကိုရေနှင့်ပြည့်စေကြဟု အစေခံတို့အားမိန့်တော်မူ၍ သူ
၈ တို့သည်လျှံမတတ်ပြည့်စေကြ၏။ ယခုခပ်၍ပွဲအုပ်ထံသွင်းကြတော့
၉ ဟုမိန့်တော်မူသည်အတိုင်းသွင်းကြ၏။ ပွဲအုပ်သည်စပျစ်ရည်ဖြစ်
စေသောရေကိုမြည်းစမ်း၍ ထိုရေကိုခပ်သောအစေခံတို့သည် စပျစ်
ရည်ကိုအဘယ်ဆီမှာရသည်ကိုသိသော်လည်း ပွဲအုပ်မသိသဖြင့်မင်္ဂ
၁၀ လာဆောင်လုလင်အားအသံကိုလွှင့်၍ အချင်းသူမည်သည်ကား ရှေ့
ဦးစွာကောင်းသောစပျစ်ရည်ကိုထည့်၍ဝအောင်သောက်ကြပြီးမှညံ့
သောစပျစ်ရည်ကိုထည့်လေ့ရှိ၏။သင်မူကားကောင်းသောစပျစ်ရည်
၁၁ ကိုယခုတိုင်အောင်သိုထားပြီးဟုဆို၏။ ဤရှေ့ဦးစွာသောနိမိတ်လက္ခ
ဏာကိုဂါလိလဲပြည်ကာနမြို့၌ ယေရှုပြတော်မူ၍ မိမိဘုန်းတော်ကို
ထင်ရှားစေတော်မူ၏။တပည့်တော်တို့သည်လည်းယုံကြည်ကြ၏။
၁၂ ။ထိုနောက်မှာမယ်တော်မှစ၍ ညီတော်များ၊တပည့်တော်များပါလ
ဖြင့်ကပေရနောင်မြို့သို့ကြွတော်မူ၏။ ထိုမြို့မှာကြာမြင့်စွာမနေဘဲ
၁၃ ယုဒပသခါပွဲခံချိန်နီးသည်ဖြစ်၍ ယေရုရှလင်မြို့သို့ကြွတော်မူ၏။
၁၄ ဗိမာန်တော်၌နွား၊သိုး၊ချိုးငှက်ကိုရောင်းသောသူတို့ကိုင်ပွဲစား
၁၅ များထိုင်လျက်ရှိသည်ကိုင်တွေ့တော်မူလျှင် ကြိုးစရာတို့ကြိုးသေး
များကိုပြုပြင်ပြီးမှထိုသူအပေါင်းတို့ကိုင်နွားသိုးများကိုင်ဗိမာန်
တော်မှနှင်ထုတ်တော်မူ၍ပွဲစားတို့၏ငွေတင်ခုံများကိုတွန်းပြစ်
၁၆ မှောက်ထားတော်မူ၏။ ချိုးငှက်ရောင်းသောသူတို့အားလည်းဤဥစ္စာ
ကိုယူသွားကြ။ငါ့အဘ၏အိမ်တော်ကိုပွဲတဲမလုပ်ကြနှင့်ဟုမိန့်တော်မူ
၁၇ ၏။ ကျမ်းစာလာသည်ကား။ ကိုယ်တော်၏အိမ်တော်၌စွဲလမ်းပူပန်
ခြင်းစိတ်သည်ငါ့ကိုလောင်စွဲ၏ဟူသောစကားကိုထိုအခါတပည့်တော်
၁၈ တို့သည်မှတ်မိကြ၏။ ။ယုဒလူတို့ကလည်း သင်သည်ဤသို့ပြု
၁၉ လျှင်အဘယ်နိမိတ်လက္ခဏာကိုငါတို့အားပြသနည်းဟုဆိုကြ၏။ ယေ
ရှုကလည်းဤဗိမာန်တော်ကိုဖြိုဖျက်ကြတော့။သုံးရက်အတွင်းတွင်
၂၀ ငါတည်ဆောက်ပြန်မည်ဟုမိန့်တော်မူ၏။ ယုဒလူတို့ကအနှစ်လေး
ဆယ်ခြောက်နှစ်ပတ်လုံးဤဗိမာန်တော်ကိုတည်ဆောက်ကြသည်
ဖြစ်၍သင်သည်သုံးရက်အတွင်းတွင်တည်ဆောက်ပြန်မည်လောဟု
၂၁ ဆိုကြ၏။ ထိုသို့မိန့်တော်မူရာ၌မိမိကိုတည်းဟူသောဗိမာန်ကိုအ

၂၂ မှတ်ပြု၍မိန့်တော်မူ၏။ ထိုကြောင့်သေခြင်းမှထမြောက်တော်မူသော
နောက်ထိုစကားတော်ကိုတပည့်တော်တို့သည်မှတ်မိကြသဖြင့်ကျမ်း
၂၃ စာကိုဍင်ယေရှု၏နှုတ်ကပတ်တော်ကိုဍင်ရုံကြ၏။ ။ပသခါ
ပွဲအတွင်းတွင်ယေရှုသည်ယေရုရှလင်မြို့၌ရှိ၍ပြုတော်မူသောနိမိတ်
လက္ခဏာတို့ကိုလူအများတို့သည်မြင်ရသဖြင့်ကိုယ်တော်ကိုရုံကြည်
၂၄ ခြင်းသို့ရောက်ကြ၏။ သို့သော်လည်း ယေရှုသည်သူတို့၌ကိုယ်ကို
ကိုယ်အပ်တော်မမူ။ အဘယ်ကြောင့်နည်းဟူမူကား။ ခပ်သိမ်းသော
၂၅ သူတို့ကိုသိတော်မူ၏။ လူ၏အထဲ၌ရှိသမျှကိုသိသောကြောင့်အဘယ်
သူသည်လူ၏အကြောင်းကိုသက်သေခံစေခြင်းငှါအလိုတော်မရှိ။

❋❋

၁ ယုဒလူတို့တွင်အရာရှိဖြစ်သော။နိကောဒင်အမည်ရှိသောဖာရိရှဲလူ
၂ တယောက်သည် ညည့်အခါယေရှုထံတော်သို့လာ၍အရှင်ဘုရား။
ကိုယ်တော်သည်ပြုတော်မူသော ဤနိမိတ်လက္ခဏာတို့ကိုဘုရားသ
ခင်၏အခွင့်မရှိဘဲအဘယ်သူမျှမပြုနိုင်သည်ကိုအကျွန်ုပ်တို့က
တောက်၍ကိုယ်တော်သည်ဘုရားသခင်အထံတော်မှကြွလာတော်မူ
၃ သောဆရာဖြစ်ကြောင်းကိုသိကြပါ၏ဟုလျှောက်လေ၏။ ယေရှုက
လည်းဒုတိယမွေးခြင်းကိုမခံသောသူမည်သည်ကားဘုရားသခင်၏
နိုင်ငံတော်ကိုမမြင်ရဟုငါအမှန်အကန်ဆိုသည်ဟုပြန်၍မိန့်တော်မူ
၄ ၏။ နိကောဒင်ကလည်းအသက်ကြီးသောသူသည်အဘယ်သို့မွေး
နိုင်သနည်း။အမိဝမ်းထဲသို့တဖန်ဝင်၍မွေးခြင်းကိုခံနိုင်သလောဟု
၅ လျှောက်၏။ ယေရှုကလည်းရေနှင့်ဝိညာဉ်တော်မမွေးသောသူမည်
သည်ကားဘုရားသခင်၏နိုင်ငံတော်သို့မဝင်ရဟုငါအမှန်အကန်ဆို၏။
၆ ဇာတိပကတိမွေးသောအရာသည်ဇာတိပကတိဖြစ်၏။ဝိညာဉ်တော်မွေး
၇ သောအရာသည်ဝိညာဉ်ဖြစ်၏။ ဒုတိယမွေးခြင်းကိုခံရမည်ဟုငါဟော
၈ ပြောသည်ကိုအံ့ဩခြင်းမရှိနှင့်။ လေသည်အလိုရှိတိုင်းသွားလာ
၏။လေ၏အသံကိုသင်သည်ကြားရသော်လည်းအဘယ်အရပ်ကဖြစ်
သည်။အဘယ်အရပ်သို့သွားသည်ကိုမသိနိုင်။ထိုနည်းတူဝိညာဉ်
၉ တော်မွေးသောသူဖြစ်၏ဟုဟောတော်မူ၏။ ။နိကောဒင်
ကလည်းဤအမှုအရာသည်အဘယ်သို့ဖြစ်နိုင်သနည်းဟုလျှောက်
၁၀ ပြန်လျှင် တဖန်ယေရှုကသင်သည်ဣသရေလလူတို့တွင်မြွေဆရာ
၁၁ ဖြစ်လျက်ပင်ဤအမှုအရာကိုမသိသလော။ ငါအမှန်အကန်ဆိုသည်

ကား။ငါတို့သိသောအရာကိုသာပြော၏။မြင်သောအရာကိုသာသက်
သေခံ၏။ သို့သော်လည်းငါတို့သက်သေခံချက်ကိုသင်တို့မခံမယူကြ။
၁၂ မြေကြီးအရာကိုငါပြော၍ သင်တို့မယုံလျှင်ကောင်းကင်အရာကိုငါ
၁၃ ပြောသောအခါသင်တို့သည်အဘယ်သို့ယုံနိုင်သနည်း။ ကောင်းကင်
ဘုံကဆင်းသက်၍ကောင်းကင်ဘုံ၌ရှိနေသောလူသားမှတပါးအ
၁၄ ဘယ်သူမျှကောင်းကင်ဘုံသို့မတက်ပြီ။ မောရှေသည်တော၌မြွေ
ကိုမြှောက်ထားသကဲ့သို့လူသားသည်မြှောက်ထားခြင်းကိုခံရမည်။
၁၅ အကြောင်းမူကား။ ထိုသားတော်ကိုယုံကြည်သောသူအပေါင်းတို့သည်
ပျက်စီးခြင်းသို့မရောက်။ အစဉ်ထာဝရအသက်ရှင်ခြင်းကိုရမည်အ
၁၆ ကြောင်းတည်း။ ဘုရားသခင်၏သားတော်ကိုယုံကြည်သောသူအ
ပေါင်းတို့သည်ပျက်စီးခြင်းသို့မရောက်။ အစဉ်ထာဝရအသက်ရှင်
ခြင်းကိုရစေခြင်းငှါဘုရားသခင်သည်မိမိ၌တပါးတည်းသောသား
တော်ကိုစွန့်တော်မူသည်တိုင်အောင်လောကီသားတို့ကိုချစ်သနား
၁၇ တော်မူ၏။ လောကီသားတို့အားအပြစ်စီရင်ခြင်းငှါဘုရားသခင်
သည်သားတော်ကိုဤလောကသို့စေလွှတ်တော်မူသည်မဟုတ်။ လော
ကီးသားတို့သည်ကိုယ်တော်အားဖြင့်ကယ်တင်ခြင်းသို့ရောက်ရမည်
၁၈ အကြောင်းစေလွှတ်တော်မူ၏။ သားတော်ကိုယုံကြည်သောသူသည်
အပြစ်စီရင်ခြင်းကိုမခံရ။ မယုံကြည်သောသူသည်ဘုရားသခင်၌တပါး
တည်းသောသားတော်ကိုမယုံကြည်သောကြောင့်ယခုပင်အပြစ်စီရင်
၁၉ ခြင်းကိုခံ၏။ အပြစ်စီရင်ခြင်းကိုခံရကြောင်းကား။ အလင်းသည်ဤ
လောကသို့ဝင်၍လူတို့သည်မကောင်းသောအကျင့်ကိုကျင့်သော
၂၀ ကြောင့်အလင်းထက်မှောင်မိုက်ကိုသာ၍နှစ်သက်ကြ၏။ ဆိုးယုတ်
သောအကျင့်ကိုကျင့်သောသူအပေါင်းတို့သည်အလင်းကိုမြင်ပြင်း၍
မိမိတို့အကျင့်၌အပြစ်ပါသည်ကိုမထင်ရှားစေခြင်းငှါအလင်းသို့
၂၁ မချဉ်းကပ်ကြ။ သမ္မာတရားကိုကျင့်သောသူမူကားမိမိအကျင့်တို့
သည်ဘုရားသခင်၏အလိုတော်နှင့်ညီညွတ်သည်ကိုထင်ရှားစေ
ခြင်းငှါအလင်းသို့ချဉ်းကပ်၏ဟုဟောတော်မူ၏။

❋❋

၂၂ ထိုနောက်မှာယေရှုသည်တပည့်တော်တို့နှင့်အတူယုဒပြည်၏ကျေး
လက်သို့ကြွတော်မူလျှင်ထိုအရပ်၌တပည့်တော်တို့နှင့်တကွနေတော်

၂၃ မှ ၌ရေ နှစ်မင်္ဂလာကိုပေး လေ၏။ ယောဟန်သည်လည်း ရှာလိမ်မြို့
နှင့် အနီး။အဲနုန်အရပ်၌ ရေများသော ကြောင့်ထိုအရပ်၌ရေ နှစ်မင်္ဂလာ
ကိုပေးနေသည်ဖြစ်၍လူများ တို့သည်လာ၍ ရေနှစ်မင်္ဂလာကိုခံကြ၏။
၂၄ ယောဟန် သည် ထောင် ထဲသို့ မ ရောက် သေး။ ။ထိုအခါ
၂၅ ယောဟန် ၏တပည့် တို့သည်သန့် ရှင်း ခြင်း မင်္ဂလာ ကိုအကြောင်းပြု၍
၂၆ ယုဒလူ နှင့်ဆွေးနွေးညှင်းခုံခြင်းရှိကြသဖြင့် ယောဟန်ထံသို့လာ၍
အရှင် ဘုရား။ ယော်ဒန် မြစ်ခြား မှာ ကိုယ် တော် နှ င့် တ ကွ ရှိ ၍ ကိုယ်
တော်သက်သေပေးသော သူသည် ရေနှစ်မင်္ဂလာကိုပေးနေ၏။ထိုသူထံ
၂၇ သို့လူအပေါင်းတို့သည် ရောက် ကြ၏ဟုလျှောက် လျှင် ယောဟန်က
ကောင်းကင်ဘုံ မှပေး တော်မမူလျှင် လူသည် အဘယ် မျှကိုမခံနိုင်ရာ။
၂၈ ငါသည်ခရစ်တော်မဟုတ်။ ခရစ်တော် ရှေ့ ၌ စေလိုက် သော သူဖြစ်
၂၉ သည်ဟု ငါဆိုသည်ကိုသင် တို့သည် ငါသက်သေဖြစ်ကြ၏။ မင်္ဂလာ
ဆောင်သော သတို့သမီး ကိုရသော သူသည် မင်္ဂလာ ဆောင် လုလင် ဖြစ်
၏။ မင်္ဂလာ ဆောင် လုလင်ခြားမှာနေ ၍ သူ၏စကား ကိုကြားရသောအ
ဆွေခင်ပွန်းသည်ထို စကားသံ ကိုကြား သော အား ဖြင့် ဝမ်း မြောက်
၃၀ ခြင်းရှိ၏။ထိုနည်း တူ။ ငါဝမ်းမြောက်ခြင်းပြည့်စုံ၏။ ထိုသခင်ကား
၃၁ တိုးပွားခြင်းရှိရမည်။ငါမူကား ဆုတ်ယုတ်ခြင်းရှိရမည်။ အထက်မှ
လာသော သူသည် အလုံး စုံတို့၏ အထွဋ် ဖြစ်၏။ မြေကြီး မှဖြစ်သော
သူသည်မြေကြီးနှင့်စပ်ဆိုင်၍ မြေကြီးအရာကိုပြောတတ်၏။ ကောင်း
ကင်ဘုံ မှကြွလာသော သူသည် အလုံးစုံတို့၏ အထွဋ် ဖြစ်တော်မူ၏။
၃၂ မြင်သမျှကြားသမျှတို့ကိုသက်သေခံတော်မူ ၍ သက်သေခံချက်ကိုအ
၃၃ ဘယ်သူ မျှမခံမယူ။ သက်သေခံတော်မူ ချက် ကိုခံယူ သော သူသည်
ကား ဘုရား သခင်သည်သစ္စာစောင့် တော် မူသည်ဟုအာ မခံဖြစ်၏။
၃၄ ဘုရား သခင် စေလွှတ် တော် မူသော သူသည် ဘုရားသခင်၏ စကား
တော်ကို ပြောဆိုတတ်၏။ ထိုသူအားဘုရား သခင်သည် ဝိညာဉ် တော်
၃၅ ကိုအတိုင်းအရှည်မရှိဘဲပေး တော်မူ၏။ ခမည်းတော်သည်သားတော်
ကိုချစ်တော်မူ ၍ ခပ် သိမ်း သော အရာ တို့ ကိုသား တော်လက် သို့အပ်
၃၆ ပေးတော်မူပြီး။ သားတော်ကိုယုံကြည်သော သူသည်ထာဝရအသက်
ကိုရ၏။ သား တော်ကို ပယ်သော သူ သည် အသက်ကိုမတွေ့ရ။ ထိုသူ
၏ အပေါ်၌ ဘုရား သခင်၏ အမျက် တော်တည်နေသည် ဟုယောဟန်
ဟောလေ၏။



၄။၂ ယေရှုသည်ကိုယ်တိုင်ရေနှစ်မင်္ဂလာကိုမပေး။ တပည့်တော်တို့လက်
ဖြင့်သာပေးတော်မူသော်လည်း ယေရှုသည် ယောဟန်ထက်သာ
၍များသောသူတို့ကိုတပည့်ဖြစ်စေ၍ရေနှစ်မင်္ဂလာကိုပေးတော်မူ
ကြောင်းကိုဖာရိရှဲလူတို့သည်ကြားပြီးဟုသခင်ဘုရားသိတော်မူ
၃ သောအခါ ယုဒပြည်မှထွက်သွား၍ဂါလိလဲပြည်သို့တဖန်ကြွတော်မူ
၄။၅ သဖြင့် ရှမာရိပြည်အလယ်၌ရှောက်သွားရ၏။ ယာကုပ်သည်မိမိ
သားယောသပ်အားပေးသောမြေအကွက်နှင့်အနီး။ရှမာရိနယ်။ရှုခင်
၆ အမည်ရှိသောမြို့သို့ရောက်တော်မူ၏။ ထိုအရပ်၌ယာကုပ်၏ရေ
တွင်းရှိ၏။ယေရှုသည်ခရီးသွား၍ပင်ပန်းသဖြင့်ရေတွင်းနားမှာထိုင်
တော်မူ၏။ထိုအချိန်ကားချောက်နာရီအချိန်ဖြစ်သတည်း။ ။
၇။၈ ရှမာရိမိန်းမတယောက်သည်ရေခပ်ရအောင်လာ၏။ ထိုအခါတပည့်
တော်တို့သည်စားစရာကိုဝယ်ရအောင်မြို့ထဲသို့သွားကြသည်အခိုက်
ဖြစ်၍ ယေရှုကငါသောက်ဘို့ရေပေးပါဟုထိုမိန်းမအားမိန့်တော်မူ၏။
၉ ထိုမိန်းမကလည်း သင်သည်ယုဒလူဖြစ်လျက်ရှမာရိမိန်းမဖြစ်သောအကျွ
နုပ်ကိုအဘယ်ကြောင့်သောက်ဘို့တောင်းသနည်းဟုဆို၏။ ဆိုသည်
အကြောင်းကား။ ယုဒလူတို့သည် ရှမာရိလူတို့နှင့်ပေါင်းဖော်ခြင်းမ
၁၀ ရှိ။ ယေရှုကလည်းဘုရားသခင်၏ကျေးဇူးတော်ကိုငင်ငါသောက်ဘို့
ပေးပါဟုဆိုသောသူကားအဘယ်သူဖြစ်သည်ကိုငင်သင်သိလျှင်ထို
သူကိုသင်သည်တောင်းလိမ့်မည်။ သူသည်အသက်ရေကိုပေးလိမ့်မည်
၁၁ ဟုပြန်၍မိန့်တော်မူသော် မိန်းမက။သခင်၌ရေခပ်စရာမရှိ။ ရေတွင်း
လည်းနက်သည်။သို့ဖြစ်လျှင်အသက်ရေကိုအဘယ်သို့ရပါမည်နည်း။
၁၂ ဤရေတွင်းကိုငါတို့အဖယာကုပ်သည်ငါတို့အားပေး၏။ သူကိုယ်
တိုင်မှစ၍သားသမီးတိရိစ္ဆာန်များတို့သည် ဤတွင်းရေကိုသောက်ပေ
၁၃ ၏။သခင်သည်သူထက်ကြီးမြတ်သလောဟုဆို၏။ ယေရှုကလည်းဤ
၁၄ ရေကိုသောက်သောသူကားနောက်တဖန်ရေငတ်ဦးမည်။ ငါပေးသော
ရေကိုသောက်သောသူကားရေငတ်ခြင်းနှင့်အစည်မပြတ်ကင်းလွတ်
လိမ့်မည်။ငါပေးသောရေသည်ကားထိုသူ၌ထာဝရအသက်ရှင်ခြင်း
၁၅ အလို့ငှါထွက်လာသောစမ်းရေဖြစ်လိမ့်မည်ဟုမိန့်တော်မူ၏။ မိန်းမက
လည်းသခင်။အကျွန်ုပ်သည်ရေမငတ်ရအောင်ငင်သည်ကိုလာ၍ရေမ
၁၆ ခပ်ရအောင်ငှါထိုရေကိုပေးပါဟုတောင်းလျှင် ယေရှုကသွားလော့။

၁၇ သင်၏လင်ကိုခေါ်၍ သည်ကိုလာဦး တော့ဟု မိန့်တော်မူ၏။ မိန္မက
လည်းအကျွန်ုပ်၌လင်မရှိ ဟုဆိုလျှင် ယေရှုကလင်မရှိ ဟူသောစကား
၁၈ သည်မှန်၏။ အဘယ်ကြောင့်နည်း ဟူမူကား။လင်ငါးယောက်ရှိဘူး
ပြီး။ယခုသင်နှင့်နေသောသူသည်သင်လင်မဟုတ်။ဤအရာ၌သင်သည်
၁၉ မှန်သောစကားကိုပြောပြီးဟုမိန့်တော်မူ၏။ ။ထိုမိန္မကလည်း
သခင်။ကိုယ်တော်သည် ပရောဖက်ဖြစ်သည်ကိုအကျွန်ုပ်ရိပ်မိပါ၏။
၂၀ အကျွန်ုပ်တို့အဖများသည်ဤတောင်ပေါ်၌ကိုးကွယ်လေ့ရှိကြ၏။ သင်
တို့ဆိုပြန်သည်မှာ။ယေရုရှလင်မြို့သည်ကိုးကွယ်ရာအရပ်ဖြစ်သည်
၂၁ ဟုမိန္မဆို၏။ယေရှုကလည်းအချင်းမိန္မ။ ငါစကားကိုရုံတော့။ဤတောင်
သို့မလာ။ယေရုရှလင်မြို့သို့မသွားဘဲခမည်းတော်ကိုကိုးကွယ်မည်အ
၂၂ ချိန်ကာလရောက်လုနီးပြီး။ သင်တို့သည်ကိုယ်မသိသောအရာကိုကိုး
ကွယ်၏။ ငါတို့ သည် ကိုယ် သိ သော အရာ ကို ကိုး ကွယ် ၏။ အဘယ်
ကြောင့် နည်း ဟူမူကား။ ယုဒလူတို့ ၌ ကယ်တင်ခြင်း အ ကြောင်း ရှိ၏။
၂၃ ကိုးကွယ်သောသူမှန်သမျှတို့သည်နံ့ဝိညာဉ်အားဖြင့်ဒင်သမ္မာတရား
အားဖြင့်ဒင်ခမည်းတော်ကိုကိုးကွယ်မည်အချိန်ကာလသည်လာ၍ယ
ခုပင် ရောက် လျက် ရှိ၏။ အဘယ် ကြောင့် နည်းဟူမူ ကား။ ထိုသို့ကိုး
၂၄ ကွယ်သောသူတို့ကိုခမည်းတော်သည်အလိုရှိ၏။ ဘုရားသခင်သည်
ကားနံ့ဝိညာည် ဖြစ် တော် မူ၏။ ဘုရား သခင်ကိုကိုး ကွယ်သော သူတို့
သည်နံ့ဝိညာည်အားဖြင့်ဒင်သမ္မာတရား အားဖြင့်ဒင်ကိုး ကွယ်ရမည်
၂၅ ဟုမိန့်တော်မူ၏။ မိန္မကလည်းမေရှိကြွလာတော်မူသည်ဟုအကျွန်ုပ်
သိပါ၏။ ရောက်တော်မူသောအခါ အကျွန်ုပ်တို့အား အလုံးစုံကိုထုတ်
၂၆ ဖော်ဟောပြောတော်မူမည်ဟုဆို၏။ မေရှိဟူသည်ကား ခရစ်တော်
ဆို လိုသတည်း။ ယေ ရှုကလည်း သင်နှင့်စကားပြော သောငါပင်မေရှိ
ဖြစ်သည်ဟုမိန့်တော်မူ၏။

❋❋

၂၇ ထိုအခါတပည့်တော်တို့သည်ရောက်လာ၍ ထိုမိန္မနှင့်နှုတ်ဆက် တော်
မူသည်ကိုအံ့ဩခြင်းရှိကြ၏။သို့သော်လည်း အဘယ်အလိုတော်ရှိ
သနည်း။ ထိုမိန္မ နှင့်အဘယ် ကြောင့် နှုတ်ဆက်တော်မူသနည်း ဟုအ
၂၈ ဘယ်သူမျှမလျှောက်ကြ။ ထိုမိန္မသည်လည်း ရေအိုးကိုထားရစ်၍မြို့
၂၉ ထဲသို့သွားပြီးလျှင် အကျွန်ုပ်ပြုဘူးသမျှသောအမှုအရာတို့ကိုထုတ်
ဖော်သောလူကိုလာ၍ကြည့်ကြပါ။ ထိုသူသည်ခရစ်တော်ဖြစ်သည်မ

၃၀ ထွက်လောပါဟုလူများတို့အားဆိုလေသော် သူတို့သည်မြို့ထဲမှထွက်၍
၃၁ အထံတော်သို့သွားကြ၏။ မရောက်မှီတွင်တပည့်တော်တို့ကအရှင်ဘု
၃၂ ရား။ အစာကိုသုံးဆောင်တော်မူပါဟုတောင်းပန်ကြ၏။ သင်တို့မ
၃၃ သိသောစားစရာငါ၌ရှိသည်ဟုမိန့်တော်မူ၏။ တစုံတယောက်သော
သူသည်စားစရာကိုပို့ပြီးလောဟုတပည့်တော်တို့သည် အချင်းချင်း
၃၄ မေးကြလျှင် ယေရှုကငါ့ကိုစေလွှတ်တော်မူသောသူ၏အလိုတော်ကို
ဆောင်ခြင်း။သူ၏အမှုတော်ကိုပြီးစီးခြင်းအမှုသည်ငါ့စားစရာဖြစ်
၃၅ ၏။ ယခုမှစ၍လေးလလွန်လျှင်စပါးရိတ်ရာကာလဖြစ်လိမ့်မည်ဟု
သင်တို့ဆိုတတ်သည်မဟုတ်လော။ငါဆိုသည်ကား။စပါးရိတ်ခြင်းအ
လို ငါ့လယ်ပြင်တို့သည်ယခုပင်ဝင်းဝင်းရှိသည်ကိုမျှော်၍ကြည့်ကြ
၃၆ ပါ။ စပါးရိတ်သောသူသည် အခကိုခံရ၍ အစည်ထာဝရ အသက်ရှင်
ခြင်းအလို ငါ့အသီးအနှံကိုစုသိမ်း၏။ သို့ဖြစ်လျှင်မျိုးကြဲသောသူ။စ
၃၇ ပါးရိတ်သောသူနှစ်ယောက်စလုံးတို့သည်ဝမ်းမြောက်ကြလိမ့်မည်။
တယောက်ကားမျိုးကြဲ၏။ တယောက်ကားစပါးရိတ်၏ဟူသောစ
၃၈ ကားသည်ဤအရာ၌အမှန်ကျသတည်း။ သင်တို့သည်မြေမလုပ်သော
အရပ်၌စပါးရိတ်ရအောင်သင်တို့ကိုငါစေလွှတ်၏။ အခြားသောသူ
တို့သည်မြေလုပ်ကြ၍သင်တို့သည်ထိုသူတို့၏ အလုပ်ထဲသို့ဝင်ကြ၏
၃၉ ဟုမိန့်တော်မူ၏။ ။ရှမာရိမိန်းမကအကျွန်ုပ်ပြုဘူးသမျှသောအ
မှုအရာတို့ကိုသူသည်ထုတ်ဖော်ပြီးဟုသက်သေခံသောစကားကြောင့်
၄၀ ထိုမြို့၌နေသောရှမာရိလူအများတို့သည်ယေရှုကိုယုံကြည်ကြ၏။ ထို
ကြောင့်ရှမာရိလူတို့သည်အထံတော်သို့ရောက်လျှင်မိမိတို့ဆီမှာနေ
တော်မူမည့်အကြောင်းတောင်းပန်ကြ၏။ထိုအရပ်၌နှစ်ရက်နေတော်
၄၁ မူ၏။ အခြားသောသူအများတို့သည်နှုတ်ကပတ်စကားတော်ကြောင့်
၄၂ ယုံကြည်ကြသဖြင့် ထိုမိန်းမအားယခုလျှင်သင်စကားကြောင့်သာငါ
တို့ယုံကြည်သည်မဟုတ်။ စကားတော်ကိုကိုယ်တိုင်ကြားနာ၍ဤသူ
သည်လောကီသားတို့ကိုကယ်တင်တော်မူသောသခင်တည်းဟူသော
ခရစ်တော်အမှန်ဖြစ်တော်မူကြောင်းကိုငါတို့သိသည်ဟုဆိုကြ၏။
၄၃ ။နှစ်ရက်လွန်ပြီးလျှင်ထိုအရပ်မှထွက်၍ခါဇရက်မြို့ကိုရှောင်
၄၄ ရှောက်ဂါလိလဲပြည်သို့ကြွတော်မူ၏။ အဘယ်ကြောင့်နည်းဟူမူကား။
ပရောဖက်မည်သည်ကား မိမိနေရင်းပြည်၌ အသရေမရှိဟုယေရှု
၄၅ သည်ကိုယ်တိုင်သက်သေခံတော်မူ၏။ ဂါလိလဲပြည်သို့ရောက်တော်

မူသောအခါ ဂါလိလဲလူတို့သည်ကိုယ်တော်ကိုလက်ခံကြ၏။ အဘယ်
ကြောင့်နည်းဟူမူကား။ ထိုသူတို့သည်ယေရုရှလင်မြို့၌ခံသောပွဲသဘင်
သို့သွားတတ်သဖြင့် ထိုပွဲအတွင်းတွင်ပြုတော်မူသမျှတို့ကိုမြင်ခဲ့ကြ
၄၆ ပြီး။ ။ရေကိုစပျစ်ရည်ဖြစ်စေရာအရပ်။ဂါလိလဲပြည်ကာ
နမြို့သို့တဖန်ကြွတော်မူ၏။ ကပေရနောင်မြို့၌အမတ်တယောက်ရှိ၏။
၄၇ သူ၏သားသည်အနာရောဂါစွဲနေ၏။ ယေရှုသည်ယုဒပြည်မှဂါလိလဲ
ပြည်သို့ရောက်တော်မူသည်ကိုထိုအမတ်ကြားလျှင်အထံတော်သို့
သွား၍ သေခါနီးတွင်ရှိသောမိမိသားဆီသို့ကြွ၍ အနာရောဂါကို
၄၈ ညိမ်းစေတော်မူမည်အကြောင်းတောင်းပန်လေ၏။ ယေရှုကလည်း
သင်တို့သည်နိမိတ်လက္ခဏာ။ အံ့ဘွယ်သရဲတို့ကိုမမြင်လျှင်ရုံခြင်းမ
၄၉ ရှိကြဟုမိန့်တော်မူလေသော် သခင်။ ကျွန်တော်သားမသေမှီကြွတော်
၅၀ မူပါဟုအမတ်လျှောက်ပြန်၏။ ယေရှုကလည်းသွားတော့။ သင်၏
သားသည်အသက်ချမ်းသာရပြီး ဟုမိန့်တော်မူ၏။ ထိုသူသည် ယေရှု
၅၁ မိန့်တော်မူသောစကားကိုရုံ၍သွားလေ၏။ လမ်း၌သွားစဉ်တွင်မိမိ
ငယ်သားတို့သည်ကြိုဆိုလာ၍ ကိုယ်တော်၏သားသည်အသက်ချမ်း
၅၂ သာရပြီးဟုကြားလျှောက်ကြ၏။ အဘယ်အချိန်၌သက်သာခြင်းသို့
ရောက်သနည်းဟုမေးလျှင်မနေ့ခုနှစ်နာရီအချိန်၌ဖျားနာပျောက်
၅၃ သည်ဟုလျှောက်ကြ၏။ ထိုအချိန်ကားသင်၏သားသည်အသက်
ချမ်းသာရပြီးဟုယေရှုမိန့်တော်မူသောအချိန်ဖြစ်သည်ကိုအဖသိ၍
ကိုယ်တိုင်မှစသောမိမိအိမ်သူအိမ်သားအပေါင်းတို့သည်ရုံကြည်ခြင်း
၅၄ သို့ရောက်ကြ၏။ ဤနိမိတ်လက္ခဏာတော်ကားယေရှုသည်ယုဒပြည်
မှဂါလိလဲပြည်သို့ကြွသောနောက်ပြုတော်မူသောဒုတိယနိမိတ်လက္ခ
ဏာဖြစ်သတည်း။

**

၁ ထိုနောက်မှာယုဒပွဲခံစဉ်တွင်ယေရှုသည်ယေရုရှလင်မြို့သို့ကြွတော်
၂ မူ၏။ ယေရုရှလင်မြို့၌သိုးတံခါးနားမှာ ဟေဗြဲဘာသာစကားအား
ဖြင့် ဗေသေသဒအမည်ရှိသောရေကန်ရှိ၏။ ထိုရေကန်သည်ကနား
၃ ပြင်ငါးဆောင်နှင့်ပြည့်စုံ၏။ ထိုကနားပြင်တို့၌မျက်စိကန်း။ခြေမစွမ်း။
ကိုယ်ပိန်ချောက်သောသူတို့မှစ၍ အနာရောဂါစွဲသောသူများအ
၄ ပေါင်းတို့သည်ရေလှုပ်ရှားခြင်းကိုမျှော်လင့်၍နေကြ၏။ အဘယ်
ကြောင့်နည်းဟူမူကား။အချိန်တန်မှကောင်းကင်တမန်သည်ရေကန်သို့

ဆင်းသက်၍ရေကိုလှုပ်ရှားတတ်ပေ၏။ထိုသို့ရေလှုပ်ရှားသောနောက်
ရှေးဦး စွာဝင်သောသူသည်မိမိ၌စွဲသမျှသောအနာရောဂါနှင့်ကင်း
၅ လွတ်ခြင်းသို့ရောက်သတည်း။ ။ထိုအခါသုံး ဆယ်ရှစ်နှစ်
ပတ်လုံးအနာရောဂါစွဲသော သူတယောက်သည် ရေကန်နားမှာရှိ
၆ ၏။ ထိုသူတုံးလုံးနေသည်ကို ယေရှုမြင်တော်မူ၍ ကြာလှပြီးဟုသိ
တော်မူ လျှင် သင်သည်ကျန်းမာခြင်းသို့ရောက် လိုသလောဟုမေး
၇ တော်မူ၏။ နာသောသူကလည်းသခင်။ရေလှုပ်ရှားသောအခါရေကန်
ထဲသို့ကျွန်တော်ကိုသွင်းထားသောသူမရှိပါ။ ကျွန်တော်သွားစဉ်
တွင်အခြားသောသူသည် ကျွန်တော် ရှေ့မှာဝင်တတ်ပါသည်ဟု
၈ လျှောက်၏။ ယေရှုကလည်းထတော့။ကိုယ်အိပ်ရာကိုဆောင်၍လှမ်း
၉ သွားတော့ဟုမိန့်တော်မူသည့် ခဏတွင်ထိုသူသည်ပကတိအဖြစ်သို့
၁၀ ရောက်သဖြင့်မိမိအိပ်ရာကိုဆောင်၍လှမ်းသွားလေ၏။ ။ထို
နေ့သည်ဥပုသ်နေ့ဖြစ်၏။ထိုကြောင့်ယုဒလူတို့ကဥပုသ်နေ့ဖြစ်၏။
အိပ်ရာကိုမဆောင်အပ်ဟုအနာရောဂါကင်းသောသူအား ဆိုကြ၏။
၁၁ သူကလည်းအကျွန်ုပ်ကိုကျန်းမာစေသောသူသည်ကိုယ်အိပ်ရာကို
၁၂ ဆောင်၍လှမ်းသွားတော့ဟုဆိုကြောင်းကိုပြန်၍ဆို၏။ ယုဒလူတို့
လည်းကိုယ်အိပ်ရာကိုဆောင်၍လှမ်းသွားတော့ဟုသင်အားဆိုသော
၁၃ သူကားအဘယ်သူနည်းဟုမေးကြ၏။ ထိုသူကားအဘယ်သူဖြစ်
သည်ကိုအနာရောဂါကင်းသောသူသည်မသိ။အဘယ်ကြောင့်နည်း
ဟူမူကား။ထိုအရပ်၌လူစုဝေးလျက်ရှိသည်ဖြစ်၍ ယေရှုသည် မထင်
၁၄ ရှားထွက်တော်မူ၏။ ။ထိုနောက်မှာဗိမာန်တော်၌ယေရှု
သည်ထိုသူကိုတွေ့တော်မူလျှင်သင်သည်ကျန်းမာခြင်းရှိ၏။သာ၍ဆိုး
သောဘေးနှင့်မတွေ့ရအောင်နောက်တဖန်ဒုစရိုက်ကိုမပြုနှင့်ဟုမိန့်
၁၅ တော်မူ၏။ ထိုသူသည်သွား၍မိမိကိုကျန်းမာစေသောသူသည်ယေ
၁၆ ရှုဖြစ်သည်ကိုယုဒလူတို့အားကြားပြောလေ၏။ ထိုအမှုကိုဥပုသ်နေ့
၌ပြုတော်မူသောကြောင့် ယုဒလူတို့သည် ယေရှုကိုညှဉ်းဆဲကြ၏။
၁၇ ယေရှုကလည်းငါ့ခမည်းတော်သည်ယခုတိုင်အောင်အလုပ်လုပ်တော်
၁၈ မူ၏။ငါသည်လည်းလုပ်၏ဟုပြန်ပြောတော်မူ၏။ သို့ဖြစ်၍ဥပုသ်
နေ့ကိုဖျက်သည်သာမက ဘုရားသခင်ကိုမိမိအဖခေါ်ဝေါ်သဖြင့်မိမိ
ကိုဘုရားသခင်နှင့်ပြိုင်နိုင်းတော်မူသောကြောင့်ယုဒလူတို့သည်ကိုယ်
၁၉ တော်ကိုသတ်ရအောင်သာ၍ရှာကြံကြ၏။ ။ယေရှုသည်

လည်းသင်တို့အားငါအမှန်အကန်ဆိုသည်ကား။ ခမည်းတော်သည်ပြု
တော်မူသောအမှုကိုသားတော်သည်မြင်၍သာပြု၏။ မိမိအလိုအ
လျောက်အဘယ်အမှုကိုမျှမပြုနိုင်။ ခမည်းတော်ပြုတော်မူသမျှအတိုင်း
၂၀ သားတော်လည်းပြု၏။ ခမည်းတော်သည်သားတော်ကိုချစ်တော်
မူ၍ပြုတော်မူသမျှတို့ကိုသားတော်အားပြတော်မူ၏။ သင်တို့သည်အံ့
သြခြင်းရှိရအောင်ဤမျှမကသာ၍ကြီးသောအမှုအရာတို့ကိုသား
၂၁ တော်အားပြတော်မူလိမ့်မည်။ ခမည်းတော်သည်သေလွန်သောသူ
တို့ကိုထမြောက်ရှင်ပြန်စေတော်မူသကဲ့သို့ထိုနည်းတူသားတော်သည်
၂၂ လည်းအလိုရှိသမျှသောသူတို့ကိုရှင်စေ၏။ လူအပေါင်းတို့သည်ခမည်း
၂၃ တော်ကိုရိုသေကျိုးနွံသည်နည်းတူသားတော်ကိုရိုသေကျိုးနွံမည်အ
ကြောင်း။ ခမည်းတော်သည်အဘယ်သူကိုမျှတရားစီရင်တော်မမူ။ တ
ရားစီရင်ခြင်းအခွင့်ရှိသမျှကိုသားတော်အားအပ်ပေးတော်မူ၏။
သားတော်ကိုမရိုသေမကျိုးနွံသောသူသည်ကားသါးတော်ကိုစေလွှတ်
၂၄ တော်မူသောခမည်းတော်ကိုမရိုသေမကျိုးနွံသောသူဖြစ်၏။ ငါအမှန်
အကန်ဆိုသည်ကား။ ငါ၏စကားကိုနားထောင်၍ငါ့ကိုစေလွှတ်တော်မူ
သောသူကိုယုံကြည်သောသူသည်ထာဝရအသက်ကိုရသည်ဖြစ်၍အ
ပြစ်စီရင်ခြင်းကိုမခံရ။ သေခြင်းမှအသက်ရှင်ခြင်းသို့ကူးမြောက်
၂၅ သောသူဖြစ်၏။ ။ငါအမှန်အကန်ဆိုသည်ကား။ သေလွန်
သောသူတို့သည်ဘုရားသခင်သားတော်၏စကားသံကိုကြား၍ကြား
သောအားဖြင့်အသက်ရှင်ရမည်အချိန်ကာလသည်လာ၍ယခုပင်
၂၆ ရောက်လျက်ရှိ၏။ အဘယ်ကြောင့်နည်းဟူမူကား။ ခမည်းတော်သည်
ကိုယ်၌အသက်ရှိတော်မူသည်နည်းတူသားတော်သည်မိမိ၌အသက်
၂၇ ရှိရသောအခွင့်ကိုပေးတော်မူ၏။ သားတော်သည်လူသားဖြစ်သော
ကြောင့်တရားစီရင်ခြင်းအခွင့်ကိုလည်းသားတော်၌အပ်ပေးတော်မူ
၂၈ ၏။ ဤအရာကိုအံ့သြခြင်းမရှိကြနှင့်။ သင်းဂူင်းများမှာရှိသောသူ
၂၉ အားလုံးတို့သည်သားတော်၏စကားသံကိုကြား၍ ကောင်းသောအ
ကျင့်ကိုကျင့်သောသူတို့သည်အသက်ရှင်ရာထမြောက်ခြင်းသို့ထွက်
၍ဝင်ဆိုယုတ်သောအကျင့်ကိုကျင့်သောသူတို့သည်အပြစ်စီရင်ရာထ
မြောက်ခြင်းသို့ထွက်ရမည်အချိန်ကာလရောက်လတံ့။ ငါသည်ကိုယ်
၃၀ အလိုအလျောက်အဘယ်အမှုကိုမပြုနိုင်။ ငါကြားသည်နှင့်အညီငါ
တရားစီရင်၏။ ငါစီရင်ခြင်းသည်လည်းတရားတော်နှင့်ညီညွတ်၏။

အဘယ်ကြောင့်ခည်းဟူမူကား။ ကိုယ်အလိုသို့ငါမလိုက်။ ငါ့ကိုစေ
လွှတ်တော်မူသောသူ၏အလိုတော်သို့ငါလိုက်၏။

**

၃၁ ငါသည်ကိုယ်အကြောင်းကိုသက်သေခံလျှင်ငါ့သက်သေမတည်၊ ငါ
၃၂ အကြောင်းကိုသက်သေခံသောသူတပါးရှိသေး၏။ ထိုသူ၏သက်သေ
၃၃ တည်ကြောင်းကိုငါသိ၏။ သင်တို့သည်ယောဟန်ဆီသို့စေလိုက်ကြ၍
၃၄ သူသည်သမ္မာတရားဘက်သက်သေခံလေ၏။ သို့သော်လည်းလူပေး
သောသက်သေကိုငါသည်ပမာဏမပြု။ သင်တို့သည်ကယ်တင်ခြင်း
၃၅ သို့ရောက်ရအောင်သာဤစကားကိုငါပြော၏။ ယောဟန်သည်ညှိ
ထွန်း၍လင်းသောဆီမီးဖြစ်၏။ သင်တို့သည်သူ၏အလင်း၌ခဏသာ
၃၆ မွေ့လျော်ခြင်းငှါအလိုရှိ၏။ ယောဟန်၏သက်သေထက်သာ၍ကြီး
သောသက်သေငါ၌ရှိ၏။ အကြင်အမှုတို့ကိုငါပြီးစီးရအောင်ခမည်း
တော်သည်ငါ့လက်သို့အပ်ပေးတော်မူ၏။ ငါပြုသောထိုအမှုတို့သည်
ကားခမည်းတော်သည်ငါ့ကိုစေလွှတ်တော်မူသည်အကြောင်းကိုငါ့
၃၇ ဘက်သက်သေခံကြ၏။ ခမည်းတော်သည်လည်းငါ့ဘက်သက်သေခံ
တော်မူ၏။ ခမည်းတော်၏စကားသံတော်ကိုသင်တို့သည်မကြား။
၃၈ သဏ္ဌာန်တော်ကိုမမြင်။ နှုတ်ကပတ်တော်သည်လည်းသင်တို့၌မ
တည်။ အဘယ်ကြောင့်ခည်းဟူမူကား။ စေလွှတ်တော်မူသောသူကို
၃၉ သင်တို့သည်မယုံကြည်ဘဲနေကြ၏။ ။ကျမ်းစာအားဖြင့်ထာဝရ
အသက်ကိုရမည်ဟုစိတ်ထင်၍သင်တို့သည်ကျမ်းစာကိုစေ့စေ့ကြည့်
၄၀ ကြ၏။ ထိုကျမ်းစာပင်ငါ၏သက်သေဖြစ်၏။ သင်တို့သည်အသက်ကိုရ
၄၁ အောင်ငါ့ထံသို့လာခြင်းငှါအလိုမရှိ။ လူပေးသောဘုန်းအသရေကိုငါ
၄၂ မခံ။ သို့သော်လည်းဘုရားသခင်ကိုချစ်ခြင်းမေတ္တာသည်သင်တို့၌မ
၄၃ ရှိဟုငါသိ၏။ ခမည်းတော်အခွင့်နှင့်ငါရောက်လာသည်ဖြစ်၍ သင်တို့
သည်ငါ့ကိုလက်မခံကြ။ အခြားသောသူသည်မိမိအခွင့်နှင့်ရောက်လာ
၄၄ လျှင်သူကိုသင်တို့သည်လက်ခံကြလိမ့်မည်။ အချင်းချင်းပေးသောဘုန်း
အသရေကိုခံ၍ဘုရားသခင်သာပေးတော်မူသောဘုန်းအသရေကို
၄၅ အလိုမရှိသောသင်တို့သည်အဘယ်သို့ယုံကြည်နိုင်သနည်း။ ခမည်း
တော်ရှေ့၌ငါသည်သင်တို့ကိုအပြစ်တင်မည်ဟုမထင်ကြနှင့်။ သင်တို့
ကိုအပြစ်တင်သောသူတပါးရှိသေး၏။ ထိုသူကားသင်တို့ကိုးစား
၄၆ သောမောရှေပေတည်း။ သင်တို့သည်မောရှေစကားကိုယုံလျှင်ငါ့ကိုမ

ရုံဘဲမနေနိုင်။အဘယ်ကြောင့်နည်းဟူမူကား မောရှေသည်ငါ့အကြောင်း
၄၇ ကိုရေးထား၏။ သူရေးထားသောစာကိုသင်တို့မယုံလျှင်ငါ့စကားကို
အဘယ်သို့ယုံနိုင်သနည်းဟုယုဒလူတို့အား ဟောတော်မူ၏။ ။
၁ ထိုနောက်မှာယေရှုသည် တိဗေရိအိုင် တည်းဟူသော ဂါလိလဲအိုင်ကို
၂ ကူးတော်မူ၏။ အနာရောဂါစွဲသောသူတို့၌ပြုတော်မူသောနိမိတ်
လက္ခဏာတို့ကိုလူအစုအဝေးအပေါင်းတို့သည်မြင်ကြသဖြင့် နောက်
၃ တော်သို့လိုက်ကြ၏။ ယေရှုသည် တောင်ပေါ်သို့တက်ကြွ၍ တပည့်
၄ တော်တို့နှင့်အတူထိုင်တော်မူ၏။ ထိုအခါ ယုဒလူတို့၏ ပသခါပွဲကို
၅ ခံသောအချိန်ရောက်လုနီးပြီး။ ။ယေရှုသည်မျှော်ကြည့်၍လူ
အစုအဝေးအပေါင်းတို့သည် အထံတော်သို့လာကြသည်ကိုမြင်တော်
မူလျှင်ဖိလိပ္ပုအား၊ဤသူတို့စားစရာမုန့်ကိုအဘယ်ဆီမှာဝယ်၍ရနိုင်
၆ အံ့နည်းဟုမေးတော်မူ၏။ ထိုသို့မေးတော်မူသော်မိမိအဘယ်သို့ပြု
မည်ကိုသိတော်မူလျက်ပင်ဖိလိပ္ပုကိုစုံစမ်းရအောင်သာမေးတော်မူ၏။
၇ ဖိလိပ္ပုကလည်း၊ဤသူတို့သည်မုန့်တပဲ့စီစေ့ငအောင်ဒေနာရိအပြားနှစ်
၈ ရာ အဖိုးထိုက်သော မုန့် မလောက်ပါဟု လျှောက်၏။ ရှိမုန်ပေတရု
၉ ညီ၊ အန္ဒြေအမည် ရှိသောတပည့်တော်က ဂျုံမုန့်ငါးလုံးနှင့်ငါးကလေး
နှစ်ကောင်ရှိသောသူငယ်တယောက်ရှိ၏။သို့သော်လည်း ဤမျှလောက်
များသောလူတို့သည် ရှိ၍ထိုမုန့်နှင့်ငါးနှစ်ကောင်တို့ကိုအဘယ်ပြော
၁၀ စရာရှိသနည်းဟုလျှောက်၏။ ယေရှုကလည်း လူများတို့ကိုထိုင်စေ
ကြဟုမိန့်တော်မူ၏။ ထိုအရပ်၌ထူပြောသောမြက်ပင်ရှိ၏။ သို့ဖြစ်
၍အရေအတွက်အားဖြင့်ငါးထောင်မျှလောက် သောလူတို့သည်ထိုင်
၁၁ ကြ၏။ ယေရှုသည်မုန့်ကိုယူ၍ကျေးဇူးတော်ကိုချီးမွမ်းပြီးမှတပည့်
တော်တို့အားဝေငှတော်မူ၍တပည့်တော်တို့သည်ထိုင်နေသောသူတို့
အားဝေငှပြန်၏။ထိုနည်းတူ။ငါးနှစ်ကောင်ကိုလူများလိုချင်သမျှဝေ
၁၂ ငှကြ၏။ ထိုသူတို့သည်ဝပြီးမှကိုယ်တော်ကဘာမျှမပျောက်ရအောင်
ကြွင်းရစ်သောအကျိုးအပဲ့တို့ကိုကောက်သိမ်းကြလော့ဟုတပည့်တော်
၁၃ တို့အားမိန့်တော်မူလျှင် စားသောသူတို့၌ကြွင်းရစ်သောဂျုံမုန့်ငါး
လုံးအကျိုးအပဲ့တို့ကိုကောက်သိမ်းကြ၍ဆယ်နှစ်တောင်းအပြည့်ရှိ၏။
၁၄ ထိုသို့ယေရှုသည် ပြုတော်မူသောနိမိတ်လက္ခဏာကိုထိုလူများတို့
သည်မြင်လျှင် ဤသူကားလောကသို့ကြွလာသော ပရောဖက်အမှန်
၁၅ ဖြစ်သည်ဟုဆိုကြ၏။ ထိုသူတို့သည်ကိုယ်တော်ကိုရှင်ဘုရင်အရာ၌

ချီးမြှောက်အောင်လာ၍အနိုင်အထက်ပြုကြမည်ဟုယေရှုသိတော်မူ
လျှင်တောင်ပေါ်သို့တယောက်တည်းကြွတော်မူပြန်၏။

❋❋

၁၆ ညအချိန်ရောက်သောအခါတပည့်တော်တို့သည်အိုင်သို့သွား၍ လှေ
၁၇ ထဲ၌ဝင်သဖြင့်ကပေရနောင်မြို့သို့အိုင်ကိုကူးကြ၏။ ထိုအခါမှောင်
၁၈ မိုက်ဖြစ်၍ ယေရှုသည်သူတို့ဆီသို့မရောက်သေး။ လေပြင်းမုံတိုင်း
၁၉ လာ၍လှိုင်းတံပိုးထလေ၏။ ခရီးတတိုင်ခွဲနှစ်တိုင်လောက်တက်ခတ်
၍ရောက်သောအခါယေရှုသည်အိုင်ပေါ်မှာစက်တော်ဖြန့်၍လှေအနီး
သို့ချည်းတော်မူသည်ကိုသူတို့သည်မြင်၍ကြောက်လန့်ခြင်းရှိကြ၏။
၂၀ ငါပင်ဖြစ်သည်။ ကြောက်လန့်ခြင်းမရှိကြနှင့်ဟုမိန့်တော်မူပြီးလျှင်
၂၁ လှေထဲသို့ကိုယ်တော်ကိုဝမ်းမြောက်စွာခံယူကြ၏။ လှေသည်လည်း
၂၂ ရောက်လိုသောအရပ်သို့တခဏချင်းဆိုက်လေ၏။ ။နက်ဖန်
၂၃ နေ့၌အိုင်နားမှာနေသောလူအစုအဝေးတို့သည်ကားအထက်ကသခင်
ဘုရားသည်ကျေးဇူးတော်ကိုချီးမွမ်းပြီးမှလူများသည်မုန့်ကိုစားကြ
ရာအရပ်နှင့်အနီး။ တိဗေရိမြို့မှအခြားသောလှေငယ်များလာသော်
လည်းမနေ့၌တပည့်တော်တို့ဝင်သောလှေမှတပါးအဘယ်လှေမျှမရှိ
သည်ကိုငှင်ယေရှုသည်ထိုလှေထဲသို့တပည့်တော်တို့နှင့်အတူဝင်
၂၄ တော်မမူဘဲလျက်တပည့်တော်တို့သာသွားသည်ကိုငှင်မြင်ကြ၍ထို
အရပ်၌ယေရှုမှစသောတပည့်တော်တို့မရှိသည်ကိုသိကြသဖြင့်ရှာ
၂၅ စီး၍ယေရှုကိုရှာရအောင်ကပေရနောင်မြို့သို့သွားကြ၏။ အိုင်တ
ဖက်၌တွေ့လျှင်အရှင်ဘုရား။ အဘယ်သောအခါ၌အရပ်သို့ကြွလာ
၂၆ တော်မူသနည်းဟုမေးလျှောက်ကြ၏။ ယေရှုကလည်းငါအမှန်အကန်
ဆိုသည်ကား။ သင်တို့သည်နိမိတ်လက္ခဏာတို့ကိုမြင်သောကြောင့်ငါ
၂၇ ကိုရှာသည်မဟုတ်။ မုန့်ကိုစား၍ဝသောကြောင့်သာရှာကြ၏။ ပျက်
တတ်သောအစာကိုရအောင်မကြိုးစားကြနှင့်။ လူသားသည်သင်တို့
အားပေး၍ထာဝရအသက်နှင့်အမျှတည်တတ်သောအစာကိုရအောင်
ကြိုးစားကြလော့။ ထိုသားသည်ခမည်းတော်ဘုရား၏တံဆိပ်ခတ်
၂၈ ခြင်းကိုခံသောသူဖြစ်သည်ဟုမိန့်တော်မူ၏။ ထိုသူတို့ကလည်းဘု
ရားသခင်အလိုတော်နှင့်ညီသောအကျင့်ကိုကျင့်ရအောင်အဘယ်
၂၉ သို့ပြုရပါမည်နည်းဟုမေးလျှောက်ကြ၏။ ယေရှုကလည်းဘုရားသခင်
စေလွှတ်တော်မူသောသူကိုယုံကြည်ခြင်းအကျင့်ကားအလိုတော်နှင့်

၃၀ ညီသောအကျင့် တည်းဟုမိန့်တော်မူ၏။ ထိုသူတို့လည်း အကျွန်ုပ်တို့
သည်ကိုယ်တော်ကိုရုံ ကြည့်ရအောင်ကိုယ်မျက် စိမြင်ဖို့ရာအဘယ်နိ
မိတ်လက္ခဏာကိုပြတော်မူသနည်း။ အဘယ်အမှုကိုပြုတော်မူ သနည်း။
၃၁ ကျမ်း စာ၌ လာ သည့် ကား။ ထိုသူ တို့စား စရာအို့ ကောင်း ကင်မှ မုန့်
ကိုပေးတော်မူသည် ဟုလာသည်နှင့်အညီငါတို့အဘများသည်တော၌
၃၂ မန္နကိုစားကြသည်ဟုလျှောက်ကြ၏။ ။ယေရှုကလည်းငါအ
မှန်အကန်ဆိုသည်ကား။မောရှေသည်ကောင်း ကင်မုန့်ကိုသင်တို့အား
မပေး။ခမည်း တော်သည်မှန်သောကောင်းကင်မုန့်ကိုသင်တို့အားပေး
၃၃ တော်မူ၏။ဘုရားသခင်၏မုန့်မူကား ကောင်းကင်ဘုံကဆင်းသက်၍
လောကီသားတို့အားအသက်ပေး သောသူပေတည်းဟုမိန့်တော်မူ၏။
၃၄ သခင်။ ထိုမုန့်ကိုအ ကျွန်ုပ် တို့အား အစဉ်မ ပြတ် ပေး တော်မူပါဟု
၃၅ လျှောက်ကြ၏။ ယေရှုကလည်း ငါသည်ထိုအသက်မုန့်ဖြစ်၏။ ငါထံ
သို့လာ သော သူသည် နောက် တဖန်အဆာအ မွတ်မခံရ။ ငါကိုရုံကြည့်
၃၆ သော သူသည်နောက်တဖန်ရေငတ်မခံရ။ သို့သော်လည်းသင်တို့သည်
၃၇ ငါကိုမြင်လျက် မရုံကြည့်ဟုငါ ဆိုခဲ့ပြီး။ခမည်းတော်သည်ငါအား ပေး
တော်မူသမျှသော သူတို့သည်ငါထံသို့လာလိမ့်မည်။ငါထံသို့လာသော
၃၈ သူကိုငါအလျှင်းမပယ်။ အဘယ်ကြောင့်နည်းဟူမူကား။ငါသည်ကို
ယ်အလိုသို့ လိုက်အောင် ကောင်း ကင်ဘုံမှဆင်း သက် သည် မဟုတ်။
၃၉ ငါကိုစေလွှတ် တော် မူသော သူ၏ အလိုတော်သို့လိုက် အောင်ငါဆင်း
သက် ၏။ ငါကို စေ လွှတ်တော်မူသော သူ၏ အလို တော်ကား။ငါအား
ပေးသော သူတို့ တွင်တယောက်ကိုမျှငါ မပျောက်စေရ ဘဲနောက် ဆုံး
၄၀ သော နေ့၌အားလုံး ကိုထမြောက် စေခြင်း ငှါအလိုတော် ရှိ၏။ သား
တော်ကိုမြင်၍ရုံ ကြည့်သောသူ ရှိသမျှတို့ သည်ထာ ဝရအသက် ကိုရ
စေခြင်းငှါလည်း ငါကိုစေလွှတ်တော်မူသောသူ၏ အလိုတော်ရှိ၏။ငါ
သည် လည်း နောက်ဆုံး သောနေ့၌ထို သူတို့ ကိုထမြောက် စေမည်ဟု
မိန့်တော်မူ၏။

**

၄၁ ငါသည်ကောင်းကင်မှဆင်းသက်သောမုန့်ဖြစ်၏ဟုမိန့်တော်မူသည်
၄၂ ကိုယုဒ လူတို့က ဤသူ သည် ယော သပ် ၏သား ယေ ရှုဖြစ် သည်မ
ဟုတ်လော။ သူ၏မိဘကိုငါတို့သိသည် မဟုတ်လော။ ငါသည် ကောင်း
ကင်မှဆင်း သက်၏ဟုသူသည် အဘယ် သို့ဆိုရသနည်း ဟုကဲ့ရဲ့ပြစ်

၄၃ တင်လျှက်ဆိုကြ၏။ ယေရှုကလည်း အချင်းချင်း ငါ့ကိုမကဲ့ရဲ့ အပြစ်မ
၄၄ တင်ကြနှင့်။ငါ့ကိုစေလွှတ်တော်မူသောခမည်းတော်သည်သွေးဆောင်
တော်မမူလျှင်အဘယ်သူမျှငါ့ထံသို့မလာနိုင်။လာသောသူကိုနောက်
၄၅ ဆုံးသောနေ့၌ငါထမြောက်စေမည်။ အနာဂတ္တိကျမ်းစာ၌လာသည်
ကား၊ ထိုသူ အပေါင်း တို့သည် ဘုရားသခင် ဆုံးမ သွန် သင် တော်မူ
သောသူဖြစ်ကြလိမ့်မည် ဟုလာသည်နှင့်အညီခမည်းတော်ထံ၌နား
၄၆ ထောင်၍နည်းခံသောသူမှန်သမျှ တို့သည်ငါ့ထံသို့လာ၏။ ထိုသို့ငါ
ဆိုသော် ဘုရားသခင်အထံတော်က ကြွလာသောသူမှတပါး တစုံတ
ယောက် သောသူသည် ခမည်းတော်ကိုမြင်ခဲ့ပြီး ဟုမဆိုလို။ ကြွလာ
၄၇ သောသူသည်ကားခမည်းတော်ကိုမြင်ခဲ့ပြီ။ ငါအမှန်အကန်ဆိုသည်
၄၈ ကား။ငါ့ကိုယုံကြည်သောသူသည်ထာဝရအသက်ကိုရ၏။ ငါသည်အ
၄၉ သက်မုန့်ဖြစ်၏။ သင်တို့အဘများသည်တော၌မန္နကိုစားလျက်သေ
၅၀ ရကြ၏။ ကောင်းကင်မှဆင်းသက်သောမုန့်ကိုစားသောသူသည်
၅၁ သေခြင်းနှင့်ကင်းလွတ်၏။ ငါသည်ကောင်းကင်မှဆင်းသက်သော
အသက် မုန့်ဖြစ်၏။ ဤမုန့်ကိုစား သော သူမည် သည်ကား အစဉ်မ
ပြတ်အသက်ရှင်လိမ့်မည်။ငါပေး သောမုန့်ကားလောကီသားတို့၏အ
သက်အဖို့အလို့ငှါငါစွန့်သောငါ၏အသားပေတည်းဟုမိန့်တော်မူ၏။
၅၂ ။ထိုအခါယုဒလူတို့လည်း ဤသူသည်မိမိအသားကိုငါတို့စား
စရာဘို့အဘယ်သို့ပေးနိုင်သနည်း ဟုအချင်းချင်းငြင်းခုံကြ၏။
၅၃ ယေရှုသည်လည်း ငါအမှန်အကန်ဆိုသည်ကား။ လူသား၏အသားကို
၅၄ မစား။အသွေးကိုမသောက်လျှင်သင်တို့၌အသက်မရှိ။ ငါ့အသားကို
စား၍ငါ့အသွေးကိုလည်း သောက်သောသူသည်ထာဝရအသက်ကိုရ
၅၅ ၏။ထိုသူကိုနောက်ဆုံး သောနေ့၌ငါထမြောက်စေမည်။ ငါ၏အသား
သည်စားစရာကောင်း၏။ငါ၏အသွေးသည်သောက်စရာကောင်း၏။
၅၆ ငါ၏အသား အသွေး ကိုသောက်စား သောသူသည်ငါ၌ တည်၏။ထို
၅၇ သူ၌လည်း ငါတည်၏။ အသက် ရှင်တော် မူသော ခမည်း တော်သည်
ငါ့ကိုစေ လွှတ် တော်မူ၍ ငါသည် ခမည်း တော်အား ဖြင့်အသက် ရှင်
သည် နည်း တူငါ့ကိုစား သော သူ သည်ငါ့အား ဖြင့်အ သက်ရှင် လိမ့်
၅၈ မည်။ ဤမုန့်ကားကောင်း ကင်မှဆင်းသက်သောမုန့် ဖြစ်၏။သင်တို့
အဘများ သည်စား လျက်သေရသကဲ့သို့မဟုတ်။ ဤမုန့် ကိုစား သော
၅၉ သူသည် အစဉ်မပြတ် အသက်ရှင် လိမ့်မည် ဟုကပေရနောင်မြို့မှာ

၆၀ တရားဇရပ်၌သြဝါဒပေး စဉ်တွင်မိန့်တော်မူ၏။ ။တပည့်
တော်အများတို့သည်ထိုစကားတော်ကိုကြားလျှင်ခက်လှသောစကား
၆၁ ဖြစ်၏။ အဘယ်သူနား ခံနိုင်သနည်း ဟုဆိုကြ၏။ ထိုသို့တပည့်
တော်တို့ကဲ့ရဲ့အပြစ်တင်သည်ကိုယေရှုသည်အလိုလိုသိတော်မူလျှင်
၆၂ ဤတရားစကားကြောင့်သင်တို့သည်စိတ်ပျက်ကြသလော။ လူသား
သည်အရင်နေရာအရပ်သို့တဖန်ကြွတက်သည်ကိုမြင်ရလျှင်အ
၆၃ ဘယ်သို့ထင်ကြမည်နည်း။ ဝိညာဉ်သာလျှင်အသက်ရှင်စေ၏။
ကိုယ်ကာယသည်ဘာမျှမတတ်နိုင်။ငါပြောသောစကားသည်ဝိညာဉ်
၆၄ ဖြစ်၏။အသက်လည်းဖြစ်၏။ သို့သော်လည်းသင်တို့တွင်မယုံကြည်
၆၅ သောသူအချို့ရှိ၏။ ထိုကြောင့်ငါခမည်းတော်သည်အခွင့်ပေးတော်မ
မူလျှင်အဘယ်သူမျှငါထံသို့မလာနိုင်ဟုအထက်ကငါဆိုသည်ဟု
မိန့်တော်မူ၏။ထိုသို့မိန့်တော်မူသည်အကြောင်းဟူမူကား။အဘယ်
သူမယုံကြည်သည်ကိုငှင်အဘယ်သူသည်ကိုယ်တော်ကိုအပ်နှံမည်
၆၆ ကိုငှင်ယေရှုသည်အစအဦး၌သိတော်မူ၏။ ။ထိုအခါမှစ
၍တပည့်တော်အများတို့သည်ကိုယ်တော်နှင့်မပေါင်းဖေါ်။ဆုတ်
၆၇ သွားကြ၏။ ထိုကြောင့်ယေရှုသည်တကျိပ်နှစ်ပါးသောသူတို့အား
သင်တို့သည်လည်းထွက်သွားခြင်းငှါအလိုရှိသလောဟုမေးတော်မူ
၆၈ ၏။ ရှိမုန်ပေတရုကလည်းသခင်။အကျွန်ုပ်တို့သည်အဘယ်သူဆီသို့
သွားရမည်နည်း။ထာဝရအသက်နှင့်ရှည်သောစကားသည်ကိုယ်တော်
၆၉ ၌တည်ရှိ၏။ကိုယ်တော်သည်ခရစ်တော်တည်းဟူသောဘုရားသခင်
၏သားတော်ဖြစ်တော်မူသည်ကိုအကျွန်ုပ်တို့ယုံကြည်သိမှတ်ကြ၏ဟု
၇၀ လျှောက်လေ၏။ ယေရှုကလည်းတကျိပ်နှစ်ပါးသောသင်တို့ကိုငါရွေး
ကောက်သည်မဟုတ်လော။ သို့သော်လည်းသင်တို့တွင်ရန်သူတ
၇၁ ယောက်ပါသည်ဟုမိန့်တော်မူ၏။ထိုသို့မိန့်တော်မူသော်တကျိပ်နှစ်
ပါးအဝင်ဖြစ်၍ကိုယ်တော်ကိုအပ်နှံမည်သူ။ရှိမုန်၏သား။ယုဒရှကာ
၁ ရုတ်ကိုဆိုလိုသတည်း။ ထိုနောက်မှာယေရှုသည်ဂါလိလဲပြည်၌လှည့်
လည်တော်မူ၏။ယုဒလူတို့သည်ကိုယ်တော်ကိုသတ်ရအောင်ရှာကြံ
သောကြောင့်ယုဒပြည်၌လှည့်လည်ခြင်းငှါအလိုတော်မရှိ။

❋❋

၂။၃ ယုဒလူတို့၏သကေနေပွဲခံခါနီးတွင် ညီတော်တို့ကယေရှုအားသင်
ပြုသောအမှုတို့ကိုတပည့်များတို့သည်မြင်ရအောင်ဤအရပ်မှထွက်

၄ ၌ ယုဒပြည် သို့ ကြွ ပါ။ ကျော် စော ကိတ္တိ ကိုအ လို ရှိ သော သူ မည်သူ
သည်ကား မထင်ရှားသော အား ဖြင့်အဘယ်အမှုကိုမပြုတတ်။ ဤအမှု
တို့ကိုသင်သည် ပြုလျှင်လောက၌ ကိုယ်ကိုကိုယ် ထင်ရှား စွာပြပါဟု
၅၆ မရုံကြည်သဖြင့်ဆိုကြ၏။ ယေရှုကလည်း ငါအချိန်မရောက်သေး။ သင်
၇ တို့အို့ခပ်သိမ်း သော အချိန်သင့်လျက်ရှိ၏။ လောကီသားတို့သည်သင်
တို့ကိုမမုန်း နိုင်။ ငါကိုမုန်းကြ၏။ အဘယ် ကြောင့်နည်းဟူမူကား။ သူ
၈ တို့၏အကျင့်ဆိုးညစ်ကြောင်းကိုငါသက်သေခံ၏။ ဤပွဲဆီသို့သင်တို့
၉ သွားကြလော့။ ငါမသွား သေး။ ငါအချိန်မ ပြည့်စုံသေး ဟုမိန့်တော် မူ
၁၀ ပြီးလျှင်ဂါလိလဲ ပြည်မှာ နေတော် မူ၏။ ။ညီ တော် တို့သွား
၁၁ ပြီး မှကိုယ် တော်သည် ထိုပွဲဆီ သို့မထင်မရှား ကြွတော်မူ၏။ ထို ပွဲ၌
ယုဒ လူတို့သည် ယေရှုကိုရှာ၍အဘယ်မှာ ရှိသနည်း ဟု မေး မြန်းကြ
၁၂ ၏။ လူအစုအဝေး တို့သည်ကိုယ် တော်ရှိအကြောင်း ပြု၍ အုတ် အုတ်
သဲသဲဖြစ်ကြ၏။ အချို့တို့ကသူ သည် သူ တော်ကောင်း ဖြစ်သည် ဟူ၍
ရင်အချို့ တို့ကမဟုတ်ဖူး။ လူများကို လှည့်စား သည်ဟူ၍ရင် ဆိုကြ၏။
၁၃ သို့ သော်လည်း ယုဒလူ တို့ကို ကြောက် သော ကြောင့် အ ဘယ် သူ မျှ
၁၄ အတည့်အလင်းမပြောဝံ့။ ။ထိုပွဲခံစည် တွင်ယေရှု သည်ဗိတ်
၁၅ မှာန်တော် သို့တက်၍ ဆုမ္ဗြသြဝါဒပေး တော်မူ၏။ ယုဒလူတို့ သည်အံ့
သြ၍ဤ သူသည်စာမသင်ဘဲလျက်အ ဘယ်သို့တတ်ဘိ သနည်းဟု
၁၆ ဆိုကြ၏။ ယေရှုကလည်း ငါဟော သော ဒေသနာ သည် ငါဒေသနာ သာ
၁၇ မဟုတ်။ ငါကိုစေလွှတ် တော်မူသော သူ၏ ဒေသနာ ဖြစ် ၏။ သူ၏အလို
တော်သို့လိုက်ချင်သော သူမည်သည်ကား ဤဒေသနာ သည် ဘုရားသ
ခင်၏ ဒေသနာ တော် ဖြစ်သလော။ ငါသည် အလိုလိုဟော ပြောသလော
၁၈ ဟုပိုင်းချား သိလိမ့်မည်။ ကိုယ်အလို အလျောက် ဟောပြောသော သူ
ကား မိမိဘုန်းအသရေ ကိုရှာ တတ်၏။ မိမိကိုစေလွှတ်တော်မူသော သူ
၏ဘုန်းအသရေ ကိုရှာသော သူကား ရုံလောက် သော သူဖြစ် ၏။ ထိုသူ
၁၉ ၌မှုသာ မရှိ။ မောရှေသည် ပညတ်တရား ကိုသင် တို့အား ပေးသည်
မဟုတ် လော။ ထိုတရား ကိုသင် တို့တ ယောက် မျှမကျင့်။ ငါကို သတ်
၂၀ အောင်အဘယ် ကြောင့်ရှာကြံကြသနည်း ဟုမိန့်တော်မူ၏။ လူအစုအ
ဝေးကလည်း သင်သည်နတ်ဆိုးစွဲသော သူဖြစ်၏။ သင်ကိုသတ်အောင်
၂၁ အဘယ်သူရှာ ကြံသနည်းဟုဆိုကြ၏။ ယေရှုကလည်း ငါပြုသောအမှု
၂၂ တခု ကိုသင် တို့အား လုံး အံ့ သြ ခြင်း ရှိကြ၏။ မောရှေသည်အရေ

၃၅ လူတို့က ငါတို့သည် မတွေ့ရအောင် သူသည် အဘယ်အရပ်သို့ သွား
မည်နည်း။ဟေလသလူတို့တွင် အရပ်ရပ်ကွဲပြား လျက်နေသောသူတို့
ဆီသို့သွား၍ဟေလသလူတို့အား တရား ဟောမည်လော။သင်တို့သည်
၃၆ ငါ့ကို ရှာလိမ့်မည်။ ရှာသော်လည်း မတွေ့ရ။ငါရှိရာ အရပ်သို့သင်တို့
မရောက်နိုင်ဟူသောစကားသည်အဘယ်သို့ဆိုလိုသနည်းဟုအချင်း
ချင်းဆိုကြ၏။

✻✻

၃၇ ထိုပွဲကိုခံ၍ နောက်ဆုံး ဖြစ်သောနေ့ မြတ်၌ယေရှုသည် ရပ်တော်မူ၍
ကြွေး ကျော် လေ သည်မှာ။ ရေငတ် သောသူ ရှိလျှင် ငါထံသို့ လာ ၍
၃၈ သောက်ပါလေစေ။ ငါ့ကိုယုံကြည် သောသူ သည် ကျမ်းစာလာ သည့်အ
တိုင်းအသက်ရေထွက်ရာစမ်းရေတွင်းဖြစ်လိမ့်မည်ဟုမိန့်တော်မူ၏။
၃၉ ထိုသို့မိန့်တော်မူ သော်ယုံကြည် သော သူတို့သည် ခံလတ္တံ့သော ဝိညာဉ်
တော်ကိုရည်၍ မိန့်တော်မူ၏။ ယေရှုသည်ဘုန်း ဖွင့်တော်မမူသေ
၄၀ ကြောင့်သန့်ရှင်းသောဝိညာဉ်တော်ကိုပေးတော်မမူသေး။ လူအများတို့
သည်စကားတော်ကိုကြားလျှင် ဤသူကားလာလတ္တံ့သောပရောဖက်
၄၁ အမှန်ဖြစ်သည်ဟုဆိုကြ၏။ အချို့တို့လည်း ဤသူကားခရစ်တော်ဖြစ်
သည်ဟု ဆို ကြ၏။ အချို့တို့လည်း ခရစ်တော် သည် ဂါလိလဲပြည် သား
၄၂ ဖြစ်ရသလော။ ခရစ်တော်သည် ဒါဝိဒ်အမျိုး၌ ဖြစ်ရသည်။ဒါဝိဒ်မွေး
ရာရွာ၊ဗက်လင်ရွာ ၌ ဖြစ်ရသည်ဟုကျမ်း စာလာသည် မဟုတ်လော
၄၃ ဟုဆိုကြ၏။ ထိုသို့လူများတို့သည်ကွဲပြား သည်ဖြစ်၍ အချို့တို့သည်
၄၄ ကိုယ်တော်ကိုဖမ်းဆီးခြင်းငှါအလိုရှိကြ၏။ သို့သော်လည်းအဘယ်သူ
၄၅ မျှမဖမ်းဆီးကြ။ ။ထိုအခါမင်း လုလင်တို့သည်ယဇ်ပုရော
ဟိတ်အကြီး၊ဖာရိရှဲလူတို့ဆီသို့ပြန်၍ထိုမင်းများကအဘယ်ကြောင့်
၄၆ သူကိုမဆောင်ခဲ့ကြသနည်းဟုမေးမြန်းလျှင် မင်းလုလင်တို့ကထိုသူ
သည်ဟောပြောသကဲ့သို့အဘယ်သူမျှမဟောစဖူးဟုလျှောက်ကြ၏။
၄၇ ဖာရိရှဲလူတို့လည်း သင်တို့ကိုပင် လှည့်စား ပြီးလော။ မင်းများ၊ ဖာ
၄၈ ရိရှဲလူများတို့တွင် သူ့ကိုယုံကြည်သော သူ တစုံတယောက်မျှရှိသလော။
၄၉ တရားကိုမသိသောထိုလူများ တို့သည်ကျိန် ဆဲခြင်း ကိုခံသောသူဖြစ်
၅၀ သည် ဟုဆိုကြ၏။ အထက်ကညဉ့် အခါ ၌ အထံတော်သို့လာသော
၅၁ သူတည်းဟူသောထိုမင်းများအဝင်ဖြစ် သောနိကောဒင်ကလည်း ငါ
တို့တရားသည် လူကို စေစ်။ သူ အမှုကိုမသိ ဘဲ ရှေ့မဆွကဆုံး ဖြတ်

၅၂ တတ်သလောဟုဆိုလျှင် သူတို့ကသင်သည်လည်းဂါလိလဲပြည်သား
ဖြစ်သလော။စစ်ဦးတော့။ ဂါလိလဲပြည် ၌ အဘယ်ပရောဖက်မပေါ်မ
၅၃ ထွန်းသည်ကိုမှတ်တော့ဟုဆိုကြပြီးမှ အားလုံးတို့သည် မိမိတို့အိမ်
၁ သို့သွားကြ၏။ ယေရှုသည်လည်းသံလွင်တောင်သို့ကြွတော်မူ၏၊
၂ ။နံနက်စောစောယေရှုသည်ဗိတ်မှာန်တော်သို့တဖန်ကြွတော်
မူ၍လူအပေါင်းတို့သည်အထံတော်သို့လာကြ၏။ ထိုအခါထိုင်တော်မူ
၃ ၍ဆုမ္မသြဝါဒပေးစည် မှားရှင်းခြင်းအမှုကိုပြုလျက်တွေ့မိသော
မိမ္မတယောက်ကိုကျမ်ပြုဆရာတို့နှင့်ဖာရိရှဲလူတို့သည်ခေါ်ခဲ့၍အ
၄ လယ်၌ထားပြီးမှ အရှင်ဘုရား။ဤမိမ္မသည်မှားရှင်းခြင်းအမှုကိုပြု၍
၅ ပြုတုန်းတွေ့မိပါသည်။ ထိုသို့သောမိမ္မကိုကျောက်ခဲနှင့်ပြစ်ရ၏ဟု
မောရှေသည်အကျွန်ုပ်တို့အားပညတ်တရား၌စီရင်ထုံးဖွဲ့၏။ သို့ရာ
တွင်ကိုယ်တော်သည်အဘယ်သို့မိန့်တော်မူမည်နည်းဟုလျှောက်ကြ
၆ ၏။ ထိုသို့လျှောက်သော်ကိုယ်တော်ကိုတရားတွေ့စရာအခွင့်ရှိရ
အောင်စုံစမ်းနှောင့်ရှက်သောအားဖြင့်လျှောက်ကြ၏။ ယေရှုသည်
အောက်သို့ငုံ့သဖြင့်လက်ညှိုးတော်နှင့်မြေ၌ရေးသား၍နေတော်မူ
၇ ၏။ ထိုသူတို့သည်အထပ်ထပ်မေးလျှောက်သောအခါကိုယ်ကိုလှန်
တော်မူ၍သင်တို့တွင်အပြစ်ကင်းသောသူသည်ရှေ့ဦးစွာကျောက်ခဲ
၈ နှင့်ပြစ်စေဟုမိန့်တော်မူပြီးမှ တဖန်အောက်သို့ငုံ့၍မြေ၌ရေးသား
၉ တော်မူပြန်၏။ ထိုသူတို့သည်ကြားလျှင်မိမိစိတ်နှစ်လုံးသည်မိမိအ
ပြစ်ကိုဖော်ပြသဖြင့်အသက်ကြီးသောသူမှစ၍အငယ်ဆုံးသောသူ
တိုင်အောင်တယောက်နောက်တယောက်ထွက်သွားကြ၏။ ယေရှုတ
၁၀ ယောက်တည်းကျန်ရစ်တော်မူ၍မိမ္မသည်အလယ်၌ရပ်နေ၏။ ထိုအ
ခါယေရှုသည်ကိုယ်ကိုလှန်တော်မူပြန်၍ထိုမိမ္မမှတပါးအဘယ်သူကို
မျှမမြင်လျှင်အချင်းမိမ္မ။သင်ကိုအပြစ်တင်သောသူတို့သည်အဘယ်
မှာရှိသနည်း။သင်အမှုကိုအဘယ်သူမျှမစီရင်သနည်းဟုမေးတော်မူ
၁၁ ၏။ ထိုမိမ္မကလည်းအဘယ်သူမျှစီရင်ခြင်းကိုမပြုပါသခင်ဟု
လျှောက်၏။ ငါသည်လည်းသင်အမှု၌စီရင်ခြင်းကိုမပြု။သွားတော့။
နောက်တဖန်ဒုစရိုက်ကိုမပြုနှင့်ဟုမိန့်တော်မူ၏။

❋❋

၁၂ တဖန်တုံ။ယေရှုကငါသည်ဤလောက၏အလင်းဖြစ်၏။ငါနောက်သို့
လိုက်သောသူသည်မှောင်မိုက်၌မသွားလေဘဲအသက်၏အလင်းကို

၁၃ ရလိမ့်မည်ဟုမိန့်တော်မူ၏။ ဖာရိရှဲလူတို့လည်း၊ သင်သည်ကိုယ်အ
ကြောင်းကိုကိုယ်သက်သေခံ၏။ သင်၏သက်သေမတည်ဟုဆိုကြ၏။
၁၄ ယေရှုကလည်း၊ ငါသည်ကိုယ်အကြောင်းကို ကိုယ်သက်သေခံသော်
လည်း၊ ငါသက်သေတည်၏။ အဘယ်ကြောင့်နည်းဟူမူကား။ ငါသည်
အဘယ်ဆီကလာသည်ကိုရင်၊ အဘယ်ဆီသို့သွားသည်ကိုရင်ငါသိ၏။
အဘယ်ဆီကငါလာသည်ကိုရင်၊ အဘယ်ဆီသို့ငါသွားသည်ကိုရင်
၁၅ သင်တို့မသိ။ သင်တို့သည်လောကီပညာအားဖြင့်စီရင်တတ်၏။ ငါ
၁၆ သည်အဘယ်စီရင်ခြင်းကိုမပြု။ ငါသည်စီရင်သော်လည်း၊ ငါအစီရင်
သည်တည်၏။ အဘယ်ကြောင့်နည်းဟူမူကား။ ငါသည်တယောက်
တည်းနေသည်မဟုတ်။ ငါ့ကိုစေလွှတ်တော်မူသောခမည်းတော်သည်
၁၇ ငါဘက်၌နေတော်မူ၏။ လူနှစ်ယောက်သက်သေခံလျှင်ထိုသက်
၁၈ သေတည်၏ဟုသင်တို့ပညတ္တိကျမ်းစာ၌လာ၏။ ငါသည်ငါ့အ
ကြောင်းကိုသက်သေခံသောသူဖြစ်၏။ ငါ့ကိုစေလွှတ်တော်မူသောခ
မည်းတော်သည်လည်း ငါ့အကြောင်းကိုသက်သေခံတော်မူသည်ဟု
၁၉ မိန့်တော်မူ၏။ ထိုသူတို့လည်း၊ သင်၏ခမည်းတော်သည်အဘယ်မှာ
ရှိသနည်းဟုမေးကြ၏။ ယေရှုကလည်း၊ သင်တို့သည်ငါ့ကိုမသိ။ ငါခမည်း
တော်ကိုလည်းမသိ။ ငါ့ကိုသိလျှင် ငါခမည်းတော်ကိုမသိဘဲမနေနိုင်
၂၀ ဟုမိန့်တော်မူ၏။ ဗိတ်မှာန်တော်၌ ဆုမ္ဗြဩဝါဒပေးတော်မူစဉ်၊ ဤစ
ကားတော်ကိုဘဏ္ဍာတိုက်မှာမိန့်မြွက်တော်မူ၏။ ကိုယ်တော်၏အ
ချိန်မစေ့မရောက်သေးသောကြောင့် အဘယ်သူမျှကိုယ်တော်ကိုမ
၂၁ ဖမ်းဆီးကြ။ ။တဖန်ယေရှုကငါသည်သွားရ၏။ သင်တို့သည်
ငါ့ကိုရှာလိမ့်မည်။ ကိုယ်အပြစ်၌လည်းသေလိမ့်မည်။ ငါသွားရာအရပ်
၂၂ သို့သင်တို့မရောက်နိုင်ကြဟုမိန့်တော်မူ၏။ ယုဒလူတို့လည်း၊ ငါသွား
ရာအရပ်သို့သင်တို့မရောက်နိုင်ဟုသူသည်ဆိုသော်ကိုယ်အသက်
၂၃ ကိုကိုယ်သတ်မည်လောဟုဆိုကြ၏။ ယေရှုကလည်း၊ သင်တို့သည်
အောက်သားဖြစ်ကြ၏။ ငါသည်အထက်သားဖြစ်၏။ သင်တို့သည်လော
၂၄ ကီသားဖြစ်ကြ၏။ ငါသည်လောကီသားမဟုတ်။ ထိုကြောင့်သင်တို့
သည်ကိုယ်အပြစ်၌သေလိမ့်မည်ဟုငါဆို၏။ ငါသည်အဘယ်သူဖြစ်
မှန်းကိုသင်တို့မရုံလျှင် ကိုယ်အပြစ်၌သေကြလိမ့်မည်ဟုမိန့်တော်မူ
၂၅ ၏။ ထိုသူတို့လည်း၊ သင်သည်အဘယ်သူနည်းဟုမေးလျှင် ယေရှုက
၂၆ ငါသည်ရှေးဦးစွာမှစ၍ဆိုသည်အတိုင်းငါဖြစ်၏။ သင်တို့အမှု၌ငါပြော

ရာအများ၊ စီရင်စရာအများရှိ၏၊ သို့သော်လည်း ငါ့ကို စေလွှတ်တော်
မူသောသူသည် သစ္စာနှင့်ပြည့်စုံတော်မူ၏၊ သူ့ထံ၌ ကြားသိရသောအကြောင်းအရာတော်တို့ကို ငါကြား
၂၇ သမျှကို လောကသားတို့အား ပြောသည်ဟု မိန့်တော်မူ၏၊ ခမည်း
တော်ကို ရည်မှတ်၍ မိန့်တော်မူသည်ကို သူတို့သည် နားမလည်ဘဲနေကြ
၂၈ ၏၊ ထိုကြောင့် ယေရှုက သင်တို့သည် လူသားကို ချီးမြှောက်သောအ
ခါ ငါသည် အဘယ်သူဖြစ်သည်ကို၎င်း၊ ငါသည် ကိုယ်အလိုအလျောက်
အဘယ်အမှုကိုမျှ မပြုဘဲ ငါ့ခမည်းတော်သည် ငါ့အား နည်းပေးတော်မူ
၂၉ သည်အတိုင်း ငါပြောသည်ကို၎င်း သင်တို့သိလိမ့်မည်၊ ငါ့ကို စေ
လွှတ်တော်မူသောသူသည် ငါနှင့်အတူရှိတော်မူ၏၊ ခမည်းတော်သည်
ငါ့ကို တကိုယ်တည်းနေစေတော်မမူ၊ အဘယ်ကြောင့်နည်းဟူမူ
ကား၊ နှစ်သက်တော်မူသောအမှုကို အစဉ်မပြတ် ငါပြုသည်ဟု မိန့်
၃၀ တော်မူ၏၊ ထိုစကားတော်ကို မိန့်တော်မူစဉ် လူအများတို့သည် ယုံ
၃၁ ကြည်ခြင်းသို့ရောက်ကြ၏။ ။ထိုအခါ ယေရှုက ငါ၏ဒေသနာ
၃၂ ၌ တည်လျှင် သင်တို့သည် ငါ၏တပည့်အမှန်ဖြစ်ကြ၏၊ သမ္မာတရား
ကိုလည်း သိကြသည်ဖြစ်၍ ထိုတရားသည် သင်တို့ကို လွှတ်လိမ့်မည်
၃၃ ဟု ယုံကြည်သော ယုဒလူတို့အား မိန့်တော်မူ၏။ ယုဒလူတို့လည်း ငါ
တို့သည် အာဗြဟံအမျိုးဖြစ်၏။ အဘယ်သူ့ထံ၌ တရံတခါမျှ ကျွန်မခံ
ကြ။ လွှတ်လိမ့်မည်ဟူ၍ သင်သည် အဘယ်သို့ ဆိုသနည်းဟု ဆိုကြ၏။
၃၄ ယေရှုကလည်း ငါအမှန်အကန်ဆိုသည်ကား၊ ဒုစရိုက်ကို ပြုသမျှ
၃၅ သောသူတို့သည် ဒုစရိုက်ကျွန်ဖြစ်ကြ၏။ ကျွန်သည်ကား အိမ်၌ အ
၃၆ စဉ်အမြဲနေသည်မဟုတ်။ သားသည်ကား အစဉ်အမြဲနေ၏။ ထို
ကြောင့် သားက သင်တို့ကို လွှတ်လျှင် သင်တို့သည် ကေန်အမှန်လွှတ်ကြ
၃၇ လိမ့်မည်။ သင်တို့သည် အာဗြဟံအမျိုးဖြစ်သည်ကို ငါသိ၏။ သို့သော်
လည်း ငါ၏ဒေသနာသည် သင်တို့၌ တည်နေရာကို မရသောကြောင့်
၃၈ သင်တို့သည် ငါ့ကို သတ်ရအောင် ရှာကြကြ၏။ ငါ့ခမည်းတော်ထံ၌ ငါ
မြင်ခဲ့ပြီးသည်အတိုင်း ငါဟောပြော၏။ သင်တို့သည် သင်တို့အဖထံ၌
၃၉ မြင်ခဲ့ပြီးသည်အတိုင်း ပြုကြ၏ဟု မိန့်တော်မူ၏။ ထိုသူတို့လည်း အာ
ဗြဟံသည် ငါတို့အဖဖြစ်၏ဟု ဆိုကြ၏။ ယေရှုကလည်း သင်တို့သည်
အာဗြဟံ၏သားမှန်လျှင် အာဗြဟံ၏အကျင့်ကို ကျင့်ကြလိမ့်မည်။
၄၀ ဘုရားသခင်အထံတော်၌ ကြားရသော သမ္မာတရားကို သင်တို့အား
ဟောပြောသောသူ တည်းဟူသော ငါ့ကို သတ်ရအောင် သင်တို့သည်

၄၁ ယင်ခဲ့ရှာကြကြ၏။ အာဗြဟံသည်ထိုနည်းတူကျင့်သည်မဟုတ်။ သင်
တို့သည်သင်တို့အဖ၏ အကျင့် ကိုကျင့်ကြ၏ဟုမိန့် တော်မူ၏။ ထိုသူ
တို့လည်းငါတို့သည် မြောက်မထား မျိုးမဟုတ်။ဘုရားသခင်တည်းဟူ
၄၂ သောငါတို့ အဖတပါး တည်း ရှိတော် မူသည် ဟုဆို ကြ၏။ ယေရှုက
လည်း ဘုရား သခင်သည်သင်တို့အဖမှန်လျှင်သင်တို့သည်ငါကိုချစ်ကြ
လိမ့်မည်။အဘယ်ကြောင့်နည်းဟူမူကား။ငါသည်ဘုရားသခင်အထံ
တော်မှထွက် ကြွရောက်လာ၏။ ကိုယ် အလို အလျောက် ငါလာ သည်မ
၄၃ ဟုတ်။ဘုရားသခင်သည်ငါကိုစေလွှတ်တော်မူ၏။ အဘယ်ကြောင့်ငါ
စကားကိုနားမလည်ကြသနည်း။ငါ၏ဒေသနာ ကိုနားမခံမယူနိုင်သော
၄၄ ကြောင့်သာငါစကား ကိုသင် တို့သည်နား မလည် ဘဲနေကြ၏။ မာရ်
နတ်တည်း ဟူသောသင် တို့အဖမှ သင်တို့သည်ဆင်းသက်ကြ၏။သင်
တို့အဖ၏အလိုသို့လည်း သင်တို့လိုက် တတ်၏။ မာရ်နတ်သည်ရှေးဦး
စွာမှစ၍ လူ အသက် ကိုသတ် သော သူ ဖြစ်၏။ သူ၌သမ္မာမရှိသော
ကြောင့်သမ္မာတရား၌မတည်မနေ။သူသည်မုသာစကားကိုပြောသော
အခါမိမိ ပကတိ အတိုင်း ပြော၏။ မုသာ စကား၌ ကျင်လည် သော သူ
၄၅ ဖြစ်၏။ မုသာ၏ အဖလည်း ဖြစ်၏။ ငါသည် သမ္မာ စကား ကို ပြော
၄၆ သောကြောင့်သင်တို့မယုံကြ။ ငါ၌အပြစ်ရှိကြောင်းကိုသင်တို့တွင်အ
ဘယ် သူဖော်ပြသ နည်း။ သမ္မာ စကား ကိုငါပြောသည် မှန်လျှင် အ
၄၇ ဘယ်ကြောင့်သင်တို့မယုံကြသနည်း။ ဘုရားသခင်နှင့် စပ်ဆိုင်သော
သူသည်ဘုရား သခင် စကား တော် ကို နား ထောင် တတ်၏။သင်တို့
သည်ဘုရားသခင်နှင့်မစပ်ဆိုင်သောကြောင့်နားမထောင် ကြဟုမိန့်
တော်မူ၏။

❋❋

၄၈ ယုဒလူတို့လည်းသင်သည်ရှမာရိလူဖြစ်၏။ နတ်ဆိုး စွဲသော သူလည်း
ဖြစ်၏ဟုငါတို့ပြောသောစကား သည်လျောက် ပတ်သည်မဟုတ်လော
၄၉ ဟုဆိုကြ၏။ ယေရှုကလည်း ငါသည်နတ် ဆိုးစွဲသော သူမဟုတ်။ငါ၏
၅၀ ခမည်းတော်ကိုငါချီးမြှောက်၏။သင်တို့သည် ငါကို ရှုတ် ချကြ၏။ ငါ
သည်ကိုယ်ဘုန်းအသရေကိုမရှာ။ငါဘုန်းအသရေကိုရှာ၍စီရင်တော်
၅၁ မူသောသူရှိသေး၏။ ငါအမှန် အကန် ဆိုသည် ကား။ ငါစကားကိုနား
ထောင်သော သူသည်သေခြင်းနှင့်အစည် မပြတ်ကင်းလွတ်လိမ့်မည်
၅၂ ဟုမိန့်တော်မူ၏။ ယုဒလူတို့လည်း သင်သည် နတ်ဆိုး စွဲမှန်းကိုယခု

ငါတို့အဘ်ဖြစ်တော်မူသော အာဗြဟံထက်သာ၍ကြီးမြတ်သလော။ အာဗြဟံမှစ၍ ပရောဖက်တို့သည် သေလွန်ကြပြီး။ သင်
မူကား ငါ့စကားကိုနားထောင်သော သူသည် သေခြင်းနှင့် အစဉ်မ
၅၃ ပြတ်ကင်းလွတ်လိမ့်မည်ဟုဆိုသည်တကား။ ငါတို့အဘအာဗြဟံထက်
သင်သည်သာ၍ ကြီးမြတ်သလော။ သူသည် သေပြီး။ ပရောဖက်တို့
လည်း သေကြပြီး၊ သင်သည် အဘယ်သို့သော သူ၏ အရောင်ဆောင်
၅၄ သနည်းဟုဆိုကြ၏။ ယေရှုကလည်း ငါသည်ကိုယ်ဂုဏ်ကိုပြလျှင်ငါ
ဂုဏ်အချည်းနှီးဖြစ်၏၊ ငါ၏ခမည်းတော်သည် ငါဂုဏ်ကိုထင်ရှား
စေတော်မူ၏။ ထိုဘုရားသခင်သည် ငါတို့ဘုရားဟူ၍သင်တို့ခေါ်ဝေါ်
၅၅ တတ်၏။ သို့သော်လည်း ထိုဘုရားသခင်ကိုသင်တို့မသိ။ငါလျှင်သိ
၏။ငါမသိဟုငါဆိုလျှင်ငါသည်သင်တို့ကဲ့သို့မုသာစကားကိုသုံးသော
သူဖြစ်လိမ့်မည်။ ထိုဘုရားသခင်ကိုငါသိ၏။ ဘုရားသခင်၏စကား
၅၆ တော်ကိုလည်းငါနားထောင်၏။ သင်တို့အဘအာဗြဟံသည်ငါကြွလာ
မည် ကာလအချိန်ကိုမျှော်မြင်ခြင်း၌အလွန်တရာအလိုရှိ၏။ မြင်ရ
၅၇ သောအခါဝမ်းမြောက်ခြင်းသို့ရောက်သည်ဟုမိန့်တော်မူ၏။ ယုဒလူ
တို့လည်းသင်၏အသက်သည် အနှစ်ငါးဆယ်မပြည့်ရုံသေးသည်ဖြစ်
၅၈ ၍သင်သည်အာဗြဟံကိုမြင်လေပြီးတကားဟုဆိုကြ၏။ ယေရှုက
လည်းငါအမှန်အကန်ဆိုသည်ကား။ အာဗြဟံမရှိမှီငါဖြစ်၏ ဟုမိန့်
၅၉ တော်မူ၏။ ထိုအခါကိုယ်တော်ကိုခဲနှင့်ပြစ်ရအောင်ကျောက်ခဲတို့ကို
ကောက်ယူကြသဖြင့်ယေရှုသည် မထင်မရှားဖြစ်၍ဗိမ္မာန်တော်မှ
၁ ထွက်သွားတော်မူ၏။ ။လမ်း၌သွားတော်မူစဉ်အမိဝမ်းထဲမှ
၂ စ၍မျက်စိကန်းသောသူတယောက်ကိုတွေ့မြင်တော်မူ၏။ တပည့်
တော်တို့က အရှင်ဘုရား။အဘယ်သူ၏ အပြစ်ကြောင့် ဤသူသည်မျက်
စိကန်းသနည်း။ ကိုယ်အပြစ်ကြောင့်ကန်းသလော။ မိဘ၏ အပြစ်
၃ ကြောင့်ကန်းသလောဟုမေးလျှောက်ကြ၏။ ယေရှုကလည်းကိုယ်အ
ပြစ်ကြောင့်မဟုတ်။မိဘ၏အပြစ်ကြောင့်မဟုတ်။ ဘုရားသခင်၏အ
၄ မှုတော်ကိုသူ၌ထင်ရှားစေမည်အကြောင်းတည်း။ ငါကိုစေလွှတ်တော်
မူသောသူ၏ အမှုကိုနေ့အချိန်ရှိတုန်းခါငါပြုရ၏။အဘယ်သူမျှအမှုမ
၅ ပြုနိုင်သောအချိန်တည်းဟူသောညည့်အချိန်လာသေး၏။ ဤလောက
၌ငါရှိစဉ်တွင်ငါသည်လောက၏ အလင်းဖြစ်၏ဟုမိန့်တော်မူလျှင်
၆ မြေပေါ်မှာတွေး၍တံတွေးနှင့်ရွှံ့လုပ်ပြီးမှကန်းသောသူ၏မျက်စိကိုရွှံ့
၇ နှင့်လူး၍ သင်သွားတော့။ရှိလောင်ရေကန်၌ မျက်စိကိုဆေးတော့ဟု

မိန့်တော်မူ၏။ ရှိလောင်အနက်ကား စေလွှတ်သောသည်ဟုဆိုလိုသတည်း။
၈ ထိုသူသည်သွား၍ ဆေးပြီးမှမျက်စိမြင်လျက်ပြန်လေ၏။ ။သူ
သည်သူတောင်း စားဖြစ်သည် ကိုအိမ်နီး ချင်းတို့မှစ ၍ မြင်ဘူးသော
သူတို့က ဤသူသည်ထိုင်၍တောင်း သောသူဖြစ်သည်မဟုတ်လောဟု
၉ ဆိုကြ၏။ လူအချို့တို့ က ဟုတ် ပါ၏ ဟု ဆို ကြ၏။အချို့တို့လည်း ထိုသူ
နှင့်တူသည်ဟုဆိုကြ၏။ထိုသူကလည်း ငါသည်ထိုသူပင် ဖြစ်၏ဟုဆို
၁၀ ၏။ ထိုသူများလည်းအဘယ်သို့သင် ၏ မျက်စိ ပွင့်သနည်းဟုမေးကြ
၁၁ လျှင် ထိုသူကယေရှု အမည် ရှိသော သူ တယောက်သည် ရွှံ့ လုပ် ၍ ငါ
မျက်စိကို လူး ပြီး မှ ရှိ လောင် ရေကန် ဆီသို့ သွားတော့။ မျက်စိကို ဆေး
တော့ဟုဆိုသည်အတိုင်း ငါသွား ၍ ဆေးပြီးမှမျက်စိမြင်သည် ဟုဆို
၁၂ ၏။ လူများလည်း ထိုသူသည်အဘယ်မှာ ရှိသနည်းဟုမေးကြလျှင်ငါ
မသိဟုဆို၏။

❋❋

၁၃ လူများသည် လည်း မျက် စိကန်း ဘူး သော သူကို ဖာရိရှဲ လူတို့ဆီ သို့ ပို့
၁၄ ကြ၏။ ယေရှုသည် ရွှံ့လုပ်၍သူ ၏ မျက်စိကို ဖွင့်တော်မူသောနေ့သည်
၁၅ ဥပုသ်နေ့ ဖြစ်သတည်း။ တဖန်ဖာရိရှဲ လူ တို့ က အဘယ် သို့ သင် ၏
မျက်စိမြင်သနည်း ဟုမေး ပြန်လျှင်ကျွန်ုပ်မျက်စိ ၌ သူသည် ရွှံ့ကို ထည့်
၁၆ ၍ကျွန်ုပ်ဆေးပြီးမှမျက်စိမြင်သည်ဟုဆို၏။ ဖာရိရှဲလူအချို့တို့ကထို
သူသည်ဥပုသ်မစောင့်။ ဘုရားသခင်စေလွှတ်တော်မူသောသူမဟုတ်
ဟုဆိုကြ၏။ အချို့တို့ကဆိုးသောသူသည် ဤသို့သော နိမိတ်လက္ခဏာ
တို့ကိုအဘယ်သို့ပြုနိုင်သနည်း ဟုဆိုကြ၏။ ထိုသို့အချင်း ချင်းမသင့်
၁၇ ကွဲပြားခြင်းသို့ရောက်ကြ၏။ တဖန်ထိုသူတို့ကသင်၏ မျက်စိကိုဖွင့်
သောသူကို သင် သည်အဘယ် သို့ပြောသနည်း ဟုမေးကြလျှင်ပရော
၁၈ ဖက်ဖြစ်သည်ဟုဆို၏။ ။ထိုသူသည်အထက်ကမျက်စိမမြင်။
နောက်မှာမျက်စိမြင်သည် ကိုယုဒလူတို့သည်မယုံကြသဖြင့်သူ၏မိဘ
၁၉ ကိုခေါ်၍ ဤသူသည်သင်တို့၏သားမှန်သလော။အမိဝမ်းထဲမှစ၍မျက်
စိကန်းသည်ဟုသင်တို့ ဆိုသလော။ သို့ဆိုလျှင်အဘယ် သို့ယခု မျက်စိ
၂၀ မြင်သနည်းဟုမေးကြ၏။ မိဘတို့လည်း ဤသူသည် အကျွန်ုပ် တို့ ၏
သား ဖြစ် သည်ကိုင်၎ အမိဝမ်းထဲမှစ ၍ မျက်စိကန်းသည်ကိုင်၎ အကျွန်ုပ်
၂၁ တို့သိကြ၏။ အဘယ်သို့ယခုမျက်စိမြင်သည်ကိုင်၎အဘယ်သူသည်
သူ၏မျက်စိကိုဖွင့်သည်ကိုင်၎ အကျွန်ုပ်တို့မသိ။ သူသည်အသက်အရွယ်

၅၉ တရားဇရပ်၌ကြွေဝါဒပေး စဉ်တွင်မိန့် တော်မူ၏။ ။တပည့်
တော်အများတို့သည်ထိုစကားတော်ကိုကြားလျှင်ခက်လှသောစကား
၆၀ ဖြစ်၏။ အဘယ် သူနား ခံနိုင်သ နည်း ဟု ဆို ကြ ၏။ ထိုသို့ တပည့်
တော် တို့ကဲ့ ရဲ့အပြစ် တင်သည့်ကို ယေ ရှုသည်အလို လိုသိ တော်မူလျှင်
၆၁ ဤတရားစကားကြောင့် သင်တို့သည် စိတ်ပျက် ကြသလော။ လူသား
သည် အရင် နေ ရာအရပ် သို့ တ ဖန် ကြွတက် သည်ကို မြင် ရ လျှင်အ
၆၂ ဘယ် သို့ ထင်ကြ မည် နည်း။ ဝိ ညည် သာ လျှင် အ သ က် ရှင် စေ၏။
ကိုယ်ကာယသည်ဘာမျှမတတ်နိုင်။ငါပြောသောစကားသည်ဝိညည်
၆၃ ဖြစ်၏။အသက်လည်း ဖြစ်၏။ သို့သော်လည်း သင်တို့ တွင်မရုံကြည်
၆၄ သောသူအချို့ရှိ၏။ ထိုကြောင့်ငါခမည်းတော်သည်အ ခွင့်ပေးတော်မ
မူလျှင် အဘယ် သူမျှငါ ထံသို့ မလာ နိုင် ဟုအ ထက်ကငါ ဆိုသည် ဟု
မိန့် တော်မူ၏။ထိုသို့မိန့် တော်မူ သည် အကြောင်း ဟူမူကား။ အဘယ်
သူ မရုံ ကြည် သည်ကိုဎင်အ ဘယ် သူ သည် ကိုယ် တော် ကိုအပ်နှံ မည်
၆၅ ကိုဎင်ယေရှုသည်အစအဦး၌သိတော်မူ၏။ ။ထိုအခါမှစ
၍တ ပည့် တော်အ များ တို့သည် ကိုယ် တော် နှင့် မ ပေါင်း ဖေါ်။ ဆုတ်
၆၆ သွားကြ၏။ ထိုကြောင့် ယေရှုသည် တကျိပ်နှစ်ပါး သော သူတို့အား
သင်တို့ သည်လည်း ထွက်သွားခြင်း ငှါအလိုရှိသ လောဟုမေး တော်မူ
၆၇ ၏။ ရှိမုန်ပေတ ရုကလည်းသခင်။ အကျွန်ုပ်တို့သည်အဘယ် သူဆီသို့
သွားရမည်နည်း။ထာဝရအသက်နှင့်ရှည်သောစကား သည်ကိုယ်တော်
၆၈ ၌တည်ရှိ၏။ ကိုယ်တော်သည်ခရစ်တော်တည်း ဟူသောဘုရားသခင်
၏သားတော်ဖြစ်တော်မူသည်ကိုအကျွန်ုပ်တို့ရုံကြည်သိမှတ်ကြ၏ဟု
၆၉ လျှောက် လေ၏။ ယေရှုကလည်း တကျိပ်နှစ်ပါး သော သင်တို့ကိုငါရွေး
ကောက် သည်မ ဟုတ် လော။ သို့ သော် လည်း သင် တို့တွင် ရန် သူတ
၇၀ ယောက်ပါသည် ဟုမိန့်တော်မူ၏။ ထိုသို့မိန့် တော်မူ သော် တကျိပ်နှစ်
ပါးအဝင်ဖြစ်၍ကိုယ်တော်ကိုအပ်နှံ မည်သူ။ ရှိမုန်၏သား ယုဒရှကာ
၇၁ ရုတ်ကိုဆိုလို သတည်း။ ထိုနောက်မှာယေရှုသည်ဂါလိလဲပြည်၌လှည့်
လည် တော်မူ၏။ ယုဒလူတို့ သည်ကိုယ် တော်ကိုသတ် ရ အောင် ရှာကြံ
သော့ကြောင့်ယုဒပြည် ၌ လှည့်လည်ခြင်း ငှါအလိုတော်မရှိ။

**

၂။၂ ယုဒလူ တို့၏သကောနေပွဲခံ ခါနီး တွင် ညီ တော်တို့က ယေရှုအားသင်
ပြုသော အမှုတို့ကို တပည့်များ တို့သည်မြင်ရ အောင်ဤအရပ်မှထွက်

၄ ၍ ယုဒပြည် သို့ ကြွ ပါ။ ကျော် စော ကိတ္တိ ကိုအ လို ရှိ သော သူ မည်သို့
သည်ကား မထင်ရှားသော အား ဖြင့်အဘယ်အမှုကိုမပြုတတ်။ ဤအမှု
တို့ကိုသင်သည် ပြုလျှင်လောကန္တ ကိုယ်ကိုကိုယ် ထင်ရှား စွာပြပါဟု
၅ မယုံကြည်သဖြင့်ဆိုကြ၏။ ယေရှုကလည်း ငါအချိန်မရောက်သေး။သင်
၇ တို့ဘို့ခပ်သိမ်း သောအချိန်သင့်လျက်ရှိ၏။ လောကီသားတို့သည်သင်
တို့ကိုမမုန်း နိုင်။ ငါကိုမုန်းကြ၏။ အဘယ် ကြောင့်နည်းဟူမူကား။သူ
၈ တို့၏အကျင့်ဆိုးညစ်ကြောင်းကိုငါသက်သေခံ၏။ ဤပွဲဆီသို့သင်တို့
၉ သွားကြလော့။ ငါမသွား သေး။ ငါအချိန်မ ပြည့်စုံသေး ဟုမိန့်တော် မူ
၁၀ ပြီးလျှင်ဂါလိလဲ ပြည်မှာ နေတော် မူ၏။ ။ညီ တော် တို့သွား
၁၁ ပြီး မှကိုယ် တော် သည် ထိုပွဲဆီ သို့မထင်မရှား ကြွတော်မူ၏။ ထို ပွဲ၌
ယုဒ လူတို့သည် ယေရှုကိုရှာ၍အဘယ်မှာ ရှိသနည်း ဟုမေးမြန်းကြ
၁၂ ၏။ လူအစုအဝေး တို့သည်ကိုယ် တော်ရှိအကြောင်း ပြု၍ အုတ် အုတ်
သဲသဲဖြစ်ကြ၏။ အချို့တို့ကသူ သည် သူ တော် ကောင်း ဖြစ်သည် ဟူ၍
ငှင်အချို့ တို့ကမဟုတ်ဖူး။ လူများကို လှည့်စား သည်ဟူ၍ငှင် ဆိုကြ၏။
၁၃ သို့ သော်လည်း ယုဒလူ တို့ကို ကြောက် သော ကြောင့် အ ဘယ် သူ မျှ
၁၄ အတည့်အလင်းမပြောဝံ့။ ။ထိုပွဲခံစည် တွင်ယေရှု သည်ဗိမ်
၁၅ မာန်တော် သို့တက်၍ ဆုမ္မဩဝါဒပေး တော် မူ၏။ ယုဒလူတို့ သည်အံ့
သြ၍ ဤ သူသည်စာ မသင်ဘဲလျက်အ ဘယ်သို့တတ်ဘိ သနည်းဟု
၁၆ ဆိုကြ၏။ ယေရှုကလည်းငါဟော သောဒေသနာ သည်ငါဒေသနာ သာ
၁၇ မဟုတ်။ ငါကိုစေလွှတ်တော်မူသော သူ၏ ဒေသနာဖြစ် ၏။ သူ၏အလို
တော်သို့လိုက်ချင်သော သူမည်သည်ကား ဤဒေသနာ သည်ဘုရားသ
ခင်၏ဒေသနာတော် ဖြစ်သလော ။ငါသည်အလိုလိုဟော ပြောသလော
၁၈ ဟုပိုင်းချား ဘိလိမ့်မည်။ ကိုယ်အလို အလျောက် ဟောပြောသော သူ
ကားမိမိဘုန်းအသရေ ကိုရှာတတ်၏။မိမိကိုစေလွှတ်တော်မူသော သူ
၏ဘုန်းအသရေကိုရှာသော သူကားရုံလောက် သော သူဖြစ် ၏။ထိုသူ
၁၉ ၌မုသာ မရှိ။ မောရှေသည် ပညတ်တရား ကိုသင် တို့အား ပေးသည်
မဟုတ် လော။ ထိုတရား ကိုသင် တို့တ ယောက် မျှမကျင့်။ငါကို သတ်
၂၀ အောင်အဘယ် ကြောင့်ရှာကြံကြသနည်း ဟုမိန့်တော်မူ၏။ လူအစုအ
ဝေးကလည်း သင်သည်နတ်ဆိုးစွဲသော သူဖြစ်၏။သင်ကိုသတ်အောင်
၂၁ အဘယ်သူရှာ ကြံသနည်းဟုဆိုကြ၏။ ယေရှုကလည်း ငါပြုသောအမှု
၂၂ တခုကိုသင် တို့အား လုံး အံ့ သြ ခြင်း ရှိကြ၏။ မောရှေသည်အရေ

ဖျားလှီးမင်္ဂလာတရားကိုသင်တို့အားပေး၏။ ထိုသို့ဆိုသော်မော
ရှေမှအစစွာခံရသည်ဟုမဆိုလို။ အဘများမှဆက်ခံရသတည်း။ ထို
ကြောင့်ဥပုသ်နေ့၌သင်တို့သည် အရေဖျားလှီးမင်္ဂလာကိုပေးကြ၏။
၂၃ မောရှေတရားမပျက်ရအောင်လူသည်ဥပုသ်နေ့၌အရေဖျားလှီးမင်္ဂ
လာကိုခံရလျှင် ငါသည်ဥပုသ်နေ့၌ လူတကိုယ်လုံးကိုကျန်းမာစေ
၂၄ သောကြောင့်သင်တို့သည်ငါ့ကိုစိတ်ဆိုးရာသလော။ မျက်နှာကိုသာ
ကြည့်၍မစီရင်ကြနှင့်။ တရားသဖြင့်စီရင်ကြဟုမိန့်တော်မူ၏။
၂၅ ။ထိုအခါယေရုရှလင်မြို့သူအချို့တို့လည်း ဤသူကိုသတ်ရအောင်ရှာ
၂၆ ကြသည်မဟုတ်လော။ ကြည့်ပါ။ သူသည်ထင်ရှားစွာဟောပြော၍
အဘယ်မျှမြစ်တားခြင်းမရှိပါတကား။ ဤသူသည်ခရစ်တော်ဖြစ်
၂၇ ကြောင်းကိုမင်းများတို့သည် အမှန်သိကြသလော။ သို့သော်လည်း
ဤသူသည် အဘယ်ဆီကဖြစ်သည်ကိုငါတို့သိကြ၏။ ခရစ်တော်ကြွ
လာတော်မူသောအခါ အဘယ်ဆီကဖြစ်တော်မူသည်ကိုအဘယ်
၂၈ သူမျှမသိရဟုဆိုကြ၏။ ထိုအခါယေရှုသည်ဗိမာန်တော်၌ဆုံးမ
သြဝါဒပေးတော်မူစဉ်ကျွေးကြော်လေသည်မှာ။ သင်တို့သည်ငါ့ကို
သိသလော။ ငါသည်အဘယ်ဆီကဖြစ်သည်ကိုသိသလော။ ငါသည်
ကိုယ်အလိုအလျောက်လာသည်မဟုတ်။ ငါ့ကိုစေလွှတ်တော်မူသောသူ
၂၉ သည်သစ္စာနှင့်ပြည့်စုံတော်မူ၏။ ထိုသူကိုသင်တို့မသိကြ။ ငါမူကား
သိ၏။ အဘယ်ကြောင့်နည်းဟူမူကား။ ထိုသူ၏အထံတော်မှငါလာ
၏။ သူသည်လည်းငါ့ကိုစေလွှတ်တော်မူ၏ဟုမိန့်တော်မူလျှင်
၃၀ ကိုယ်တော်ကိုဖမ်းဆီးမည်အခွင့်ကိုရှာကြ၏။ ကိုယ်တော်၏အချိန်မ
၃၁ စေ့မရောက်သေးသောကြောင့် အဘယ်သူမျှမဖမ်းဆီးကြ။ လူအစု
အဝေးထဲမှာပါသောသူအများတို့သည်ယုံကြည်သည်ဖြစ်၍ခရစ်တော်
ကြွလာတော်မူသောအခါ ဤသူပြသောနိမိတ်လက္ခဏာထက်သာ၍
များသောနိမိတ်လက္ခဏာတို့ကိုပြတော်မူမည်လောဟုဆိုကြ၏။
၃၂ ။ထိုသို့လူများအုတ်အုတ်သဲသဲဖြစ်ကြသည်ကိုဖာရိရှဲလူတို့သည်
ကြားလျှင်ယဇ်ပုရောဟိတ်အကြီးတို့နှင့်တိုင်ပင်ပြီးမှကိုယ်တော်
ဖမ်းကိုဆီးရအောင်မင်းလုလင်တို့ကိုစေလိုက်ကြ၏။ ယေရှုကလည်းငါ
၃၃ သည်သင်တို့ဆီမှာခဏရှိသေး၏။ ငါ့ကိုစေလွှတ်တော်မူသောသူထံ
၃၄ တို့ငါသွားရမည်။ သင်တို့သည်ငါ့ကိုရှာလိမ့်မည်။ ရှာသော်လည်းမ
တွေ့ရ။ ငါရှိရာအရပ်သို့သင်တို့မရောက်နိုင်ဟုမိန့်တော်မူလျှင်ယုဒ

၃၅ လူတို့က ငါတို့သည် မတွေ့ရအောင် သူသည် အဘယ် အရပ်သို့ သွား
မည်နည်း။ဟေလသ လူတို့တွင် အရပ်ရပ်ကွဲပြား လျက်နေသောသူတို့
ဆီသို့သွား၍ဟေလသလူတို့အား တရား ဟောမည်လော။သင်တို့သည်
၃၆ ငါကို ရှာလိမ့်မည်။ ရှာသော်လည်း မတွေ့ရ။ငါရှိရာ အရပ်သို့သင်တို့
မရောက်နိုင်ဟူသောစကားသည်အဘယ်သို့ဆိုလိုသနည်းဟုအချင်း
ချင်းဆိုကြ၏။

✻✻

၃၇ ထိုပွဲကိုခံ၍နောက်ဆုံး ဖြစ်သောနေ့ မြတ်၌ယေရှုသည် ရပ်တော်မူ၍
ကြွေး ကြော် လေ သည်မှာ။ ရေငတ် သော သူ ရှိလျှင် ငါထံသို့ လာ ၍
၃၈ သောက်ပါလေစေ။ ငါကိုယုံကြည် သော သူ သည် ကျမ်းစာလာ သည်အ
တိုင်းအသက်ရေထွက်ရာစမ်းရေတွင်းဖြစ်လိမ့်မည်ဟုမိန့်တော်မူ၏။
၃၉ ထိုသို့မိန့်တော်မူ သော် ယုံကြည် သော သူတို့သည် ခံလတ္တံ့သောဝိညာဉ်
တော်ကိုရည်၍ မိန့်တော်မူ၏။ ယေရှုသည်ဘုန်း ဖွင့်တော်မမူသေး
၄၀ ကြောင့်သန့်ရှင်းသောဝိညာဉ်တော်ကိုပေးတော်မမူသေး။ လူအများတို့
သည်စကားတော်ကိုကြားလျှင် ဤသူကားလာလတ္တံ့သောပရောဖက်
၄၁ အမှန်ဖြစ်သည်ဟုဆိုကြ၏။ အချို့တို့လည်းဤသူကားခရစ်တော်ဖြစ်
သည်ဟု ဆို ကြ၏။ အချို့တို့လည်း ခရစ်တော် သည် ဂါလိလဲပြည် သား
၄၂ ဖြစ်ရသလော။ ခရစ်တော်သည် ဒါဝိဒ်အမျိုး၌ ဖြစ်ရသည်။ဒါဝိဒ်မွေး
ရာရွာ၌။ဗက်လင်ရွာ ၌ ဖြစ်ရသည်ဟုကျမ်း စာလာသည် မဟုတ် လော
၄၃ ဟုဆိုကြ၏။ ထိုသို့လူများတို့သည်ကွဲပြား သည်ဖြစ်၍ အချို့တို့သည်
၄၄ ကိုယ်တော်ကိုဖမ်းဆီးခြင်းငှါအလိုရှိကြ၏။ သို့သော်လည်းအဘယ်သူ
၄၅ မျှမဖမ်းဆီးကြ။ ။ထိုအခါမင်း လုလင်တို့သည်ယဇ်ပုရော
ဟိတ်အကြီး။ဖာရိရှဲလူတို့ဆီသို့ပြန်၍ထိုမင်းများကအဘယ်ကြောင့်
၄၆ သူကိုမဆောင်ခဲ့ကြသနည်းဟုမေးမြန်းလျှင် မင်းလုလင်တို့ကထိုသူ
သည်ဟောပြောသကဲ့သို့အဘယ်သူမျှမဟောစဖူးဟုလျှောက်ကြ၏။
၄၇ ဖာရိရှဲလူတို့လည်း သင်တို့ကိုပင် လှည့်စား ပြီး လော။ မင်းများ။ဖာ
၄၈ ရိရှဲလူများတို့တွင်သူကိုယုံကြည်သော သူတစုံတယောက်မျှရှိသလော။
၄၉ တရားကိုမသိသောထိုလူများ တို့သည်ကျိန်ဆဲခြင်းကိုခံသောသူဖြစ်
၅၀ သည် ဟုဆိုကြ၏။ အထက်ကညဉ့်အခါ၌ အထံတော်သို့လာသော
၅၁ သူတည်းဟူသောထိုမင်းများအဝင်ဖြစ်သောနိကောဒင်ကလည်း ငါ
တို့တရားသည် လူကို မစစ်။ သူအမှုကိုမသိဘဲ ရှေ့မဆွကဆုံး ဖြတ်

၅၂ တတ်သလောဟုဆိုလျှင် သူတို့ကသင်သည်လည်းဂါလိလဲပြည်သား
ဖြစ်သလော။စစ်ဦးတော့။ ဂါလိလဲပြည် ၌ အဘယ်ပရောဖက်မပေါ်မ
၅၃ ထွန်းသည်ကိုမှတ်တော့ဟုဆိုကြပြီးမှ အားလုံးတို့သည် မိမိတို့အိမ်
၁ သို့သွားကြ၏။ ယေရှုသည်လည်းသံလွင်တောင်သို့ကြွတော်မူ၏။
၂ ။နံနက်စောစောယေရှုသည်ဗိတ်မှာန်တော်သို့တဖန်ကြွတော်
မူ၍လူအပေါင်းတို့သည်အထံတော်သို့လာကြ၏။ ထိုအခါထိုင်တော်မူ
၃ ၍ဆုံးမဩဝါဒပေးစဉ် မှားရှင်းခြင်းအမှုကိုပြုလျက်တွေ့မိသော
မိမ္ဘတယောက်ကိုကျမ်းပြုဆရာတို့နှင့်ဖာရိရှဲလူတို့ သည် ခေါ်ခဲ့၍အ
၄ လယ်၌ထားပြီးမှ အရှင်ဘုရား။ဤမိမ္ဘသည်မှားရှင်းခြင်းအမှုကိုပြု၍
၅ ပြုတုန်းတွေ့မိပါသည်။ ထိုသို့သောမိမ္ဘကိုကျောက်ခဲနှင့်ပြစ်ရ၏ဟု
မောရှေသည်အကျွန်ုပ်တို့အားပညတ်တရား၌စီရင်ထုံးဖွဲ့၏။ သို့ရာ
တွင်ကိုယ်တော်သည်အဘယ်သို့မိန့်တော်မူမည်နည်းဟုလျှောက်ကြ
၆ ၏။ ထိုသို့လျှောက်သော်ကိုယ်တော်ကိုတရားတွေ့စရာအခွင့်ရှိရ
အောင်စုံစမ်းနှောင့်ရှက်သောအားဖြင့်လျှောက်ကြ၏။ ယေရှုသည်
အောက်သို့ငုံ့သဖြင့်လက်ညှိုးတော်နှင့်မြေ၌ရေးသား၍ နေတော်မူ
၇ ၏။ ထိုသူတို့သည်အထပ်ထပ်မေးလျှောက်သောအခါကိုယ်ကိုလှန်
တော်မူ၍သင်တို့တွင်အပြစ်ကင်းသောသူသည်ရှေ့ဦးစွာကျောက်ခဲ
၈ နှင့်ပြစ်စေဟုမိန့်တော်မူပြီးမှ တဖန်အောက်သို့ငုံ့၍ မြေ၌ရေးသား
၉ တော်မူပြန်၏။ ထိုသူတို့သည်ကြားလျှင်မိမိစိတ်နှစ်လုံးသည်မိမိအ
ပြစ်ကိုဖော်ပြသဖြင့်အသက်ကြီးသောသူမှစ၍အငယ်ဆုံးသောသူ
တိုင်အောင်တယောက်နောက်တယောက်ထွက်သွားကြ၏။ ယေရှုတ
၁၀ ယောက်တည်းကျန်ရစ်တော်မူ၍မိမ္ဘသည်အလယ်၌ရပ်နေ၏။ ထိုအ
ခါယေရှုသည်ကိုယ်ကိုလှန်တော်မူပြန်၍ထိုမိမ္ဘမှတပါးအဘယ်သူကို
မျှမမြင်လျှင်အချင်းမိမ္ဘ။သင်ကိုအပြစ်တင်သောသူတို့သည်အဘယ်
မှာရှိသနည်း။သင်အမှုကိုအဘယ်သူမျှမစီရင်သနည်းဟုမေးတော်မူ
၁၁ ၏။ ထိုမိမ္ဘကလည်းအဘယ်သူမျှစီရင်ခြင်းကိုမပြုပါသခင်ဟု
လျှောက်၏။ ငါသည်လည်းသင်အမှု၌စီရင်ခြင်းကိုမပြု။သွားတော့။
နောက်တဖန်ဒုစရိုက်ကိုမပြုနှင့်ဟုမိန့်တော်မူ၏။

❋❋

၁၂ တဖန်တုံ။ ယေရှုကငါသည် ဤလောက၏ အလင်းဖြစ်၏။ငါနောက်သို့
လိုက်သောသူသည်မှောင်မိုက်၌မသွားလောဘဲအသက်၏အလင်းကို

၁၃ ရလိမ့်မည်ဟုမိန့်တော်မူ၏။ ဖာရိရှဲလူတို့လည်း သင်သည်ကိုယ်အ
ကြောင်းကိုကိုယ်သက်သေခံ၏။ သင်၏သက်သေမတည်ဟုဆိုကြ၏။
၁၄ ယေရှုကလည်း ငါသည်ကိုယ်အကြောင်းကို ကိုယ်သက်သေခံသော်
လည်းငါသက်သေတည်၏။ အဘယ်ကြောင့်နည်းဟူမူကား။ငါသည်
အဘယ်ဆီကလာသည်ကိုရင် အဘယ်ဆီသို့သွားသည်ကိုရင်ငါသိ၏။
အဘယ်ဆီကငါလာသည်ကိုရင် အဘယ်ဆီသို့ငါသွားသည်ကိုရင်
၁၅ သင်တို့မသိ။ သင်တို့သည် လောကီပညာအားဖြင့်စီရင်တတ်၏။ငါ
၁၆ သည်အဘယ်စီရင်ခြင်းကိုမပြု။ ငါသည်စီရင်သော်လည်းငါ့အစီရင်
သည်တည်၏။ အဘယ်ကြောင့်နည်းဟူမူကား။ ငါသည်တယောက်
တည်းနေသည်မဟုတ်။ငါ့ကိုစေလွှတ်တော်မူသောခမည်းတော်သည်
၁၇ ငါ့ဘက်၌နေတော်မူ၏။ လူနှစ်ယောက်သက်သေခံလျှင် ထိုသက်
၁၈ သေတည်၏ဟုသင်တို့ပညတ်ကျမ်းစာ၌လာ၏။ ငါသည်ငါ့အ
ကြောင်းကိုသက်သေခံသောသူဖြစ်၏။ ငါ့ကိုစေလွှတ်တော်မူသောခ
မည်းတော်သည်လည်း ငါ့အကြောင်းကိုသက်သေခံတော်မူသည်ဟု
၁၉ မိန့်တော်မူ၏။ ထိုသူတို့လည်း သင်၏ခမည်းတော်သည်အဘယ်မှာ
ရှိသနည်းဟုမေးကြ၏။ယေရှုကလည်းသင်တို့သည် ငါ့ကိုမသိ။ငါ့ခမည်း
တော်ကိုလည်းမသိ။ ငါ့ကိုသိလျှင် ငါ့ခမည်းတော်ကိုမသိဘဲမနေနိုင်
၂၀ ဟုမိန့်တော်မူ၏။ ဗိမာန်တော်၌ ဆုမ္ပူဒါနပေးတော်မူစည်းစိမ်
ကားတော်ကိုဘဏ္ဍာတိုက်မှာမိန့်မြွက်တော်မူ၏။ ကိုယ်တော်၏အ
ချိန်မစေ့မရောက်သေးသောကြောင့် အဘယ်သူမျှကိုယ်တော်ကိုမ
၂၁ ဖမ်းဆီးကြ။ ။တဖန်ယေရှုကငါသည်သွားရ၏။သင်တို့သည်
ငါ့ကိုရှာလိမ့်မည်။ကိုယ်အပြစ်၌လည်းသေလိမ့်မည်။ငါသွားရာအရပ်
၂၂ သို့သင်တို့မရောက်နိုင်ကြဟုမိန့်တော်မူ၏။ ယုဒလူတို့လည်း ငါသွား
ရာအရပ်သို့သင်တို့မရောက်နိုင်ဟုသူသည်ဆိုသော်ကိုယ်အသက်
၂၃ ကိုကိုယ်သတ်မည်လောဟုဆိုကြ၏။ ယေရှုကလည်း သင်တို့သည်
အောက်သားဖြစ်ကြ၏။ငါသည်အထက်သားဖြစ်၏။သင်တို့သည်လော
၂၄ ကီသားဖြစ်ကြ၏။ငါသည်လောကီသားမဟုတ်။ ထိုကြောင့်သင်တို့
သည်ကိုယ်အပြစ်၌သေလိမ့်မည်ဟု ငါဆို၏။ ငါသည်အဘယ်သူဖြစ်
မှန်းကိုသင်တို့မရုံလျှင် ကိုယ်အပြစ်၌သေကြလိမ့်မည် ဟုမိန့်တော်မူ
၂၅ ၏။ ထိုသူတို့လည်း သင်သည်အဘယ်သူနည်းဟုမေးလျှင် ယေရှုက
၂၆ ငါသည်ရှေးဦးစွာမှစ၍ဆိုသည်အတိုင်းငါဖြစ်၏။ သင်တို့အမှု၌ငါပြော

စရာအများ။စီရင်စရာအများရှိ၏။သို့သော်လည်းငါ့ကိုစေလွှတ်တော်
မူသောသူသည်သစ္စာနှင့်ပြည့်စုံတော်မူ၏။သူ၏အထံတော်၌ငါကြား
၂၇ သမျှကိုသာလောက၌ငါဟောပြောသည်ဟုမိန့်တော်မူ၏။ ခမည်း
တော်ကိုရည်မှတ်၍မိန့်တော်မူသည်ကိုထိုသူတို့သည်မရိပ်မိဘဲနေကြ
၂၈ ၏။ ထိုကြောင့်ယေရှုကသင်တို့သည်လူသားကိုမြှောက်ထားသောအ
ခါငါသည်အဘယ်သူဖြစ်သည်ကိုငါသည်ကိုယ်အလိုအလျောက်
အဘယ်အမှုကိုမပြုဘဲငါခမည်းတော်သည်ငါ့အားနည်းပေးတော်မူ
၂၉ သည်အတိုင်းငါဟောပြောသည်ကိုငင်သင်တို့သိလိမ့်မည်။ ငါ့ကိုစေ
လွှတ်တော်မူသောသူသည်ငါနှင့်အတူရှိတော်မူ၏၊ခမည်းတော်သည်
ငါ့ကိုတကိုယ်တည်းနေရစ်စေတော်မမူ။ အဘယ်ကြောင့်နည်းဟူမူ
ကား။နှစ်သက်တော်မူသောအမှုကိုအစဉ်မပြတ်ငါပြုသည်ဟုမိန့်
၃၀ တော်မူ၏။ ထိုစကားတော်ကိုမိန့်တော်မူစဉ်လူအများတို့သည်ရို
၃၁ ကြည်ခြင်းသို့ရောက်ကြ၏။ ။ထိုအခါယေရှုကငါ၏ဒေသနာ
၃၂ ၌တည်လျှင်သင်တို့သည်ငါ၏တပည့်အမှန်ဖြစ်ကြ၏။ သမ္မာတရား
ကိုလည်းသိကြသည်ဖြစ်၍ထိုတရားသည်သင်တို့ကိုလွှတ်လိမ့်မည်
၃၃ ဟုရိုကြည်သောယုဒလူတို့အားမိန့်တော်မူ၏။ ယုဒလူတို့လည်းငါ
တို့သည်အာဗြဟံအမျိုးဖြစ်၏။ အဘယ်သူထံ၌တရံတခါမျှကျွန်မခံ
ကြ။လွှတ်လိမ့်မည်ဟူ၍သင်သည်အဘယ်သို့ဆိုသနည်းဟုဆိုကြ၏။
၃၄ ယေရှုကလည်းငါအမှန်အကန်ဆိုသည်ကား။ ဒုစရိုက်ကိုပြုသမျှ
၃၅ သောသူတို့သည်ဒုစရိုက်ကျွန်ဖြစ်ကြ၏။ ကျွန်သည်ကားအိမ်၌အ
၃၆ စဉ်အမြဲနေသည်မဟုတ်။ သားသည်ကားအစဉ်အမြဲနေ၏။ ထို
ကြောင့်သားကသင်တို့ကိုလွှတ်လျှင်သင်တို့သည်ကေန်အမှန်လွတ်ကြ
၃၇ လိမ့်မည်။ သင်တို့သည်အာဗြဟံအမျိုးဖြစ်သည်ကိုငါသိ၏။သို့သော်
လည်းငါ၏ဒေသနာသည်သင်တို့၌တည်နေရာကိုမရသောကြောင့်
၃၈ သင်တို့သည်ငါ့ကိုသတ်ရအောင်ရှာကြံကြ၏။ ငါခမည်းတော်ထံ၌ငါ
မြင်ခဲ့ပြီးသည်အတိုင်းငါဟောပြော၏။သင်တို့သည်သင်တို့အဖထံ၌
၃၉ မြင်ခဲ့ပြီးသည်အတိုင်းပြုကြ၏ဟုမိန့်တော်မူ၏။ ထိုသူတို့လည်းအာ
ဗြဟံသည်ငါတို့အဖဖြစ်၏ဟုဆိုကြ၏။ ယေရှုကလည်းသင်တို့သည်
အာဗြဟံ၏သားမှန်လျှင်အာဗြဟံ၏အကျင့်ကိုကျင့်ကြလိမ့်မည်။
၄၀ ဘုရားသခင်အထံတော်၌ကြားရသောသမ္မာတရားကိုသင်တို့အား
ဟောပြောသောသူတည်းဟူသောငါ့ကိုသတ်ရအောင်သင်တို့သည်

၄၁ ယာချ်ရှာကြီကြ၏။ အာဗြဟံသည်ထိုနည်းတူကျင့်သည်မဟုတ်။ သင်
တို့သည်သင်တို့အဖ၏ အကျင့် ကိုကျင့်ကြ၏ဟုမိန့် တော်မူ၏။ ထိုသူ
တို့လည်းငါတို့သည် မြောက်မထား မျိုးမဟုတ်။ဘုရားသခင်တည်းဟူ
၄၂ သောငါတို့ အဖတပါး တည်း ရှိတော် မူသည် ဟုဆို ကြ၏။ ယေရှုက
လည်းဘုရား သခင်သည်သင်တို့အဖမှန်လျှင်သင်တို့သည်ငါကိုချစ်ကြ
လိမ့်မည်။အဘယ်ကြောင့်နည်းဟူမူကား။ငါသည်ဘုရားသခင်အထံ
တော်မှထွက်ကြွရောက်လာ၏။ကိုယ် အလို အလျောက်ငါလာသည်မ
၄၃ ဟုတ်။ဘုရားသခင်သည်ငါကိုစေလွှတ်တော်မူ၏။ အဘယ်ကြောင့်ငါ
စကားကိုနားမလည်ကြသနည်း။ငါ၏ဒေသနာ ကိုနားမခံမယူနိုင်သော့
၄၄ ကြောင့်သာငါစကား ကိုသင်တို့သည်နား မလည် ဘဲနေကြ၏။ မာရ်
နတ်တည်း ဟူသောသင် တို့အဖမှ သင်တို့သည် ဆင်းသက်ကြ၏။သင်
တို့အဖ၏အလိုသို့လည်း သင်တို့လိုက် တတ်၏။ မာရ်နတ်သည်ရှေးဦး
စွာ မှစ ၍ လူ အသက် ကိုသတ် သော သူ ဖြစ်၏။ သူ ၌သမ္မာမ,ရှိသော့
ကြောင့်သမ္မာတရား၌မတည်မနေ။သူသည်မုသာစကားကိုပြောသော
အခါမိမိ ပကတိအတိုင်း ပြော၏။ မုသာ စကား ၌ကျင်လည် သော သူ
၄၅ ဖြစ်၏။ မုသာ၏ အဖ လည်း ဖြစ်၏။ ငါသည် သမ္မာ စကား ကို ပြော
၄၆ သော့ကြောင့်သင်တို့မရုံကြ။ ငါ၌အပြစ်ရှိကြောင်းကိုသင်တို့တွင်အ
ဘယ် သူဖော်ပြသနည်း။ သမ္မာ စကား ကိုငါပြောသည် မှန်လျှင် အ
၄၇ ဘယ်ကြောင့်သင်တို့မရုံကြသနည်း။ ဘုရားသခင်နှင့်စပ်ဆိုင်သော
သူသည်ဘုရား သခင် စကား တော် ကို နား ထောင် တတ်၏။သင်တို့
သည်ဘုရားသခင်နှင့်မစပ်ဆိုင်သော့ကြောင့်နားမထောင် ကြဟုမိန့်
တော်မူ၏။

❋❋

၄၈ ယုဒလူတို့လည်းသင်သည်ရှမာရိလူဖြစ်၏။ နတ်ဆိုး စွဲသော သူလည်း
ဖြစ်၏ဟုငါတို့ပြောသောစကား သည်လျောက် ပတ်သည်မဟုတ်လော
၄၉ ဟုဆိုကြ၏။ ယေရှုကလည်း ငါသည်နတ် ဆိုးစွဲသော သူမဟုတ်။ငါ၏
၅၀ ခမည်းတော်ကိုငါချီးမြှောက်၏။သင်တို့သည် ငါကို ရှုတ် ချကြ၏။ ငါ
သည်ကိုယ်ဘုန်းအသရေကိုမရှာ။ငါဘုန်းအသရေကိုရှာ၍စီရင်တော်
၅၁ မူသောသူရှိသေး၏။ ငါအမှန် အကန် ဆိုသည် ကား။ ငါစကားကိုနား
ထောင်သော သူသည်သေခြင်းနှင့်အစည် မပြတ်ကင်းလွတ် လိမ့် မည်
၅၂ ဟုမိန့်တော်မူ၏။ ယုဒလူတို့လည်း သင်သည် နတ်ဆိုး စွဲမှန်းကိုယခု

ငါတို့သိကြ၏။ အာဗြဟံမှစ၍ပရောဖက်တို့သည်သေလွန်ကြပြီး။သင်
မူကား ငါ၏စကားကိုနားထောင်သောသူသည် သေခြင်းနှင့်အစည်းမ
၅၃ ပြတ်ကင်းလွတ်လိမ့်မည်ဟုဆိုသည်တကား။ ငါတို့အဘအာဗြဟံထက်
သင်သည်သာ၍ကြီးမြတ်သလော။ သူသည်သေပြီး။ ပရောဖက်တို့
လည်းသေကြပြီ။ သင်သည်အဘယ်သို့သောသူ၏အရာကိုဆောင်
၅၄ သနည်းဟုဆိုကြ၏။ ယေရှုကလည်း ငါသည်ကိုယ်ဂုဏ်ကိုပြလျှင်ငါ
ဂုဏ်အချည်းနှီးဖြစ်၏။ ငါ၏ခမည်းတော်သည် ငါ့ဂုဏ်ကိုထင်ရှား
စေတော်မူ၏။ ထိုဘုရားသခင်သည် ငါတို့ဘုရားဟူ၍သင်တို့ခေါ်ဝေါ်
၅၅ တတ်၏။ သို့သော်လည်း ထိုဘုရားသခင်ကိုသင်တို့မသိ။ ငါလျှင်သိ
၏။ ငါမသိဟုငါဆိုလျှင်ငါသည်သင်တို့ကဲ့သို့မုသာစကားကိုသုံးသော
သူဖြစ်လိမ့်မည်။ ထိုဘုရားသခင်ကိုငါသိ၏။ ဘုရားသခင်၏စကား
၅၆ တော်ကိုလည်းငါနားထောင်၏။ သင်တို့အဘအာဗြဟံသည်ငါကြွလာ
မည်ကာလအချိန်ကိုမျှော်မြင်ခြင်းငှါအလွန်တရာအလိုရှိ၏။ မြင်ရ
၅၇ သောအခါဝမ်းမြောက်ခြင်းသို့ရောက်သည်ဟုမိန့်တော်မူ၏။ ယုဒလူ
တို့လည်းသင်၏အသက်သည် အနှစ်ငါးဆယ်မပြည့်ရုံသေးသည်ဖြစ်
၅၈ ၍သင်သည်အာဗြဟံကိုမြင်လေပြီးတကားဟုဆိုကြ၏။ ယေရှုက
လည်း ငါအမှန်အကန်ဆိုသည်ကား။ အာဗြဟံမရှိမှီငါဖြစ်၏ဟုမိန့်
၅၉ တော်မူ၏။ ထိုအခါကိုယ်တော်ကိုခဲနှင့်ပြစ်ရအောင်ကျောက်ခဲတို့ကို
ကောက်ယူကြသဖြင့်ယေရှုသည် မထင်မရှားဖြစ်၍ဗိမာန်တော်မှ
၁ ထွက်သွားတော်မူ၏။ ။လမ်း၌သွားတော်မူစဉ်အမိဝမ်းထဲမှ
၂ စ၍မျက်စိကန်းသောသူတယောက်ကိုတွေ့မြင်တော်မူ၏။ တပည့်
တော်တို့ကအရှင်ဘုရား။ အဘယ်သူ၏အပြစ်ကြောင့်ဤသူသည်မျက်
စိကန်းသနည်း။ ကိုယ်အပြစ်ကြောင့်ကန်းသလော။ မိဘ၏အပြစ်
၃ ကြောင့်ကန်းသလောဟုမေးလျှောက်ကြ၏။ ယေရှုကလည်းကိုယ်အ
ပြစ်ကြောင့်မဟုတ်။ မိဘ၏အပြစ်ကြောင့်မဟုတ်။ ဘုရားသခင်၏အ
၄ မှုတော်ကိုသူ၌ထင်ရှားစေမည်အကြောင်းတည်း။ ငါကိုစေလွှတ်တော်
မူသောသူ၏အမှုကိုနေ့အချိန်ရှိသမျှကာလပတ်လုံးငါပြုရ၏။ အဘယ်သူမျှအမှုမ
၅ ပြုနိုင်သောအချိန်တည်းဟူသောညဉ့်အချိန်လာသေး၏။ ဤလောက
၌ငါရှိစဉ်တွင်ငါသည်လောက၏အလင်းဖြစ်၏ဟုမိန့်တော်မူလျှင်
၆ မြေပေါ်မှာတွေး၍ထံတွေးနှင့်ရွှံ့လုပ်ပြီးမှကန်းသောသူ၏မျက်စိကိုရွှံ့
၇ နှင့်လူး၍ သင်သွားတော့။ ရှိလောင်ရေကန်၌မျက်စိကိုဆေးတော့ဟု

မိန့်တော်မူ၏။ ရှိလောင်အနက်ကားစေလွှတ်သည်ဟုဆိုလိုသတည်း။
၈ ထိုသူသည်သွား၍ ဆေးပြီးမှမျက်စိမြင်လျက်ပြန်လေ၏။ ။သူ
သည်သူတောင်းစားဖြစ်သည်ကိုအိမ်နီးချင်းတို့မှစ၍ မြင်ဘူးသော
သူတို့က ဤသူသည်ထိုင်၍တောင်းသောသူဖြစ်သည်မဟုတ်လောဟု
၉ ဆိုကြ၏။ လူအချို့တို့ကဟုတ်ပါ၏ဟုဆိုကြ၏။အချို့တို့လည်းထိုသူ
နှင့်တူသည်ဟုဆိုကြ၏။ထိုသူကလည်းငါသည်ထိုသူပင်ဖြစ်၏ဟုဆို
၁၀ ၏။ ထိုသူများလည်းအဘယ်သို့သင်၏မျက်စိပွင့်သနည်းဟုမေးကြ
၁၁ လျှင် ထိုသူကယေရှုအမည်ရှိသောသူတယောက်သည်ရွှံ့လုပ်၍ ငါ
မျက်စိကိုလူးပြီးမှ ရှိလောင်ရေကန်ဆီသို့သွားတော့။ မျက်စိကိုဆေး
တော့ဟုဆိုသည်အတိုင်း ငါသွား၍ ဆေးပြီးမှမျက်စိမြင်သည်ဟုဆို
၁၂ ၏။ လူများလည်းထိုသူသည်အဘယ်မှာရှိသနည်းဟုမေးကြလျှင်ငါ
မသိဟုဆို၏။

❋❋

၁၃ လူများသည်လည်းမျက်စိကန်းဘူးသောသူကိုဖာရိရှဲလူတို့ဆီသို့ပို့
၁၄ ကြ၏။ ယေရှုသည်ရွှံ့လုပ်၍သူ၏မျက်စိကိုဖွင့်တော်မူသောနေ့သည်
၁၅ ဥပုသ်နေ့ဖြစ်သတည်း။ တဖန်ဖာရိရှဲလူတို့က အဘယ်သို့သင်၏
မျက်စိမြင်သနည်းဟုမေးပြန်လျှင်ကျွန်ုပ်မျက်စိ၌သူသည်ရွှံ့ကိုထည့်
၁၆ ၍ကျွန်ုပ်ဆေးပြီးမှမျက်စိမြင်သည်ဟုဆို၏။ ဖာရိရှဲလူအချို့တို့ကထို
သူသည်ဥပုသ်မစောင့်။ဘုရားသခင်စေလွှတ်တော်မူသောသူမဟုတ်
ဟုဆိုကြ၏။ အချို့တို့ကဆိုးသောသူသည် ဤသို့သော နိမိတ်လက္ခဏာ
တို့ကိုအဘယ်သို့ပြုနိုင်သနည်းဟုဆိုကြ၏။ထိုသို့အချင်းချင်းမသင့်
၁၇ ကွဲပြားခြင်းသို့ရောက်ကြ၏။ တဖန်ထိုသူတို့ကသင်၏မျက်စိကိုဖွင့်
သောသူကိုသင်သည်အဘယ်သို့ပြောသနည်းဟုမေးကြလျှင်ပရော
၁၈ ဖက်ဖြစ်သည်ဟုဆို၏။ ။ထိုသူသည်အထက်ကမျက်စိမမြင်။
နောက်မှာမျက်စိမြင်သည်ကိုယုဒလူတို့သည်မယုံကြသဖြင့်သူ၏မိဘ
၁၉ ကိုခေါ်၍ ဤသူသည်သင်တို့၏သားမှန်သလော။အမိဝမ်းထဲမှစ၍မျက်
စိကန်းသည်ဟုသင်တို့ဆိုသလော။ သို့ဆိုလျှင်အဘယ်သို့ယခုမျက်စိ
၂၀ မြင်သနည်းဟုမေးကြ၏။ မိဘတို့လည်း ဤသူသည် အကျွန်ုပ်တို့၏
သားဖြစ်သည်ကိုငင်အမိဝမ်းထဲမှစ၍ မျက်စိကန်းသည်ကိုငင်အကျွန်ုပ်
၂၁ တို့သိကြ၏။ အဘယ်သို့ယခုမျက်စိမြင်သည်ကိုငင်အဘယ်သူသည်
သူ၏မျက်စိကိုဖွင့်သည်ကိုငင် အကျွန်ုပ်တို့မသိ။ သူသည်အသက်အရွယ်

နှင့်မြည့်ရုံပြီး။သူကိုမေးကြပါလော့။သူသည်ကိုယ်အကြောင်းကိုကိုယ်
၂၂ ပြောလိမ့်မည်ဟုပြန်၍ဆိုကြ၏။ အဘယ်ကြောင့်ဤသို့ဆိုသနည်းဟူ
မူကား။ ယေရှုသည်ခရစ်တော်ဖြစ်သည်ဟုဝန် ခံသောသူမည်သည်
ကိုတရားဇရပ်မှနှင်ထုတ်မည် အကြောင်း။ယုဒလူတို့သည် တိုင်ပင်၍
၂၃ ရင်နှင့်ကြပြီး။ ထိုကြောင့်မိဘတို့ကသူသည်အသက်အ ရွယ်နှင့်ပြည့်
ရုံပြီး။သူကိုမေးကြပါလော့ဟုယုဒလူတို့ကိုကြောက်၍ဆိုကြ၏။ ။
၂၄ ထိုကြောင့် မျက်စိကန်းဘူးသောသူကိုဒုတိယအကြိမ်ခေါ်၍ဘုရားသ
ခင်ကိုချီးမွမ်းတော့။ ထိုသူသည်လူဆိုး ဖြစ် ကြောင်း ကိုငါတို့သိပြီးဟု
၂၅ ဆိုကြလျှင် လူဆိုးဖြစ်သည်။ မဖြစ်သည်ကို ကျွန်ုပ်မသိ။ကျွန်ုပ်သည်
အထက်က မျက် စိကန်း ၍ ယခု မျက် စိမြင် သည် အ ကြောင်း တခု ကို
၂၆ ကျွန်ုပ် သိပါ၏ ဟုဆို၏။ တဖန် ထို သူတို့ကသူသည် သင် ၌ အဘယ်
သို့ပြုသနည်း။ သင်မျက်စိကိုအဘယ်သို့ ဖွင့် သနည်းဟုမေး ကြလျှင်
၂၇ ကျွန်ုပ်တခါပြောပြီး။သင်တို့နားမကြား။ အဘယ်ကြောင့်တဖန်ကြား
၂၈ ချင်သနည်း။ သူ၏တပည့်ဖြစ် ချင်သလောဟုဆို၏။ ထိုသူတို့လည်း
သင်သည်သူ၏တပည့်ဖြစ်၏။ငါတို့မူကားမောရှေတပည့်ဖြစ်ကြ၏။
၂၉ ဘုရားသခင်သည်မောရှေ ၌ ဗျာဒိတ်ထား တော်မူမှန်း ကိုငါတို့သိ၏။
ထိုသူသည်အဘယ်ဆီကဖြစ်သည် ကိုငါတို့မသိဟုကဲ့ရဲ့၍ဆိုကြလျှင်
၃၀ သူသည်ကျွန်ုပ်မျက်စိကို ဖွင့်သော်လည်း အဘယ် ဆီကဖြစ်သည်ကို
၃၁ သင် တို့မသိကြသည်ကို အံ့ဩဘွယ်ရှိ၏။ ဘုရား သခင်သည်လူ
ဆိုးဘက်၌နေတော်ခမူသည်ကိုကျွန်ုပ်တို့သိ၏။ဘုရားသခင်ကိုရိုသေ
လေးမြတ် ၍ အလိုတော်သို့လိုက် သောသူ ဖြစ် လျှင် ထိုသူဘက် ၌ နေ
၃၂ တော်မူ၏။ အမိဝမ်းထဲမှစ ၍ မျက်စိကန်းသော သူကို အဘယ်မည်
သော သူသည်မျက်စိမြင် စေခြင်း ငှါတတ်နိုင်သည်ကို ကမ္ဘာဦးမှစ၍
၃၃ မကြားစဖူး။ ထိုသူ သည် ဘုရားသခင်စေလွှတ် တော်မူ သော သူမ
၃၄ ဟုတ်လျှင်အဘယ်အမှုကိုမျှမတတ်နိုင်ဟုဆို၏။ ထိုသူတို့လည်းသင်
သည်တကိုယ်လုံးဒုစရိုက်အပြစ်တို့နှင့်မွေးသောသူဖြစ်လျက်ငါတို့ကို
ဆုံးမသည်တကား ဟုဆိုကြလျှင် ထိုသူကိုတရား ဇရပ်မှနှင်ထုတ်ကြ
၃၅ ၏။ ။နှင်ထုတ်သည် အကြောင်းကိုယေရှုသည်ကြား၍သူကို
တွေ့တော်မူလျှင်သင် သည်ဘုရား သခင်၏သား တော်ကိုယုံကြည် သ
၃၆ လောဟုမေးတော်မူ၏။ သခင်။ကျွန်တော်ယုံကြည်ရအောင်ဘုရားသ
၃၇ ခင်သား တော်အဘယ်သူနည်းဟုလျှောက်လေသော် ယေရှုကသင်

သည်သူကိုမြင်ခဲ့ပြီး သည်သာမကသင်နှင့် ယခုစကားပြောသောသူ
၃၈ သည်ဘုရားသခင်၏သားတော်ဖြစ်၏ဟုမိန့်တော်မူလျှင် သခင်။
၃၉ ကျွန်တော်ယုံကြည်ပါ၏ဟုလျှောက်၍ညွှတ်ပျပ်ကိုးကွယ်လေ၏။ ထို
အခါယေရှုကလည်း မျက်စိမမြင် သောသူ သည်မြင် ရအောင်ငှင်မြင်
သောသူသည်မျက်စိကန်းရအောင်ငှင်ငါသည်တရားစီရင်၍ ဤလောက
၄၀ သို့ရောက်လာပြီးဟုမိန့်တော်မူ၏။ အထံတော်၌ရှိသောဖာရိရှဲလူအ
ချို့တို့သည်ထိုစကားကိုကြားလျှင် ကျွန်ုပ်တို့သည်မျက်စိကန်းသလော
၄၁ ဟုမေးကြ၏။ ယေရှုကလည်းသင်တို့သည်မျက်စိကန်းသည်မှန်လျှင်
အပြစ်မရှိ။ ငါတို့မျက်စိမြင် သည် ဟုယခုဆိုကြ၏။ထိုကြောင့်သင်တို့
အပြစ်တည်၏။

❋❋

၁ ငါအမှန်အကန်ဆိုသည်ကား။ သိုးခြံထဲသို့တံခါး ဝဖြင့်မဝင်။ အချား
၂ လမ်ဖြင့်ကျော်ဝင်သောသူသည်သူခိုးဓားမြဖြစ်၏။ သိုးထိန်းမူကား
၃ တံခါးဝဖြင့်ဝင်တတ်၏။ ထိုသူအားတံခါး စောင့် ဖွင့်တတ်၏။သူ၏
စကားသံကိုသိုးများတို့သည်နားထောင်တတ်၏။ သူသည်မိမိသိုး တို့
၄ ကိုနာမည်ဖြင့်ခေါ်၍ပြင်သို့ထုတ်ဆောင်တတ်၏။ သိုးများကိုထုတ်
သောအခါသူတို့ရှေ့မှာသွား၍ သိုးများသည်သူ၏စကားသံကိုကျွမ်
၅ သောကြောင့်လိုက်တတ်၏။ မဆိုင်သောသူတို့၏စကားသံကိုမကျွမ်
သောကြောင့်မဆိုင်သောသူ နောက်သို့ မလိုက်ဘဲ ပြေးတတ်သည်ဟု
၆ မိန့်တော်မူ၏။ ထိုဥပမာပုံကိုယေရှုသည် ဟောတော်မူသည်တွင်ပ
ရိသတ်တို့သည်မိန့်တော်မူသောစကား တော်၏ အနက်အဓိပ္ပာယ်ကို
၇ နားမလည်ဘဲနေကြ၏။ ထိုကြောင့်တဖန် ယေရှုကငါ အမှန်အကန်ဆို
၈ သည်ကား။ငါသည်သိုးဝင်သောတံခါးဝဖြစ်၏။ ငါ့ရှေ့အရင်ပေါ်လာ
သောသူ ရှိသမျှတို့သည်သူခိုးဓားမြဖြစ်ကြ၏။ ထိုသူတို့၏စကားသံ
၉ ကိုသိုးတို့သည်နားမထောင်ကြ။ ငါသည်တံခါးဝဖြစ်၏။ ငါဖြင့်ဝင်
သောသူသည်ဘေးနှင့်ကင်းလွတ်လျက်ထွက်ဝင် ၍ ကျက်စားရာကို
၁၀ တွေ့ရလိမ့်မည်။ သူခိုးသည်ခိုးရအောင်။ သတ်ရအောင်။ ဖျက်ဆီးရ
အောင်သာလာတတ်၏။ ငါမူကားသိုးတို့သည်အသက်လွတ်ရုံမကအ
၁၁ ထူးသဖြင့်အသက်နှင့်ပြည့်စုံရအောင်လာသတည်း။ ။ငါသည်
ကောင်းသောသိုးထိန်းလည်းဖြစ်၏။ ကောင်းသောသိုးထိန်းသည်
၁၂ သိုးများ အဖို့အလို ငါ့မိမိ အသက်ကိုစွန့် တတ် ၏။ သိုးများ ကိုပိုင်

သောသိုးထိန်းမဟုတ်။ သူငှါးဖြစ်သောသူသည်တောခွေးလာသည်
ကိုမြင်လျှင်သိုးတို့ကိုပြစ်ထား ၍ ထွက်ပြေးတတ်၏။တောခွေးသည်
၁၃ လည်းသိုးတို့ကိုလုရက် ၍ ဖရိုဖရဲကွဲပြားစေ၏။ သူငှါး သည်သူငှါး
၁၄ ဖြစ်၍သိုးတို့၏အကျိုးကိုမမှတ်သောကြောင့်ထွက်ပြေးတတ်၏။ ငါ
၁၅ သည်ကောင်းသောသိုးထိန်းဖြစ်၏။ ခမည်းတော်သည်ငါကိုသိတော်
မူ၍ငါသည်လည်းခမည်းတော်ကိုသိသကဲ့သို့ငါ၏သိုးတို့ကိုငါသိ၏၊
ငါသိုးတို့သည်လည်းငါကိုသိကြ၏။ ငါအသက်ကိုလည်း သိုးများအဖို့
၁၆ အလို့ငှါငါစွန့်၏။ ဤသိုးခြံ၌မဝင်သောအချားသိုးတို့ကိုငါပိုင်သေး
၏။ ထိုသိုးတို့ကိုငါဆောင်ခဲ့ရ၏။ သူတို့သည်လည်းငါစကားသံကို
နားထောင်သဖြင့်သိုးခြံတခု။သိုးထိန်းတပါးတည်းရှိရလိမ့်မည်၊ ငါ
၁၇ အသက်ကိုငါစွန့် ၍ နောက်တဖန်ငါအသက်ကိုငါယူဦးမည်ဖြစ်သော
၁၈ ကြောင့်ငါခမည်းတော်သည်ငါကိုချစ်တော်မူ၏။ ငါအသက်ကိုအ
ဘယ်သူမလုမယူ၊ ကိုယ်အလိုအလျောက်ငါစွန့်၏။ ကိုယ်အသက်
ကိုစွန့်ရသောအခွင့်နှင့်နောက်တဖန်ကိုယ်အသက်ကိုယူပြန်ရသော
အခွင့်ငါ၌ရှိ၏။ ထိုအခွင့်ကိုခမည်းတော်သည် ပေးတော်မူပြီးဟုမိန့်
၁၉ တော်မူ၏။ ။ထိုစကားတော်ကြောင့်ယုဒလူတို့သည်တဖန်ကွဲ
၂၀ ပြား ခြင်း ရှိကြ၏။ လူများတို့ကသူသည်နတ်ဆိုးစွဲသည်။ အရူးဖြစ်
သည်။ အဘယ်ကြောင့်သူ၏စကားကိုနားထောင်သနည်းဟုဆို၏၊
၂၁ အချို့တို့ကသူ၏စကားသည်နတ်ဆိုးစွဲသောသူ၏ စကားမဟုတ်။နတ်
ဆိုးသည်မျက်စိကန်းသောသူတို့ကိုမြင်စေခြင်းငှါတတ်နိုင်သလောဟု
၂၂ ဆို၏။ ။ဆောင်းကာလဖြစ်၍အင်္ကဲနိပွဲ ကိုယေရုရှလင်မြို့၌ခံကြ
၂၃ သောအခါ ယေရှုသည်ဗိတ်မှာန်တော်နားမှာရှောလောမုန်ကနားပြင်
၂၄ ၌စင်္ကြံသွားတော်မူစဉ် ယုဒလူတို့သည်ကိုယ်တော်ကိုဝန်းရံ၍သင်
သည်အဘယ်မျှကာလပတ်လုံးအကျွန်ုပ်တို့ကိုရုံမှားစေသနည်း။ သင်
၂၅ သည်ခရစ်တော်မှန်လျှင်အတည့်အလင်းပြောပါဟုဆိုကြ၏။ ယေရှု
ကလည်းငါခမည်းတော်၏ အခွင့်နှင့်ငါပြုသော အမှုတို့သည် ငါသက်
သေဖြစ်ကြသည် ဟု ငါပြောပြီး။ သို့သော်လည်း သင်တို့ မရုံကြ။
၂၆ အဘယ်ကြောင့် မရုံသနည်း ဟူမူကား။ သင်တို့သည် ငါသိုး အဝင်မ
၂၇ ဟုတ်။ငါသည်အထက်ကပြောသည်အတိုင်း ငါသိုးတို့သည်ငါစကား
၂၈ သံကိုနား ထောင် ၍ ငါနောက်သို့လိုက်ကြ၏။ ထိုသိုးတို့ကိုငါသိ၏၊
ထာဝရအသက်ကိုငါပေး၏။ထိုသိုးတို့သည်ပျက်စီးခြင်း နှင့်အစည်ဧ

ပြတ်ကင်း လွှတ်လိမ့်မည်။ အဘယ်သူမျှသူတို့ကိုငါ လက်မှမနှုတ်မယူ
၂၉ ရာ။ ထိုသိုးတို့ကိုငါ့ဖို့အပ်ပေးတော်မူသောငါ့ခမည်းတော်သည်ခပ်
သိမ်းသောသူတို့ထက်ကြီးမြတ်တော်မူသည်ဖြစ်၍ အဘယ်သူမျှထို
၃၀ သိုးတို့ကိုငါ့ခမည်းတော်လက်မှမနှုတ်မယူနိုင်ရာ။ ငါနှင့်ငါ့ခမည်း
တော်သည်တလုံးတဝတည်းဖြစ်ကြ၏ဟုမိန့်တော်မူ၏။

❋❋

၃၁ ထိုအခါယုဒလူတို့သည်ကိုယ်တော်ကိုခဲနှင့်ပြစ်ရအောင်တဖန်ကျော
၃၂ က်ခဲတို့ကိုကောက်ယူကြပြန်၏။ ယေရှုကလည်းငါ့ခမည်းတော်အခွင့်
နှင့်ကောင်းသောအမှုအများတို့ကိုသင်တို့အားငါပြပြီ။ ထိုအမှုတို့
တွင်အဘယ်မည်သောအမှုကြောင့်ငါ့ကိုခဲနှင့်ပြစ်ကြသနည်းဟုမေး
၃၃ တော်မူလျှင် ယုဒလူတို့ကကောင်းသောအမှုကြောင့်ခဲနှင့်ပြစ်သည်မ
ဟုတ်။ သင်သည်လူဖြစ်လျက်ပင်ဘုရားသခင်ဖြစ်ရောင်ဆောင်၍
ဘုရားသခင်ကိုပြစ်မှားသောစကားကြောင့်ခဲနှင့်ပြစ်သည်ဟုဆိုကြ
၃၄ ၏။ ယေရှုကလည်းသင်တို့၏ပညတ်ကျမ်းစာ၌ကား။ သင်တို့သည်
၃၅ ဘုရားဖြစ်ကြသည်ငါဆို၏ဟုလာသည်မဟုတ်လော။ ဘုရားသခင်
၏ဗျာဒိတ်တော်ကိုခံရသောသူတို့ကိုဘုရားဟူ၍ခေါ်ဝေါ်သည်မှန်
၃၆ လျှင်ရင်ကျမ်းစကားကိုမပယ်အပ်သည်မှန်လျှင်ငါ ခမည်းတော်သည်
သန့်ရှင်းစေ၍ဤလောကသို့စေလွှတ်တော်မူသောသူသည်ငါကားဘု
ရားသခင်၏သားတော်ဖြစ်သည်ဟုဆိုသောကြောင့်သင်သည်ဘုရား
သခင်ကိုပြစ်မှားသောစကားကိုပြောသည်ဟုထိုသူအားဆိုရာသ
၃၇ လော။ ငါ့ခမည်းတော်၏အမှုတို့ကိုငါမပြုလျှင်ငါ့ကိုမယုံနှင့်။ ပြုလျှင်
၃၈ ငါ့ကိုမယုံသော်လည်းထိုအမှုတို့ကိုယုံကြလော့။ ထိုသို့ယုံလျှင်ခမည်းတော်
သည်ငါ၌ရှိတော်မူသည်ကိုရင်ငါသည်ခမည်းတော်၌ရှိသည်ကိုရင်ယုံ
၃၉ ၍သိမှတ်ကြလိမ့်မည်ဟုမိန့်တော်မူ၏။ ။ထိုအခါကိုယ်တော်
ကိုဖမ်းဆီးရအောင်တဖန်ရှာကြပြန်လျှင်ထိုသူတို့၏လက်မှထွက်
၄၀ ကြွတော်မူ၏။ ယောဟန်သည်ရေနှစ်မင်္ဂလာကိုရှေဦးစွာပေးရာအ
၄၁ ရပ်။ ယော်ဒန်မြစ်နားသို့တဖန်ကြွ၍ထိုအရပ်၌နေတော်မူ၏။ လူအ
များတို့သည်အထံတော်သို့ရောက်လာလျှင် ယောဟန်သည်နိမိတ်
လက္ခဏာကိုမပြ။ သို့သော်လည်းယောဟန်သည်ဤသူကိုပြောသမျှ
၄၂ သောစကားသည်မှန်ပေ၏ဟုဆိုကြသဖြင့် ထိုအရပ်၌လူအများတို့
၁ သည်ကိုယ်တော်ကိုယုံကြည်ခြင်းသို့ရောက်ကြ၏။ ။ညီအစ်မ

မာရိနှင့်မာသနေသောဗေသနိရွာသား။ လာဇရုအမည်ရှိသောသူ
၂ တယောက်သည်နာလျက်နေလေ၏။ နာနေသောလာဇရု၏နှစ်မမာရိ
ကားသခင်ဘုရားကိုဆီမွှေးနှင့်လိမ်း၍ခြေတော်ကိုမိမိဆံပင်နှင့်သုတ်
၃ သောမာရိဖြစ်သတည်း။ ညီအစ်မတို့သည်အထံတော်သို့စေလိုက်၍
သခင်။ကိုယ်တော်ချစ်တော်မူသောသူသည်နာနေပါသည်ဟုလျှောက်
၄ ကြ၏။ ထိုစကားကိုယေရှုကြားတော်မူလျှင်ထိုအနာသည်သေနာ
မဟုတ်။ဘုရားသခင်၏ဘုန်းတော်ကိုထင်ရှားစေသောအနာဖြစ်၏။
ထိုအနာကြောင့်ဘုရားသခင်၏သားတော်သည်ဘုန်းထင်ရှားခြင်းရှိ
၅ လိမ့်မည်ဟုမိန့်တော်မူ၏။ ယေရှုသည်မာသကို၎င် သူ၏ညီမနှင့်
၆ လာဇရုကို၎င်ချစ်တော်မူ၏။ လာဇရုနာသည်ကိုကြားတော်မူလျှင်ကြွ
၇ တော်မမူဘဲ ထို အရပ် ၌ နှစ်ရက်နေတော်မူ၏။ ။ထိုနောက်
မှာတပည့်တော်တို့အား ယုဒပြည် သို့တဖန်သွား ကြစို့ ဟုမိန့်တော်မူ
၈ လျှင် တပည့်တော်တို့ကအရှင်ဘုရား။ ယုဒလူတို့သည်ယခုပင် ကိုယ်
တော်ကိုခဲနှင့်ပြစ်ရအောင်ရှာ ကြံကြ၏။ထိုအရပ်သို့တဖန်ကြွတော်မူ
၉ သလောဟုလျှောက်ကြ၏။ ယေရှုကလည်းတနေ့တွင်တဆယ်နှစ်နာရီ
ရှိသည်မဟုတ်လော။ လူသည်နေ့အခါ၌သွားလာလျှင်နေရောင်အလင်း
၁၀ ကိုမြင်ရသောကြောင့်ထိမိ၍မလဲတတ်။ ညည့်အခါ၌သွားလာလျှင်အ
၁၁ လင်းမရှိသောကြောင့်ထိမိ၍လဲတတ်၏ဟုမိန့်တော်မူပြီးမှ ငါတို့
အဆွေလာဇရုအိပ်ပျော်၏။သူကိုနိုးရအောင်ငါသွားမည်ဟုမိန့်တော်
၁၂ မူ၏။ သခင်။ သူသည်အိပ်ပျော် လျှင်သက်သာရလိမ့်မည်ဟုတ
၁၃ ပည့်တော်တို့သည် လျှောက်ကြ၏။ ယေရှုသည်လာဇရုသေကြောင်း
ကိုရည်မှတ်၍ မိန့်တော်မူသော်လည်းပကတိအိပ်ပျော်ကြောင်းကိုမိန့်
၁၄ တော်မူသည်ဟုတပည့် တော်တို့သည် ထင်မှတ်ကြ၏။ ထိုအခါယေရှု
၁၅ ကလာဇရု သေပြီ။ ထိုအရပ်၌ငါမရှိသဖြင့်သင်တို့ယုံကြည်စရာအ
ကြောင်းရှိသည်ကိုထောက်၍ သင်တို့အတွက်ငါဝမ်းမြောက်ခြင်းရှိ၏။
၁၆ သူ့ဆီသို့ယခုသွားကြစို့ဟုအတည့်အလင်းမိန့်တော်မူ၏။ ဒိဒုမုဟုဆို
လိုသောသောမကအကျွန်ုပ်တို့လည်းသွား၍သခင်နှင့်အတူသေကြစို့
ဟုတပည့်တော်ချင်းတို့အားဆို၏။

**

၁၇ ယေရှုသည်ရောက်တော်မူသော် လာဇရုကိုသင်း ဂြိုင်းတွင်း ၌ထား၍
၁၈ လေးရက်လွန်လေပြီ။ ဗေသနိရွာသည်ယေရုရှလင် မြို့နှင့် အနီး။ တ

၁၉ ထိုင်လောက်ကွာသဖြင့်မာသနှင့်မာရိတို့၏မောင်သေလွန်သည်ဖြစ်
၍သူတို့ကိုနှစ်သိမ့်စေလိုသောဌါယုဒလူအများတို့သည်လာကြပြီး။
၂၀ ယေရှုရောက်လာတော်မူသည်ကို မာသ ကြား လျှင် ကိုယ်တော် ကို
၂၁ ကြိုဆိုအောင်သွား၏။ မာရိကား အိမ်၌ထိုင်နေရစ်၏။ မာသက
၂၂ သခင်။ ကိုယ်တော် ရှိ တော် မူလျှင် ကျွန် မ မောင် မသေ ပါ။ ယခုသေ
သော်လည်း ကိုယ်တော်သည် ဘုရား သခင်ကိုဆုတောင်းတော်မူသမျှ
တို့ကိုဘုရား သခင်ပေး တော်မူမည် ကိုကျွန်မသိပါသည် ဟုလျှောက်
၂၃ ၏။ ယေရှုကလည်းသင်မောင်ထမြောက်လိမ့်မည်ဟုမိန့်တော်မူ၏။
၂၄ မာသကလည်း နောက်ဆုံး သောနေ့၌ ထမြောက် ရာကာလသူသည်ထ
၂၅ မြောက်မည်ကိုကျွန်မသိပါသည်ဟု လျှောက်၏။ ယေရှုကလည်းငါ
သည်ထမြောက်ခြင်းအကြောင်း။ အသက်ရှင်ခြင်း အကြောင်း ဖြစ်၏။
၂၆ ငါကိုယုံကြည် သော သူသည် သေလွန်သော်လည်း ရှင်လိမ့်မည်။ ငါကို
ယုံကြည်၍အသက်ရှင်သော သူရှိသမျှတို့သည်လည်း သေခြင်းနှင့်အစဉ်
မပြတ်ကင်းလွတ်လိမ့်မည်။ငါစကားကိုယုံသလောဟုမိန့်တော်မူ၏။
၂၇ ဟုတ်ပါ၏သခင်။ ကိုယ်တော်သည်ခရစ်တော်တည်းဟူသောဤ
လောကသို့ကြွလာတော်မူသောဘုရားသခင်၏သားတော်ဖြစ်တော်မူ
၂၈ သည်ကိုကျွန်မယုံပါသည်ဟုလျှောက်၏။ ။ထိုသို့လျှောက်ပြီးမှ
မာသသွား၍ မိမိညီမမာရိအား အရှင်ဘုရား ရောက်လာပြီး။သင်ကို
၂၉ ခေါ်တော်မူ၏ ဟုတိတ်တိတ် ခေါ်လေ၏။ မာရိသည် ထိုစကားကိုကြား
၃၀ လျှင်အလျင်တဆောတ၍အထံတော်သို့သွား လေ၏။ ထိုအခါယေရှု
သည် ရွာထဲသို့ မဝင်သေး။ မာသ ကြိုဆို သော အရပ် ၌ရှိတော်မူသ
၃၁ တည်း။ထိုကြောင့်နှစ်သိမ့်စေသောစကားကိုပြောလျက်မာရိနှင့်အတူ
အိမ်၌ရှိသောယုဒလူတို့သည်မာရိအလျင်တဆောတ၍ ထွက်သည်ကို
မြင်ကြလျှင်သင်းပြုင်းတွင်းနားမှာငိုကျွေးရအောင်သွားပြီးဟုဆိုသ
၃၂ ဖြင့်သူကိုလိုက်ကြ၏။ မာရိသည်ယေရှုရှိတော်မူရာအရပ်သို့ရောက်
၍ကိုယ်တော်ကိုမြင်လျှင်ခြေတော်ရင်း၌ပျပ်ဝပ်၍သခင်။ကိုယ်တော်
၃၃ ရှိတော်မူလျှင်ကျွန်မမောင်မသေပါဟုလျှောက်၏။ မာရိမှစ၍လိုက်
လာသောယုဒလူ တို့သည် ငိုကျွေး ကြသည်ကို ယေရှုမြင်လျှင် ညည်း
၃၄ တွားသံကိုပြု၍ ပူပန်သောစိတ်တော် ရှိသည် နှင့်အလောင်းကောင်ကို
အဘယ်မှာထားကြသနည်းဟုမေးတော်မူ၏။သခင်။ကြွ၍ကြည့်တော်
၃၅ မူပါဟုလျှောက်ကြ၏။ ယေရှုသည်မျက်ရည်ကျတော်မူ၏။ယုဒလူတို့

၃၆ ကကြည့်ပါ။ လာဇရုကိုအဘယ်မျှလောက်ချစ်တော်မူသည်တကားဟု
၃၇ ဆိုကြ၏။ အချို့တို့က မျက်စိကန်း သောသူကို မြင်စေတော်မူသော ဤ
သခင်သည်လာဇရု မသေရအောင် ပြုခြင်း ငှါမတတ်နိုင်သလောဟုဆို
၃၈ ကြ၏။ တဖန်ယေရှုသည်ညည်းတွားသံကိုပြုလျက်သင်းချိုင်းတွင်း
သို့ရောက်တော်မူ၏။ ထိုတွင်းသည်မြေတွင်းဖြစ်၏။ ကျောက်နှင့်ပိတ်
၃၉ ထား၏။ ကျောက်ကို ရွှေကြ တော့ဟု ယေရှုမိန့် တော်မူလျှင်သေလွန်
သောသူ၏ နှမမာသကာသခင်။ ယခုဖြစ် လျှင်နံ့လိမ့်မည်လေးရက်ရှိ
၄၀ ပါပြီးဟုလျှောက်၏။ ယေရှုကလည်း သင်သည် ရုံလျှင် ဘုရားသခင်
၏ဘုန်း အာနု ဘော်တော် ကိုမြင်ရ လိမ့် မည်ငါ ဆို ပြီး မဟုတ်လော
၄၁ ဟုမိန့်တော်မူ၏။ ထိုအခါကျောက်ကိုရွှေကြ၏။ ယေရှုသည်လည်းအ
ထက်သို့ကြည့်မျှော်လျက်အဖ။ ကိုယ်တော်သည်အကျွန်ုပ်စကားကိုနား
၄၂ ထောင်တော်မူသောကျေးဇူးတော်ကြီးလှပါ၏။ ကိုယ်တော်သည်အ
ကျွန်ုပ်စကားကိုအစဉ်မပြတ်နားထောင်တော်မူသည်ကို အကျွန်ုပ်သိ
ပါ၏။ သို့သော်လည်းကိုယ်တော်သည်အကျွန်ုပ်ကိုစေလွှတ်တော်မူ
သည်ကိုဝန်း ရံလျက်ရှိသော လူအပေါင်း တို့သည် ယုံကြည် ရအောင်ထို
၄၃ သူတို့အကျိုးအလို့ငှါ ဤသို့အကျွန်ုပ်လျှောက်ပါ၏ဟု မိန့်မြွက်တော်မူ
ပြီးမှလာဇရု။ ထွက်လာတော့ဟု ကြီးသောအသံနှင့်ဟစ်ခေါ်တော်မူ၏၊
၄၄ ထိုအခါ သေလွန်သောသူသည်မိမိခြေလက်၌ပုဆိုး နံ့ငယ်နှင့်ရစ်ပတ်
လျက်မျက် နှာလည်းပဝါနှင့်ဖုံးအုပ်လျက် ထွက်လာ၏။ ယေရှုကလည်း
၄၅ သူကိုဖြည်၍လွှတ်ကြတော့ ဟုမိန့်တော်မူ၏။ ထိုအခါမာရိဆီသို့လာ
သော ယုဒလူ အများ တို့သည်ပြု တော် မူ သော အမှုကို မြင်လျှင်ကိုယ်
၄၆ တော်ကိုယုံကြည်ကြ၏။ အချို့တို့သည်လည်း ဖာရိရှဲလူတို့ ဆီသို့သွား
၍ယေရှုပြုတော်မူသောအမှုကိုပြောကြလေ၏။

❋❋

၄၇ ထိုအခါ ယဇ်ပရောဟိတ် အကြီး တို့နှင့် ဖာရိရှဲ လူများ သည် လွှတ်အ
ရာရှိတို့ကိုစည်းဝေး စေသဖြင့်ငါတို့သည် အဘယ်သို့ပြုကြသနည်း။
၄၈ ထိုသူသည်များ သောနိမိတ်လက္ခဏာ ကိုပြ၏။ သူကိုဤသို့အလွတ်
ထားလျှင်လူအားလုံးတို့သည်ယုံကြည်လိမ့်မည်။ ရောမလူ တို့သည်
သည်းလာ ၍ ငါတို့အရပ် ဌာနကိုရင် ငါတို့အမျိုး ကိုရင်သုတ် သင်ပယ်
၄၉ ရှင်းလိမ့်မည်ဟုဆိုကြ၏။ သူတို့အဝင်ဖြစ်၍ ကယာဖအမည်ရှိသော
သူတည်းဟူသော။ ထိုနှစ်တွင်ယဇ်ပရောဟိတ်မင်း လုပ်သောသူက

၅၀ သင်တို့သည်ဘာမျှမသိကြ။ယုဒလူမျိုးအကုန်ပျက်စီး သည်ထက်လူတ
ယောက်သည်လူများတို့အတွက်သေသော်သာ၍ကောင်းသည်ဟုသင်
၅၁ တို့မဆင်ချင်သည်တကားဟုဆို၏။ထိုစကားကိုကိုယ်အလိုအလျောက်
ပြောသည်မဟုတ်။ထိုနှစ်တွင် ယဇ်ပရော ဟိတ်မင်း ဖြစ်လျက် ယေရှု
၅၂ သည် ထို အမျိုး အတွက် သေ လိမ့်မည် ဟူ၍ ၎င်း ထိုအမျိုး အတွက် သာ
သေမည်မဟုတ်။ အရပ်ရပ်ကွဲပြား လျက် ရှိသောဘုရားသခင်၏သား
များကိုအတူစုဝေး စေခြင်း ငှါသေလိမ့်မည်ဟူ၍၎င်ပရောဖက်ညာဏ်
၅၃ နှင့်ဟောပြော၏။ထိုနေ့မှစ၍ကိုယ်တော်၏အသက်ကိုသတ်ရအောင်
၅၄ တိုင်ပင်ကြံစည်ကြ၏။ ထိုကြောင့် ယေရှုသည်နောက်တဖန်ယုဒလူ
တို့တွင်ထင်ရှား စွာမလှည့်လည် ဘဲလျက်ထိုအရပ်မှထွက် ၍ တောနှင့်
အနီး။ဧဖရိမ်အမည်ရှိသောမြို့သို့ကြွ ၍ တပည့်တော်တို့နှင့်အတူတကွ
၅၅ နေတော်မူ၏။ ။ယုဒပသခါပွဲခံခါနီးတွင်လူအများတို့သည်မိမိ
တို့ကိုသန့်ရှင်း စေခြင်းငှါပွဲမခံမှီအရပ်ရပ်တို့မှယေရှုရှလင်မြို့သို့သွား
၅၆ ကြ၏။ ထိုသူတို့ သည်ယေရှုကို ရှာဖွေ၍ အချင်းတို့။ အဘယ် သို့ထင်
ကြသနည်း။သူသည်ပွဲဆီသို့မလာသလော ဟုဗိတ်မှာန်တော်၌ရပ်လျက်
၅၇ အချင်းချင်းဆိုကြ၏။ ထိုအခါအဘယ်သူသည်ယေရှုရှိရာအရပ်ကိုသိ
လျှင်သူကိုဖမ်းဆီး အောင်ပြညွှန်ရမည် ဟုယဇ်ပရော ဟိတ်အကြီးတို့
၁ နှင့်ဖာရိရှဲလူတို့သည်မှာ ခဲ့ကြပြီး။ ။ပသခါပွဲခံမည် ခြောက်
ရက်လိုသောအခါအထက်ကသေလွန်၍သေခြင်းမှထမြောက် စေတော်
မူသော လာ ဇရုနေရာ အရပ် ဗေသ နိရွာ သို့ယေရှု ရောက် တော်မူ ၏။
၂ ရောက်တော်မူသော့ကြောင့် ထိုသူတို့သည် ပွဲလုပ်ကြသဖြင့်မာသ
သည်လုပ်ကျွေးမှုကိုဆောင်၍လာဇရုသည်ကိုယ်တော်နှင့်အတူထိုင်နေ
၃ သောသူတို့အဝင်ဖြစ်၏။ ထိုအခါမာရိသည်အဖိုးများစွာထိုက်သော
နာဒုဆီမွှေးစစ်အကျပ်သုံးဆယ်ကိုယူလျက်ယေရှု၏ ခြေတော်ကိုလိမ်း
၍မိမိဆံပင်နှင့်သုတ်သဖြင့်ထိုဆီ၏အမွှေးသည်တအိမ်လုံးကိုနံ့ပြား
၄ လေ၏။ တပည့်တော်တို့အဝင်ဖြစ်၍ကိုယ်တော်ကိုအပ်နှံမည်သူ။ ရှိမုန်
၅ ၏သားယုဒရှကာရုတ်က ထိုဆီမွှေးကိုဒေနာရိအပျ ါသုံးရာအဖိုး နှင့်
ရောင်း၍ဆင်းရဲသောသူတို့အားအဘယ်ကြောင့်မပေး သနည်းဟုဆို
၆ ၏။ ထိုသို့ဆိုသော်ဆင်းရဲသောသူတို့အကျိုးကိုထောက်၍ဆိုသည်
မဟုတ်။မိမိသည်သူခိုးဖြစ်လျက်တပည့်တော်များ သုံးရန်ငွေအိတ်ကို
၇ ဆောင်၍နှိုက်ယူတတ်သော့ကြောင့်ဆို သတည်း။ ယေရှုသည် ဇည်း

ထိုမိမ္ဒကိုရှိပါလေစေတော့။ ငါအလောင်းကိုသင်းပြိုဟ်ခြင်း၌ပြင်ဆင်
၈ သောနေ့တိုင်အောင်ဤဆီမွှေးကိုသူသည်သိုထားပြီ။ဆင်းရဲသောသူ
တို့ကားသင်တို့၌ အစဉ်ရှိကြ၏။ ငါမူကားသင် တို့၌အစဉ်ရှိသည်
၉ ဟုတ်ဟုမိန့်တော်မူ၏။ ။ထိုအရပ်၌ယေရှုရှိတော်မူသည်ကို
ယုဒလူများအပေါင်းတို့သည်သိလျှင်ကိုယ်တော်ကြောင့်သာလာသည်
မဟုတ်။ သေခြင်းမှထမြောက်စေတော်မူသောလာဇရုကိုမြင်ခြင်း၌
၁၀ လာကြ၏။ ထိုသို့ယုဒလူအများတို့သည် လာဇရုကိုအကြောင်းပြုသ
၁၁ ဖြင့် ထွက်သွား၍ ယေရှုကိုယုံကြည်သောကြောင့် ယဇ်ပရောဟိတ်အ
ကြီးတို့သည်လာဇရုကိုလည်းသတ်ရအောင်တိုင်ပင်စီရင်ကြ၏။

**

၁၂ နက်ဖန်နေ့၌ယေရှုသည်ယေရုရှလင်မြို့သို့ကြွလာတော်မူသည်ကိုပွဲခံဆီ
၁၃ သို့လာသောလူအစုအဝေးအပေါင်းတို့သည်ကြားရလျှင် ထန်းလက်
များကိုကိုင်လျက်ကိုယ်တော်ကိုကြိုဆိုအံ့သော၌ထွက်သွားကြ၍
ဟောရှဏ္ဏာဖြစ်စေသတည်း။ ထာဝရဘုရား၏အခွင့်နှင့်ကြွလာတော်
မူသော ဣသရေလ ရှင်ဘုရင် အား မင်္ဂလာ ဖြစ် စေ သ တည်း ဟု ကြွေး
၁၄ ကျော်ကြ၏။ ကျမ်းစာ၌လာသည်ကား။ဇိအုန်သတို့သမီး။မစိုးရိမ်ပါနှင့်။
၁၅ သင်၏အရှင်မင်းကြီးသည်မြည်းကလေးကိုစီး၍သင်ဆီသို့ကြွလာတော်မူ
သည်ကိုကြည့်ပါဟုရေးထားသည်နှင့်အညီယေရှုသည် မြည်းကလေးကို
၁၆ တွေ့၍စီးတော်မူ၏။ ထိုအကြောင်းအရာကိုတပည့်တော်တို့သည်အစ
အဦး၌နားမလည်သော်လည်းကိုယ်တော်ကိုရည်မှတ်၍ထိုသို့ရေးထား
သည်ကို၎င်း ကိုယ် တော် အား ထိုသို့ပြု ကြသည် ကို၎င်း ဘုန်း ဖွင့်တော်မူ
၁၇ သောနောက်သူတို့သည်သတိရ၍မှတ်မိကြ၏။ ။နောက်တော်သို့
လိုက်သောလူအစုအဝေးတို့သည်ကားလာဇရုကိုသင်းပြိုင်းတွင်းမှခေါ်
၍သေခြင်းမှထမြောက်စေတော်မူသည်အကြောင်းကိုသက်သေခံကြ၏။
၁၈ ထိုနိမိတ်လက္ခဏာကိုပြတော်မူသည်ဟုလူများတို့သည်သိတင်းကြား
၁၉ သောကြောင့်ကြိုဆိုအံ့သော၌ထွက်သွားကြ၏။ ဖာရိရှဲလူအချင်းချင်း
တို့လည်းသင်တို့သည်ဘာမျှမတတ်နိုင်။ဤလောကသည်သူနောက်သို့
၂၀ လိုက်သွားပြီးတကားဟုဆိုကြ၏။ ကိုးကွယ်ခြင်းအမှုနှင့်ထိုပွဲခံဆီသို့
၂၁ ရောက်လာသောသူတို့တွင် ဟေလသလူအချို့ပါ၏။ ထိုသူတို့သည်
ဂါလိလဲပြည်၊ ဗက်ဇဲဒမြို့သားဖြစ်သောဖိလိပ္ပုဆီသို့သွား၍အကျွန်ုပ်
တို့သည်ယေရှုကိုမြင်ချင်ပါသည်ခင်ဘုရားဟုတောင်းပန်ကြ၏။

၂၂ ဖိလိပ္ပုသွား၍အန္ဒြေကိုကြားပြီးမှထိုသူနှစ်ယောက်တို့သည်ယေရှုကို
၂၃ လျှောက်၏။ ယေရှုကလည်းလူသားသည်ဘုန်းဖွင့်ရသောအချိန်
၂၄ ရောက်လာပြီ။ ငါအမှန်အကန်ဆိုသည်ကားမြေ၌ကျသောစပါးစေ့မ
ပျက်လျှင်တခုတည်းနေ၏။ ပျက်လျှင်များစွာသောအသီးကိုသီးတတ်၏။
၂၅ မိမိအသက်ကိုနှစ်မြို့သောသူသည်အသက်ဆုံးလိမ့်မည်။ ဤလောက
၌မိမိအသက်ကိုမုန်းသောသူသည်ထာဝရအသက်ကိုစောင့်ရှောက်
၂၆ လျက်နေ၏။ ငါ့အမှုကိုဆောင်ရွက်သောသူဖြစ်လျှင်ငါ့နောက်သို့
လိုက်ရမည်။ ငါ့အမှုကိုဆောင်ရွက်သောသူသည်လည်းငါရှိရာအရပ်
၌ရှိလိမ့်မည်။ ငါ့အမှုကိုဆောင်ရွက်သောသူဖြစ်လျှင်ထိုသူကိုခမည်း
၂၇ တော်ချီးမြှောက်တော်မူလတံ့။ ယခုတွင်ငါ့စိတ်နှစ်လုံးပူပန်
ခြင်းရှိ၏။ အဘယ်သို့ငါလျှောက်ရမည်နည်း။ ဤအချိန်မှအကျွန်ုပ်ကို
ကယ်တင်တော်မူပါအဖဟုလျှောက်ရမည်လော။ အကြောင်းရှိ၍သာဤ
၂၈ အချိန်သို့ရောက်လာပြီ။ အိုအဖ။ ကိုယ်တော်၏နာမကိုချီးမြှောက်တော်
မူပါဟုမိန့်မြွက်တော်မူ၏။ ထိုအခါကောင်းကင်မှစကားသံကား။ ငါ
၂၉ ချီးမြှောက်ခဲ့ပြီ။ တဖန်ချီးမြှောက်လေဦးမည်ဟုလာ၏။ ဝန်းရံလျက်
ရှိသောအစုအဝေးတို့သည်ကြားလျှင်မိုဃ်းချုန်းသည်ဟုဆိုကြ၏။
အချို့သောသူတို့ကကိုယ်တော်အားကောင်းကင်တမန်မြွက်သည်
၃၀ ဟုဆိုကြ၏။ ယေရှုကထိုစကားသံသည်ငါ့အဖို့အလို့ငှါလာသည်မ
၃၁ ဟုတ်။ သင်တို့အဖို့အလို့ငှါလာ၏။ ယခုတွင်ဤလောကသည်တရား
စီရင်ခြင်းကိုခံရ၏။ ယခုတွင်ဤလောကကိုအစိုးရသောမင်းသည်ပြင်
၃၂ သို့နှင်ထုတ်ခြင်းကိုခံရလိမ့်မည်။ ငါသည်လည်းမြေကြီးနှင့်ကွာ၍
မြှောက်ထားခြင်းကိုခံလျှင်လူအပေါင်းတို့ကိုငါ့ဆီသို့ငါဆွဲလိမ့်မည်
၃၃ ဟုမိန့်တော်မူ၏။ ထိုသို့မိန့်တော်မူသော်မိမိသည်အဘယ်သို့သေရ
၃၄ မည်အရိပ်ကိုပေးတော်မူ၏။ လူများတို့လည်း ခရစ်တော်သည်အ
စဉ်ထာဝရတည်သည်ဟုပညတ္တိကျမ်း၌လာကြောင်းကိုအကျွန်ုပ်တို့
ကြားသိရပြီ။ သို့ဖြစ်လျှင်လူသားသည်မြှောက်ထားခြင်းကိုခံရမည်
ဟုသင်သည်အဘယ်သို့ဆိုသနည်း။ ထိုလူသားသည်အဘယ်သူ
၃၅ နည်းဟုဆိုကြ၏။ ယေရှုကလည်းအလင်းသည်သင်တို့တွင်ခဏသာ
၃၆ ရှိ၏။ အလင်းရှိတုန်းခါသွားလာကြလော့။ သို့မဟုတ်။ မှောင်မိုက်သည်
သင်တို့ကိုဖုံးသွပ်လိမ့်မည်။ မှောင်မိုက်၌သွားသောသူသည်အဘယ်
ဆီသို့ကိုယ်သွားသည်ကိုကိုယ်မသိ။ အလင်းရှိတုန်းခါအလင်း၏သား

နှင့်မြည့်ရှုံပြီး။သူကိုမေးကြပါလော့။သူသည်ကိုယ်အကြောင်းကိုကိုယ်
၂၂ ပြောလိမ့်မည်ဟုပြန်၍ဆိုကြ၏။ အဘယ်ကြောင့်ဤသို့ဆိုသနည်းဟူ
မူကား။ ယေရှုသည်ခရစ်တော်ဖြစ်သည် ဟုဝန် ခံသောသူမည် သည်
ကိုတရားဇရပ်မှနှင်ထုတ်မည် အကြောင်း။ယုဒလူတို့သည် တိုင်ပင်၍
၂၃ ရင်နှင့်ကြပြီး။ ထိုကြောင့်မိဘတို့ကသူသည်အသက်အ ရွယ်နှင့်ပြည့်
ရှုံပြီး။သူကိုမေးကြပါလော့ဟုယုဒလူတို့ကိုကြောက်၍ဆိုကြ၏။ ။
၂၄ ထိုကြောင့် မျက်စိကန်းဘူးသောသူကိုဒုတိယအကြိမ်ခေါ်၍ဘုရားသ
ခင်ကိုချီးမွမ်းတော့။ ထိုသူသည်လူဆိုး ဖြစ် ကြောင်း ကိုငါတို့သိပြီးဟု
၂၅ ဆိုကြလျှင် လူဆိုးဖြစ်သည်။မဖြစ်သည်ကို ကျွန်ုပ်မသိ။ကျွန်ုပ်သည်
အထက်က မျက် စိကန်း ၍ ယခု မျက် စိမြင် သည် အ ကြောင်း တခု ကို
၂၆ ကျွန်ုပ် သိပါ၏ ဟုဆို၏။ တဖန် ထို သူတို့ကသူသည် သင်၌ အဘယ်
သို့ပြုသနည်း။ သင်မျက်စိကိုအဘယ်သို့ ဖွင့် သနည်းဟုမေး ကြလျှင်
၂၇ ကျွန်ုပ်တခါ ပြောပြီး။သင်တို့နားမကြား။ အဘယ်ကြောင့်တဖန်ကြား
၂၈ ချင်သနည်း။ သူ၏တပည့်ဖြစ် ချင်သလောဟုဆို၏။ ထိုသူတို့လည်း
သင်သည်သူ၏တပည့်ဖြစ်၏။ငါတို့မူကားမောရှေတပည့်ဖြစ်ကြ၏။
၂၉ ဘုရားသခင်သည်မောရှေ ၌ ဗျာဒိတ်ထား တော်မူမှန်း ကိုငါတို့သိ၏။
ထိုသူသည်အဘယ်ဆီကဖြစ်သည် ကိုငါတို့မသိဟုကဲ့ရဲ့၍ဆိုကြလျှင်
၃၀ သူသည်ကျွန်ုပ်မျက်စိကို ဖွင့်သော်လည်း အဘယ် ဆီကဖြစ်သည်ကို
၃၁ သင် တို့မသိကြသည်ကို အံ့ဩဘွယ်ရှိ၏။ ဘုရား သခင်သည်လူ
ဆိုးဘက်၌နေတော်မမူသည်ကိုကျွန်ုပ်တို့သိ၏။ ဘုရားသခင်ကိုရိုသေ
လေးမြတ် ၍ အလိုတော်သို့လိုက် သော သူ ဖြစ် လျှင် ထိုသူဘက် ၌နေ
၃၂ တော်မူ၏။ အမိဝမ်းထဲမှစ ၍ မျက် စိကန်းသော သူကို အဘယ်မည်
သော သူသည်မျက်စိမြင် စေခြင်း ငှါတတ်နိုင်သည်ကို ကမ္ဘာဦးမှစ၍
၃၃ မကြားစဖူး။ ထိုသူ သည် ဘုရားသခင်စေလွှတ် တော်မူ သော သူမ
၃၄ ဟုတ်လျှင်အဘယ်အမှုကိုမျှမတတ်နိုင်ဟုဆို၏။ ထိုသူတို့လည်းသင်
သည်တကိုယ်လုံးဒုစရိုက်အပြစ်တို့နှင့်မွေးသောသူဖြစ်လျက်ငါတို့ကို
ဆုံးမသည်ဘကား ဟုဆိုကြလျှင် ထိုသူကိုတရား ဇရပ်မှနှင်ထုတ်ကြ
၃၅ ၏။ ။နှင်ထုတ်သည်အကြောင်းကိုယေရှုသည်ကြား၍သူကို
တွေ့တော်မူလျှင်သင် သည်ဘုရား သခင်၏သား တော်ကိုယုံကြည်သ
၃၆ လောဟုမေးတော်မူ၏။ သခင်။ကျွန်တော်ယုံကြည်ရအောင်ဘုရားသ
၃၇ ခင်သား တော်အဘယ်သူနည်းဟုလျှောက်လေသော် ယေရှုကသင်

သည်သူကိုမြင်ခဲ့ပြီး သည်သာမကသင်နှင့် ယခုစကားပြောသောသူ
၃၈ သည်ဘုရားသခင်၏သားတော်ဖြစ်၏ဟုမိန့်တော်မူလျှင် သခင်။
၃၉ ကျွန်တော်ယုံကြည်ပါ၏ဟုလျှောက်၍ညွတ်ပျပ်ကိုးကွယ်လေ၏။ ထို
အခါယေရှုကလည်း မျက်စိမမြင် သောသူ သည်မြင် ရအောင်ငှင်မြင်
သောသူသည်မျက်စိကန်းရအောင်ငှင်ငါသည်တရားစီရင်၍ ဤလောက
၄၀ သို့ရောက်လာပြီးဟုမိန့်တော်မူ၏။ အထံတော်၌ရှိသောဖာရိရှဲလူအ
ချို့တို့သည်ထိုစကားကိုကြားလျှင် ကျွန်ုပ်တို့သည်မျက်စိကန်းသလော
၄၁ ဟုမေးကြ၏။ ယေရှုကလည်းသင်တို့သည်မျက်စိကန်းသည်မှန်လျှင်
အပြစ်မရှိ။ ငါတို့မျက်စိမြင် သည် ဟုယခုဆိုကြ၏။ထို့ကြောင့်သင်တို့
အပြစ်တည်၏။

❋❋

၁ ငါအမှန်အကန်ဆိုသည်ကား။ သိုးခြံထဲသို့တံခါး ဝဖြင့်မဝင်။ အချား
၂ လမ်းဖြင့်ကျော်ဝင်သောသူသည်သူခိုးဓားမြဖြစ်၏။ သိုးထိန်းမူကား
၃ တံခါးဝဖြင့်ဝင်တတ်၏။ ထိုသူအားတံခါး စောင့်ဖွင့်တတ်၏။သူ၏
စကားသံကိုသိုးများတို့သည်နားထောင်တတ်၏။ သူသည်မိမိသိုး တို့
၄ ကိုနာမည်ဖြင့်ခေါ်၍ပြင်သို့ထုတ်ဆောင်တတ်၏။ သိုးများကိုထုတ်
သောအခါသူတို့ရှေ့မှာသွား၍ သိုးများသည်သူ၏ စကားသံကိုကျွမ်း
၅ သောကြောင့်လိုက်တတ်၏။ မဆိုင်သောသူတို့၏စကားသံကိုမကျွမ်း
သောကြောင့်မဆိုင်သောသူ နောက်သို့ မလိုက်ဘဲ ပြေးတတ်သည်ဟု
၆ မိန့်တော်မူ၏။ ထိုဥပမာပုံကိုယေရှုသည် ဟောတော်မူသည်တွင်ပ
ရိသတ်တို့သည်မိန့်တော်မူသောစကား တော်၏ အနက်အဓိပ္ပာယ်ကို
၇ နားမလည်ဘဲနေကြ၏။ ထို့ကြောင့်တဖန် ယေရှုကငါအမှန်အကန်ဆို
၈ သည်ကား။ငါသည်သိုးဝင်သောတံခါး ဝဖြစ်၏။ ငါရှေ့အရင်ပေါ်လာ
သောသူ ရှိသမျှတို့သည်သူခိုးဓားမြဖြစ်ကြ၏။ ထိုသူတို့၏စကားသံ
၉ ကိုသိုးတို့သည်နား မထောင်ကြ။ ငါသည်တံခါးဝဖြစ်၏။ ငါဖြင့်ဝင်
သောသူသည်ဘေးနှင့်ကင်းလွတ်လျက်ထွက်ဝင် ၍ ကျက်စားရာကို
၁၀ တွေ့ရလိမ့်မည်။ သူခိုးသည်ခိုးရအောင်။ သတ်ရအောင်။ ဖျက်ဆီးရ
အောင်သာလာတတ်၏။ ငါမူကားသိုးတို့သည်အသက်လွတ်ရုံမကအ
၁၁ ထူးသဖြင့် အသက်နှင့်ပြည့်စုံရအောင်လာသတည်း။ ။ငါသည်
ကောင်းသောသိုးထိန်းလည်းဖြစ်၏။ ကောင်းသောသိုးထိန်းသည်
၁၂ သိုးများ အဖို့အလို ငါ့မိမိ အသက်ကိုစွန့် တတ် ၏။ သိုးများ ကိုပိုင်

သောသိုးထိန်းမဟုတ်။ သူငှါးဖြစ်သောသူသည်တောခွေးလာသည်
ကိုမြင်လျှင်သိုးတို့ကိုပြစ်ထား ၍ ထွက်ပြေးတတ်၏။တောခွေးသည်
၁၃ လည်းသိုးတို့ကိုလုရက် ၍ ဖရိုဖရဲကွဲပြားစေ၏။ သူငှါး သည်သူငှါး
၁၄ ဖြစ်၍သိုးတို့၏အကျိုးကိုမမှတ်သောကြောင့်ထွက်ပြေးတတ်၏။ ငါ
၁၅ သည်ကောင်းသောသိုးထိန်းဖြစ်၏။ ခမည်းတော်သည်ငါကိုသိတော်
မူ၍ငါသည်လည်းခမည်းတော်ကိုသိသကဲ့သို့ငါ၏သိုးတို့ကိုငါသိ၏။
ငါသိုးတို့သည်လည်းငါကိုသိကြ၏။ ငါအသက်ကိုလည်း သိုးများအဖို့
၁၆ အလို့ငှါငါစွန့်၏။ ဤသိုးခြံ၌မဝင်သောအချားသိုးတို့ကိုငါပိုင်သေး
၏။ ထိုသိုးတို့ကိုငါဆောင်ခဲ့ရ၏။ သူတို့သည်လည်းငါစကားသံကို
နားထောင်သဖြင့်သိုးခြံတခု။သိုးထိန်းတပါးတည်းရှိရလိမ့်မည်။ ငါ
၁၇ အသက်ကိုငါစွန့် ၍ နောက်တဖန်ငါအသက်ကိုငါယူဦးမည်ဖြစ်သော
၁၈ ကြောင့်ငါခမည်းတော်သည်ငါကိုချစ်တော်မူ၏။ ငါ အသက်ကိုအ
ဘယ်သူမလုမယူ။ ကိုယ်အလိုအလျောက်ငါစွန့်၏။ ကိုယ်အသက်
ကိုစွန့်ရသောအခွင့်နှင့်နောက်တဖန်ကိုယ်အ သက်ကိုယူပြန် ရသော
အခွင့်ငါ၌ရှိ၏။ ထိုအခွင့်ကိုခမည်း တော်သည် ပေးတော်မူပြီး ဟုမိန့်
၁၉ တော်မူ၏။ ။ထိုစကားတော်ကြောင့်ယုဒလူတို့သည်တဖန်ကွဲ
၂၀ ပြား ခြင်း ရှိကြ၏။ လူများတို့ကသူသည်နတ်ဆိုးစွဲသည်။ အရူးဖြစ်
သည်။ အဘယ်ကြောင့်သူ၏စကားကိုနားထောင်သနည်းဟုဆို၏။
၂၁ အချို့တို့ကသူ၏စကားသည်နတ်ဆိုးစွဲသောသူ၏ စကားမဟုတ်။နတ်
ဆိုးသည်မျက်စိကန်းသောသူတို့ကိုမြင်စေခြင်းငှါတတ်နိုင်သလောဟု
၂၂ ဆို၏။ ။ဆောင်းကာလဖြစ်၍အဘိဲနိပွဲ ကိုယေရုရှလင်မြို့၌ခံကြ
၂၃ သောအခါ ယေရှုသည်ဗိတ်မှာန်တော်နားမှာရှောလောမုန်ကနားပြင်
၂၄ ၌စကြံသွားတော်မူစည် ယုဒလူတို့သည်ကိုယ်တော်ကိုဝန်းရံ၍သင်
သည်အဘယ်မျှကာလပတ်လုံးအကျွန်ုပ်တို့ကိုရုံမှားစေသနည်း။ သင်
၂၅ သည်ခရစ်တော်မှန်လျှင်အတည့်အလင်းပြောပါဟုဆိုကြ၏။ ယေရှု
ကလည်းငါခမည်းတော်၏ အခွင့်နှင့်ငါပြုသော အမှုတို့သည် ငါသက်
သေဖြစ်ကြသည် ဟု ငါပြောပြီး။ သို့သော်လည်း သင်တို့ မရုံကြ။
၂၆ အဘယ်ကြောင့် မရုံသနည်း ဟူမူကား။ သင်တို့သည် ငါသိုး အဝင်မ
၂၇ ဟုတ်။ငါသည်အထက်ကပြောသည်အတိုင်း ငါသိုးတို့သည်ငါစကား
၂၈ သံကိုနား ထောင် ၍ ငါနောက်သို့လိုက်ကြ၏။ ထိုသိုးတို့ကိုငါသိ၏၊
ထာဝရအသက်ကိုငါပေး၏။ထိုသိုးတို့သည်ပျက်စီးခြင်း နှင့်အစည်မ

ပြတ်ကင်းလွတ်လိမ့်မည်။ အဘယ်သူမျှသူတို့ကိုငါ့လက်မှမနှုတ်မယူ
၂၉ ရာ။ ထိုသိုးတို့ကိုငါ့၌အပ်ပေးတော်မူသောငါ့ခမည်းတော်သည်ခပ်
သိမ်းသောသူတို့ထက်ကြီးမြတ်တော်မူသည်ဖြစ်၍ အဘယ်သူမျှထို
၃၀ သိုးတို့ကိုငါ့ခမည်းတော်လက်မှမနှုတ်မယူနိုင်ရာ။ ငါနှင့်ငါ့ခမည်း
တော်သည်တလုံးတဝတည်းဖြစ်ကြ၏ဟုမိန့်တော်မူ၏။

**

၃၁ ထိုအခါယုဒလူတို့သည်ကိုယ်တော်ကိုခဲနှင့်ပြစ်ရအောင်တဖန်ကျော
၃၂ က်ခဲတို့ကိုကောက်ယူကြပြန်၏။ ယေရှုကလည်းငါ့ခမည်းတော်အခွင့်
နှင့်ကောင်းသောအမှုအများတို့ကိုသင်တို့အားငါပြပြီ။ ထိုအမှုတို့
တွင်အဘယ်မည်သောအမှုကြောင့်ငါ့ကိုခဲနှင့်ပြစ်ကြသနည်းဟုမေး
၃၃ တော်မူလျှင် ယုဒလူတို့ကကောင်းသောအမှုကြောင့်ခဲနှင့်ပြစ်သည်မ
ဟုတ်။ သင်သည်လူဖြစ်လျက်ပင်ဘုရားသခင်ဖြစ်ရောင်ဆောင်၍
ဘုရားသခင်ကိုပြစ်မှားသောစကားကြောင့်ခဲနှင့်ပြစ်သည်ဟုဆိုကြ
၃၄ ၏။ ယေရှုကလည်းသင်တို့၏ပညတ္တိကျမ်းစာ၌ကား။ သင်တို့သည်
၃၅ ဘုရားဖြစ်ကြသည်ငါဆို၏ဟုလာသည်မဟုတ်လော။ ဘုရားသခင်
၏ဗျာဒိတ်တော်ကိုခံရသောသူတို့ကိုဘုရားဟူ၍ခေါ်ဝေါ်သည်မှန်
၃၆ လျှင်ရင်ကျမ်းစကားကိုမပယ်အပ်သည်မှန်လျှင်ရင် ခမည်းတော်သည်
သန့်ရှင်းစေ၍ ဤလောကသို့စေလွှတ်တော်မူသောသူသည်ငါကားဘု
ရားသခင်၏သားတော်ဖြစ်သည်ဟုဆိုသောကြောင့်သင်သည်ဘုရား
သခင်ကိုပြစ်မှားသောစကားကိုပြောသည်ဟုထိုသူအားဆိုရာသ
၃၇ လော။ ငါ့ခမည်းတော်၏အမှုတို့ကိုငါမပြုလျှင်ငါ့ကိုမယုံနှင့်။ ပြုလျှင်
၃၈ ငါ့ကိုမယုံသော်လည်းထိုအမှုတို့ကိုယုံကြလော့။ ထိုသို့ယုံလျှင်ခမည်းတော်
သည်ငါ၌ရှိတော်မူသည်ကိုလည်းငါသည်ခမည်းတော်၌ရှိသည်ကိုလည်းယုံ
၃၉ ၍သိမှတ်ကြလိမ့်မည်ဟုမိန့်တော်မူ၏။ ။ထိုအခါကိုယ်တော်
ကိုဖမ်းဆီးရအောင်တဖန်ရှာကြပြန်လျှင်ထိုသူတို့၏လက်မှထွက်
၄၀ ကြွတော်မူ၏။ ယောဟန်သည်ရေနှစ်မင်္ဂလာကိုရှေ့ဦးစွာပေးရာအ
၄၁ ရပ်။ ယော်ဒန်မြစ်နားသို့တဖန်ကြွ၍ထိုအရပ်၌နေတော်မူ၏။ လူအ
များတို့သည်အထံတော်သို့ရောက်လာလျှင်ယောဟန်သည်နိမိတ်
လက္ခဏာကိုမပြ။ သို့သော်လည်းယောဟန်သည်ဤသူကိုပြောသမျှ
၄၂ သောစကားသည်မှန်ပေ၏ဟုဆိုကြသဖြင့် ထိုအရပ်၌လူအများတို့
၁ သည်ကိုယ်တော်ကိုယုံကြည်ခြင်းသို့ရောက်ကြ၏။ ။ညီအစ်မ

မာ ရီနှင့်မာသနေသောဗေသနိရွာသား။ လာဇရုအမည်ရှိသောသူ
၂ တယောက်သည်နာလျက်နေလေ၏။ နာနေသောလာဇရု၏နှစ်မဖြစ်သော မာရိ
ကားသခင်ဘုရားကိုဆီမွှေးနှင့်လိမ်း၍ခြေတော်ကိုမိမိဆံပင်နှင့်သုတ်
၃ သောမာရိဖြစ်သတည်း။ ညီအစ်မတို့သည်အထံတော်သို့စေလိုက်၍
သခင်။ကိုယ်တော်ချစ်တော်မူသောသူသည်နာနေပါသည်ဟုလျှောက်
၄ ကြ၏။ ထိုစကားကိုယေရှုကြားတော်မူလျှင်ထိုအနာသည်သေနာ
မဟုတ်။ဘုရားသခင်၏ဘုန်းတော်ကိုထင်ရှားစေသောအနာဖြစ်၏။
ထိုအနာကြောင့်ဘုရားသခင်၏သားတော်သည်ဘုန်းထင်ရှားခြင်းရှိ
၅ လိမ့်မည်ဟုမိန့်တော်မူ၏။ ယေရှုသည်မာသကိုဎင်သူ၏ညီမနှင့်
၆ လာဇရုကိုဎင်ချစ်တော်မူ၏။ လာဇရုနာသည်ကိုကြားတော်မူလျှင်ကြွ
၇ တော်မမူဘဲ ထို အရပ် ၌ နှစ်ရက်နေတော်မူ၏။ ။ထိုနောက်
မှာတပည့်တော်တို့အား ယုဒပြည် သို့တဖန်သွား ကြစို့ ဟုမိန့်တော်မူ
၈ လျှင် တပည့်တော်တို့ကအရှင်ဘုရား။ ယုဒလူတို့သည်ယခုပင် ကိုယ်
တော်ကိုခဲနှင့်ပြစ်ရအောင်ရှာ ကြံကြ၏။ထိုအရပ်သို့တဖန်ကြွတော်မူ
၉ သလောဟုလျှောက်ကြ၏။ ယေရှုကလည်းတနေ့တွင်တဆယ်နှစ်နာရီ
ရှိသည်မဟုတ်လော။ လူသည်နေ့အခါ၌သွားလာလျှင်နေရောင်အလင်း
၁၀ ကိုမြင်ရသောကြောင့်ထိမိ၍မလဲတတ်။ ညည့်အခါ၌သွားလာလျှင်အ
၁၁ လင်းမရှိသောကြောင့်ထိမိ၍လဲတတ်၏ဟုမိန့်တော်မူပြီးမှ ငါတို့
အဆွေလာဇရုအိပ်ပျော်၏။သူကိုနှိုးရအောင်ငါသွားမည်ဟုမိန့်တော်
၁၂ မူ၏။ သခင်။ သူသည်အိပ်ပျော် လျှင်သက်သာ ရလိမ့်မည်ဟုတ
၁၃ ပည့်တော်တို့သည် လျှောက်ကြ၏။ ယေရှုသည်လာဇရုသေကြောင်း
ကိုရည်မှတ်၍ မိန့်တော်မူသော်လည်းပကတိအိပ်ပျော်ကြောင်းကိုမိန့်
၁၄ တော်မူသည်ဟုတပည့် တော်တို့သည် ထင်မှတ်ကြ၏။ ထိုအခါယေရှု
၁၅ ကလာဇရု သေပြီ။ ထိုအရပ်၌ငါမရှိသဖြင့်သင်တို့ယုံကြည်စရာအ
ကြောင်းရှိသည်ကိုထောက်၍ သင်တို့အတွက်ငါဝမ်းမြောက်ခြင်းရှိ၏။
၁၆ သူ့ဆီသို့ယခုသွားကြစို့ဟုအတည့်အလင်းမိန့်တော်မူ၏။ ဒိဒုမုဟုဆို
လိုသောသောမကာအကျွန်ုပ်တို့လည်း သွား၍ သခင်နှင့်အတူသေကြစို့
ဟုတပည့်တော်ချင်းတို့အားဆို၏။

❋❋

၁၇ ယေရှုသည်ရောက်တော်မူသော် လာဇရုကိုသင်း ဂူတွင်း ၌ထား၍
၁၈ လေးရက်လွန်လေပြီ။ ဗေသနိရွာသည်ယေရုရှလင် မြို့နှင့် အနီး၊တ

၁၉ ထိုင်လောက်ကွာသဖြင့်မာသနှင့်မာရိတို့၏မောင်သေလွန် သည်ဖြစ်
၍သူတို့ကိုနှစ်သိမ့်စေလိုသောဣယုဒလူအများတို့သည်လာကြပြီး။
၂၀ ယေရှုရောက်လာတော်မူသည်ကို မာသ ကြား လျှင် ကိုယ် တော် ကို
၂၁ ကြိုဆိုအောင်သွား၏။ မာရိကားအိမ်၌ထိုင်နေရစ်၏။ မာသက
၂၂ သခင်။ ကိုယ်တော် ရှိ တော် မူလျှင်ကျွန်မ မောင် မသေ ပါ။ ယခုသေ
သော်လည်း ကိုယ်တော်သည် ဘုရား သခင်ကိုဆုတောင်းတော်မူသမျှ
တို့ကိုဘုရားသခင်ပေး တော်မူမည် ကိုကျွန်မ သိပါသည် ဟုလျှောက်
၂၃ ၏။ ယေရှုကလည်းသင်မောင်ထမြောက်လိမ့်မည်ဟုမိန့်တော်မူ၏။
၂၄ မာသကလည်း နောက်ဆုံး သောနေ့၌ ထမြောက် ရာကာလသူ သည်ထ
၂၅ မြောက်မည်ကို ကျွန်မသိပါသည်ဟု လျှောက်၏။ ယေရှုကလည်း ငါ
သည်ထမြောက်ခြင်းအကြောင်း။ အသက်ရှင်ခြင်း အကြောင်း ဖြစ်၏။
၂၆ ငါကိုယုံကြည် သော သူသည် သေလွန်သော်လည်း ရှင်လိမ့်မည်။ ငါကို
ယုံကြည်၍အသက်ရှင်သော သူရှိသမျှတို့သည်လည်း သေခြင်းနှင့်အစဉ်
မပြတ်ကင်းလွတ်လိမ့်မည်။ငါ့စကားကိုယုံသလောဟုမိန့်တော်မူ၏။
၂၇ ယုံပါ၏သခင်။ ကိုယ်တော်သည်ခရစ်တော်တည်းဟူသော ဤ
လောကသို့ကြွလာတော်မူသောဘုရားသခင်၏သားတော်ဖြစ်တော်မူ
၂၈ သည်ကိုကျွန်မယုံပါသည်ဟုလျှောက်၏။ ။ထိုသို့လျှောက်ပြီးမှ
မာသသွား၍ မိမိညီမမာရိအား အရှင်ဘုရား ရောက်လာပြီး။သင်ကို
၂၉ ခေါ်တော်မူ၏ ဟုတိတ်တိတ် ခေါ်လေ၏။ မာရိသည် ထိုစကားကိုကြား
၃၀ လျှင်အလျင်တဆောထ၍အထံတော်သို့သွား လေ၏။ ထိုအခါယေရှု
သည် ရွာထဲသို့ မဝင်သေး။ မာသ ကြိုဆို သော အရပ် ၌ရှိတော်မူသ
၃၁ တည်း။ထိုကြောင့်နှစ်သိမ့်စေသောစကားကိုပြောလျက်မာရိနှင့်အတူ
အိမ်၌ရှိသောယုဒလူတို့သည်မာရိအလျင်တဆောထ၍ ထွက်သည်ကို
မြင်ကြလျှင်သင်းပြိုင်းတွင်းနားမှာငိုကျွေးရအောင်သွားပြီးဟုဆိုသ
၃၂ ဖြင့်သူကိုလိုက်ကြ၏။ မာရိသည်ယေရှုရှိတော်မူရာအရပ်သို့ရောက်
၍ကိုယ်တော်ကိုမြင်လျှင်ခြေတော်ရင်း၌ပျပ်ဝပ်၍သခင်။ကိုယ်တော်
၃၃ ရှိတော်မူလျှင်ကျွန်မမောင်မသေပါဟုလျှောက်၏။ မာရိမှစ၍လိုက်
လာသောယုဒလူ တို့သည် ငိုကျွေး ကြသည်ကို ယေရှုမြင်လျှင် ညည်း
၃၄ တွားသံကိုပြု၍ ပူပန်သောစိတ်တော် ရှိသည် နှင့်အလောင်းကောင်ကို
အဘယ်မှာထားကြသနည်းဟုမေးတော်မူ၏။သခင်။ကြွ၍ကြည့်တော်
၃၅ မူပါဟုလျှောက်ကြ၏။ ယေရှုသည်မျက်ရည်ကျတော်မူ၏။ယုဒလူတို့

၃၆ ကကြည့်ပါ။ လာဇရုကိုအဘယ်မျှလောက်ချစ်တော်မူသည်တကားဟု
၃၇ ဆိုကြ၏။ အချို့တို့က မျက်စိကန်း သောသူကို မြင်စေတော်မူသော်ဤ
သခင်သည်လာဇရု မသေရအောင် ပြုခြင်း ငှါမတတ်နိုင်သလောဟုဆို
၃၈ ကြ၏။ တဖန်ယေရှုသည်ညည်းတွား သံကိုပြုလျက်သင်းပြင်းတွင်း
သို့ရောက်တော်မူ၏။ထိုတွင်းသည်မြေတွင်း ဖြစ်၏။ကျောက်နှင့်ပိတ်
၃၉ ထား၏။ ကျောက်ကို ရွှေကြ တော့ဟု ယေရှုမိန့် တော်မူလျှင်သေလွန်
သောသူ၏ နှမမာသ သကာသခင်။ ယခုဖြစ် လျှင်နံ့လိမ့်မည်လေးရက်ရှိ
၄၀ ပါပြီးဟုလျှောက်၏။ ယေရှုကလည်း သင်သည် ယုံလျှင် ဘုရားသခင်
၏ဘုန်း အာနု ဘော်တော် ကိုမြင်ရ လိမ့် မည်ငါ ဆို ပြီး မဟုတ်လော
၄၁ ဟုမိန့်တော်မူ၏။ ထိုအခါကျောက်ကိုရွှေကြ၏။ယေရှုသည်လည်းအ
ထက်သို့ကြည့်မျှော်လျက်အဖ။ကိုယ်တော်သည်အကျွန်ုပ်စကားကိုနား
၄၂ ထောင်တော်မူသောကျေးဇူးတော်ကြီးလှပါ၏။ ကိုယ်တော်သည်အ
ကျွန်ုပ်စကားကိုအစဉ်မပြတ်နားထောင် တော်မူသည်ကို အကျွန်ုပ်သိ
ပါ၏။ သို့သော်လည်းကိုယ်တော်သည်အကျွန်ုပ်ကိုစေလွှတ်တော်မူ
သည်ကိုဝန်း ရံလျက်ရှိသော လူအပေါင်း တို့သည် ယုံကြည် ရအောင်ထို
၄၃ သူတို့အကျိုးအလို ငှါ ဤသို့အကျွန်ုပ်လျှောက်ပါ၏ဟု မိန့်မြွက်တော်မူ
ပြီးမှလာဇရု။ထွက်လာတော့ဟု ကြီးသောအသံနှင့်ဟစ်ခေါ်တော်မူ၏။
၄၄ ထိုအခါ သေလွန်သောသူသည် မိမိခြေလက်၌ပုဆိုး နံ့ငယ်နှင့်ရစ်ပတ်
လျက်မျက် နှာလည်းပဝါနှင့်ဖုံးအုပ်လျက် ထွက်လာ ၏။ ယေရှုကလည်း
၄၅ သူကိုဖြည်၍လွှတ်ကြတော့ ဟုမိန့်တော်မူ၏။ ထိုအခါမာရိဆီသို့လာ
သော ယုဒလူ အများ တို့သည်ပြု တော် မူ သော အမှုကို မြင် လျှင်ကိုယ်
၄၆ တော်ကိုယုံကြည်ကြ၏။ အချို့တို့သည်လည်း ဖာရိရှဲလူတို့ ဆီသို့သွား
၍ယေရှုပြုတော်မူသောအမှုကိုပြောကြလေ၏။

**

၄၇ ထိုအခါ ယဇ်ပုရောဟိတ် အကြီး တို့နှင့် ဖာရိရှဲ လူများ သည် လွှတ်အ
ရာ ရှိတို့ကိုစည်းဝေး စေသဖြင့်ငါတို့သည် အဘယ်သို့ပြုကြသနည်း။
၄၈ ထိုသူသည်များ သောနိမိတ်လက္ခဏာ ကိုပြ၏။ သူကိုဤသို့အလွတ်
ထားလျှင်လူအားလုံးတို့သည်ယုံကြည်လိမ့်မည်။ ရောမလူ တို့သည်
သည်းလာ ၍ ငါတို့အရပ် ဌာနကိုရှင် ငါတို့အမျိုး ကိုရှင်သုတ် သင်ပယ်
၄၉ ရှင်းလိမ့်မည်ဟုဆိုကြ၏။ သူတို့အဝင်ဖြစ်၍ ကယာဖအမည်ရှိသော
သူတည်းဟူသော။ ထို နှစ်တွင်ယဇ်ပုရောဟိတ်မင်း လုပ်သော သူက

၅၀ သင်တို့သည် ဘာမျှမသိကြ။ယုဒလူမျိုးအကုန်ပျက်စီး သည်ထက်လူတ
ယောက်သည်လူများတို့အတွက်သေသော်သာ၍ကောင်းသည်ဟုသင်
၅၁ တို့မဆင်ချင်သည်တကားဟုဆို၏။ထိုစကားကိုကိုယ်အလိုအလျောက်
ပြောသည် မဟုတ်။ ထိုနှစ်တွင် ယဇ်ပုရောဟိတ်မင်း ဖြစ်လျက် ယေရှု
၅၂ သည် ထို အမျိုး အတွက် သေ လိမ့်မည် ဟူ၍ ၎င်း ထိုအမျိုး အတွက် သာ
သေမည်မဟုတ်။ အရပ်ရပ်ကွဲပြား လျက် ရှိသောဘုရားသခင်၏သား
များကိုအတူစုဝေး စေခြင်း ငှါသေလိမ့်မည်ဟူ၍၎င်ပရောဖက်ဉာဏ်
၅၃ နှင့်ဟောပြော၏။ ထိုနေ့မှစ၍ကိုယ်တော်၏အသက်ကိုသတ်ရအောင်
၅၄ တိုင်ပင်ကြံစည်ကြ၏။ ထိုကြောင့် ယေရှုသည်နောက်တဖန်ယုဒလူ
တို့တွင်ထင်ရှားစွာမလှည့်လည် ဘဲလျက်ထိုအရပ်မှထွက် ၍ တောနှင့်
အနီး၊ဧဖရိမ်အမည်ရှိသောမြို့သို့ကြွ ၍ တပည့်တော်တို့နှင့်အတူတကွ
၅၅ နေတော်မူ၏။ ။ယုဒပသခါပွဲခံခါနီးတွင်လူအများတို့သည်မိမိ
တို့ကိုသန့်ရှင်း စေခြင်း ငှါပွဲမခံမှီအရပ်ရပ်တို့မှယေရုရှလင်မြို့သို့သွား
၅၆ ကြ၏။ ထိုသူတို့ သည်ယေရှုကို ရှာ ဖွေ၍ အချင်းတို့။ အဘယ် သို့ထင်
ကြသနည်း။သူသည်ပွဲဆီသို့မလာသလော ဟုဗိတ်မှာန်တော်၌ရပ်လျက်
၅၇ အချင်းချင်းဆိုကြ၏။ ထိုအခါအဘယ်သူသည်ယေရှုရှိရာအရပ်ကိုသိ
လျှင်သူကိုဖမ်းဆီး အောင်ပြသွန်ရမည် ဟုယဇ်ပုရောဟိတ်အကြီးတို့
၁ နှင့်ဖာရိရှဲလူတို့ သည်မှာ ခဲ့ကြပြီး။ ။ပသခါပွဲခံမည် ခြောက်
ရက်လိုသောအခါအထက်ကသေလွန်၍သေခြင်းမှထမြောက် စေတော်
**မူသော လာ ဇရုနေရာ အရပ် ဗေသ နိရွာ သို့ယေရှု ရောက် တော်မူ ၏။**
၂ ရောက်တော်မူသော့ ကြောင့် ထိုသူတို့ သည် ပွဲလုပ်ကြသဖြင့်မာသ
သည်လုပ်ကျွေးမှုကိုဆောင်၍လာဇရုသည်ကိုယ်တော်နှင့်အတူထိုင်နေ
၃ သောသူတို့အဝင်ဖြစ်၏။ ထိုအခါမာရိသည်အဖိုးများစွာထိုက်သော
နာဒုဆီမွှေးစစ်အကျပ်သုံးဆယ်ကိုယူလျက်ယေရှု၏ ခြေတော်ကိုလိမ်း
၍မိမိဆံပင်နှင့်သုတ်သဖြင့်ထိုဆီ၏အမွှေးသည်တအိမ်လုံးကိုနှံ့ပြား
၄ လေ၏။ တပည့်တော်တို့အဝင်ဖြစ်၍ကိုယ်တော်ကိုအပ်နှံမည်သူ၊ ရှိမုန်
၅ ၏သားယုဒရှကာရုတ်က ထိုဆီမွှေးကိုဒေနာရိအပျားသုံးရာအဖိုး နှင့်
ရောင်း၍ဆင်းရဲသောသူတို့အားအဘယ်ကြောင့်မပေး သနည်းဟုဆို
၆ ၏။ ထိုသို့ဆိုသော်ဆင်းရဲသောသူတို့အကျိုးကိုထောက်၍ဆိုသည်
မဟုတ်။မိမိသည်သူခိုးဖြစ်လျက်တပည့်တော်များ သုံးရန်ငွေအိတ်ကို
၇ ဆောင်၍ နှိုက်ယူ တတ်သော့ ကြောင့်ဆို သတည်း။ ယေရှုသည် လည်း

ထိုမိမ္မကိုရှိပါလေစေတော့။ ငါအလောင်းကိုသင်းဂြိုဟ်ခြင်း၌ပြင်ဆင်
၈ သောနေ့တိုင်အောင်ဤဆီမွှေးကိုသူသည်သိုထားပြီး။ဆင်းရဲသောသူ
တို့ကားသင်တို့၌ အစဉ်ရှိကြ၏။ ငါမူကားသင် တို့၌အစဉ်ရှိသည်မ
၉ ဟုတ်ဟုမိန့်တော်မူ၏။ ။ထိုအရပ်၌ယေရှုရှိတော်မူသည်ကို
ယုဒလူများအပေါင်းတို့သည်သိလျှင်ကိုယ်တော်ကြောင့်သာလာသည်
မဟုတ်။ သေခြင်းမှထမြောက်စေတော်မူသောလာဇရုကိုမြင်ခြင်း၌ါ
၁၀ လာကြ၏။ ထိုသို့ယုဒလူအများတို့သည် လာဇရုကိုအကြောင်း ပြုသ
၁၁ ဖြင့် ထွက် သွား ၍ ယေရှုကို ယုံကြည် သော့ကြောင့် ယဇ်ပရောဟိတ်အ
ကြီးတို့သည်လာဇရုကိုလည်းသတ်ရအောင်တိုင်ပင်စီရင်ကြ၏။

❋❋

၁၂ နက်ဖန်နေ့၌ယေရှုသည်ယေရှုရှလင်မြို့သို့ကြွလာတော်မူသည်ကိုပွဲဆီ
၁၃ သို့လာသောလူအစုအဝေးအပေါင်း တို့သည်ကြားရလျှင် ထန်းလက်
များ ကိုကိုင် လျက် ကိုယ် တော် ကို ကြို ဆို အံ့ သော ၌ါ ထွက် သွား ကြ၍
ဟောရှဏ္ဏာဖြစ်စေသတည်း။ ထာဝရဘုရား၏အခွင့်နှင့်ကြွလာတော်
မူသော ဣသရေလ ရှင်ဘုရင် အား မင်္ဂလာ ဖြစ် စေ သ တည်း ဟု ကြွေး
၁၄ ကျော်ကြ၏။ ကျမ်းစာ၌လာသည်ကား။ဇိအုန်သတို့သမီး။မစိုးရိမ်ပါနှင့်။
၁၅ သင်၏အရှင်မင်းကြီးသည်မြည်းကလေးကိုစီး၍သင်ဆီသို့ကြွလာတော်မူ
သည်ကိုကြည့်ပါဟုရေးထား သည် နှင့်အညီယေရှုသည် မြည်းကလေးကို
၁၆ တွေ့၍ စီးတော်မူ၏။ ထိုအကြောင်းအရာကိုတပည့်တော်တို့သည်အစ
အဦး၌ခွားမလည်သော်လည်းကိုယ်တော်ကို ရည်မှတ်၍ထိုသို့ရေးထား
သည်ကိုင်ကိုယ် တော်အား ထိုသို့ပြု ကြသည် ကိုင် ဘုန်း ဖွင့်တော်မူ
၁၇ သောနောက်သူတို့သည်သတိရ၍မှတ်မိကြ၏။ ။နောက်တော်သို့
လိုက်သောလူအစုအဝေးတို့သည်ကားလာဇရုကိုသင်းဂြိုင်းတွင်းမှခေါ်
၍သေခြင်းမှထမြောက်စေတော်မူသည်အကြောင်းကိုသက်သေခံကြ၏။
၁၈ ထိုနိမိတ်လက္ခဏာကိုပြတော်မူသည်ဟုလူများတို့သည်သိတင်းကြား
၁၉ သော့ကြောင့်ကြိုဆိုအံ့သော၌ါထွက်သွားကြ၏။ဖာရိရှဲလူအချင်းချင်း
တို့လည်းသင်တို့သည်ဘာမျှမတတ်နိုင်။ဤလောကသည်သူနောက်သို့
၂၀ လိုက်သွားပြီးတကားဟုဆိုကြ၏။ ကိုးကွယ်ခြင်းအမှုနှင့်ထိုပွဲဆီသို့
၂၁ ရောက်လာသောသူတို့တွင် ဟေလသလူအချို့ပါ၏။ ထိုသူတို့သည်
ဂါလိလဲပြည်။ ဗက်ဇဲဒမြို့သားဖြစ်သောဖိလိပ္ပုဆီသို့သွား၍အကျွန်ုပ်
တို့သည်ယေရှုကိုမြင်ချင်ပါသည်ခင်ဘုရားဟုတောင်းပန်ကြ၏။

၂၂ ဖိလိပ္ပုသွား၍အန္ဒြေကိုကြား‌ပြီးမှထိုသူနှစ်ယောက်တို့သည်ယေရှုကို
၂၃ လျှောက်၏။ ယေရှုကလည်းလူသားသည်ဘုန်းပွင့်ရသောအချိန်
၂၄ ရောက်လာပြီ။ ငါအမှန်အကန်ဆိုသည်ကားမြေ၌ကျသောစပါးစေ့မ
ပျက်လျှင်တခုတည်းနေ၏။ ပျက်လျှင်များစွာသောအသီးကိုသီးတတ်၏။
၂၅ မိမိအသက်ကိုနှစ်မြို့သောသူသည်အသက်ဆုံးလိမ့်မည်။ဤလောက
၌မိမိအသက်ကိုမုန်းသောသူသည်ထာဝရအသက်ကိုစောင့်ရှောက်
၂၆ လျက်နေ၏။ ငါ့အမှုကိုဆောင်ရွက်သောသူဖြစ်လျှင်ငါ့နောက်သို့
လိုက်ရမည်။ငါ့အမှုကိုဆောင်ရွက်သောသူသည်လည်းငါရှိရာအရပ်
၌ရှိလိမ့်မည်။ ငါ့အမှုကိုဆောင်ရွက်သောသူဖြစ်လျှင်ထိုသူကိုခမည်း
၂၇ တော်ချီးမြှောက်တော်မူလတ္တံ့။ ။ယခုတွင်ငါ့စိတ်နှလုံးပူပန်
ခြင်းရှိ၏။ အဘယ်သို့ငါလျှောက်ရမည်နည်း။ ဤအချိန်မှအကျွန်ုပ်ကို
ကယ်တင်တော်မူပါအဖဟုလျှောက်ရမည်လော။အကြောင်းရှိ၍သာဤ
၂၈ အချိန်သို့ရောက်လာပြီ။အိုအဖ။ကိုယ်တော်၏နာမကိုချီးမြှောက်တော်
မူပါဟုမိန့်မြွက်တော်မူ၏။ ထိုအခါကောင်းကင်မှစကားသံကား။ငါ
၂၉ ချီးမြှောက်ခဲ့ပြီး။တဖန်ချီးမြှောက်လေဦးမည်ဟုလာ၏။ ဝန်းရံလျက်
ရှိသောအစုအဝေးတို့သည်ကြားလျှင်မိုးချုန်းသည်ဟုဆိုကြ၏။
အချို့သောသူတို့ကကိုယ်တော်အားကောင်းကင်တမန်မြွက်သည်
၃၀ ဟုဆိုကြ၏။ ယေရှုကထိုစကားသံသည်ငါ့အဖို့အလို့ငှါလာသည်မ
၃၁ ဟုတ်။သင်တို့အဖို့အလို့ငှါလာ၏။ ယခုတွင်ဤလောကသည်တရား
စီရင်ခြင်းကိုခံရ၏။ယခုတွင်ဤလောကကိုအစိုးရသောမင်းသည်ပြင်
၃၂ သို့နှင်ထုတ်ခြင်းကိုခံရလိမ့်မည်။ ငါသည်လည်းမြေကြီးနှင့်ကွာ၍
မြှောက်ထားခြင်းကိုခံလျှင်လူအပေါင်းတို့ကိုငါ့ဆီသို့ငါဆွဲလိမ့်မည်
၃၃ ဟုမိန့်တော်မူ၏။ ထိုသို့မိန့်တော်မူသော်မိမိသည်အဘယ်သို့သေရ
၃၄ မည်အရိပ်ကိုပေးတော်မူ၏။ လူများတို့လည်း ခရစ်တော်သည်အ
စဉ်ထာဝရတည်သည်ဟုပညတ္တိကျမ်း၌လာကြောင်းကိုအကျွန်ုပ်တို့
ကြားသိရပြီ။သို့ဖြစ်လျှင်လူသားသည်မြှောက်ထားခြင်းကိုခံရမည်
ဟုသင်သည်အဘယ်သို့ဆိုသနည်း။ ထိုလူသားသည်အဘယ်သူ
၃၅ နည်းဟုဆိုကြ၏။ ယေရှုကလည်းအလင်းသည်သင်တို့တွင်ခဏသာ
၃၆ ရှိ၏။ အလင်းရှိတုန်းခါသွားလာကြလော့။သို့မဟုတ်။မှောင်မိုက်သည်
သင်တို့ကိုဖုံးလွှမ်းလိမ့်မည်။မှောင်မိုက်၌သွားသောသူသည်အဘယ်
ဆီသို့ကိုယ်သွားသည်ကိုကိုယ်မသိ။ အလင်းရှိတုန်းခါအလင်း၏သား

ဖြစ်ရ အောင် အလင်း ကိုရုံကြည် ကြ လော့ ဟု မိန့် တော်မူ ၏။ ထိုသို့မိန့်
တော်မူပြီးမှယေရှုသည်ထိုသူ တို့အထဲမှမထင်မရှားထွက်ကြွတော်မူ၏။

**❋❋**

၃၇ ထိုမျှလောက်ကြီး သော နိမိတ်လက္ခဏာ တို့ကို သူတို့မျက် မှောက် ၌ပြု
၃၈ တော်မူသော်လည်း သူတို့သည် ရုံကြည်ခြင်း သို့မရောက်ကြ။ ပရော
ဖက်ဟေရှာယ ဟောဘူး သည် ကား။ အိုထာဝရ ဘုရား။ အကျွန်ုပ်တို့
ဟောပြော သော သိတင်းစကား ကိုအဘယ် သူရုံသနည်း။ ထာဝရဘု
ရား၏ လက်တော်သည်အဘယ်သူအား ထင်ရှား ရှိတော်မူသနည်းဟူ
၃၉ သောစကား သည်ပြည့်စုံခြင်း သို့ရောက်သတည်း။ ပရောဖက်ဟေ
၄၀ ရှာယတဖန်ဟောဘူးသည်ကား။ သူတို့မျက်စိမမြင်ရ။ စိတ်နှစ်လုံးနား
မလည်ရ။ အကျင့်မပြောင်းလဲရ။ သူတို့အနာ ရောဂါ ကိုငါမညိမ်းစေ
ရမည် အကြောင်း။ သူတို့ မျက်စိ ကိုကွယ် စေတော်မူ၏။ သူတို့စိတ်နှစ်
လုံးကိုမိုက်စေတော်မူ၏ ဟူသောစကားကြောင့်ထိုသူတို့သည် ရုံကြည်
၄၁ ခြင်းသို့မရောက်နိုင်ကြ။ ဟေရှာယသည်ဘုန်း အာနုဘော်တော်ကို
မြင်၍ဗျာဒိတ်တော်ကိုပြန်စည်တွင် ထိုစကားကိုဟောပြောသတည်း။
၄၂ သို့ သော် လည်း အရာ ရှိ အများ တို့သည် ကိုယ် တော် ကို ရုံ ကြည် ကြ
၏။တရားဇရပ်မှဖာရိရှဲလူတို့သည်နှင်ထုတ်မည်စိုး ရိမ်သောကြောင့်
၄၃ ထင်ရှားစွာဝန်မခံကြ။ အဘယ်ကြောင့်နည်းဟူမူကား။ဘုရားသခင်
ပေးတော်မူသောဘုန်း အသရေထက်လူတို့ပေး သော ဘုန်းအသရေကို
၄၄ သာ၍နှစ်သက်ကြ၏။ ။ထိုအခါယေရှုကငါကိုရုံကြည်သောသူသည်
ငါကိုသာ ရုံကြည် သည် မဟုတ်။ ငါကို စေလွှတ် တော်မူ သော သူကိုရုံ
၄၅ ကြည်၏။ ငါကိုကြည့်ရှုသော သူသည်ငါကိုစေလွှတ်တော်မူသောသူ
၄၆ ကိုကြည့်ရှု၏။ ငါကိုရုံကြည်သမျှသော သူတို့သည် မှောင်မိုက်၌မနေရ
၄၇ အောင်ငါသည်အလင်းဖြစ်လျက်၍လောကသို့ကြွလာပြီ။ ငါစကား
ကိုကြားသော သူသည်မရုံကြည်ဘဲနေလျှင်ထိုသူအား ငါသည်အပြစ်မစီ
ရင်။ လောကီ သား တို့အား အပြစ်စီ ရင်ရ အောင် ငါလာသည် မဟုတ်။
၄၈ လောကီသားတို့ကိုကယ်တင်ရအောင်ငါလာ၏။ ငါကိုပယ်၍ငါစကား
ကိုနားမခံသောသူ အား အပြစ်စီရင်သော သူရှိသေး ၏။ ငါဟောပြော
သောစကားပင်နောက်ဆုံးသောနေ့၌ထိုသူအားအပြစ်စီရင်လိမ့်မည်။
၄၉ အဘယ်ကြောင့်နည်း ဟူမူကား။ ငါသည်ကိုယ်အလိုအလျောက် ဟော
ပြောသည် မဟုတ်။ ငါကိုစေလွှတ် တော်မူ သောခမည်း တော်သည်အ

ဘယ်သို့ငါဆိုရမည် ဟောပြော ရမည် ကိုပညတ်ပေးတော်မူပြီ။ခမည်း
၅၀ တော်၏ပညတ်တော်သည်ထာဝရအသက်ဖြစ်၏။ ထိုကြောင့်ဟော
ပြောသမျှတို့ကိုခမည်းတော်မှာထားတော်မူသည့်အတိုင်းငါဟောပြော
၁ ၏ဟုကြွေးကြော်၍မိန့်တော်မူ၏။ ။ပသခါပွဲမခံမှီ၌ယေရှုသည်ဤ
လောကမှခမည်းတော်ထံသို့ပြောင်းရသောအချိန်ရောက်သည်ကိုသိ
တော်မူသည်ဖြစ်၍ဤလောက၌ရှိသောမိမိလူတို့ကိုချစ်တော်မူသဖြင့်
၂ အဆုံးတိုင်အောင်ချစ်တော်မူ၏။ ကိုယ်တော်ကိုအပ်နှံမည်အကြောင်း။
မာရ်နတ် သည် ရှိမုန် သား ယုဒရှကာရုတ်၏ စိတ်နှလုံး ၌အကြံပေး
၃ သွင်းနှင့်သတည်း။ ထိုအခါညစာကိုစားကြစဉ် ယေရှုသည်ကားခ
မည်းတော်သည်သူ၏လက်သို့အလုံးစုံတို့ကိုအပ်ပေးတော်မူသည်ကို
၎င်းသူသည်ဘုရားသခင်ထံတော်မှထွက်လာသည်ကို၎င်းဘုရားသ
၄ ခင်ထံတော်သို့ကြွသွားသည်ကို၎င်းသိတော်မူလျက်ပင် ညစာမှထ၍
၅ ဝတ်လုံတော်ကိုချွတ်ပြီးမှပဝါကိုယူ၍ခါးကိုစည်းတော်မူ၏။ ထိုနောက်
မှာရေကိုအင်တုံ၌လောင်းသဖြင့်တပည့်တော်တို့၏ခြေကိုဆေး၍ခါး
၆ ၌စည်းသောပဝါနှင့်သုတ်တော်မူ၏။ ။ရှိမုန်ပေတရုဆီသို့
ရောက်တော်မူသောအခါ ထိုတပည့်တော်ကသခင်။ ကိုယ်တော်သည်
၇ ကျွန်တော်ခြေကိုဆေးတော်မူသလောဟုလျှောက်၏။ ယေရှုကလည်း
ငါပြုသောအမှုကိုသင်သည်ယခုနားမလည်သေး။ နောက်မှာသိလိမ့်
၈ မည်ဟုမိန့်တော်မူ၏။ ပေတရုကလည်း ကျွန်တော်ခြေကိုကိုယ်တော်
သည်အလျှင်းဆေးတော်မမူရဟုလျှောက်၏။ ယေရှုကလည်းသင်ကို
၉ ငါမဆေးလျှင်သင်သည်ငါနှင့်မဆက်ဆံရဟုမိန့်တော်မူ၏။ ရှိမုန်ပေ
တရုကလည်းကျွန်တော်ခြေကိုသာမဆေးပါနှင့်။ လက်ကို၎င်းဦးခေါင်း
၁၀ ကို၎င်းဆေးတော်မူပါဟုလျှောက်ပြန်၏။ ယေရှုကလည်းရေချိုးပြီး
သောသူမည်သည်ကားခြေကိုထား၍ဆေးရသောအကြောင်းမရှိ။ တ
ကိုယ်လုံးစင်ကြယ်၏။ သင်တို့သည်စင်ကြယ်သော်လည်းအားလုံးစင်
၁၁ ကြယ်သည်မဟုတ်ဟုမိန့်တော်မူ၏။ ကိုယ်တော်ကိုအပ်နှံသောသူ
ကိုသိတော်မူသောကြောင့် သင်တို့အားလုံးစင်ကြယ်သည်မဟုတ်ဟု
မိန့်တော်မူသတည်း။

**

၁၂ ထိုသို့သူတို့၏ခြေကိုဆေးတော်မူပြီး မှဝတ်လုံကိုဝတ်၍တဖန်ထိုင်
၁၃ တော်မူလျှင်သင်တို့၌ငါပြုခဲ့သောအမှုကိုနားလည်ကြသလော။ ငါကို

အရှင်ဘုရားဟူ၍ ရှင်သခင်ဟူ၍ ငါ့ကိုသင်တို့သည်ခေါ်ခေါ်ကြ၏၊ ထိုစ
ကားသည်လည်းဟုတ်၏၊ သောကြောင့်ဖြစ်၏၊ အဘယ်ကြောင့်နည်းဟုမူကား။
၁၄ ငါသည်ထိုအတိုင်းပင်ဖြစ်နေ၏။ ငါသည်သခင်ဖြစ်လျက်ဆရာ
ဖြစ်လျက်သင်တို့၏ခြေတို့ကိုဆေးသောကြောင့်၊ သင်တို့သည်အချင်းချင်းခြေ
၁၅ ကိုဆေးကြစေ၊ ငါသည်သင်တို့၌ပြုသကဲ့သို့သင်တို့ပြုရအောင်
၁၆ ပုံသက်သေကိုပေးခဲ့ပြီ။ ငါအမှန်အကန်ဆိုသည်ကား၊ ကျွန်သည်သ
ခင်ထက်သာ၍ကြီးမြတ်သည်မဟုတ်၊ တမန်သည်လည်းစေလွှတ်သော
၁၇ သူထက်သာ၍ကြီးမြတ်သည်မဟုတ်၊ ဤအရာများကိုသင်တို့သိ
၁၈ ၍ထိုသည့်အတိုင်းကျင့်လျှင်မင်္ဂလာရှိ၏။ သင်တို့အားလုံးကိုငါရည်
ဆောင်၍ပြောသည်မဟုတ်၊ ငါရွေးကောက်သောသူတို့ကိုငါသိ၏။ ကျမ်း
စာကိုပြည့်စုံစေခြင်းအကြောင်း၊ ငါနှင့်အတူစားသောသူသည်ငါ့ကို
၁၉ ခြေနှင့်ကျောက်သတည်း။ ထိုအမှုအရာရောက်သောအခါငါသည်
အဘယ်သူဖြစ်မှန်းကိုသင်တို့ယုံကြည်ရအောင်မရောက်မှီယခုပင်
၂၀ သင်တို့အားငါပြောနှင့်ပြီ။ ငါအမှန်အကန်ဆိုသည်ကား၊ ငါစေ
လွှတ်သောသူကိုလက်ခံသောသူသည်ငါ့ကိုလက်ခံ၏။ ငါ့ကိုလက်ခံသော
သူသည်ငါ့ကိုစေလွှတ်တော်မူသောသူကိုလက်ခံသည်ဟုမိန့်တော်မူ
၂၁ ၏။ ။ထိုသို့ယေရှုသည်မိန့်တော်မူပြီးမှစိတ်နှစ်လုံးတော်ပူပန်
ခြင်းသို့ရောက်၍ ငါအမှန်အကန်ဆိုသည်ကား။ သင်တို့တွင် တစုံတ
ယောက်သောသူသည်ငါ့ကိုအပ်နှံလိမ့်မည်ဟုသက်သေခံသဖြင့်မိန့်
၂၂ တော်မူ၏။ အဘယ်သူကိုရည်ဆောင်၍မိန့်တော်မူသည်ကိုတပည့်
တော်တို့သည်တွေးတောခြင်းရှိသဖြင့်အချင်းချင်းတယောက်ကိုတ
၂၃ ယောက်ကြည့်ရှုကြ၏။ ယေရှုချစ်တော်မူသောတပည့်တော်တယောက်
၂၄ သည်ရင်ပြင်တော်နားမှာထိုင်နေသဖြင့် အဘယ်သူကိုရည်ဆောင်
၍မိန့်တော်မူသနည်းဟုမေးရအောင်ရှိမုန်ပေတရုကသူ့အားအမှတ်
၂၅ ပေးလေ၏။ ထိုတပည့်တော်သည်ယေရှု၏ရင်တော်ကိုမှီ၍လျောင်း
၂၆ နေလျက်သခင်။ အဘယ်သူနည်းဟုလျှောက်၏။ ယေရှုကလည်း ဤမုန့်
တလုပ်စာကိုငါနှစ်၍ပေးသောသူပေတည်းဟုမိန့်တော်မူလျှင်မုန့်တ
လုပ်စာကိုနှစ်ပြီးမှရှိမုန်၏သား ယုဒရှကာရုတ်အား ပေးတော်မူ၏။
ထိုသူသည်မုန့်တလုပ်စာကိုခံပြီးမှမာရ်နတ်စာတန်သည်သူ့အထဲသို့
၂၇ ဝင်လေ၏။ ယေရှုကလည်းသင်သည်ပြုသောအမှုကိုအသော့ပြုပါဟု
၂၈ ထိုသူ့အားမိန့်တော်မူ၏။ အဘယ်ကြောင့်ထိုသို့မိန့်တော်မူသည်ကို

၂၉ စားပွဲ၌ထိုင်သောသူတို့တွင်အဘယ်သူမျှမသိ။ အချို့တို့ကယုဒရှကာ
ရုတ်သည်ငွေအိတ်ကိုဆောင်သောကြောင့်ဤပွဲ၌ငါတို့သုံးစရာအဖို့ကို
ဝယ်တော့ဟူ၍၎င်သို့မဟုတ်။ဆင်းရဲသောသူတို့အားတစုံတခုကိုပေး
၃၀ တော့ဟူ၍၎င်ယေရှုမိန့်တော်မူသည်ဟုထင်မှတ်ကြ၏။ ယုဒရှကာရုတ်
သည်မုန့်တလုပ်စာကိုခံပြီးမှချက်ချင်းထွက်သွား၏။ ထိုအချိန်ကား
၃၁ ညအချိန်ဖြစ်၏။ ။ထိုသူထွက်သွားသောနောက်ယေရှုက
ယခုတွင်လူသားသည်ဘုန်းထင်ရှားခြင်းရှိသည်ဖြစ်၍ဘုရားသခင်
၃၂ သည်လည်းသူအားဖြင့်ဘုန်းတော်ထင်ရှားခြင်းရှိ၏။ ဘုရားသ
ခင်သည်သူအားဖြင့်ဘုန်းတော်ထင်ရှားခြင်းရှိလျှင်ဘုရားသခင်သည်
ကိုယ်တော်အားဖြင့်သူ၏ဘုန်းကိုထင်ရှားစေတော်မူလိမ့်မည်။ကာ
၃၃ လမကြာမမြင့်ပင်သူ၏ဘုန်းကိုထင်ရှားစေတော်မူလိမ့်မည်။ ချစ်
သားတို့။ ငါသည်သင်တို့နှင့်အတူခဏသာရှိသေး၏။သင်တို့သည်ငါ
ကိုရှာကြလိမ့်မည်။ငါသွားရာအရပ်သို့သင်တို့မရောက်နိုင်ကြဟုယု
၃၄ ဒလူတို့အားငါဆိုသကဲ့သို့ယခုသင်တို့အားငါဆို၏။ သင်တို့သည်
အချင်းချင်းတယောက်ကိုတယောက်ချစ်ကြလော့။ငါသည်သင်တို့ကို
ချစ်သည်နည်းတူအချင်းချင်းချစ်ကြလော့ဟုပညတ်သစ်ကိုငါပေး
၃၅ ၏။ သင်တို့သည်အချင်းချင်းချစ်ကြလျှင်လူအပေါင်းတို့သည်ထို
မေတ္တာကိုထောက်၍ သင်တို့သည်ငါတပည့်ဖြစ်မှန်းကိုသိရကြလိမ့်
မည်ဟုမိန့်တော်မူ၏။

❋❋

၃၆ ရှိမုန်ပေတရုကသခင်။ကိုယ်တော်သည်အဘယ်ဆီသို့ကြွတော်မူမည်
နည်းဟုမေးလျှောက်လျှင်ယေရှုကငါသွားရာအရပ်သို့သင်သည်ယခုမ
၃၇ လိုက်နိုင်။နောက်မှာလိုက်ရလိမ့်မည်ဟုမိန့်တော်မူ၏။ ပေတရုကလည်း
သခင်။ကျွန်တော်သည်ကိုယ်တော်နှင့်အတူအဘယ်ကြောင့်ယခုမ
လိုက်နိုင်သနည်း။ကိုယ်တော်အဖို့ကျွန်တော်အသက်ကိုစွန့်ပါမည်ဟု
၃၈ လျှောက်လျှင် ယေရှုကငါ့အဖို့သင်အသက်ကိုစွန့်မည်လော။ ငါအမှန်
အကန်ဆိုသည်ကား။ကြက်မတွန်မှီသင်သည်သုံးကြိမ်မြောက်အောင်
၁ ငါကိုငြင်းပယ်လိမ့်မည်ဟုပြန်၍မိန့်တော်မူ၏။ ။တဖန်တုံ။
ယေရှုကသင်တို့စိတ်နှစ်လုံးပူပန်ခြင်းမရှိစေနှင့်။ဘုရားသခင်ကိုရုံ
၂ ကြည်ကြလော့။ငါကိုလည်းရုံကြည်ကြလော့။ ငါ့အဘ၏အိမ်တော်၌နေ
စရာအခမ်းအများရှိ၏။သို့မဟုတ်လျှင်မဟုတ်ကြောင်းကိုသင်တို့အား

ငါမပြောဘဲမနေ။ သင်တို့နေစရာအရပ်ကိုပြင်ဆင်ရအောင်ငါသွား
၃ ၏။ ငါသွား၍ သင်တို့နေစရာအရပ်ကိုပြင်ဆင်ပြီးမှ တဖန်ငါ
လာပြန်၍ ငါရှိရာအရပ်၌သင်တို့ရှိရအောင်သင်တို့ကိုငါ့ဆီသို့သိမ်း
၄ ဆည်းလိမ့်မည်။ ငါသည်အဘယ်ဆီသို့သွားသည်ကိုရင်လမ်းခရီး
၅ ကိုရင်သင်တို့သိကြ၏ ဟုမိန့်တော်မူ၏။ သောမကလည်း၊သခင်၊
ကိုယ်တော်သည်အဘယ်သိသို့သွားတော်မူသည်ကိုအကျွန်ုပ်တို့မသိ
သည်ဖြစ်၍ လမ်းခရီးကိုအဘယ်သို့သိနိုင်ပါမည်နည်း ဟုလျှောက်
၆ လျှင် ယေရှုကငါသည်လမ်းခရီးဖြစ်၏။သမ္မာတရားလည်းဖြစ်၏။
အသက်လည်းဖြစ်၏။ ငါ့ကိုအမှီမပြုဘဲ အဘယ်သူမျှခမည်းတော်ထံ
၇ သို့မရောက်ရာ။ သင်တို့သည်ငါ့ကိုသိလျှင်ငါ့ခမည်းတော်ကိုမသိ
ဘဲမနေကြ။ယခုမှစ၍ခမည်းတော်ကိုသိမြင်ကြ၏ ဟုမိန့်တော်မူ၏။
၈ ။ဖိလိပ္ပုကလည်း၊သခင်၊ခမည်းတော်ကိုအကျွန်ုပ်တို့အားပြတော်
၉ မူပါ။ထိုသို့အကျွန်ုပ်တို့အလိုပြည့်စုံပါမည်ဟုလျှောက်လျှင် ယေ
ရှုကဖိလိပ္ပု၊ ဤမျှကာလပတ်လုံး ငါသည်သင်တို့နှင့်အတူရှိပြီးမှသင်
သည်ငါ့ကိုမသိသေးသလော။ငါ့ကိုမြင်သောသူသည်ခမည်းတော်ကို
မြင်၏။သို့ဖြစ်လျှင်ခမည်းတော်ကိုအကျွန်ုပ်တို့အားပြတော်မူပါဟု
၁၀ သင်သည်အဘယ်သို့ဆိုသနည်း။ ငါသည်ခမည်းတော်၌ရှိသည်ကို
ရင်ခမည်းတော်သည်ငါ၌ရှိတော်မူသည်ကိုရင်မယုံသလော။ငါဟော
ပြောသောစကားကိုကိုယ်အလိုအလျောက်ငါမဟောမပြော။ ငါပြု
သောအမှုတို့ကိုငါ၌တည်နေတော်မူသောခမည်းတော်သည်ပြုတော်
၁၁ မူ၏။ ငါသည်ခမည်းတော်၌ရှိသည်ကိုရင်ခမည်းတော်သည်ငါ၌
ရှိတော်မူသည်ကိုရင်ယုံကြလော့။ ငါ့စကားကိုမယုံလျှင်ငါ့အမှုတို့ကို
၁၂ ထောက်၍ယုံကြလော့။ ငါအမှန်အကန်ဆိုသည်ကား။ ငါ့ကိုယုံကြည်
သောသူသည်ငါပြုသောအမှုတို့ကိုပြုလိမ့်မည်။ ထိုအမှုတို့ထက်သာ၍
ကြီးသောအမှုတို့ကိုလည်းပြုလိမ့်မည်။အဘယ်ကြောင့်နည်းဟူမူကား။
၁၃ ငါသည်ခမည်းတော်ထံသို့သွား၍ သင်တို့သည်ငါ့နာမကိုအမှီပြု
သဖြင့်ဆုတောင်းသမျှကိုငါပြုမည်။အကြောင်းမူကား။ခမည်းတော်
သည်သားတော်အားဖြင့်ဘုန်းထင်ရှားတော်မူခြင်းရှိမည်အကြောင်း
၁၄ တည်း။ သင်တို့သည်ငါ့နာမကိုအမှီပြု၍တစုံတခုကိုဆုတောင်းလျှင်
၁၅ တောင်းသည်အတိုင်းငါပြုမည်။ ။ငါ့ကိုချစ်လျှင်ငါ့ပညတ်တို့ကို
၁၆ စောင့်ရှောက်ကြလော့။ ငါသည်ခမည်းတော်ကိုတောင်း၍ခမည်း

တော်သည်သမ္မာတရားကိုပြသောဝိညည်တော်တည်းဟူသောတပါး
သော ဥပဇ္ဈာယ် ဆရာကို သင်တို့နှင့် အတူ အစဉ် မပြတ် တည်နေစေ
၁၇ ခြင်း ငှါသင်တို့အားပေးတော်မူမည်။ ထိုဝိညည်တော်ကိုလောကီ
သားတို့သည်မသိမမြင်သောကြောင့် မခံမယူနိုင်ကြ။ ထိုဝိညည်တော်
သည်သင်တို့နှင့်အတူတည်နေ၍သင်တို့၌ရှိတော်သောကြောင့်သင်တို့
၁၈ သိကြ၏။ ငါသည်သင်တို့ကိုကိုးကွယ်ရာ မဲ့စွန့်ထားမည်မဟုတ်။
၁၉ သင်တို့ဆီသို့ငါလာဦးမည်။ ခဏကြာပြီးမှလောကီသားတို့သည်ငါ
ကိုမမြင်ရ။ သင်တို့သည်မြင်ရ၏။ ငါသည်အသက်ရှင်သောကြောင့်
၂၀ သင်တို့သည်လည်းအသက်ရှင်လိမ့်မည်။ ငါသည်ခမည်းတော်၌ရှိ
သည်ကိုင်သင်တို့သည်ငါ ၌ရှိသည်ကိုင် ငါသည် သင်တို့ ၌ရှိသည်
၂၁ ကိုင်ထိုနေ့၌သင်တို့သိကြလိမ့်မည်။ ငါပညတ်တို့ကိုရ၍စောင့်ရှောက်
သော သူသည်ငါကိုချစ်သော သူဖြစ်၏။ငါကိုချစ်သောသူကိုငါခမည်း
တော်သည်ချစ်တော်မူမည်။ငါသည်လည်းထိုသူကိုချစ်၍သူ့အားကိုယ်
၂၂ ကိုပြမည် ဟုမိန့် တော်မူ၏။ ယုဒရှကာရုတ်မဟုတ်။အချားသော
ယုဒကသခင်။ကိုယ်တော်သည် လောကီသား တို့ အားကိုယ်ကို မပြဘဲ
လျှက်အကျွန်ုပ်တို့အားအဘယ်သို့ပြတော်မူမည်နည်းဟုမေးလျှောက်
၂၃ ၏။ ယေရှုကလည်း ငါကိုချစ်သောသူသည် ငါစကားကိုနား ထောင်
လိမ့်မည်။ ငါခမည်းတော်သည်ထိုသူကို ချစ်တော်မူမည်။ ငါ တို့သည်
၂၄ လည်း သူ့ဆီသို့ကြွ ၍ သူ့ဆီမှာနေရာချမည်။ ငါကိုမချစ်သော သူ
သည်ငါ စကား ကိုနား မထောင်။ သင်တို့ကြား သောစကား သည်ငါစ
ကားသာမဟုတ်။ ငါကိုစေလွှတ် တော်မူသောခမည်း တော်၏ စကား
၂၅ တော်ဖြစ်၏။ ငါသည်သင် တို့ဆီမှာ ရှိစဉ်၌ စကား ကိုငါပြောခဲ့
၂၆ ပြီး။ ခမည်းတော်သည်ငါကိုယ်စားစေလွှတ်တော်မူသောဥပဇ္ဈာယ်ဆ
ရာတည်းဟူသောသန့်ရှင်း သောဝိညည်တော်သည်သင်တို့ အားခပ်
သိမ်း သောအရာတို့ကိုပြ သသွန်သင်တော်မူ၍ ငါပြောခဲ့သမျှသောစ
ကားတို့ကိုမှတ်မိသောဉာဏ်ကိုသင်တို့အားပေးတော်မူမည်။
၂၇ ငြိမ်သက်ခြင်းတရားကိုသင်တို့၌ငါအပ်ထား၏။ငါငြိမ်သက်ခြင်းကို
သင်တို့အားငါပေး၏။လောကီသား တို့သည်ပေး သကဲ့သို့ငါပေးသည်
မဟုတ်။ သင်တို့စိတ်နှစ်လုံးပူပန်ခြင်း။စိုးရိမ်တုန်လှုပ်ခြင်းမရှိစေနှင့်။
၂၈ ငါသည် ယာခု သွား သော်လည်း သင်တို့ ဆီသို့ လာဦး မည်ဟုငါ ပြော
သော စကားကိုသင်တို့ကြားရကြပြီ။သင်တို့သည်ငါ ကိုချစ် လျှင်ခမည်း

တော်ထံသို့ငါသွားသည်ကိုသင်တို့ဝမ်းမြောက်ကြလိမ့်မည်၊ အကြောင်း
မူကား၊ ငါ့ခမည်းတော်သည်ငါ့ထက်သာ၍ကြီးမြတ်
၂၉ တော်မူ၏။ ထိုအမှုအရာရောက်သောအခါ သင်တို့သည်ယုံကြည်ရ
၃၀ အောင်မရောက်မှီယခုပင်သင်တို့အားငါပြောနှင့်ပြီ။ ယခုမှစ၍
သင်တို့နှင့်ငါများများမပြောရ၊ အကြောင်းမူကား၊ ဤ
လောကကိုအစိုးရသောမင်းလာသဖြင့်၊ ထိုသူသည်ငါ၌ဘာမျှ
၃၁ မတွေ့။ ငါသည်ခမည်းတော်ကိုချစ်သည်ကို၎င်း၊ ခမည်းတော်မှာ
တော်မူသည့်အတိုင်းငါပြုသည်ကို၎င်း လောကီသားတို့သိစေခြင်းအ
ကြောင်းတည်း။ ထ၍ဤအရပ်မှထွက်သွားကြစို့၊



၁ ငါသည်မှန်သောစပျစ်နွယ်ပင်ဖြစ်၏၊ ငါ့ခမည်းတော်သည်သည်းဥ
၂ ယျာဉ်စောင့်ဖြစ်တော်မူ၏၊ ငါ၌အသီးမသီးသောအခက်ရှိသမျှတို့ကို
ခုတ်ပြစ်တော်မူ၏၊ အသီးသီးသောအခက်ရှိသမျှတို့ကိုသာ၍သီးစေ
၃ ခြင်းငှါသုတ်သင်ရှင်းလင်းတော်မူ၏၊ သင်တို့သည်ငါဟောပြော
၄ သောစကားအားဖြင့်ယခုပင်ရှင်းလင်းသည်ဖြစ်ကြ၏၊ ငါ၌တည်
နေကြလော့။ ငါသည်လည်းသင်တို့၌တည်နေလိမ့်မည်၊ စပျစ်ခက်သည်
အပင်၌မတည်ဘဲကိုယ်အလိုအလျောက်အသီးကိုမသီးနိုင်သကဲ့သို့
၅ သင်တို့သည်ငါ၌မတည်လျှင်အသီးကိုမသီးနိုင်ကြ၊ ငါသည်စပျစ်
နွယ်ပင်ဖြစ်၏။ သင်တို့သည်အခက်များဖြစ်ကြ၏၊ အကြင်သူသည်ငါ
၌တည်၍ ငါသည်လည်းသူ၌တည်၏။ ထိုသူသည်များသောအသီးကို
၆ သီးတတ်၏။ ငါနှင့်ကွာလျှင်သင်တို့သည်ဘာမျှမတတ်နိုင်ကြ။ ငါ၌မ
တည်သောသူသည်သွေ့ခြောက်သောအခက်ကဲ့သို့ပြင်သို့ပြစ်လိုက်
ခြင်းကိုခံရ၏။ ထိုသို့သောအခက်များကိုလူတို့သည်စုသိမ်း၍မီးထဲ၌
၇ ထည့်ကြသဖြင့်မီးလောင်ခြင်းသို့ရောက်ကြ၏။ သင်တို့သည်ငါ၌
တည်၍ ငါ့စကားသည်သင်တို့၌တည်လျှင်သင်တို့သည်တောင်းချင်
၈ သမျှကိုတောင်း၍ရကြလိမ့်မည်။ ။သင်တို့သည်များသော
အသီးကိုသီးသောအားဖြင့်ငါ့ခမည်းတော်သည်ဘုန်းထင်ရှားတော်မူ
၉ ၍သင်တို့သည်လည်းငါ့တပည့်အမှန်ဖြစ်ကြလိမ့်မည်။ ခမည်းတော်
သည်ငါ့ကိုချစ်တော်မူသကဲ့သို့ငါသည်သင်တို့ကိုချစ်၏။ ငါချစ်ခြင်းမေ
၁၀ တ္တာ၌တည်နေကြလော့။ ငါသည်ငါ့ခမည်းတော်၏ပညတ်တို့ကိုစောင့်
ရှောက်၍ခမည်းတော်၏မေတ္တာ၌တည်နေသကဲ့သို့သင်တို့သည်ငါ

၁၁ ပညတ်တို့ကိုစောင့်ရှောက်လျှင်ငါမေတ္တာ၌တည်နေကြလိမ့်မည်။
သင်တို့၌ငါဝမ်းမြောက်စရာအကြောင်းတည်ရအောင်၎င်သင်တို့၏
ဝမ်းမြောက်ခြင်းပြည့်စုံရအောင်၎င်ဤစကားကိုသင်တို့အားငါဟော
၁၂ ပြော၏။ ငါပညတ်ဟူမူကား။ငါသည်သင်တို့ကိုချစ်သည်နည်းတူသင်
၁၃ တို့အချင်းချင်းချစ်ကြလော့။ ကိုယ်အဆွေတို့အဖို့အလို့ငှါကိုယ်အ
သက်ကိုစွန့်ခြင်းမေတ္တာထက်သာ၍မြတ်သောမေတ္တာသည်အဘယ်
၁၄ သူ၌မရှိ။ ငါပညတ်သမျှတို့ကိုသင်တို့သည်ကျင့်ဆောင်လျှင်ငါ့အ
၁၅ ဆွေဖြစ်ကြ၏။ ယခုမှစ၍သင်တို့ကိုငါသည်ကျွန်ဟူ၍မခေါ်။ကျွန်
မူကားကိုယ်သခင်ပြုသောအမှုကိုမသိ။ သင်တို့ကိုအဆွေဟူ၍ငါခေါ်
၏။ အဘယ်ကြောင့်နည်းဟူမူကား။ ငါသည်ခမည်းတော်ထံ၌ကြား
၁၆ သမျှသောအရာတို့ကိုသင်တို့အားငါပြသပေ၏။ သင်တို့သည်ငါ
ကိုရွေးကောက်ကြသည်မဟုတ်။ငါသည်သင်တို့ကိုရွေးကောက်သည်
ဖြစ်၍သင်တို့သည်သွားသဖြင့်အသီးကိုသီး၍ထိုအသီးတည်မည်အ
ကြောင်းနှင့်၎င်ငါနာမကိုအမှီပြု၍ခမည်းတော်ကိုသင်တို့သည်တောင်း
သမျှတို့ကိုရမည်အကြောင်းနှင့်၎င်သင်တို့ကိုငါခန့်ထားပေ၏။
၁၇ ။သင်တို့သည်အချင်းချင်းချစ်ရအောင်ဤပညတ်တို့ကိုငါပေး၏။
၁၈ လောကီသားတို့သည်သင်တို့ကိုမုန်းလျှင်သင်တို့ကိုမမုန်းမှီငါ့ကိုမုန်း
၁၉ သည်ကိုသိမှတ်ကြလော့။ သင်တို့သည်လောကီနှင့်ဆက်ဆံလျှင်
လောကီသားတို့သည်မိမိတို့နှင့်ဆက်ဆံသောသင်တို့ကိုချစ်ကြလိမ့်
မည်။သင်တို့သည်လောကီနှင့်မဆက်ဆံ။လောကီထဲကငါရွေးကောက်
သောသူဖြစ်သောကြောင့်လောကီသားတို့သည်သင်တို့ကိုမုန်းကြ၏။
၂၀ ကျွန်သည်မိမိသခင်ထက်သာ၍ကြီးမြတ်သည်မဟုတ်ဟုငါပြောခဲ့ပြီး
သောစကားကိုအောင်မေ့ကြလော့။ သူတို့သည်ငါ့ကိုညှဉ်းဆဲလျှင်
သင်တို့ကိုညှဉ်းဆဲကြလိမ့်မည်။ ငါစကားကိုနားထောင်လျှင်သင်တို့
၂၁ စကားကိုနားထောင်ကြလိမ့်မည်။ ထိုသူတို့သည်ငါ့ကိုစေလွှတ်
တော်မူသောသူကိုမသိသောကြောင့်ငါ့ဘာသာကိုခံယူသောသင်တို့
၂၂ အားထိုအမှုအားလုံးကိုပြုကြလိမ့်မည်။ ငါသည်လာ၍ထိုသူတို့
အားမဟောမပြောလျှင်သူတို့၌အပြစ်မရှိ။ယခုမူကားမိမိတို့အပြစ်
၂၃ ကိုဖွက်မထားနိုင်ကြ။ ငါ့ကိုမုန်းသောသူသည်ငါ့ခမည်းတော်ကို
၂၄ မုန်း၏။ ငါသည်အခြားသူမပြုဘူးသောအမှုကိုထိုသူတို့ရှေ့မှာမပြု
လျှင်သူတို့၌အပြစ်မရှိ။ယခုမူကားသူတို့သည်ထိုအမှုကိုမြင်လျက်ငါ

၂၅ ကိုယ်ငါခမည်းတော်ကိုယ်မုန်းကြ၏။ သို့ဖြစ်လျှင်အကြောင်းမရှိဘဲ
ငါကိုမုန်းကြ၏ဟုသူတို့၏ ပညတ္တိကျမ်းစာ၌ရေးထားသောစကား
၂၆ ပြည့်စုံခြင်းသို့ ရောက်သတည်း။ ခမည်းတော် ထံမှထွက်လာ၍
သမ္မာတရားကို ပြသောဝိညာဉ်တော်တည်းဟူသော ခမည်းတော်ထံမှ
သင်တို့ဆီသို့ငါစေလတ္တံ့သောဥပဇ္ဈာယ်ဆရာသည်ရောက်လာသော
၂၇ အခါငါ့အကြောင်းကိုသက်သေခံလိမ့်မည်။ သင်တို့သည်လည်းရှေ
ဦးစွာမှစ၍ငါနှင့်အတူရှိနေသောကြောင့်သက်သေခံကြလိမ့်မည်။

❋❋

၁။၂ သင်တို့သည်စိတ်မပျက်ရအောင်ဤစကားကိုငါဟောပြော၏။ လော
ကီသားတို့သည်သင်တို့ကိုတရားဇရပ်မှနှင်ထုတ်ကြလိမ့်မည်။ သင်
တို့ကိုသတ်သောသူမည်သည်ကား ဘုရားဝတ်ကိုငါပြုပြီးဟုမိမိထင်
၃ မှတ်သောအချိန်ကာလရောက်လိမ့်မည်။ ငါ့ကိုမသိ။ ခမည်းတော်ကို
၄ မသိသောကြောင့်ထိုသို့ပြုကြလိမ့်မည်။ ထိုအချိန် ကာလ ရောက်
သောအခါငါသည်အထက်က ဤသို့ပြောပြီး သည် ကိုသင်တို့ အောင်း
မေ့ရအောင်ယခုပင်ငါဟောပြော၏။ အစအဦး၌သင်တို့နှင့်အတူငါရှိ
၅ သေးသောကြောင့် ဤသို့ငါမပြောဘူးသေး။ ငါ့ကိုစေလွှတ်တော်မူ
သောသူထံသို့ယခုငါသွားရသည်ဖြစ်၍ အဘယ်ဆီသို့သွားသနည်း
၆ ဟုသင်တို့မမေးကြ။ ဤအကြောင်း အရာတို့ ကိုငါဟော ပြောသော
ကြောင့်သင်တို့သည်အလွန်ဝမ်းနည်းခြင်းသို့ရောက်ကြ၏။
၇ ။ငါအမှန်အကန်ဆိုသည်ကား။ ငါသွားလျှင်သင်တို့ အကျိုးရှိလိမ့်
မည်။အဘယ်ကြောင့်နည်းဟူမူကား။ငါမသွားလျှင်ဥပဇ္ဈာယ်ဆရာ
သည်သင်တို့ဆီသို့မလာ။ငါသွားလျှင်သူကိုသင်တို့ဆီသို့ငါစေလိုက်
၈ မည်။ ဥပဇ္ဈာယ်ဆရာရောက်လာလျှင်ဒုစရိုက်အပြစ်ကိုင်အပြစ်
ကင်းခြင်းကိုင်အပြစ်စီရင်ခြင်းကိုင်လောကီသားတို့အားထင်ရှား
၉ စွာ ဖော်ပြလိမ့်မည်။ ငါ့ကိုမယုံကြည်ကြသောကြောင့် ဒုစရိုက်အပြစ်
၁၀ ကိုဖော်ပြမည်။ ငါခမည်းတော်ထံသို့ငါသွား၍သင်တို့သည်နောက်
တဖန် ငါ့ကို မတွေ့ မမြင်ရ သောကြောင့် အပြစ် ကင်း ခြင်း ကိုဖော်ပြ
၁၁ မည်။ ဤလောက ကို အစိုးရသော မင်း သည် အပြစ် စီရင် ခြင်း ကိုခံ
၁၂ သောကြောင့်အပြစ်စီရင်ခြင်းကိုဖော်ပြမည်။ ။သင်တို့အား
ငါပြောစရာစကားအများရှိသော်လည်းသင်တို့ယခုမခံနိုင်သေး။
၁၃ သမ္မာတရားနှင့်ပြည့်စုံသောထိုဝိညာဉ် တော်သည်ရောက်လာသော

အခါသမ္မာတရားအားလုံးကိုသင်တို့အားသွန်သင်ပြသလိမ့်မည်။ ထို
ဝိညာဉ်တော်သည် ကိုယ်အလို အလျောက် ဟော ပြော မည် မဟုတ်။
ကြားသမျှတို့ကိုဟော ပြောလိမ့်မည်။ နောက်လာလတံ့သောအရာကို
၁၄ လည်းသင်တို့အားဖော်ပြလိမ့်မည်။ ထိုသူသည်ငါ့ဘုန်းကိုထင်ရှား
စေလိမ့်မည်။အဘယ်ကြောင့်နည်းဟူမူကား။ငါနှင့်စပ်ဆိုင်သောအရာ
၁၅ တို့ကိုယူ၍ သင်တို့အား ဖော်ပြလိမ့်မည်။ ခမည်းတော်နှင့်စပ်ဆိုင်
သမျှသည် ငါနှင့်စပ်ဆိုင်ကြ၏။ ထိုကြောင့်ငါနှင့်စပ်ဆိုင်သောအရာ
၁၆ တို့ကိုယူ၍သင်တို့အားဖော်ပြလိမ့်မည်ဟုငါပြော၏။ ။ခဏ
ကြာပြီးမှသင်တို့သည်ငါ့ကို မမြင်ရ။တဖန်ခဏကြာပြီးမှငါ့ကိုမြင်
ပြန်လိမ့်မည်။ အဘယ်ကြောင့်နည်း ဟူမူကား။ ခမည်းတော်ထံသို့ငါ
၁၇ သွားသည်ဟုမိန့်တော်မူ၏။ တပည့်တော်အချို့တို့လည်းခဏကြာ
ပြီးမှသင်တို့သည်ငါ့ကိုမမြင်ရ။ တဖန် ခဏကြာပြီး မှငါ့ကိုမြင်ပြန်
လိမ့်မည်ဟူ ၍ ဤအဘယ် ကြောင့်နည်း ဟူမူကား။ ခမည်း တော်ထံ
သို့ငါသွားသည်ဟူ ၍ ဤမိန့် တော်မူသောစကား သည်အဘယ်သို့
၁၈ နည်း။ ခဏဟူ ၍ မိန့်တော်မူ သော် အဘယ်သို့ဆို လို သနည်း။
မိန့်တော်မူသောစကားကိုအကျွန်ုပ်တို့နားမလည်ဟုအချင်းချင်းဆိုကြ
၁၉ ၏။ တပည့်တော်တို့ မေး လျှောက် လို သည်ကို ယေရှုသိမြင်တော်မူ
လျှင်ခဏကြာပြီး မှသင်တို့ သည်ငါ့ကိုမမြင်ရ။ တဖန်ခဏကြာပြီးမှ
ငါ့ကိုမြင်ပြန် လိမ့်မည်ဟုငါပြောသောစကားကို သင်တို့ သည်အချင်း
၂၀ ချင်းဆင်ချင်သလော။ ငါအမှန်အကန်ဆိုသည်ကား။သင်တို့ သည်
ငိုကြွေးမြည်တမ်းခြင်း ရှိလိမ့်မည်။ လောကီသားတို့ သည်ဝမ်းမြောက်
ခြင်းရှိလိမ့်မည်။ သင်တို့သည်ဝမ်းနည်းခြင်းရှိသော်လည်း ထိုဝမ်းနည်း
၂၁ ခြင်းသည်တဖန်ဝမ်းမြောက်ခြင်းဖြစ်လိမ့်မည်။ မိန်းမသည်သားဖွား
သည် တွင် မိမိ အချိန် စေ့သော့ကြောင့်ဝမ်းနည်း ခြင်း ရှိ၏။ သား ဖွား
မြင်ပြီးမှ ဤလောက ၌ လူတ ယောက်ကို ဖွား မြင် သော့ကြောင့် ဝမ်း
၂၂ မြောက်ခြင်းရှိ၍အထက်ခံရသောဝေဒနာကိုမေ့လျော့တတ်၏။ ထို
နည်းတူ။ယခုတွင်သင်တို့သည်ဝမ်းနည်းခြင်းရှိသော်လည်းနောက်တ
ဖန်သင်တို့ကိုငါတွေ့မြင်သဖြင့်သင်တို့စိတ်နှစ်လုံးဝမ်းမြောက်ခြင်းရှိ
လိမ့်မည်။ထိုဝမ်းမြောက်ခြင်းကို အဘယ်သူမျှမလုယူမဖျက်ဆီးနိုင်
၂၃ ရာ။ ထိုနေ့ ၌သင်တို့သည်ငါ့ကို ဘာမျှမမေးမြန်း ရာ။ ငါအမှန် အ
ကန်ဆိုသည်ကား။ သင်တို့သည်ငါ့နာမကိုအမှီပြု၍ခမည်းတော်ကိုဆု

၂၄ တောင်းလေသမျှတို့ကို ခမည်းတော်ပေးတော်မူမည်။ ယခုထိုင်
အောင်ငါနာမကိုအမှီပြု၍သင်တို့သည်အဘယ်အရာကိုမျှမတောင်းသေး။
သင်တို့ဝမ်းမြောက်ခြင်းပြည့်စုံရအောင်တောင်းကြလော့။ထိုသို့တောင်း
၂၅ လျှင်ရလိမ့်မည်။ ။ဤအရာတို့ကိုပုံဥပမာအားဖြင့်ငါဟော
ပြော၏။ ပုံဥပမာအား ဖြင့်မ ဟောမပြောဘဲခမည်း တော်နှင့်စပ်ဆိုင်
သောအရာတို့ကို ငါသည်သင်တို့အား အတည့်အလင်းဖော်ပြသောအ
၂၆ ချိန်ကာလရောက်လိမ့်မည်။ ထိုကာလ၌သင်တို့သည်ငါနာမကိုအမှီပြု
၍ဆုတောင်းလိမ့်မည်။သင်တို့အဖို့အလို့ငှါခမည်းတော်ကိုငါတောင်း
၂၇ မည်ဟုငါမဆို။ အဘယ်ကြောင့် နည်းဟူမူကား။သင်တို့သည်ငါကို
ချစ်ကြ၍ငါသည်ဘုရားသခင်အထံတော်မှကြွလာသည်ကိုရုံကြသော
၂၈ ကြောင့်ခမည်းတော်သည်သင်တို့ကိုအလိုလိုချစ်တော်မူ၏။ ခမည်း
တော်ထံမှငါထွက်၍ဤလောကသို့ကြွလာ၏။တဖန်ဤလောကမှထွက်
၂၉ ၍ခမည်းတော်ထံသို့ကြွသွားသည်ဟုမိန့်တော်မူ၏။ တပည့်တော်တို့
လည်းကိုယ်တော်သည်ယခုတွင်ပုံဥပမာမဆောင်ဘဲအတည့်အလင်း
၃၀ ဟောတော်မူ၏။ အလုံးစုံတို့ကိုသိတော်မူသည်ကိုငှင်အဘယ်သူမျှ
ကိုယ်တော်ကိုမေးမြန်းစေခြင်းငှါအလိုရှိတော်မမူသည်ကိုငှ်ယခုတွင်
အကျွန်ုပ်တို့သိကြပါ၏။ ဤအကြောင်းကိုအကျွန်ုပ်တို့သည်ထောက်၍
ကိုယ်တော်သည်ဘုရားသခင်အထံတော်မှကြွလာတော်မူသည်ကိုရုံ
၃၁ ပါသည်ဟုလျှောက်ကြ၏။ ယေရှုကလည်း ယခုသာ ရုံကြသလော။
၃၂ သင်တို့သည်ဖရိုဖရဲကွဲပြား၍ငါ့ကိုတကိုယ်တည်း နေရစ်စေသဖြင့်မိမိ
တို့နေရာသို့ပြေးသွားမည့်အချိန်ကာလလာ၍ယခုပင်ရောက်ပေ၏။သို့
သော်လည်းငါသည်တကိုယ်တည်းနေသည်မဟုတ်။ခမည်းတော်သည်
၃၃ ငါနှင့်အတူရှိတော်မူ၏။ သင်တို့သည်ငါကိုအမှီပြု၍ငြိမ်သက်ခြင်း
ရှိစေခြင်းငှါဤစကားကိုငါဟောပြောပြီ။သင်တို့သည်လောက၌ဆင်း
ရဲဒုက္ခကိုခံကြ၏။သို့သော်လည်း မစိုးရိမ်ကြနှင့်။ လောကကိုငါအောင်
လေပြီးဟုမိန့်တော်မူ၏။

**

၁။၂ ထိုသို့မိန့်တော်မူပြီးမှယေရှုသည်ကောင်းကင်ကိုကြည့်မျှော်၍အိုအဘ။
အကျွန်ုပ်အချိန်ရောက်ပါပြီ။ ကိုယ်တော်သည် သား တော်လက် သို့
အပ်ပေးတော်မူသမျှသော သူတို့အား ထာဝရ အသက် ကိုပေး စေခြင်း
ငှါလူမျိုး အပေါင်းတို့ကိုအစိုးရသောအ ခွင့်တန်ခိုး ကိုသားတော်အား

ပေးတော်မူသည် နှင့်အညီ သား တော်သည် ကိုယ်တော်၏ ဘုန်းကို
ထင်ရှားစေပါမည်အကြောင်း။သားတော်၏ဘုန်းကိုထင်ရှားစေတော်
၃ မူပါ။ ထာဝရအသက်ဟူမူကား။မှန်သောဘုရားသခင်တဆူတည်း
ဖြစ်တော်မူ သောကိုယ်တော်ကိုဂင် စေလွှတ်တော်မူ သောယေရှုခရစ်
၄ ကို ဂင်သိကျွမ်းခြင်း တည်း။ မြေကြီး ပေါ်မှာ အကျွန်ုပ်သည် ကိုယ်
တော်၏ ဘုန်း ကိုထင်ရှား စေ ပါပြီ။ အကျွန်ုပ် ဆောင်ရွက် စရာအို အ
ကျွန်ုပ်၌အပ်ပေးတော်မူသောအမှုကိုအကျွန်ုပ်ဆောင် ရွက်၍ ပြီးပါပြီ။
၅ အိုအဘ။ဤကမ္ဘာမတည်မရှိမီအထံတော်၌အကျွန်ုပ် ရှိသောဘုန်းအသ
ရေဖြင့် အကျွန်ုပ်ကိုယခုတွင်လည်းအထံတော်၌ချီးမြှောက်တော်မူပါ။
၆ ။ဤလောကထဲမှယူ၍ အကျွန်ုပ်၌အပ်ပေး တော်မူသောသူ
တို့အား အကျွန်ုပ် သည်ကိုယ် တော်၏ တရား ကိုထင်ရှား စေပါပြီ။ထို
သူတို့ကိုကိုယ်တော်သည်ပိုင်တော်မူသဖြင့်အကျွန်ုပ်အား ပေးတော်မူ
၇ ၏။ ကိုယ်တော်၏နှုတ်ကပတ်တရားကိုသူတို့သည်စောင့်ကြ၏။ အ
ကျွန်ုပ်အားပေး တော်မူသမျှတို့သည်ကိုယ်တော်မှဖြစ် ကြောင်း ကိုသူ
၈ တို့ယခုသိကြပါ၏။ အဘယ်ကြောင့်ခဲ့ဉ်းဟူမူကား။အကျွန်ုပ်အါးပေး
တော်မူသမျှသောအရာတို့ကိုသူတို့အားအကျွန်ုပ်ပေး ၍ သူတို့သည်ခံ
ယူသ ဖြင့်အကျွန်ုပ် သည် အထံတော် မှကြွလာ သည်ကိုအတပ် သိကြ
သည် နှင့်ကိုယ် တော်သည် အကျွန်ုပ် ကိုစေ လွှတ်တော်မူ သည်ကိုရုံကြ
၉ ပါ၏။ သူတို့ အဖို့အလို ငှါအကျွန်ုပ် ဆုတောင်းပါ၏ ။ လောကီသား
တို့အဖို့အလိုငှါ ဆုတောင်းသည် မဟုတ်ပါ။ အကျွန်ုပ်အား ပေးတော်မူ
သော သူတို့ သည်ကိုယ် တော်လူဖြစ် သောကြောင့် သူတို့အဖို့ အလိုငှါ
၁၀ ဆုတောင်းပါ၏။ အကျွန်ုပ်နှင့်စပ် ဆိုင်သမျှတို့သည် ကိုယ်တော်နှင့်
စပ်ဆိုင်ပါ၏။ကိုယ်တော်နှင့် စပ်ဆိုင် သမျှတို့ သည်လည်း အကျွန်ုပ်နှင့်
စပ်ဆိုင် ၍ ထို အရာ တို့ အားဖြင့် အကျွန်ုပ် သည် ဘုန်း ထင်ရှား ပါ၏။
၁၁ ယခုမှစ၍ အကျွန်ုပ်သည် ဤလောက၌မရှိပါ။ ဤသူတို့သည် ဤလောက
၌နေရစ်ရပါ၏။အကျွန်ုပ်သည်ကိုယ်တော်ထံသို့သွားရ ပါ၏။သန့်ရှင်း
တော်မူသောအဖ။ကိုယ်တော်နှင့်အကျွန်ုပ်သည်တလုံး တဝတည်းဖြစ်
သကဲ့သို့ဤ သူတို့ သည် ဖြစ် ရပါမည်အကြောင်း။ အကျွန်ုပ်အား ပေး
၁၂ တော်မူသောကိုယ်တော်၏တရား ၌သူတို့ကိုတည်စေတော်မူပါ။ အ
ကျွန်ုပ် သည်ဤ လောက၌ဤ သူတို့နှင့် တကွ ရှိစဉ် ကာလကိုယ် တော်
၏တရား၌သူတို့ကိုတည်စေပါပြီ။အကျွန်ုပ်အားပေးတော်မူသော သူ

တို့ကိုအကျွန်ုပ်စောင့်မပါပြီး။ထိုသူတို့တွင်ပျက်စီးခြင်းနှင့်ဆိုင်သော
သူတယောက်ကိုထား လျှင်အဘယ်သူမျှပျက်စီးခြင်း သို့မရောက်ပါ။
ထိုသူသည်ပျက်စီးခြင်းသို့ရောက်သဖြင့်ကျမ်းစာချက်ပြည့်စုံရ၏။
၁၃ ။ယခုတွင်အကျွန်ုပ်သည်ကိုယ်တော်ထံသို့သွား ရသည်ဖြစ်၍
ဤသူတို့သည် အကျွန်ုပ်ကိုအမှီပြုသဖြင့်ဝမ်းမြောက်ခြင်း နှင့်ပြည့်စုံစေ
၁၄ ခြင်းငှါဤစကားကိုဤလောက၌အကျွန်ုပ်ပြောပါ၏။ ကိုယ်တော်၏
နှုတ်ကပတ်တရားကိုဤသူတို့အားအကျွန်ုပ်ပေးပါပြီး။အကျွန်ုပ်သည်
ဤ လောက နှင့်မ ဆက်ဆံ သကဲ့ သို့ဤ သူ တို့ သည် မဆက် ဆံ သော
၁၅ ကြောင့်လောကီသားတို့သည်ဤသူတို့ကိုမုန်းကြပါ၏။ ဤသူတို့ကိုဤ
လောကမှ နှုတ်ယူ တော် မူမည်အ ကြောင်း။ အကျွန်ုပ် တောင်းသည်မ
ဟုတ်ပါ။မကောင်းသောအမှုအရာတို့နှင့်လွတ်အောင်စောင့်မတော်မူ
၁၆ မည်အကြောင်းကိုသာတောင်းပါ၏။ အကျွန်ုပ်သည် ဤလောကနှင့်မ
၁၇ ဆက်ဆံသကဲ့သို့သူတို့သည် မဆက်ဆံကြပါ။ ကိုယ်တော်၏သမ္မာ
တရားအားဖြင့်သူတို့ကိုသန့်ရှင်းစေတော်မူပါ။ ကိုယ်တော်၏နှုတ်က
၁၈ ပတ်သည်သမ္မာတရားဖြစ်ပါ၏။ ကိုယ်တော်သည်အကျွန်ုပ်ကိုဤလော
ကသို့စေလွှတ် တော်မူသည်နည်း တူအကျွန်ုပ်သည် သူတို့ ကိုစေလွှတ်
၁၉ ပါ၏။ သမ္မာ တရား အားဖြင့်သူ တို့သည် သန့်ရှင်းစေခြင်း ငှါသူတို့
အဖို့အလို့ငှါအကျွန်ုပ်သည်ကိုယ်ကိုကိုယ် သန့်ရှင်းစေပါ၏။ ။
၂၀ ဤသူတို့ အဖို့သာအကျွန်ုပ်ဆု တောင်း သည် မဟုတ်ပါ။ သူတို့မော
ပြော ခြင်း အား ဖြင့် အကျွန်ုပ် ကိုရုံ ကြည် သော သူတို့ အဖို့ လည်း ဆု
၂၁ တောင်းပါ၏။ ကိုယ်တော်သည်အကျွန်ုပ်ကိုစေလွှတ်တော်မူသည်ကို
လောကီသားတို့သည်ရုံမည်အကြောင်း။ဤသူအားလုံးတို့သည်တလုံး
တဝတင်းဖြစ်ရအောင်ငှင်အဖ။ကိုယ်တော်သည်အကျွန်ုပ်၌ရှိတော်မူ၍
အကျွန်ုပ်သည်ကိုယ်တော်၌ရှိတော်မူသကဲ့သို့ဤသူအားလုံးတို့သည်
၂၂ ငါတို့၌တလုံး တဝတည်း ဖြစ်ရ အောင်ငှင်ဆုတောင်းပါ၏။ ငါတို့
၂၃ သည် တလုံး တဝ တည်း ဖြစ်သကဲ့သို့ အကျွန်ုပ် သည် သူ တို့ ၌။ ကိုယ်
တော်သည်အကျွန်ုပ် ၌ဖြစ်လျက်သူတို့သည်တလုံး တဝတည်းဖြစ်၍တ
လုံးတဝတည်း ၌စုံလင်ရအောင်ငှါကိုယ်တော်သည်အကျွန်ုပ်ကိုစေလွှတ်
တော်မူသည်ဖြစ်၍ အကျွန်ုပ်ကိုချစ်တော်မူသကဲ့သို့သူတို့ကိုချစ်တော်
မူကြောင်း ကိုလောကီသား တို့သည်သိရအောင်ငှါကိုယ်တော်သည်အ
ကျွန်ုပ်အား ပေးတော်မူ သော ဘုန်း အသရေ ကိုအကျွန်ုပ်သည်သူတို့

၂၄ အားပေးပါပြီး။ အိုအဖ။ကိုယ်တော်သည်ဤကမ္ဘာမတည်မရှိမှီအ
ကျွန်ုပ်ကိုချစ်တော်မူသဖြင့်အကျွန်ုပ်အားပေးတော်မူသောဘုန်းတော်
ကိုအကျွန်ုပ်အားပေးတော်မူသောသူတို့သည်ရှုမြင်ရအောင်အကျွန်ုပ်
ရှိရာအရပ်၌ အကျွန်ုပ်နှင့်အတူရှိနေစေခြင်း ငှါအကျွန်ုပ်အလိုရှိပါ၏။
၂၅ တရားတော်မူသောအဖ။လောကီသားတို့သည်ကိုယ်တော်ကိုမသိသော်
လည်းအကျွန်ုပ်သိပါ၏။ ကိုယ်တော်သည် အကျွန်ုပ်ကိုစေလွှတ်တော်မူ
၂၆ ကြောင်းကိုဤသူတို့သည်သိကြပါ၏။ ကိုယ်တော်သည်အကျွန်ုပ်ကို
ချစ်တော်မူသောမေတ္တာသည်သူတို့၌ရှိရအောင်၎င်အကျွန်ုပ်သည်သူ
တို့၌ရှိရအောင်၎င်ကိုယ်တော်၏တရားကိုအကျွန်ုပ်သည်သူတို့အားပြ
သွန်ပါပြီးဖြစ်၍အစဉ်ပြသွန်ပါမည်ဟုမိန့်မြွက်တော်မူ၏။

❋❋

၁ ထိုသို့မိန့်မြွက်တော်မူပြီးမှယေရှုသည် တပည့်တော်တို့နှင့်ကေဒြုန်
ချောင်းတဖက်သို့ကြွ၍ထိုအရပ်၌ ရှိသောဥယျာဉ်သို့တပည့်တော်တို့
၂ နှင့်အတူဝင်တော်မူ၏။ ထိုအရပ်သို့ယေရှုသည် တပည့်တော်တို့နှင့်
အတူသွားမြဲရှိသောကြောင့်ကိုယ်တော်ကိုအပ်နှံသောယုဒရှကာရုတ်
၃ သည်ထိုအရပ်ကိုသိသည်ဖြစ်၍ စစ်သူရဲတတပ်ကို၎င်ယဇ်ပုရော
ဟိတ်အကြီးတို့နှင့်ဖာရိရှဲလူတို့စေလိုက်သောမင်းလုလင်တို့ကို၎င်ခေါ်
၄ ခဲ့၍မီးအိမ်။မီးရှူး။လက်နက်တို့ကိုလက်စွဲလျက်လာကြ၏။ ယေရှု
သည်ကိုယ်၌ဖြစ်လတံ့သမျှသောအမှုအရာတို့ကိုသိတော်မူလျက်လာ
သောသူတို့ဆီသို့သွား၍အဘယ်သူရှာကိုကြွသနည်းဟုမေးတော်မူ
၅ ၏။ နာဇရက်မြို့သားယေရှုကိုရှာကြသည်ဟုဆိုလျှင်ယေရှုကငါ
သည်ထိုသူဖြစ်၏ဟုမိန့်တော်မူ၏။ ကိုယ်တော်ကိုအပ်နှံသောယုဒရှ
၆ ကာရုတ်သည်လည်း ထိုသူတို့နှင့်ရပ်နေ၏။ ငါသည်ထိုသူဖြစ်၏ဟု
မိန့်တော်မူလေသော်ထိုသူတို့သည်နောက်သို့ဆုတ်၍မြေပေါ်၌လဲကြ
၇ ၏။ အဘယ်သူကိုရှာကြသနည်းဟုတဖန်မေးတော်မူလျှင်နာဇရက်
၈ မြို့သားယေရှုကိုရှာသည်ဟုထိုသူတို့သည်ဆိုကြ၏။ ယေရှုကသည်း
ငါသည်ထိုသူဖြစ်၏ဟုငါပြောပြီး။ သို့ဖြစ်၍ငါကိုရှာလျှင်ဤသူတို့
၉ ကိုသွားပါလေစေတော့ဟုမိန့်တော်မူ၏။ ကိုယ်တော်သည်အကျွန်ုပ်
အားပေးတော်မူသောသူတို့တွင်အဘယ်သူမျှပျက်စီးခြင်းသို့မ
ရောက်ပါဟူသောအထက်စကားတော်ပြည့်စုံစေခြင်းငှါ ဤသို့မိန့်
၁၀ တော်မူ၏။ ။ထိုအခါရှိမုန်ပေတရုသည်ဓားပါလျက်ဓားကို

ငါမပြောဘဲမနေ။ သင်တို့နေစရာအရပ်ကိုပြင်ဆင်ရအောင်ငါသွား
၃ ၏။ ငါသွား၍ သင်တို့နေစရာအရပ်ကိုပြင်ဆင်ပြီးမှ တဖန်ငါ
လာပြန်၍ ငါရှိရာအရပ်၌ သင်တို့ရှိရအောင်သင်တို့ကိုငါ့ဆီသို့ သိမ်း
၄ ဆည်းလိမ့်မည်။ ငါသည်အဘယ်ဆီသို့သွားသည်ကိုရင်လမ်းခရီး
၅ ကိုရင်သင်တို့သိကြ၏ဟုမိန့်တော်မူ၏။ သောမကလည်း။သခင်။
ကိုယ်တော်သည်အဘယ်သိသို့သွားတော်မူသည်ကိုအကျွန်ုပ်တို့မသိ
သည်ဖြစ်၍ လမ်းခရီးကိုအဘယ်သို့သိနိုင်ပါမည်နည်းဟုလျှောက်
၆ လျှင် ယေရှုကငါသည်လမ်းခရီးဖြစ်၏။သမ္မာတရားလည်းဖြစ်၏။
အသက်လည်းဖြစ်၏။ ငါကိုအမှီမပြုဘဲ အဘယ်သူမျှခမည်းတော်ထံ
၇ သို့မရောက်ရာ။ သင်တို့သည်ငါကိုသိလျှင်ငါ့ခမည်းတော်ကိုမသိ
ဘဲမနေကြ။ယခုမှစ၍ခမည်းတော်ကိုသိမြင်ကြ၏ဟုမိန့်တော်မူ၏။
၈ ။ဖိလိပ္ပုကလည်း။သခင်။ခမည်းတော်ကိုအကျွန်ုပ်တို့အားပြတော်
၉ မူပါ။ထိုသို့အကျွန်ုပ်တို့အလိုပြည့်စုံပါမည်ဟုလျှောက်လျှင် ယေ
ရှုကဖိလိပ္ပု။ ဤမျှကာလပတ်လုံး ငါသည်သင်တို့နှင့်အတူရှိပြီးမှသင်
သည်ငါကိုမသိသေးသလော။ငါကိုမြင်သောသူသည်ခမည်းတော်ကို
မြင်၏။ သို့ဖြစ်လျှင်ခမည်းတော်ကိုအကျွန်ုပ်တို့အားပြတော်မူပါဟု
၁၀ သင်သည်အဘယ်သို့ဆိုသနည်း။ ငါသည်ခမည်းတော်၌ရှိသည်ကို
ရင်ခမည်းတော်သည်ငါ၌ရှိတော်မူသည်ကိုရင်မယုံသလော။ငါဟော
ပြောသောစကားကိုကိုယ်အလိုအလျောက်ငါမဟောမပြော။ ငါပြု
သောအမှုတို့ကိုငါ၌တည်နေတော်မူသောခမည်းတော်သည်ပြုတော်
၁၁ မူ၏။ ငါသည်ခမည်းတော်၌ရှိသည်ကိုရင်ခမည်းတော်သည်ငါ၌
ရှိတော်မူသည်ကိုရင်ယုံကြလော့။ ငါ့စကားကိုမယုံလျှင်ငါ့အမှုတို့ကို
၁၂ ထောက်၍ယုံကြလော့။ ငါအမှန်အကန်ဆိုသည်ကား။ ငါကိုယုံကြည်
သောသူသည်ငါပြုသောအမှုတို့ကိုပြုလိမ့်မည်။ ထိုအမှုတို့ထက်သာ၍
ကြီးသောအမှုတို့ကိုလည်းပြုလိမ့်မည်။အဘယ်ကြောင့်နည်းဟူမူကား။
၁၃ ငါသည်ခမည်းတော်ထံသို့သွား၍ သင်တို့သည်ငါ့နာမကိုအမှီပြု
သဖြင့်ဆုတောင်းသမျှကိုငါပြုမည်။အကြောင်းမူကား။ခမည်းတော်
သည်သားတော်အားဖြင့်ဘုန်းထင်ရှားတော်မူခြင်းရှိမည်အကြောင်း
၁၄ တည်း။ သင်တို့သည်ငါ့နာမကိုအမှီပြု၍တစုံတခုကိုဆုတောင်းလျှင်
၁၅ တောင်းသည်အတိုင်းငါပြုမည်။ ။ငါကိုချစ်လျှင်ငါ့ပညတ်တို့ကို
၁၆ စောင့်ရှောက်ကြလော့။ ငါသည်ခမည်းတော်ကိုတောင်း၍ခမည်း

တော်သည်သမ္မာတရားကိုပြသောဝိညာဉ်တော်တည်းဟူသောတပါး
သော ဥပဇ္ဈာယ် ဆရာကို သင်တို့နှင့် အတူ အစဉ် မပြတ် တည်နေစေ
၁၇ ခြင်း ငှါသင်တို့အားပေးတော်မူမည်။ ထိုဝိညာဉ်တော်ကိုလောကီ
သားတို့သည်မသိမမြင်သောကြောင့် မခံမယူနိုင်ကြ။ ထိုဝိညာဉ်တော်
သည်သင်တို့နှင့်အတူတည်နေ၍သင်တို့၌ရှိတော်သောကြောင့်သင်တို့
၁၈ သိကြ၏။ ငါသည်သင်တို့ကိုကိုးကွယ်ရာ မဲ့စွန့်ထားမည်မဟုတ်။
၁၉ သင်တို့ဆီသို့ငါလာဦးမည်။ ခဏကြာပြီး မှလောကီသားတို့သည်ငါ
ကိုမမြင်ရာ။ သင်တို့သည်မြင်ရာ၏။ ငါသည်အသက်ရှင်သောကြောင့်
၂၀ သင်တို့သည်လည်းအသက်ရှင်လိမ့်မည်။ ငါသည်ခမည်းတော်၌ရှိ
သည်ကိုန်သင်တို့သည်ငါ ၌ရှိသည်ကိုန် ငါသည် သင်တို့ ၌ရှိသည်
၂၁ ကိုန်ထိုနေ့၌သင်တို့သိကြသိမ့်မည်။ ငါပညတ်တို့ကိုရ၍စောင့်ရှောက်
သောသူသည်ငါကိုချစ်သောသူဖြစ်၏။ငါကိုချစ်သောသူကိုငါခမည်း
တော်သည်ချစ်တော်မူမည်။ငါသည်လည်းထိုသူကိုချစ်၍သူ့အားကိုယ်
၂၂ ကိုပြမည် ဟုမိန့် တော်မူ၏။ ယုဒရှကာရုတ်မဟုတ်။အချားသော
ယုဒကသခင်။ကိုယ်တော်သည် လောကီသား တို့ အားကိုယ်ကို မပြဘဲ
လျက်အကျွန်ုပ်တို့အားအဘယ်သို့ပြတော်မူမည်နည်းဟုမေးလျှောက်
၂၃ ၏။ ယေရှုကလည်း ငါကိုချစ်သောသူသည် ငါစကားကိုနား ထောင်
လိမ့်မည်။ ငါခမည်းတော်သည်ထိုသူကို ချစ်တော်မူမည်။ ငါ တို့သည်
၂၄ လည်း သူ့ဆီသို့ကြွ၍ သူ့ဆီမှာနေရာချမည်။ ငါကိုမချစ်သော သူ
သည်ငါ စကား ကိုနား မထောင်။ သင်တို့ကြား သောစကား သည်ငါစ
ကားသာမဟုတ်။ ငါကိုစေလွှတ် တော်မူသောခမည်း တော်၏ စကား
၂၅ တော်ဖြစ်၏။ ငါသည်သင် တို့ဆီမှာ ရှိစဉ်ဤစကား ကိုငါပြောခဲ့
၂၆ ပြီး။ ခမည်းတော်သည်ငါကိုယ်စားစေလွှတ်တော်မူသောဥပဇ္ဈာယ်ဆ
ရာတည်း ဟူသောသန့်ရှင်း သောဝိညာဉ်တော်သည်သင်တို့ အားခပ်
သိမ်း သောအရာ တို့ကိုပြ သသွန်သင်တော်မူ၍ ငါပြောခဲ့သမျှသောစ
ကားတို့ကိုမှတ်မိသောညာဏ်ကိုသင်တို့အားပေးတော်မူမည်။
၂၇ ငြိမ်သက်ခြင်းတရားကိုသင်တို့၌ငါအပ်ထား၏။ငါငြိမ်သက်ခြင်းကို
သင်တို့အားငါပေး၏။လောကီသား တို့သည် ပေး သကဲ့သို့ငါပေးသည်
မဟုတ်။ သင်တို့စိတ်နှစ်လုံးပူပန်ခြင်း။ စိုးရိမ်တုန်လှုပ်ခြင်းမရှိစေနှင့်။
၂၈ ငါသည် ယခု သွား သော်လည်း သင်တို့ ဆီသို့ လာဦး မည်ဟုငါ ပြော
သောစကားကိုသင်တို့ကြားရကြပြီး။သင်တို့သည်ငါ ကိုချစ် လျှင်ခမည်း

တော်ထံ သို့ငါသွား သည်ကိုသင် တို့ဝမ်းမြောက်ကြလိမ့်မည်။ အဘယ်
ကြောင့်နည်းဟူမူကား။ ငါ့ခမည်း တော်သည်ငါ့ထက်သာ၍ကြီးမြတ်
၂၉ တော်မူ၏။ ထိုအမှုအရာရောက်သောအခါသင်တို့သည်ယုံကြည်ရ
၃၀ အောင်မရောက်မှီယခု ပင်သင် တို့ အားငါပြော နှင့် ပြီး။ ယခုမှစ၍
သင် တို့နှင့်ငါများ များ မပြောရ။ အဘယ်ကြောင့် နည်း ဟူမူကား။ ဤ
လောကကိုအစိုးရသောမင်းလာသဲဖြ စ်၏။လာသော်လည်းငါ၌ဘာမျှ
၃၁ မတွေ့။ ငါသည် ခမည်း တော်ကို ချစ် သည် ကို ၎င် ခမည်း တော်မှာ
တော် မူ သည် အ တိုင်း ငါ ပြု သည်ကို ၎င် လောကီ သား တို့ သိမည် အ
ကြောင်းတည်း။ဤအရပ်မှထ၍သွားကြစို့။

❀❀

၁ ငါသည်မှန် သောစပျစ်နွယ်ပင်ဖြစ်၏။ ငါ့ခမည်း တော်သည်လည်းဥ
၂ ယဉ်စောင့်ဖြစ်တော်မူ၏။ ငါ၌အသီးမသီးသော အခက်ရှိသမျှတို့ကို
ခုတ်ပြစ် တော်မူ၏။ အသီးသီး သောအခက်ရှိသမျှတို့ကိုသာ ၍သီးစေ
၃ ခြင်းငှါသုတ်သင်ရှင်းလင်းတော်မူ၏။ သင်တို့သည်ငါဟောပြော
၄ သောစကားအားဖြင့်ယခုပင်ရှင်းလင်းသည်ဖြစ်ကြ၏။ ငါ၌တည်
နေကြလော့။ငါသည်လည်းသင်တို့၌တည်နေလိမ့်မည်။စပျစ်ခက်သည်
အပင်၌မတည် ဘဲကိုယ် အလိုအ လျောက်အသီး ကိုမသီး နိုင်သကဲ့သို့
၅ သင်တို့သည်ငါ၌မတည်လျှင်အသီး ကိုမသီး နိုင်ကြ။ ငါသည်စပျစ်
နွယ်ပင် ဖြစ်၏။သင်တို့သည်အခက်များဖြစ်ကြ၏။ အကြင်သူသည်ငါ
၌တည် ၍ ငါသည်လည်း သူ၌တည်၏။ ထိုသူသည်များ သောအသီးကို
၆ သီးတတ်၏။ငါနှင့်ကွာလျှင်သင်တို့သည်ဘာမျှမတတ်နိုင်ကြ။ ငါ၌မ
တည်သော သူသည် သွေ့ခြောက် သောအခက်ကဲ့သို့ ပြင်သို့ပြစ်လိုက်
ခြင်းကိုခံရ၏။ထိုသို့သောအခက်များ ကိုလူတို့သည်စုသိမ်း၍မီးထဲ၌
၇ ထည့်ကြသဖြင့်မီး လောင်ခြင်းသို့ရောက်ကြ၏။ သင်တို့သည်ငါ၌
တည်၍ ငါ့စကား သည်သင်တို့၌ တည်လျှင်သင်တို့သည် တောင်းချင်
၈ သမျှကိုတောင်း၍ရကြလိမ့်မည်။ ။သင်တို့သည်များသော
အသီးကိုသီးသောအားဖြင့်ငါ့ခမည်းတော်သည်ဘုန်းထင်ရှားတော်မူ
၉ ၍သင်တို့သည်လည်းငါ့တပည့်အမှန်ဖြစ်ကြလိမ့်မည်။ ခမည်းတော်
သည်ငါ့ကိုချစ်တော်မူသကဲ့သို့ငါသည်သင်တို့ကိုချစ်၏။ငါချစ်ခြင်းမေ
၁၀ တ္တာ၌တည်နေကြလော့။ ငါသည်ငါ့ခမည်းတော်၏ပညတ်တို့ကိုစောင့်
ရှောက်၍ ခမည်း တော်၏ မေတ္တာ ၌တည် နေသကဲ့သို့သင်တို့ သည်ငါ

၁၁ ပညတ်တို့ကိုစောင့်ရှောက်လျှင်ငါ၏မေတ္တာ၌တည်နေကြလိမ့်မည်။
သင်တို့၌ငါ၏ဝမ်းမြောက်စရာအကြောင်းတည်ရအောင်၎င်းသင်တို့၏
ဝမ်းမြောက်ခြင်းပြည့်စုံရအောင်၎င်း ဤစကားကိုသင်တို့အားငါဟော
၁၂ ပြော၏။ ငါပညတ်ဟူမူကား။ငါသည်သင်တို့ကိုချစ်သည်နည်းတူသင်
၁၃ တို့အချင်းချင်းချစ်ကြလော့။ ကိုယ်အဆွေတို့အဖို့အလို့ငှါကိုယ်အ
သက်ကိုစွန့်ခြင်းမေတ္တာထက်သာ၍မြတ်သောမေတ္တာသည်အဘယ်
၁၄ သူ၌မရှိ။ ငါပညတ်သမျှတို့ကိုသင်တို့သည်ကျင့်ဆောင်လျှင်ငါ၏အ
၁၅ ဆွေဖြစ်ကြ၏။ ယခုမှစ၍သင်တို့ကိုငါသည်ကျွန်ဟူ၍မခေါ်။ကျွန်
မူကားကိုယ်သခင်ပြုသောအမှုကိုမသိ။ သင်တို့ကိုအဆွေဟူ၍ငါခေါ်
၏။ အဘယ်ကြောင့်နည်းဟူမူကား။ ငါသည်ခမည်းတော်ထံ၌ကြား
၁၆ သမျှသောအရာတို့ကိုသင်တို့အားငါပြသပေ၏။ သင်တို့သည်ငါ
ကိုရွေးကောက်ကြသည်မဟုတ်။ငါသည်သင်တို့ကိုရွေးကောက်သည်
ဖြစ်၍သင်တို့သည်သွားသဖြင့်အသီးကိုသီး၍ထိုအသီးတည်မည်အ
ကြောင်းနှင့်ငါ၏နာမကိုအမှီပြု၍ခမည်းတော်ကိုသင်တို့သည်တောင်း
သမျှတို့ကိုရမည်အကြောင်းနှင့်သင်တို့ကိုငါခန့်ထားပေ၏။
၁၇ ။သင်တို့သည်အချင်းချင်းချစ်ရအောင်ဤပညတ်တို့ကိုငါပေး၏။
၁၈ လောကီသားတို့သည်သင်တို့ကိုမုန်းလျှင်သင်တို့ကိုမမုန်းမှီငါကိုမုန်း
၁၉ သည်ကိုသိမှတ်ကြလော့။ သင်တို့သည်လောကီနှင့်ဆက်ဆံလျှင်
လောကီသားတို့သည်မိမိတို့နှင့်ဆက်ဆံသောသင်တို့ကိုချစ်ကြလိမ့်
မည်။သင်တို့သည်လောကီနှင့်မဆက်ဆံ။လောကီထဲကငါရွေးကောက်
သောသူဖြစ်သောကြောင့်လောကီသားတို့သည်သင်တို့ကိုမုန်းကြ၏။
၂၀ ကျွန်သည်မိမိသခင်ထက်သာ၍ကြီးမြတ်သည်မဟုတ်ဟုငါပြောခဲ့ပြီး
သောစကားကိုအောက်မေ့ကြလော့။ သူတို့သည်ငါကိုညှဉ်းဆဲလျှင်
သင်တို့ကိုညှဉ်းဆဲကြလိမ့်မည်။ ငါစကားကိုနားထောင်လျှင်သင်တို့
၂၁ စကားကိုနားထောင်ကြလိမ့်မည်။ ထိုသူတို့သည်ငါကိုစေလွှတ်
တော်မူသောသူကိုမသိသောကြောင့်ငါ၏ဘာသာကိုခံယူသောသင်တို့
၂၂ အားထိုအမှုအားလုံးကိုပြုကြလိမ့်မည်။ ငါသည်လာ၍ထိုသူတို့
အားမဟောမပြောလျှင်သူတို့၌အပြစ်မရှိ။ယခုမူကားမိမိတို့အပြစ်
၂၃ ကိုဖွက်မထားနိုင်ကြ။ ငါကိုမုန်းသောသူသည်ငါ့ခမည်းတော်ကို
၂၄ မုန်း၏။ ငါသည်အခြားသူမပြုဘူးသောအမှုကိုထိုသူတို့ရှေ့မှာမပြု
လျှင်သူတို့၌အပြစ်မရှိ။ယခုမူကား သူတို့သည်ထိုအမှုကိုမြင်လျက်ငါ

၂၅ ကိုရင်ငါခမည်းတော်ကိုရင်မုန်းကြ၏။ သို့ဖြစ်လျှင်အကြောင်းမရှိဘဲ
ငါကိုမုန်းကြ၏ဟုသူတို့၏ပညတ္တိကျမ်းစာ၌ရေးထားသောစကား
၂၆ ပြည့်စုံခြင်းသို့ရောက်သတည်း။ ခမည်းတော်ထံမှထွက်လာ၍
သမ္မာတရားကိုပြသောဝိညည်တော်တည်းဟူသောခမည်းတော်ထံမှ
သင်တို့ဆီသို့ငါစေလတ္တံ့သောဥပဇ္ဈာယ်ဆရာသည်ရောက်လာသော
၂၇ အခါငါအကြောင်းကိုသက်သေခံလိမ့်မည်။ သင်တို့သည်လည်းရှေ့
ဦးစွာမှစ၍ငါနှင့်အတူရှိနေသောကြောင့်သက်သေခံကြလိမ့်မည်။

❋❋

၁။၂ သင်တို့သည်စိတ်မပျက်ရအောင်ဤစကားကိုငါဟောပြော၏။ လော
ကီသားတို့သည်သင်တို့ကိုတရားဇရပ်မှနှင်ထုတ်ကြလိမ့်မည်။ သင်
တို့ကိုသတ်သောသူမည်သည်ကားဘုရားဝတ်ကိုငါပြုပြီးဟုမိမိထင်
၃ မှတ်သောအချိန်ကာလရောက်လိမ့်မည်။ ငါကိုမသိ။ ခမည်းတော်ကို
၄ မသိသောကြောင့်ထိုသို့ပြုကြလိမ့်မည်။ ထိုအချိန်ကာလရောက်
သောအခါငါသည်အထက်က ဤသို့ပြောပြီးသည်ကိုသင်တို့အောင်း
မေ့ရအောင်ယခုပင်ငါဟောပြော၏။ အစအဦး၌သင်တို့နှင့်အတူငါရှိ
၅ သေးသောကြောင့်ဤသို့ငါမပြောဘူးသေး။ ငါကိုစေလွှတ်တော်မူ
သောသူထံသို့ယခုငါသွားရသည်ဖြစ်၍အဘယ်ဆီသို့သွားသနည်း
၆ ဟုသင်တို့မမေးကြ။ ဤအကြောင်းအရာတို့ကိုငါဟောပြောသော
ကြောင့်သင်တို့သည်အလွန်ဝမ်းနည်းခြင်းသို့ရောက်ကြ၏။
၇ ။ငါအမှန်အကန်ဆိုသည်ကား။ ငါသွားလျှင်သင်တို့အကျိုးရှိလိမ့်
မည်။ အဘယ်ကြောင့်နည်းဟူမူကား။ ငါမသွားလျှင်ဥပဇ္ဈာယ်ဆရာ
သည်သင်တို့ဆီသို့မလာ။ ငါသွားလျှင်သူကိုသင်တို့ဆီသို့ငါစေလိုက်
၈ မည်။ ဥပဇ္ဈာယ်ဆရာရောက်လာလျှင်ဒုစရိုက်အပြစ်ကိုရင်အပြစ်
ကင်းခြင်းကိုရင်အပြစ်စီရင်ခြင်းကိုရင်လောကီသားတို့အားထင်ရှား
၉ စွာဖော်ပြလိမ့်မည်။ ငါကိုမရုံကြည်ကြသောကြောင့်ဒုစရိုက်အပြစ်
၁၀ ကိုဖော်ပြမည်။ ငါခမည်းတော်ထံသို့ငါသွား၍သင်တို့သည်နောက်
တဖန်ငါကိုမတွေ့မမြင်ရသောကြောင့်အပြစ်ကင်းခြင်းကိုဖော်ပြ
၁၁ မည်။ ဤလောကကိုအစိုးရသောမင်းသည်အပြစ်စီရင်ခြင်းကိုခံ
၁၂ သောကြောင့်အပြစ်စီရင်ခြင်းကိုဖော်ပြမည်။ ။သင်တို့အား
ငါပြောစရာစကားအများရှိသော်လည်းသင်တို့ယခုမခံနိုင်သေး။
၁၃ သမ္မာတရားနှင့်ပြည့်စုံသောထိုဝိညည်တော်သည်ရောက်လာသော

အခါသမ္မာတရားအားလုံးကိုသင်တို့အားသွန်သင်ပြသလိမ့်မည်။ ထို
ဝိညာဉ်တော်သည် ကိုယ်အလိုအလျောက် ဟောပြောမည် မဟုတ်။
ကြားသမျှတို့ကိုဟောပြောလိမ့်မည်။ နောက်လာလတံ့သောအရာကို
၁၄ လည်းသင်တို့အားဖော်ပြလိမ့်မည်။ ထိုသူသည်ငါ့ဘုန်းကိုထင်ရှား
စေလိမ့်မည်။အဘယ်ကြောင့်နည်းဟူမူကား။ငါနှင့်စပ်ဆိုင်သောအရာ
၁၅ တို့ကိုယူ၍သင်တို့အားဖော်ပြလိမ့်မည်။ ခမည်းတော်နှင့်စပ်ဆိုင်
သမျှသည်ငါနှင့်စပ်ဆိုင်ကြ၏။ ထိုကြောင့်ငါနှင့်စပ်ဆိုင်သောအရာ
၁၆ တို့ကိုယူ၍သင်တို့အားဖော်ပြလိမ့်မည်ဟုငါပြော၏။ ။ခဏ
ကြာပြီးမှသင်တို့သည်ငါ့ကိုမမြင်ရ။တဖန်ခဏကြာပြီးမှငါ့ကိုမြင်
ပြန်လိမ့်မည်။ အဘယ်ကြောင့်နည်းဟူမူကား။ ခမည်းတော်ထံသို့ငါ
၁၇ သွားသည်ဟုမိန့်တော်မူ၏။ တပည့်တော်အချို့တို့လည်းခဏကြာ
ပြီးမှသင်တို့သည်ငါ့ကိုမမြင်ရ။ တဖန်ခဏကြာပြီးမှငါ့ကိုမြင်ပြန်
လိမ့်မည်ဟူ၍ ၎င်အဘယ်ကြောင့်နည်းဟူမူကား။ ခမည်းတော်ထံ
သို့ငါသွားသည်ဟူ၍ ၎င်မိန့်တော်မူသောစကားသည်အဘယ်သို့
၁၈ နည်း။ ခဏဟူ၍မိန့်တော်မူသော်အဘယ်သို့ဆိုလိုသနည်း။
မိန့်တော်မူသောစကားကိုအကျွန်ုပ်တို့နားမလည်ဟုအချင်းချင်းဆိုကြ
၁၉ ၏။ တပည့်တော်တို့မေးလျှောက်လိုသည်ကိုယေရှုသိမြင်တော်မူ
လျှင်ခဏကြာပြီးမှသင်တို့သည်ငါ့ကိုမမြင်ရ။တဖန်ခဏကြာပြီးမှ
ငါ့ကိုမြင်ပြန်လိမ့်မည်ဟုငါပြောသောစကားကိုသင်တို့သည်အချင်း
၂၀ ချင်းဆင်ခြင်သလော။ ငါအမှန်အကန်ဆိုသည်ကား။သင်တို့သည်
ငိုကြွေးမြည်တမ်းခြင်းရှိလိမ့်မည်။ လောကီသားတို့သည်ဝမ်းမြောက်
ခြင်းရှိလိမ့်မည်။သင်တို့သည်ဝမ်းနည်းခြင်းရှိသော်လည်း ထိုဝမ်းနည်း
၂၁ ခြင်းသည်တဖန်ဝမ်းမြောက်ခြင်းဖြစ်လိမ့်မည်။ မိမ္မသည်သားဖွား
သည်တွင်မိမိအချိန်စေ့သောကြောင့်ဝမ်းနည်းခြင်းရှိ၏။ သားဖွား
မြင်ပြီးမှ ဤလောက၌ လူတယောက်ကိုဖွားမြင်သောကြောင့်ဝမ်း
၂၂ မြောက်ခြင်းရှိ၍အထက်ခံရသောဝေဒနာကိုမေ့လျော့တတ်၏။ ထို
နည်းတူ။ယခုတွင်သင်တို့သည်ဝမ်းနည်းခြင်းရှိသော်လည်းနောက်တ
ဖန်သင်တို့ကိုငါတွေ့မြင်သဖြင့်သင်တို့စိတ်နှစ်လုံးဝမ်းမြောက်ခြင်းရှိ
လိမ့်မည်။ထိုဝမ်းမြောက်ခြင်းကို အဘယ်သူမျှမလုယူမဖျက်ဆီးနိုင်
၂၃ ရာ။ ထိုနေ့၌သင်တို့သည်ငါ့ကိုဘာမျှမမေးမြန်းရ။ ငါအမှန်အ
ကန်ဆိုသည်ကား။ သင်တို့သည်ငါ့နာမကိုအမှီပြု၍ခမည်းတော်ကိုဆု

၂၄ တောင်းလေသမျှတို့ကို ခမည်းတော်ပေးတော်မူမည်။ ယခုထိုင်
အောင်ငါ့နာမကိုအမှီပြု၍သင်တို့သည်အဘယ်ဆုကိုမျှမတောင်းသေး။
သင်တို့ဝမ်းမြောက်ခြင်းပြည့်စုံရအောင်တောင်းကြလော့။ထိုသို့တောင်း
၂၅ လျှင်ရလိမ့်မည်။ ။ဤအရာတို့ကိုပုံဥပမာအားဖြင့်ငါပြော
ပြော၏။ပုံဥပမာအား ဖြင့်မ ပြောမပြောဘဲခမည်း တော်နှင့်စပ်ဆိုင်
သောအရာတို့ကိုငါသည်သင်တို့အား အတည့်အလင်းဖော်ပြသောအ
၂၆ ချိန်ကာလရောက်လိမ့်မည်။ ထိုကာလ၌သင်တို့သည်ငါ့နာမကိုအမှီပြု
၍ဆုတောင်းလိမ့်မည်။သင်တို့အဖို့အလို့ငှါခမည်းတော်ကိုငါတောင်း
၂၇ မည်ဟုငါမဆို။ အဘယ်ကြောင့် နည်းဟူမူကား။သင်တို့သည်ငါကို
ချစ်ကြ၍ငါသည်ဘုရားသခင်အထံတော်မှကြွလာသည်ကိုယုံကြသော
၂၈ ကြောင့်ခမည်းတော်သည်သင်တို့ကိုအလိုလိုချစ်တော်မူ၏။ ခမည်း
တော်ထံမှငါထွက်၍ဤလောကသို့ကြွလာ၏။တဖန် ဤလောကမှထွက်
၂၉ ၍ခမည်းတော်ထံသို့ကြွသွားသည်ဟုမိန့်တော်မူ၏။ တပည့်တော်တို့
လည်းကိုယ်တော်သည်ယခုတွင်ပုံဥပမာမဆောင် ဘဲအတည့်အလင်း
၃၀ ဟောတော်မူ၏။ အလုံးစုံတို့ကိုသိတော်မူသည်ကို၎င်အဘယ်သူမျှ
ကိုယ်တော်ကိုမေးမြန်းစေခြင်း ငှါအလိုရှိတော်မမူသည်ကို၎င်ယခုတွင်
အကျွန်ုပ် တို့သိကြပါ၏။ ဤအကြောင်းကိုအကျွန်ုပ်တို့သည်ထောက်၍
ကိုယ် တော်သည် ဘုရားသခင် အထံတော်မှကြွလာတော်မူသည်ကိုယုံ
၃၁ ပါသည်ဟု လျှောက်ကြ၏။ ယေရှုကလည်း ယခုသာ ယုံကြသလော။
၃၂ သင်တို့သည်ဇရိဖရဲကွဲပြား၍ငါ့ကိုတကိုယ်တည်း နေရစ်စေသဖြင့်မိမိ
တို့နေရာသို့ပြေးသွားမည့်အချိန်ကာလလာ၍ယခုပင်ရောက်ပေ၏။သို့
သော်လည်းငါသည်တကိုယ်တည်းနေသည်မဟုတ်။ခမည်းတော်သည်
၃၃ ငါနှင့်အတူရှိတော်မူ၏။ သင်တို့သည်ငါ့ကိုအမှီပြု၍ငြိမ်သက်ခြင်း
ရှိစေခြင်းငှါဤစကားကိုငါဟောပြောပြီ။သင်တို့သည်လောက၌ဆင်း
ရဲဒုက္ခကိုခံကြ၏။သို့သော်လည်း မစိုးရိမ်ကြနှင့်။ လောကကိုငါအောင်
လေပြီးဟုမိန့်တော်မူ၏။

✱✱

၁။၂ ထိုသို့မိန့်တော်မူပြီးမှယေရှုသည်ကောင်းကင်ကိုကြည့်မျှော်၍အိုအဘ။
အကျွန်ုပ် အချိန် ရောက်ပါ ပြီ။ ကိုယ်တော်သည် သား တော်လက်သို့
အပ်ပေးတော်မူသမျှသော သူတို့အား ထာဝရ အသက် ကိုပေး စေခြင်း
ငှါလူမျိုး အပေါင်းတို့ကိုအစိုးရသောအ ခွင့်တန်ခိုး ကိုသားတော်အား

ပေးတော်မူသည် နှင့်အညီ သား တော်သည် ကိုယ်တော်၏ ဘုန်းကို
ထင်ရှားစေပါမည်အကြောင်း။သားတော်၏ဘုန်းကိုထင်ရှားစေတော်
၃ မူပါ။ ထာဝရအသက်ဟူမူကား။မှန်သောဘုရားသခင်တဆူတည်း
ဖြစ်တော်မူ သောကိုယ်တော်ကိုငင် စေလွှတ်တော်မူ သောယေရှုခရစ်
၄ ကို ငင်သိကျွမ်းခြင်းတည်း။ မြေကြီး ပေါ်မှာ အကျွန်ုပ်သည် ကိုယ်
တော်၏ ဘုန်းကိုထင်ရှား စေပါပြီ။ အကျွန်ုပ် ဆောင်ရွက် စရာ ဘို့ အ
ကျွန်ုပ်၌ အပ်ပေးတော်မူသောအမှုကိုအကျွန်ုပ်ဆောင် ရွက်၍ ပြီးပါပြီ။
၅ အိုအဖ။ဤကမ္ဘာမတည် မရှိမီ အထံတော်၌အကျွန်ုပ် ရှိသောဘုန်းအသ
ရေဖြင့်အကျွန်ုပ်ကိုယခုတွင်လည်းအထံတော်၌ချီးမြှောက်တော်မူပါ။
၆ ။ဤလောကထဲမှယူ၍ အကျွန်ုပ်၌အပ်ပေး တော်မူသောသူ
တို့အား အကျွန်ုပ် သည်ကိုယ် တော်၏ တရား ကိုထင်ရှား စေပါပြီ။ထို
သူတို့ကိုကိုယ်တော်သည်ပိုင်တော်မူသဖြင့်အကျွန်ုပ်အား ပေးတော်မူ
၇ ၏။ ကိုယ်တော်၏နှုတ်ကပတ်တရားကိုသူတို့သည်စောင့်ကြ၏။ အ
ကျွန်ုပ်အားပေး တော်မူသမျှတို့သည်ကိုယ်တော်မှဖြစ် ကြောင်း ကိုသူ
၈ တို့ယခုသိကြပါ၏။ အဘယ်ကြောင့်နည်းဟူမူကား။အကျွန်ုပ်အါးပေး
တော်မူသမျှသောအရာတို့ကိုသူတို့အားအကျွန်ုပ်ပေး ၍ သူတို့သည်ခံ
ယူသ ဖြင့်အကျွန်ုပ် သည် အထံတော် မှကြွလာ သည်ကိုအတပ် သိကြ
သည် နှင့်ကိုယ် တော်သည် အကျွန်ုပ်ကိုစေ လွှတ်တော်မူ သည်ကိုယုံကြ
၉ ပါ၏။ သူတို့ အဖို့အလို ငှါအကျွန်ုပ် ဆုတောင်းပါ၏ ။ လောကီသား
တို့အဖို့အလိုငှါ ဆုတောင်းသည် မဟုတ်ပါ။ အကျွန်ုပ်အား ပေးတော်မူ
သော သူတို့ သည်ကိုယ် တော်လူဖြစ် သော့ကြောင့် သူတို့အဖို့ အလိုငှါ
၁၀ ဆုတောင်းပါ၏။ အကျွန်ုပ်နှင့်စပ် ဆိုင်သမျှတို့သည် ကိုယ်တော်နှင့်
စပ်ဆိုင်ပါ၏။ကိုယ်တော်နှင့် စပ်ဆိုင်သမျှတို့ သည်လည်း အကျွန်ုပ်နှင့်
စပ်ဆိုင် ၍ ထို အရာ တို့ အားဖြင့် အကျွန်ုပ် သည် ဘုန်း ထင်ရှား ပါ၏။
၁၁ ယခုမှစ၍ အကျွန်ုပ်သည်ဤ လောက၌မရှိပါ။ ဤသူတို့သည်ဤလောက
၌နေရစ်ရပါ၏။အကျွန်ုပ်သည်ကိုယ်တော်ထံသို့သွားရ ပါ၏။သန့်ရှင်း
တော်မူသောအဖ။ကိုယ်တော်နှင့်အကျွန်ုပ်သည်တလုံး တဝတည်းဖြစ်
သကဲ့သို့ဤ သူတို့ သည် ဖြစ် ရပါမည်အ ကြောင်း။ အကျွန်ုပ်အား ပေး
၁၂ တော်မူသောကိုယ်တော်၏တရား ၌သူတို့ကိုတည်စေတော်မူပါ။ အ
ကျွန်ုပ် သည်ဤ လောက၌ဤ သူတို့နှင့် တကွ ရှိ စဉ် ကာလကိုယ် တော်
၏တရား၌သူတို့ကိုတည်စေပါပြီ။အကျွန်ုပ်အားပေးတော်မူသော သူ

တို့ကိုအကျွန်ုပ်စောင့်မပါပြီး။ထိုသူတို့တွင်ပျက်စီးခြင်းနှင့်ဆိုင်သော
သူတယောက်ကိုထား လျှင်အဘယ်သူမျှပျက်စီးခြင်းသို့မရောက်ပါ။
ထိုသူသည်ပျက်စီးခြင်းသို့ရောက်သဖြင့်ကျမ်းစာချက်ပြည့်စုံရ၏။
၁၃ ။ယခုတွင်အကျွန်ုပ်သည်ကိုယ်တော်ထံသို့သွား ရသည်ဖြစ်၍
ဤသူတို့သည် အကျွန်ုပ်ကိုအမှီပြုသဖြင့်ဝမ်းမြောက်ခြင်း နှင့်ပြည့်စုံစေ
၁၄ ခြင်းငှါဤစကားကိုဤလောကဌ်အကျွန်ုပ်ပြောပါ၏။ ကိုယ်တော်၏
နှုတ်ကပတ်တရားကိုဤသူတို့အားအကျွန်ုပ်ပေးပါပြီး။အကျွန်ုပ်သည်
ဤ လောက နှင့်မ ဆက်ဆံ သကဲ့ သို့ဤ သူ တို့ သည် မဆက် ဆံ သော
၁၅ ကြောင့်လောကီသားတို့သည်ဤသူတို့ကိုမုန်းကြပါ၏။ ဤသူတို့ကိုဤ
လောကမှ နှုတ်ယူ တော် မူမည်အ ကြောင်း။ အကျွန်ုပ် တောင်းသည်မ
ဟုတ်ပါ။မကောင်းသောအမှုအရာတို့နှင့်လွတ် အောင်စောင့်မတော်မူ
၁၆ မည်အကြောင်းကိုသာတောင်းပါ၏။ အကျွန်ုပ်သည် ဤလောကနှင့်မ
၁၇ ဆက်ဆံသကဲ့သို့သူတို့သည် မဆက်ဆံကြပါ။ ကိုယ်တော်၏သမ္မာ
တရားအားဖြင့်သူတို့ကိုသန့်ရှင်းစေတော်မူပါ။ ကိုယ်တော်၏နှုတ်က
၁၈ ပတ်သည်သမ္မာတရားဖြစ်ပါ၏။ ကိုယ်တော်သည်အကျွန်ုပ်ကိုဤလော
ကသို့စေလွှတ် တော်မူသည်နည်း တူအကျွန်ုပ်သည် သူတို့ ကိုစေလွှတ်
၁၉ ပါ၏။ သမ္မာ တရား အားဖြင့်သူ တို့သည် သန့်ရှင်းစေခြင်း ငှါသူတို့
အဖို့အလို့ငှါအကျွန်ုပ်သည်ကိုယ်ကိုကိုယ်သန့်ရှင်းစေပါ၏။
၂၀ ဤသူတို့ အဖို့သာအကျွန်ုပ်ဆု တောင်း သည် မဟုတ်ပါ။ သူတို့ဟော
ပြော ခြင်း အား ဖြင့် အကျွန်ုပ် ကိုယုံ ကြည် သော သူတို့ အဖို့ လည်း ဆု
၂၁ တောင်းပါ၏။ ကိုယ်တော်သည်အကျွန်ုပ်ကိုစေလွှတ်တော်မူသည်ကို
လောကီသားတို့သည်ယုံမည်အကြောင်း။ဤသူအားလုံးတို့သည်တလုံး
တဝတည်းဖြစ်ရအောင်ငင်အဖ။ကိုယ်တော်သည်အကျွန်ုပ်၌ရှိတော်မူ၍
အကျွန်ုပ်သည်ကိုယ်တော်၌ရှိတော်မူသကဲ့သို့ဤသူအားလုံးတို့သည်
၂၂ ငါတို့၌တလုံး တဝတည်း ဖြစ်ရ အောင်ငင်ဆုတောင်းပါ၏။ ငါတို့
၂၃ သည် တလုံး တဝ တည်း ဖြစ်သကဲ့သို့ အကျွန်ုပ် သည် သူ တို့ ၌။ ကိုယ်
တော်သည်အကျွန်ုပ် ၌ဖြစ်လျက်သူတို့သည်တလုံး တဝတည်းဖြစ်၍တ
လုံးတဝတည်း ၌စုံလင်ရအောင်ငှါကိုယ်တော်သည်အကျွန်ုပ်ကိုစေလွှတ်
တော်မူသည်ဖြစ်၍ အကျွန်ုပ်ကိုချစ်တော်မူသကဲ့သို့သူတို့ကိုချစ်တော်
မူကြောင်း ကိုလောကီသား တို့သည်သိရ အောင်ငှါကိုယ်တော်သည်အ
ကျွန်ုပ်အား ပေးတော်မူ သော ဘုန်း အသရေ ကို အကျွန်ုပ်သည်သူတို့

၂၄ အားပေးပါပြီး။ အိုအဖ။ကိုယ်တော်သည်ဤကမ္ဘာမတည်မရှိမှီအ
ကျွန်ုပ်ကိုချစ်တော်မူသဖြင့်အကျွန်ုပ်အားပေးတော်မူသောဘုန်းကော်
ကိုအကျွန်ုပ်အားပေးတော်မူသောသူတို့သည်ရူမြင်ရအောင်အကျွန်ုပ်
ရှိရာအရပ်၌အကျွန်ုပ်နှင့်အတူရှိနေစေခြင်းငှါအကျွန်ုပ်အလိုရှိပါ၏။
၂၅ တရားတော်မူသောအဖ။လောကီသားတို့သည်ကိုယ်တော်ကိုမသိသော်
လည်းအကျွန်ုပ်သိပါ၏။ ကိုယ်တော်သည် အကျွန်ုပ်ကိုစေလွှတ်တော်မူ
၂၆ ကြောင်းကိုဤသူတို့သည်သိကြပါ၏။ ကိုယ်တော်သည်အကျွန်ုပ်ကို
ချစ်တော်မူသောမေတ္တာသည်သူတို့၌ရှိရအောင်၎င်အကျွန်ုပ်သည်သူ
တို့၌ရှိရအောင်၎င်ကိုယ်တော်၏တရားကိုအကျွန်ုပ်သည်သူတို့အားပြ
ညွှန်ပါပြီးဖြစ်၍အစည်ပြညွှန်ပါမည်ဟုမိန့်မြွက်တော်မူ၏။

❋❋

၁ ထိုသို့မိန့်မြွက်တော်မူပြီးမှယေရှုသည်တပည့်တော်တို့နှင့်ကေဒြုန်
ချောင်းတဖက်သို့ကြွ၍ထိုအရပ်၌ရှိသောဥယည်သို့တပည့်တော်တို့
၂ နှင့်အတူဝင်တော်မူ၏။ ထိုအရပ်သို့ယေရှုသည်တပည့်တော်တို့နှင့်
အတူသွားမြဲရှိသောကြောင့်ကိုယ်တော်ကိုအပ်နှံသောယုဒရှကာရုတ်
၃ သည်ထိုအရပ်ကိုသိသည်ဖြစ်၍ စစ်သူရဲတတပ်ကို၎င်ယဇ်ပုရော
ဟိတ်အကြီးတို့နှင့်ဖာရိရှဲလူတို့စေလိုက်သောမင်းလုလင်တို့ကို၎င်ခေါ်
၄ ခဲ့၍မီးအိမ်။မီးရူး။လက်နက်တို့ကိုလက်စွဲလျက်လာကြ၏။ ယေရှု
သည်ကိုယ်၌ဖြစ်လတ္တံ့သမျှသောအမှုအရာတို့ကိုသိတော်မူလျက်လာ
သောသူတို့ဆီသို့သွား၍အဘယ်သူရှာကိုကြသနည်းဟုမေးတော်မူ
၅ ၏။ နာဇရက်မြို့သားယေရှုကိုရှာကြသည်ဟုဆိုလျှင်ယေရှုကငါ
သည်ထိုသူဖြစ်၏ဟုမိန့်တော်မူ၏။ကိုယ်တော်ကိုအပ်နှံသောယုဒရှ
၆ ကာရုတ်သည်လည်းထိုသူတို့နှင့်ရပ်နေ၏။ ငါသည်ထိုသူဖြစ်၏ဟု
မိန့်တော်မူလေသော်ထိုသူတို့သည်နောက်သို့ဆုတ်၍မြေပေါ်၌လဲကြ
၇ ၏။ အဘယ်သူကိုရှာကြသနည်းဟုတဖန်မေးတော်မူလျှင်နာဇရက်
၈ မြို့သားယေရှုကိုရှာသည်ဟုထိုသူတို့သည်ဆိုကြ၏။ ယေရှုကသည်း
ငါသည်ထိုသူဖြစ်၏ဟုငါပြောပြီး။သို့ဖြစ်၍ငါကိုရှာလျှင်ဤသူတို့
၉ ကိုသွားပါလေစေတော့ဟုမိန့်တော်မူ၏။ ကိုယ်တော်သည်အကျွန်ုပ်
အားပေးတော်မူသောသူတို့တွင်အဘယ်သူမျှပျက်စီးခြင်းသို့မ
ရောက်ပါဟူသောအထက်စကားတော်ပြည့်စုံစေခြင်းငှါဤသို့မိန့်
၁၀ တော်မူ၏။ ။ထိုအခါရှိမုန်ပေတရုသည်ဓားပါလျက်ဓားကို

ထုတ်သဖြင့်ယဇ်ပုရောဟိတ်မင်း၏ကျွန်တယောက်ကိုခုတ်၍လက်ျာ
၁၁ နားရွက်ကိုပြတ်စေ၏၊ ထိုကျွန်ကား မာလခုအမည်ရှိသတည်း၊ ယေရှု
ကလည်းဓားကိုအိမ်၌သွင်းထားလော့ ခမည်းတော်သည်ငါ့အားပေး
တော်မူသော ခွက်ကိုငါမသောက်ရသလောဟုပေတရုအားမိန့်တော်
၁၂ မူ၏၊ ထိုအခါတပ်မှူးမှစ၍စစ်သူရဲတို့နှင့်ယုဒမင်းလုလင်တို့သည်ယေ
၁၃ ရှုကိုဖမ်းဆီး၍ချည်နှောင်ပြီးလျှင် အန္နတ်မင်းဆီသို့ရှေ့ဦးစွာဆောင်
သွားကြ၏၊ အန္နတ်မင်းကားထိုနှစ်တွင်ယဇ်ပုရောဟိတ်မင်းဖြစ်သော
၁၄ ကယာဖမင်း၏ ယောက္ခမဖြစ်သတည်း၊ ထိုကယာဖကား လူတ
ယောက်သည်လူများတို့အတွက်ပျက်စီးသေသော်သာ၍ကောင်းသည်ဟု
၁၅ ယုဒလူတို့နှင့်တိုင်ပင်ပြောဆိုသောသူပေတည်း။ ရှိမုန်ပေတ
ရုနှင့်အခြားသောတပည့်တော်တယောက်သည်ယေရှုနောက်တော်သို့
လိုက်ကြ၏။ ထိုတပည့်တော်သည်ယဇ်ပုရောဟိတ်မင်း၏အသိအကျွမ်း
ဖြစ်၍ ယေရှုနှင့်တကွယဇ်ပုရောဟိတ်မင်းအိမ်ဦးထဲသို့ ဝင်လေ၏။
၁၆ ပေတရုသည်ပြင်၌တံခါးနားမှာရပ်နေ၏၊ ထိုကြောင့်ယဇ်ပုရောဟိတ်
မင်းနှင့်အကျွမ်းဝင်သော တပည့်တော်သည်ထွက်၍ တံခါးစောင့်မိမ္မ
၁၇ အားပြောပြီးမှပေတရုကိုသွင်းလေ၏။ တံခါးစောင့်မိမ္မကပေတ
ရုအား သင်သည် ထိုသူ၏တပည့်တို့အဝင်ဖြစ်သည် မဟုတ်လောဟု
၁၈ ဆိုလျှင်မဟုတ်ဖူးဟုပေတရုဆို၏။ ထိုကာလချမ်းသောကြောင့်ကျွန်
များ။မင်းလုလင်များတို့သည်မီးခဲပုံကိုထည့်၍မီးလှုံနေကြ၏။ပေတရု
၁၉ သည်လည်း သူတို့နှင့်တကွရပ်၍လှုံနေ၏။ ။ထိုအခါယဇ်ပု
ရောဟိတ်မင်းသည် တပည့်တော်တို့ကို၎င် ဒေသနာတော်ကို၎င် အ
၂၀ ကြောင်းပြု၍ယေရှုကိုမေးမြန်းစစ်ကြော၏။ ယေရှုကလည်းငါသည်
လောက၌ထင်ရှားစွာဟောပြောပြီ။ ယုဒလူအပေါင်းတို့စည်းဝေးရာ
တရားဇရပ်၌၎င်ဗိမာန်တော်၌၎င်ငါသည်အစဉ်မပြတ်ဆုံးမသြဝါ
၂၁ ဒပေးပြီ။ မထင်ရှားဘဲအလျှင်းငါမဟောမပြော။ အဘယ်ကြောင့်ငါ
ကိုမေးမြန်းသနည်း။ ငါသည်အဘယ်သို့ဟောပြောသည်ကိုကြားရ
သောသူတို့ကိုမေးမြန်းတော့။ ငါပြောသောစကားကိုသူတို့သိကြ၏
၂၂ ဟုမိန့်တော်မူ၏။ ထိုသို့မိန့်တော်မူသော်အနီးအပါး၌ရပ်နေသော
မင်းလုလင်တယောက်ကသင်သည်ယဇ်ပုရောဟိတ်မင်းကိုဤသို့ပြန်
၂၃ ဆိုရာသလောဟုပြောလျက်ယေရှုကိုရိုက်လေ၏။ ယေရှုကလည်း ငါ့စ
ကားမမှန်လျှင်မမှန်ကြောင်းကိုပြပါ။ မှန်လျှင်ငါ့ကိုအဘယ်ကြောင့်

၂၄ ရိုက်သနည်းဟုမိန့်တော်မူ၏။ အန္နတ်မင်းသည်ချည်နှောင်လျက်ရှိ
သောကိုယ်တော်ကိုယဇ်ပရောဟိတ်မင်းကယာဖဆီသို့ပို့စေနှင့်လေ
၂၅ ပြီး။ ။ရှိမုန်ပေတရုရပ်၍မီးလှုံနေသည်တွင်အချို့သောသူ
တို့ကသင်သည်သူ၏တပည့်တို့အဝင်ဖြစ်သည်မဟုတ်လောဟုဆို
၂၆ လျှင်မဟုတ်ဖူးဟုပေတရုငြင်း၍ဆို၏။ ပေတရုသည်နားရွက်ကို
ဖြတ်သောသူ၏ပေါက်ဖော်ဖြစ်သောယဇ်ပရောဟိတ်မင်း၏ကျွန်
တယောက်ကသင်သည်ဥယျာဉ်၌ယေရှုနှင့်အတူရှိသည်ကိုငါမြင်
၂၇ သည်မဟုတ်လောဟုဆိုလျှင် တဖန်ပေတရုငြင်းပြန်လေ၏။ထိုခဏ
ချင်းတွင်ကြက်တွန်၏။



၂၈ နံနက်အချိန်ရောက်လျှင်ယေရှုကိုကယာဖဆီမှအိမ်တော်ဦးသို့ယူ
သွားကြ၏။ ထိုသူတို့သည်အာပတ်နှင့်ကင်းလွတ်၍ပသခါပွဲကိုခံရ
၂၉ မည်အကြောင်း။အိမ်တော်ဦးထဲသို့ကိုယ်တိုင်မဝင်ကြ။ ထိုကြောင့်
ပိလတ်မင်းသည်သူတို့ဆီသို့ထွက်၍ဤသူ၌အဘယ်အပြစ်တင်ကြသ
၃၀ နည်းဟုမေးလျှင် ဤသူသည်လူဆိုးမဟုတ်လျှင်အကျွန်ုပ်တို့သည်
၃၁ ကိုယ်တော်၌ခအပ်ရာဟုလျှောက်ကြ၏။ ပိလတ်မင်းကလည်းသူ
ကိုယူ၍သင်တို့ဓမ္မသတ်အတိုင်းစီရင်ကြဟုဆို၏။ယုဒလူတို့လည်းအ
၃၂ ကျွန်ုပ်တို့သည်အဘယ်သူကိုမသတ်ပိုင်ဟုလျှောက်ကြ၏။ ထိုသို့
လျှောက်သော်ယေရှုသည်မိမိအဘယ်သို့သေရမည်အရိပ်ကိုပေး၍
၃၃ မိန့်တော်မူသောစကားတော်ပြည့်စုံမည်အကြောင်းတည်း။ ။
ပိလတ်မင်းသည်အိမ်တော်ဦးထဲသို့တဖန်ဝင်၍ယေရှုကိုခေါ်ပြီးလျှင်
၃၄ သင်သည်ယုဒရှင်ဘုရင်မှန်သလောဟုမေး၏။ ယေရှုကလည်းမင်း
ကြီးသည်ကိုယ်အလိုအလျောက်ဤစကားကိုပြောသလော။ သို့မ
ဟုတ်။သူတပါးတို့သည်ငါ့အကြောင်းကိုလျှောက်ကြပြီးလောဟုမေး
၃၅ တော်မူ၏။ ပိလတ်မင်းကငါသည်ယုဒလူဖြစ်သလော။သင်၏လူမျိုး
နှင့်တကွယဇ်ပရောဟိတ်အကြီးတို့သည်သင်ကိုငါ၌အပ်ကြပြီ။သင်
၃၆ သည်အဘယ်သို့ပြုမိသနည်းဟုမေးလျှင် ယေရှုကငါနိုင်ငံသည်ဤ
လောကနှင့်မစပ်ဆိုင်။ငါနိုင်ငံသည်ဤလောကနှင့်စပ်ဆိုင်လျှင်ငါသည်
ယုဒလူတို့လက်သို့မရောက်အောင်ငါ့လူတို့သည်တိုက်လံလိမ့်မည်။ယ
ခုမူကား ငါနိုင်ငံသည်ဤဒေသအရပ်နှင့်မစပ်ဆိုင်ဟုမိန့်တော်မူ၏။
၃၇ ပိလတ်မင်းကလည်းသို့ဖြစ်၍သင်သည်ရှင်ဘုရင်မှန်သလောဟုမေး

လျှင်ယေရှုကမင်းကြီးမေးသည်အတိုင်းငါသည်ရှင်ဘုရင်မှန်ပေ၏။
သမ္မာတရားဘက်သက်သေခံရအောင်ငါသည်ဖွားမြင်၍ဤလောက
သို့ကြွလာပြီး။ သမ္မာတရားနှင့်စပ်ဆိုင်သမျှသောသူတို့သည်ငါ၏
၃၈ ကားသံကိုနားထောင်ကြ၏ဟုမိန့်တော်မူ၏။ ပိလတ်မင်းကသမ္မာ
တရားအဘယ်တရားနည်းဟုမေးပြီးမှတဖန်ယုဒလူတို့ဆီသို့ထွက်၍
၃၉ သူ၌အဘယ်အပြစ်ကိုမျှငါမတွေ့။ ပသခါပွဲ၌လူတယောက်ကိုသင်
တို့အားငါလွှတ်မြဲထုံးစံရှိသည်ဖြစ်၍ယုဒရှင်ဘုရင်ကိုလွှတ်စေချင်
၄၀ သလောဟုမေးလျှင် တဖန်လူအပေါင်းတို့ကဤသူကိုမလွှတ်။ ဗာ
ရဗ္ဗကိုလွှတ်စေချင်ပါသည်ဟုအော်ဟစ်လျှောက်ဆိုကြ၏။ ထိုဗာရဗ္ဗ
၁ ကားဓါးမြဖြစ်သတည်း။ ။ထိုအခါပိလတ်မင်းသည်ယေရှု
၂ ကိုယူ၍ရိုက်စေ၏။ စစ်သူရဲများသည်ဆူးပင်နှင့်ရက်သောဦးရစ်ကို
၃ ခေါင်းတော်၌တင်၍နီမောင်းသောဝတ်လုံနှင့်ခြုံစေပြီးလျှင် ယုဒရှင်
ဘုရင်။ ကိုယ်တော်အားမင်္ဂလာဖြစ်စေသတည်းဟုပြော၍ရိုက်ပုတ်ကြ
၄ ၏။ ပိလတ်မင်းကလည်းဤသူ၌အဘယ်အပြစ်ကိုမျှငါမတွေ့ကြောင်း
၅ ကိုသင်တို့သိရအောင်သူကိုသင်တို့ဆီသို့ငါထုတ်ပြသည်ဟုဆို၏။ ထို
အခါယေရှုသည်ဆူးပင်ဦးရစ်နှင့်နီမောင်းသောဝတ်လုံကိုဝတ်လျက်
ပြင်သို့ထွက်ကြွတော်မူ၏။ ပိလတ်မင်းကလည်းသူကိုကြည့်ကြပါဟု
၆ ဆို၏။ ယဇ်ပုရောဟိတ်အကြီးတို့နှင့်သူတို့လုလင်များတို့ကသူကို
လက်ဝါးကပ်တိုင်မှာရိုက်ထားပါ။ ရိုက်ထားပါဟုဟစ်ကျော်ကြ၏။ ပိ
လတ်မင်းကသင်တို့သည်သူကိုယူ၍လက်ဝါးကပ်တိုင်မှာရိုက်ထားကြ။
၇ ငါသည်သူ၌အပြစ်ကိုမတွေ့ဟုဆိုလျှင် ယုဒလူတို့ကအကျွန်ုပ်တို့၌ရှိ
သောပညတ်အတိုင်းဤသူသေထိုက်ပေ၏။ အဘယ်ကြောင့်နည်းဟူ
မူကား။ ဘုရားသခင်သားတော်ဖြစ်ရောင်ဆောင်သည်ဟုလျှောက်
၈ ကြ၏။ ။ထိုစကားကိုကြားလျှင်ပိလတ်မင်းသည်သာ
၉ ၍ကြောက်သဖြင့်အိမ်တော်ဦးထဲသို့ဝင်ပြန်၍ယေရှုအားသင်သည်
၁၀ အဘယ်ဆီကဖြစ်သနည်းဟုမေးလျှင်တခွန်းကိုမျှပြန်တော်မမူ။ ပိ
လတ်မင်းကငါနှင့်စကားမပြောသလော။ ငါသည်သင်ကိုလက်ဝါးကပ်
တိုင်မှာရိုက်ထားပိုင်သည်ကိုရင် လွှတ်ပိုင်သည်ကိုရင်သင်မသိလော
၁၁ ဟုဆိုလျှင် အထက်အရပ်မှအခွင့်ကိုမရလျှင်မင်းကြီးသည်ငါကိုဘာ
မျှမပြုပိုင်။ ထိုကြောင့်ငါကိုမင်းကြီးလက်သို့အပ်နှံသောသူသည်သာ
၁၂ ၍ကြီးသောအပြစ်ရှိ၏ဟုမိန့်တော်မူ၏။ ထိုအခါမှစ၍ပိလတ်မင်း

သည့်ကိုယ်တော်ကိုလွှတ်ရအောင်ရှာကြံလေ၏။ ယုဒလူတို့ကဤသူကို
လွှတ်လျှင်ကိုယ်တော်သည်ကဲသာဘုရင်၏အဆွေမဟုတ်။ ရှင်ဘုရင်
လုပ်သော သူမည် သည် ကား ကဲသာ ဘုရင် ၏ ရန် သူ ဖြစ်ပါ ၏ဟု
၁၃ ဩ္ဘောက်ကြ၏။ ။ထိုစကားကိုကြား လျှင် ပိလတ်မင်းသည်
ယေရှုကိုပြင်သို့ထုတ်ပြီးမှ ဟေဗြဲစကားအား ဖြင့်ဂဗ္ဗသဟူ၍ကျောက်
၁၄ ခင်းအမည့်ရှိသော အရပ်၌တရား ပလ္လင်ပေါ်မှာထိုင်လေ၏။ ထိုနေ့
အချိန်ကား ပသခါအ ဖိတ်နေ့။ တချက်တီး အချိန်လောက် ရှိ၏။ ပိလတ်
မင်းသည် ယုဒလူတို့အား သင်တို့ရှင်ဘုရင်ကိုကြည့် ကြပါဟုဆိုလျှင်
၁၅ သူကိုထုတ်ပါ။ ထုတ်ပါ။ လက်ဝါး ကပ်တိုင်မှာရိုက်ထား ပါဟု လူများ
ဟစ်ကျော်ကြ၏။ ပိလတ်မင်းကသင်တို့ရှင်ဘုရင်ကိုလက်ဝါး ကပ်တိုင်
မှာရိုက်ထား ရာသလော ဟုဆိုပြန်လျှင် ယဇ်ပုရောဟိတ်အကြီးတို့က
ကဲသာ ဘုရင်မှတပါး အဘယ် ရှင်ဘုရင် အကျွန်ုပ် တို့၌ မရှိပါဟုပြန်
၁၆ ပြောကြ၏။ ထိုအခါပိလတ်မင်းသည်ယေရှုကိုလက်ဝါးကပ်တိုင်မှာ
ရိုက်ထား စေခြင်း ငှါထို သူတို့ လက်သို့အပ်သဖြင့် သူတို့ သည် ကိုယ်
တော်ကိုယူ၍ထုတ်သွားကြ၏။

❋❋

၁၇ ကိုယ်တော်သည်မိမိလက်ဝါး ကပ်တိုင်ကိုထမ်းလျက်ဦးခေါင်း ခွံအရပ်
ဟူ၍တွင်သော အရပ်သို့ထွက်တော်မူ၏။ ထိုအရပ်ကား ဟေဗြဲစကား
၁၈ အားဖြင့်ဂေါလဂေါသအမည်ရှိ၏။ ထိုအရပ်၌ကိုယ်တော် ကိုအချား
သော သူနှစ် ယောက် နှင့်တကွလက်ဝါး ကပ်တိုင် မှာရိုက် ထား ကြ ၏။
၁၉ ထိုသူနှစ်ယောက်အလယ်မှာ ယေရှုနေရာကျသတည်း။ ပိလတ်မင်း
သည် လည်းကမ္ပည်း လိပ်စာကိုရေး ၍လက်ဝါး ကပ်တိုင်တော်၌ တပ်
လေ၏။ လိပ်စာချက်ဟူမူကား။ ယုဒရှင်ဘုရင်နာဇရက်မြို့သား ယေရှု
၂၀ ဟုရေး ထား သတည်း။ ယေ ရှုကို လက်ဝါး ကပ်တိုင်မှာ ရိုက် ထား
သော အရပ် သည်မြို့နှင့်နီး သည် ဖြစ်၍ ထိုလိပ် စာ သည် ဟေဗြဲဘာ
သာ။ ဟေ လသ ဘာ သာ။ ရောမဘာ သာ အား ဖြင့်ရေး ထား သော
၂၁ ကြောင့် ယုဒလူများ တို့သည်ဖတ်ကြ၏။ ထိုကြောင့် ယုဒယဇ်ပုရော
ဟိတ်အကြီး တို့သည် ပိလတ်မင်း ထံသို့ဝင်၍ယုဒရှင်ဘုရင် ဟုမရေး
ပါနှင့်။ ငါသည်ယုဒရှင်ဘုရင်ဖြစ်သည်ဟုသူဆိုကြောင်းကိုရေးတော်
၂၂ မူပါဟုလျှောက်ကြလျှင် ပိလတ်မင်းကငါရေးပြီးသောအရာကိုငါ
၂၃ ရေးပြီးပြီးဟုပြန်ဆို၏။ ။စစ်သူရဲတို့သည်ယေရှုကိုလက်ဝါး

ကပ်တိုင် ၌ရိုက် ထား ပြီး မှအ ဝတ် တော် တို့ကို လေး ပိုင်း ပိုင်း ၍တ
ယောက် တပိုင်း စီယူကြလေ၏။ အတွင်း အင်္ကျီ တော်ကား မချုပ်ဘဲ
လျှက်အ ထက် စွန်း မှသည် အောက် စွန်း တိုင်အောင်ရက် သော အင်္ကျီ
၂၄ ဖြစ်သော ကြောင့် ထိုသူတို့ကအင်္ကျီကိုမဆုတ်ကြနှင့်။အဘယ်သူယူရ
မည် ကိုစာရေး တံပြုကြစို့ဟုအချင်း ချင်း ဆိုကြ၏။ ကျမ်းစာလာသည်
ကား။ သူတို့ သည် အကျွန်ုပ်အ ဝတ်ကိုအချင်း ချင်း ဝေဖန်၍ အ ကျွန်ုပ်
အင်္ကျီကိုစာရေးတံပြုကြ၏ဟူသောအချက်စကား ကိုပြည့်စုံစေ၍စစ်
၂၅ သူရဲတို့သည်ထိုသို့ပြုကြ၏။ ။ယေရှု၏လက်ဝါးကပ်တိုင်တော်
နား မှာ မယ်တော်နှင့်မယ်တော်၏ညီမဖြစ် သောကလောဖယော်းမာ
၂၆ ရိနှင့်မာဂဒလမာရိတို့သည်ရပ်နေကြ၏။ ထိုအခါ ယေရှုသည်မယ်
တော်နှင့်ချစ်တော်မူသော တပည့်တော်သည်အနား မှာရပ်နေသည် ကို
မြင် တော်မူလျှင် မယ်တော်အားအချင်း မိန်းမ။သင်၏သား ကိုကြည့် ပါ
၂၇ ဟူ၍၎င် တပည့်တော်အားသင်၏အမိ ကိုကြည့်ပါဟူ၍၎င်မိန့်တော်မူ
၏။ထိုအခါမှစ၍ထိုတပည့် တော်သည်မယ် တော်ကိုမိမိအိမ် ၌သိမ်း
၂၈ ထား၏။ ။ထိုနောက်မှာဆောင်ရွက်စရာအမှုကုန်စင်ပြီးသည်
ကိုသိ တော်မူလျှင်ငါ ရေငတ်သည် ဟုကျမ်း စာပြည့်စုံ စေခြင်းငှါမိန့်
၂၉ တော်မူ၏။ ထိုအရပ်၌ပုံးရည်နှင့်ပြည့်သောအိုးတလုံးရှိသည်ဖြစ်၍
ထိုသူတို့သည်ရေစုတ်တထွေးကိုပုံးရည်နှင့်ပြည့်စေ၍ဟုဿုပ်ပင်အ
၃၀ ကိုင်းဖျား၌တပ်ပြီးလျှင်ခံတွင်းတော်သို့ကပ်ထား ကြ၏။ ယေရှုသည်
ပုံးရည်ကိုခံ တော်မူပြီး မှအမှုပြီးပြီး ဟုမိန့်တော်မူသဖြင့်ခေါင်းတော်
၃၁ ကိုငိုက် ဆိုက်ညွတ်၍အသက်တော်ကိုစွန့်တော်မူ၏။ ။ထိုနေ့
သည်အဖိတ်နေ့ ဖြစ်၍ နက် ဖန်နေ့လည်း ကြီးမြတ်သောဥပုသ်နေ့ဖြစ်
သည်ကိုယုဒလူတို့သည်ထောက်ကြ၍အလောင်းကောင်တို့သည်ဥပုသ်
နေ့၌လက်ဝါးကပ်တိုင်ပေါ်မှာမရှိရ အောင် ပိလတ်မင်း ထံသို့ဝင်သ
ဖြင့်ခြေကိုချိုး ၍အ လောင်း ကောင် တို့ယူသွား ရမည် အခွင့် တောင်း
၃၂ ကြ၏။ ထိုအခါစစ်သူရဲတို့သည်သွား၍ကိုယ်တော်နှင့်အတူလက်ဝါး
၃၃ ကပ်တိုင်မှာရိုက်ထားသောသူနှစ်ယောက်တို့၏ခြေကိုချိုးလေ၏။ ယေ
၃၄ ရှုဆီသို့ရောက်၍အသက်မရှိကြောင်းကိုမြင်လျှင်ခြေကိုမချိုးဘဲ စစ်
သူရဲတယောက်သည်နံ့ပါးတော်ကိုလှံနှင့်ထိုး၍တချက်တည်းသွေးနှင့်
၃၅ ရေထွက်လာ၏။ ထိုအကြောင်းအရာတို့ကိုမြင်သောသူသည်သက်သေ
ခံ၏။သူ၏ သက် သေခံချက် မှန်ပေ ၏။ သင်တို့သည် ယုံကြည် ရအောင်

၃၆ သူသည်မှန် မှန်ပြောသည် ကိုသူသိ၏။ ထိုအကြောင်း အရာကား
သူ၏အရိုးကိုမချိုးရဟုကျမ်းစာလာချက်ပြည့်စုံမည်အကြောင်းတည်း။
၃၇ တဖန်ကျမ်းစာလာသည်ကား။ ထိုသူတို့သည်မိမိထိုးသောသူကိုမိမိရှု
၃၈ မြင်ရကြလိမ့်မည်ဟုလာ၏။ ။ထိုနောက်မှာအရိမသဲမြို့သား
ယောသပ်သည် ယုဒလူတို့ကိုကြောက်၍မထင်မရှားတပည့်တော်ဖြစ်
သည်နှင့်ပိလတ်မင်း ထံသို့ဝင်၍ ယေရှု၏ အလောင်း တော်ကိုယူ သွား
မည်အခွင့်တောင်း လျှောက်၏။ ပိလတ်မင်း သည်အခွင့် ပေးပြီးမှထို
၃၉ သူသည်သွား၍ယေရှု၏ အလောင်းတော်ကိုယူလေ၏။ အထက်က
ညည့်အခါယေရှုထံ တော်သို့လာ သောနိကောဒင် သည်လည်းအခွက်
သုံးဆယ် မျှလောက် အချိန်ရှိသောမုရန်နှင့် အာလောရောနှောသောနံ့
၄၀ သာ ပျောင်း ကိုဆောင် လျက် လာ ၏။ ထိုသူတို့သည် ယေရှု၏ အ
လောင်းတော်ကိုယူ၍ယုဒ လူတို့၌သင်း ဂြိုဟ်မည်ပြင်ဆင်ခြင်း ထုံးစံ
ရှိသည်အတိုင်း နံ့သာမျိုး နှင့်တကွ ပိတ်ပုဆိုးဖြင့် အလောင်း တော်ကို
၄၁ ထုတ်ရစ်ကြ၏။ လက်ဝါး ကပ်တိုင်မှာရိုက်ထားသောအရပ်တွင်ဥ
ယျာဉ်ရှိ၏။ ထိုဥယျာဉ်၌ တယောက် ကိုမျှမသင်း ဂြိုဟ်ဘူး သောသင်း
၄၂ ဂြိုင်းတွင်း သစ်ရှိ၏။ ယုဒလူတို့၏ အဖိတ်နေ့ဖြစ် သောကြောင့်အ
နီးအပါးရှိသောထိုသင်းဂြိုင်းတွင်း၌အလောင်းတော်ကိုထားကြ၏။



၁ ခုနှစ်ရက်တွင် ဗဋ္ဌမနေ့ရက်။မိုးသောက်ပြီး မလင်းမီစောစောအချိန် ၌မာဂဒလ
မာရိသည် သင်းဂြိုင်း တော်ဆီ သို့သွား၍တွင်း ဝပိတ်သော ကျောက်
၂ သည်ရွေ့လျက်ရှိသည်ကိုမြင်လျှင် ရှိမုန်ပေတရုနှင့်ယေရှုချစ်တော်
မူသောအချားတပည့်တော်ဆီသို့ပြေးသွား၍သင်းဂြိုင်းတော်မှသခင်
ကို ယူ သွားကြပြီ။ အဘယ်ဆီမှာထား သည်ကို မသိပါဟုပြောဆို၏။
၃ ထိုအခါပေ တရုနှင့်အချား သောတပည့်တော်သည် ထွက်၍သင်းဂြိုင်း
၄ တော်ဆီသို့သွားကြ၏။ ထိုသူနှစ်ယောက်တို့သည်အတူပြေးသည်
တွင်အချားသောတပည့်တော်သည် ပေတရုကိုလွန်၍သင်းဂြိုင်းတော်
၅ သို့အရင်ရောက်သည်ရှိသော်ငုံ့ကြည့်သဖြင့် ပိတ်ပုဆိုးရှိရစ်သည်
၆ ကို မြင် ၍ မဝင် ဘဲနေ ၏။ ရှိမုန် ပေတရုသည် နောက် သို့လိုက် ၍
ရောက် သော အခါ တွင်း ထဲသို့ ဝင် သဖြင့် ပိတ် ပုဆိုး ရှိ ရစ် သည် ကို
၇ ၎င် ခေါင်းတော်ကိုဖုံးသောပဝါသည်ပိတ်ပုဆိုးနှင့်အတူမရှိဘဲတချား
၈ စီလိပ်လျက်ရှိနေသည်ကို၎င် မြင်လေ၏။ ထိုအခါသင်းဂြိုင်းတော်သို့

အရင်ရောက် သောအချား တပည့် တော်သည် ဝင်၍မြင်သဖြင့် ယုံလေ
၉ ၏။ ကိုယ်တော်သည်သေခြင်းမှထမြောက်ရ၏ ဟူသောကျမ်းစကား
၁၀ ကိုတ ပည့် တော် တို့ သည် နား မလည် သေး။ နောက်မှာ ထိုသူနှစ်
ယောက်တို့သည်မိမိတို့အပေါင်းအသင်းဆီသို့ပြန်သွားကြ၏။
၁၁ မာရိ သည်သင်းဂြိုင်းတော်အနား မှာငိုကြွေး လျက်ရပ်နေ၏။ ငိုကြွေး
၁၂ စည်ငုံ၍တွင်းထဲသို့ကြည့် လျှင် ကောင်းကင်တမန်နှစ်ပါးတို့သည်
ဖြူသော အဝတ်ကို ဝတ်ဆင်လျက် ယေရှု၏ အလောင်း တော်လျောင်း
ရာအရပ်။ခေါင်းရင်း၌တပါး။ခြေရင်း၌တပါးထိုင်နေကြသည်ကိုမြင်
၁၃ လေ၏။ ထိုသူတို့ကအချင်းမိန်းမ။အဘယ်ကြောင့်ငိုကြွေးသနည်းဟု
မေးလျှင်ကျွန်မသခင်ကိုယူသွားကြပြီး။ အဘယ်ဆီမှာထားသည်ကို
၁၄ မသိပါ ဟုဆို ၏။ ထိုသို့ ဆိုပြီး မှ နောက် သို့ လှည့် လျှင်ယေရှုရပ်
လျက်နေတော်မူသည် ကိုမြင်သော်လည်း ယေရှုဖြစ် တော်မူမှန်းကိုမ
၁၅ သိ။ ယေရှုကလည်းအချင်းမိန်းမ။အဘယ်ကြောင့်ငိုကြွေးသနည်း။အ
ဘယ်သူကိုရှာသနည်းဟုမေး တော်မူ၏။မာရိကထိုသူသည်ဥယျာဉ်
စောင့်ဖြစ်သည်ဟုထင်မှတ်၍ သင်သည်သူကိုဆောင်သွား သည်မှန်
လျှင်အဘယ်ဆီမှာထား သည်ကိုကျွန်မအား ပြောပါ။ကျွန်မ ယူသွား
၁၆ ပါမည်အရှင်ဟုဆို၏။ ယေရှုကလည်းမာရိဟုမိန့်တော်မူလျှင်မာရိ
သည်လှည့်၍ရဗ္ဗုနိဟုထူးလေ၏။ ရဗ္ဗုနိအနက်ကား အရှင်ဘုရားဆိုလို
၁၇ သတည်း။ ယေရှုကလည်း ငါကိုမဖက်နှင့်ဦး။ ငါ၏ခမည်းတော်ထံ
သို့ငါ မတက်ရ သေး။ ငါညီတို့ ဆီသို့သွား တော့။ ငါ၏ ခမည်း တော်
တည်းဟူသော သင်တို့၏ ခမည်း တော်။ငါ၏ ဘုရား သခင်တည်း ဟူ
သောသင် တို့၏ဘုရား သခင်ထံတော်သို့ငါတက်ရမည့် အကြောင်းအ
၁၈ ရာကိုကြား ပြောတော့ ဟုမိန့်တော်မူသည်နှင့်အညီ မာဂဒလမာရိ
သွား၍ မိမိသည်သခင်ကိုတွေ့မြင်သည်ကိုငင်ထိုသို့မိန့်တော်မူသည်
၁၉ ကိုငင်တပည့်တော်တို့အားကြားလေ၏။ ။ခုနှစ်ရက်တွင်
ပဌမနေ့ရက်ဖြစ် သောထိုနေ့၌ည အချိန်ရောက် သောအခါယုဒ လူတို့
ကိုကြောက်၍တံခါးများကိုပိတ်ထားလျက်တပည့်တော်တို့သည်စည်း
ဝေး၍နေ သော အရပ် သို့ယေရှု သည်ကြွ လာ၍ အလယ်၌ရပ် တော်မူ
လျက်သင်တို့အား ညိမ်သက်ခြင်း ဖြစ်စေသတည်းဟုမိန့်တော်မူ၏။
၂၀ ထိုသို့မိန့် တော်မူပြီး မှလက်တော်။ နံပါး တော်ကိုပြတော်မူ၏။ တပည့်
၂၁ တော်တို့သည်သခင်ကိုမြင်လျှင်ဝမ်းမြောက်ခြင်းသို့ရောက်ကြ၏။ တ

ဖန်ယေရှု ကလည်း သင်တို့အား ငြိမ်သက်ခြင်း ဖြစ်စေသတည်း။ ခ
မည်းတော်သည် ငါ့ကိုစေလွှတ်တော်မူသည်နည်းတူ ငါလည်းသင်တို့ကိုငါစေ
၂၂ လွှတ်၏ဟု မိန့်တော်မူပြီး လျှင်သူတို့အပေါ်၌မှုတ်၍သန့်ရှင်းသောဝိ
၂၃ ညာဉ်တော်ကိုခံကြလော့။ အကြင်သူ၏ အပြစ်ကိုသင်တို့သည် လွှတ်
၍ထိုသူ၏ အပြစ်လွှတ်လျက်ရှိ၏။ အကြင်သူ၏ အပြစ်ကိုသင်တို့သည်
တည်စေ၍ထိုသူ၏ အပြစ်တည်လျက်ရှိ၏ ဟုမိန့်တော်မူ၏။
၂၄ ။ထိုသို့ယေရှုသည် ကြွလာတော်မူသောအခါ တမန်တော်တကျိပ်
နှစ်ပါးအဝင် ဒိဒုမုဟုဆိုလိုသောသောမအမည်ရှိသောသူ တယောက်
၂၅ သည်ထိုတပည့်တော်တို့နှင့်အတူမရှိ။ ထိုသူတို့ကလည်းအကျွန်ုပ်
တို့သည် သခင်ကိုမြင်ရပြီး ဟုသောမ အား ဆိုကြလျှင် သောမ က
လက်တော်၌ သံရိုက်ရာချက်ကိုမမြင်။ သံရိုက်ရာချက်ကို လက်ညှိုး
နှင့် မတို့ မစမ်း။ နံပါး တော်ကိုလည်း လက်နှင့် မစမ်းမသပ်ရလျှင် အ
၂၆ ကျွန်ုပ်မယုံ ဟုဆို၏။ ထိုနောက် ရှစ်ရက်မြောက်သောနေ့၌ တပည့်
တော်တို့သည်တဖန်အထဲ၌ရှိနေ၍ သောမလည်းပါ၏။ တံခါးများပိတ်
ထားလျက်ပင်ယေရှုသည်ကြွလာ၍အလယ်၌ရပ်တော်မူလျက်သင်တို့
၂၇ အားငြိမ်သက်ခြင်း ဖြစ်စေသတည်း ဟုမိန့်တော်မူ၏။ ထိုအခါ
သောမအားသင်လက်ညှိုးကိုဆန့်၍ ငါ့လက်ကိုကြည့်တော့။ သင်လက်
ကိုဆန့်၍ ငါ့နံပါးကိုစမ်းသပ်တော့။ ယုံမှားခြင်းမရှိနှင့်။ ယုံတော့ဟုမိန့်
၂၈ တော်မူ၏။ သောမကလည်း အကျွန်ုပ်အရှင်။ အကျွန်ုပ်ဘုရားသခင်ပေ
၂၉ တကား ဟုပြန်၍လျှောက်၏။ ယေရှုကလည်း သင်သည်ငါ့ကိုမြင်
သောကြောင့်ယုံခြင်းရှိ၏။ ငါ့ကိုမမြင်ဘဲယုံသောသူတို့သည်မင်္ဂလာရှိ
၃၀ ကြ၏ဟုမိန့်တော်မူ၏။ ။ဤကျမ်းစာ၌ရေးမထားသောအချား
နိမိတ်လက္ခဏာအများ တို့ကိုယေရှုသည်တပည့်တော်တို့မျက်မှောက်
၃၁ ၌ပြတော်မူ၏။ ယေရှုသည် ခရစ်တော်ဖြစ်တော်မူကြောင်း နှင့်
ဘုရားသခင်သားတော်ဖြစ်တော်မူကြောင်းကိုသင်တို့ယုံရအောင်၎င်
ထိုသို့ယုံ၍နာမတော်အားဖြင့်အသက်ကိုရအောင်၎င်ဤမျှလောက်ရေး
ထားလျက်ရှိသတည်း။

❋❋

၁ တဖန်ယေရှုသည်တိဗေရိအိုင်နားမှာတပည့်တော်တို့အား ကိုယ်ကိုပြ
၂ တော်မူ၏။ပြတော်မူသည်အကြောင်းအရာဟူမူကား။ ရှိမုန်ပေတရု
နှင့်ဒိဒုမုဟုဆိုလိုသောသောမ။ ဂါလိလဲပြည်ကာနမြို့သားနာသနေလ။

တို့ကိုအကျွန်ုပ်စောင့်မပါပြီး။ထိုသူတို့တွင်ပျက်စီးခြင်းနှင့်ဆိုင်သော
သူတယောက်ကိုထား လျှင်အဘယ်သူမျှပျက်စီးခြင်း သို့မရောက်ပါ။
ထိုသူသည်ပျက်စီးခြင်းသို့ရောက်သဖြင့်ကျမ်းစာချက်ပြည့်စုံရ၏။
၁၃ ။ယခုတွင်အကျွန်ုပ်သည်ကိုယ်တော်ထံသို့သွား ရသည်ဖြစ်၍
ဤသူတို့သည် အကျွန်ုပ်ကိုအမှီပြုသဖြင့်ဝမ်းမြောက်ခြင်း နှင့်ပြည့်စုံစေ
၁၄ ခြင်းငှါဤစကားကိုဤလောက၌အကျွန်ုပ်ပြောပါ၏။ ကိုယ်တော်၏
နှုတ်ကပတ်တရားကိုဤသူတို့အားအကျွန်ုပ်ပေးပါပြီ။အကျွန်ုပ်သည်
ဤ လောက နှင့်မ ဆက်ဆံ သကဲ့ သို့ဤ သူ တို့ သည် မဆက် ဆံ သော
၁၅ ကြောင့်လောကီသားတို့သည်ဤသူတို့ကိုမုန်းကြပါ၏။ ဤသူတို့ကိုဤ
လောကမှ နှုတ်ယူ တော် မူမည်အ ကြောင်း။ အကျွန်ုပ် တောင်းသည်မ
ဟုတ်ပါ။မကောင်းသောအမှုအရာတို့နှင့်လွတ် အောင်စောင့်မတော်မူ
၁၆ မည်အကြောင်းကိုသာတောင်းပါ၏။ အကျွန်ုပ်သည် ဤလောကနှင့်မ
၁၇ ဆက်ဆံသကဲ့သို့သူတို့သည် မဆက်ဆံကြပါ။ ကိုယ်တော်၏သမ္မာ
တရားအားဖြင့်သူတို့ကိုသန့်ရှင်းစေတော်မူပါ။ ကိုယ်တော်၏နှုတ်က
၁၈ ပတ်သည်သမ္မာတရားဖြစ်ပါ၏။ ကိုယ်တော်သည်အကျွန်ုပ်ကိုဤလော
ကသို့စေလွှတ် တော်မူသည်နည်း တူအကျွန်ုပ်သည် သူတို့ ကိုစေလွှတ်
၁၉ ပါ၏။ သမ္မာ တရား အားဖြင့်သူ တို့သည် သန့်ရှင်းစေခြင်း ငှါသူတို့
အမှို့အလိုငှါအကျွန်ုပ်သည်ကိုယ်ကိုကိုယ် သန့်ရှင်းစေပါ၏။
၂၀ ဤသူတို့ အမှို့သာအကျွန်ုပ်ဆု တောင်း သည် မဟုတ်ပါ။ သူတို့ဟော
ပြော ခြင်း အား ဖြင့် အကျွန်ုပ် ကိုရုံ ကြည် သော သူတို့ အမှို့ လည်း ဆု
၂၁ တောင်းပါ၏။ ကိုယ်တော်သည်အကျွန်ုပ်ကိုစေလွှတ်တော်မူသည်ကို
လောကီသားတို့သည်ရုံမည်အကြောင်း။ဤသူအားလုံးတို့သည်တလုံး
တဝတင်းဖြစ်ရအေါင်ငှင်အဖ။ကိုယ်တော်သည်အကျွန်ုပ်၌ရှိတော်မူ၍
အကျွန်ုပ်သည်ကိုယ်တော်၌ရှိ တော်မူသကဲ့သို့ဤသူအား လုံးတို့သည်
၂၂ ငါတို့၌တလုံး တဝတည်း ဖြစ်ရ အောင်ငှင်ဆုတောင်းပါ၏။ ငါတို့
၂၃ သည် တလုံး တဝ တည်း ဖြစ်သကဲ့သို့ အကျွန်ုပ် သည် သူ တို့ ၌။ ကိုယ်
တော်သည်အကျွန်ုပ် ၌ဖြစ်လျက်သူတို့သည်တလုံး တဝတည်းဖြစ်၍တ
လုံးတဝတည်း ၌စုံလင်ရအောင်ငှင်ကိုယ်တော်သည်အကျွန်ုပ်ကိုစေလွှတ်
တော်မူသည်ဖြစ်၍ အကျွန်ုပ်ကိုချစ်တော်မူသကဲ့သို့သူတို့ကိုချစ်တော်
မူကြောင်း ကိုလောကီသား တို့သည်သိရအောင်ငှင်ကိုယ်တော်သည်အ
ကျွန်ုပ်အား ပေးတော်မူ သောဘုန်း အသရေ ကိုအကျွန်ုပ်သည်သူတို့

၂၄ အားပေးပါပြီ။ အိုအဖ။ကိုယ်တော်သည်ဤကမ္ဘာမတည်မရှိမှီအ
ကျွန်ုပ်ကိုချစ်တော်မူသဖြင့်အကျွန်ုပ်အားပေးတော်မူသောဘုန်းတော်
ကိုအကျွန်ုပ်အားပေးတော်မူသောသူတို့သည်ရူမြင်ရအောင်အကျွန်ုပ်
ရှိရာအရပ်၌အကျွန်ုပ်နှင့်အတူရှိနေစေခြင်းငှါအကျွန်ုပ်အလိုရှိပါ၏။
၂၅ တရားတော်မူသောအဖ။လောကီသားတို့သည်ကိုယ်တော်ကိုမသိသော်
လည်းအကျွန်ုပ်သိပါ၏။ ကိုယ်တော်သည်အကျွန်ုပ်ကိုစေလွှတ်တော်မူ
၂၆ ကြောင်းကိုဤသူတို့သည်သိကြပါ၏။ ကိုယ်တော်သည်အကျွန်ုပ်ကို
ချစ်တော်မူသောမေတ္တာသည်သူတို့၌ရှိရအောင်၎င်အကျွန်ုပ်သည်သူ
တို့၌ရှိရအောင်၎င်ကိုယ်တော်၏တရားကိုအကျွန်ုပ်သည်သူတို့အားပြ
ညွှန်ပါပြီးဖြစ်၍အစဉ်ပြညွှန်ပါမည်ဟုမိန့်မြွက်တော်မူ၏။

❋❋

၁ ထိုသို့မိန့်မြွက်တော်မူပြီးမှယေရှုသည်တပည့်တော်တို့နှင့်ကေဒြုန်
ချောင်းတဖက်သို့ကြွ၍ထိုအရပ်၌ရှိသောဥယည်သို့တပည့်တော်တို့
၂ နှင့်အတူဝင်တော်မူ၏။ ထိုအရပ်သို့ယေရှုသည်တပည့်တော်တို့နှင့်
အတူသွားမြဲရှိသောကြောင့်ကိုယ်တော်ကိုအပ်နှံသောယုဒရှကာရုတ်
၃ သည်ထိုအရပ်ကိုသိသည်ဖြစ်၍ စစ်သူရဲတတပ်ကို၎င်ယဇ်ပုရော
ဟိတ်အကြီးတို့နှင့်ဖာရိရှဲလူတို့စေလိုက်သောမင်းလုလင်တို့ကို၎င်ခေါ်
၄ ခဲ့၍မီးအိမ်။မီးရှူး။လက်နက်တို့ကိုလက်စွဲလျက်လာကြ၏။ ယေရှု
သည်ကိုယ်၌ဖြစ်လတံ့သမျှသောအမှုအရာတို့ကိုသိတော်မူလျက်လာ
သောသူတို့ဆီသို့သွား၍အဘယ်သူရှာကိုကြသနည်းဟုမေးတော်မူ
၅ ၏။ နာဇရက်မြို့သားယေရှုကိုရှာကြသည်ဟုဆိုလျှင်ယေရှုကငါ
သည်ထိုသူဖြစ်၏ဟုမိန့်တော်မူ၏။ကိုယ်တော်ကိုအပ်နှံသောယုဒရှ
၆ ကာရုတ်သည်လည်းထိုသူတို့နှင့်ရပ်နေ၏။ ငါသည်ထိုသူဖြစ်၏ဟု
မိန့်တော်မူလေသော်ထိုသူတို့သည်နောက်သို့ဆုတ်၍မြေပေါ်၌လဲကြ
၇ ၏။ အဘယ်သူကိုရှာကြသနည်းဟုတဖန်မေးတော်မူလျှင်နာဇရက်
၈ မြို့သားယေရှုကိုရှာသည်ဟုထိုသူတို့သည်ဆိုကြ၏။ ယေရှုကလည်း
ငါသည်ထိုသူဖြစ်၏ဟုငါပြောပြီး။ သို့ဖြစ်၍ငါကိုရှာလျှင်ဤသူတို့
၉ ကိုသွားပါလေစေတော့ဟုမိန့်တော်မူ၏။ ကိုယ်တော်သည်အကျွန်ုပ်
အားပေးတော်မူသောသူတို့တွင်အဘယ်သူမျှပျက်စီးခြင်းသို့မ
ရောက်ပါဟူသောအထက်စကားတော်ပြည့်စုံစေခြင်းငှါဤသို့မိန့်
၁၀ တော်မူ၏။ ။ထိုအခါရှိမုန်ပေတရုသည်ဓားပါလျက်ဓားကို

ထုတ်သဖြင့်ယဇ်ပရောဟိတ်မင်း၏ကျွန်တယောက်ကိုခုတ်၍လကျာ
၁၁ နားရွက်ပြတ်လေ၏။ ထိုကျွန်ကား မာလခုအမည် ရှိသတည်း။ ယေရှု
ကလည်း၊ဓားကိုအိမ် ၌သွင်းထားတော့။ခမည်းတော်သည်ငါ့အားပေး
တော်မူသော ခွက်ကိုငါမသောက်ရာသလောဟုပေတရုအား မိန့်တော်
၁၂ မူ၏။ ထိုအခါတပ်မှူးမှစ၍စစ်သူရဲတို့နှင့်ယုဒမင်းလုလင်တို့သည်ယေ
၁၃ ရှုကိုဖမ်းဆီး၍ ချည်နှောင်ပြီးလျှင် အန္နတ်မင်းဆီသို့ရှေ့ဦးစွာ ဆောင်
သွားကြ၏။အန္နတ်မင်းကားထိုနှစ်တွင်ယဇ်ပရောဟိတ်မင်းဖြစ်သော
၁၄ ကယာဖမင်း၏ ယောက္ခမ ဖြစ်သတည်း။ ထိုကယာဖကား လူတ
ယောက်သည်လူများ တို့အတွက်ပျက်စီးသေသော်သာ၍ကောင်းသည်ဟု
၁၅ ယုဒလူတို့နှင့်တိုင်ပင်ပြော ဆိုသောသူပေတည်း။ ။ရှိမုန်ပေတ
ရုနှင့်အခြားသောတပည့်တော်တယောက်သည်ယေရှုနောက်တော်သို့
လိုက်ကြ၏။ထိုတပည့်တော်သည်ယဇ်ပရောဟိတ်မင်း၏အသိအကျွမ်း
ဖြစ်၍ ယေရှုနှင့်တကွ ယဇ်ပရောဟိတ်မင်းအိမ်ဦးထဲသို့ ဝင်လေ၏။
၁၆ ပေတရုသည်ပြင်၌တံခါးနားမှာရပ်နေ၏။ထိုကြောင့်ယဇ်ပရောဟိတ်
မင်းနှင့်အကျွမ်းဝင်သော တပည့်တော်သည်ထွက်၍ တံခါးစောင့်မိန်မ
၁၇ အားပြောပြီးမှပေတရုကိုသွင်းလေ၏။ တံခါးစောင့်မိန်မကပေတ
ရုအား သင်သည် ထိုသူ၏တပည့်တို့အဝင်ဖြစ်သည် မဟုတ်လောဟု
၁၈ ဆိုလျှင်မဟုတ်ဘူးဟုပေတရုဆို၏။ ထိုကာလချမ်းသော ကြောင့်ကျွန်
များ၊မင်းလုလင်များ တို့သည်မီးခဲပုံကိုထည့်၍မီး လှုံနေကြ၏။ပေတရု
၁၉ သည်လည်း သူတို့နှင့် တကွရပ် ၍လှုံနေ ၏။ ။ထိုအခါယဇ်ပ
ရောဟိတ်မင်း သည် တပည့် တော် တို့ကို ၎င်ဒေသနာ တော် ကို၎င် အ
၂၀ ကြောင်းပြု၍ယေရှုကိုမေးမြန်း စစ်ကြော၏။ ယေရှုကလည်း၊ငါသည်
လောက၌ထင်ရှားစွာဟောပြောပြီ။ ယုဒလူအပေါင်း တို့စည်းဝေးရာ
တရားဇရပ်၌၎င်ဗိမာန်တော်၌၎င်ငါသည်အစဉ်မပြတ် ဆုံးမသွန်သင်ခဲ့
၂၁ ဒပြီ။ မထင်ရှားဘဲအလျှင်း ငါမဟောမပြော။ အဘယ်ကြောင့်ငါ
ကိုမေးမြန်းသနည်း။ငါသည် အဘယ်သို့ဟောပြော သည်ကိုကြားနာ
သောသူ တို့ကိုမေး မြန်းတော့။ငါပြောသော စကား ကိုသူတို့သိကြ၏
၂၂ ဟုမိန့် တော်မူ၏။ ထိုသို့မိန့် တော်မူ သော်အနီး အပါး၌ရပ်နေ သော
မင်းလုလင်တယောက်ကသင်သည်ယဇ်ပရောဟိတ် မင်းကို၍သို့ပြန်
၂၃ ဆိုရာသလောဟုပြောလျက်ယေရှုကိုရိုက်လေ၏။ ယေရှုကလည်း၊ငါစ
ကားမမှန်လျှင်မမှန်ကြောင်း ကိုပြပါ။ မှန်လျှင်ငါ ကိုအဘယ်ကြောင့်

၂၄ ရိုက်သနည်းဟုမိန့်တော်မူ၏။ အန္နတ်မင်းသည်ချည်နှောင်လျက်ရှိ
သောကိုယ်တော်ကိုယဇ်ပရောဟိတ်မင်းကယာဖဆီသို့ပို့စေနှင့်လေ
၂၅ ပြီး။ ။ရှိမုန်ပေတရုရပ်၍မီးလှုံနေသည်တွင်အချို့သောသူ
တို့ကသင်သည်သူ၏တပည့်တို့အဝင်ဖြစ်သည်မဟုတ်လောဟုဆို
၂၆ လျှင်မဟုတ်ပူးဟုပေတရုငြင်း၍ဆို၏။ ပေတရုသည်နားရွက်ကို
ဖြတ်သောသူ၏ပေါက်ဖော်ဖြစ်သောယဇ်ပရောဟိတ်မင်း၏ကျွန်
တယောက်ကသင်သည်ဥယည်ဥယျာဉ်၌ယေရှုနှင့်အတူရှိသည်ကိုငါမြင်
၂၇ သည်မဟုတ်လောဟုဆိုလျှင် တဖန်ပေတရုငြင်းပြန်လေ၏။ထိုခဏ
ချင်းတွင်ကြက်တွန်၏။

✻✻

၂၈ နံနက်အချိန်ရောက်လျှင်ယေရှုကိုကယာဖဆီမှအိမ်တော်ဦးသို့ယူ
သွားကြ၏။ ထိုသူတို့သည်အာပတ်နှင့်ကင်းလွတ်၍ပသခါပွဲကိုခံရ
၂၉ မည်အကြောင်း။အိမ်တော်ဦးထဲသို့ကိုယ်တိုင်မဝင်ကြ။ ထို့ကြောင့်
ပိလတ်မင်းသည်သူတို့ဆီသို့ထွက်၍ဤသူ၌အဘယ်အပြစ်တင်ကြသ
၃၀ နည်းဟုမေးလျှင် ဤသူသည်လူဆိုးမဟုတ်လျှင်အကျွန်ုပ်တို့သည်
၃၁ ကိုယ်တော်၌မအပ်ရာဟုလျှောက်ကြ၏။ ပိလတ်မင်းကလည်းသူ
ကိုယူ၍သင်တို့ပြဋ္ဌသတ်အတိုင်းစီရင်ကြဟုဆို၏။ယုဒလူတို့လည်းအ
၃၂ ကျွန်ုပ်တို့သည်အဘယ်သူကိုမသတ်ပိုင်ဟုလျှောက်ကြ၏။ ထိုသို့
လျှောက်သော်ယေရှုသည်မိမိအဘယ်သို့သေရမည်အရိပ်ကိုပေး၍
၃၃ မိန့်တော်မူသောစကားတော်ပြည့်စုံမည်အကြောင်းတည်း။ ။
ပိလတ်မင်းသည်အိမ်တော်ဦးထဲသို့တဖန်ဝင်၍ယေရှုကိုခေါ်ပြီးလျှင်
၃၄ သင်သည်ယုဒရှင်ဘုရင်မှန်သလောဟုမေး၏။ ယေရှုကလည်းမင်း
ကြီးသည်ကိုယ်အလိုအလျောက်ဤစကားကိုပြောသလော။သို့မ
ဟုတ်။သူတပါးတို့သည်ငါ့အကြောင်းကိုလျှောက်ကြပြီးလောဟုမေး
၃၅ တော်မူ၏။ ပိလတ်မင်းကငါသည်ယုဒလူဖြစ်သလော။သင်၏လူမျိုး
နှင့်တကွယဇ်ပရောဟိတ်အကြီးတို့သည်သင်ကိုငါ၌အပ်ကြပြီ။သင်
၃၆ သည်အဘယ်သို့ပြုမိသနည်းဟုမေးလျှင် ယေရှုကငါနိုင်ငံသည်ဤ
လောကနှင့်မစပ်ဆိုင်။ငါနိုင်ငံသည်ဤလောကနှင့်စပ်ဆိုင်လျှင်ငါသည်
ယုဒလူတို့လက်သို့မရောက်အောင်ငါလူတို့သည်တိုက်လံလိမ့်မည်။ယ
ခုမူကား ငါနိုင်ငံသည်ဤဒေသအရပ်နှင့်မစပ်ဆိုင်ဟုမိန့်တော်မူ၏။
၃၇ ပိလတ်မင်းကလည်းသို့ဖြစ်၍သင်သည်ရှင်ဘုရင်မှန်သလောဟုမေး

လျှင်ယေရှုကမင်းကြီးမေးသည့်အတိုင်း ငါသည်ရှင်ဘုရင်မှန်ပေ၏။
သမ္မာတရားဘက်သက်သေခံရအောင်ငါသည်ဖွားမြင်၍ဤလောက
သို့ကြွလာပြီး။ သမ္မာတရားနှင့်စပ်ဆိုင်သမျှသောသူတို့သည်ငါ့စ
၃၈ ကားသံကိုနားထောင်ကြ၏ဟုမိန့်တော်မူ၏။ ပိလတ်မင်းကသမ္မာ
တရားအဘယ်တရားနည်းဟုမေးပြီးမှတဖန်ယုဒလူတို့ဆီသို့ထွက်၍
၃၉ သူ၌အဘယ်အပြစ်ကိုမျှငါမတွေ့။ ပသခါပွဲ၌လူတယောက်ကိုသင်
တို့အားငါလွှတ်မြဲထုံးစံရှိသည်ဖြစ်၍ယုဒရှင်ဘုရင်ကိုလွှတ်စေချင်
၄၀ သလောဟုမေးလျှင် တဖန်လူအပေါင်းတို့က ဤသူကိုမလွှတ်။ ဗာ
ရဗ္ဗကိုလွှတ်စေချင်ပါသည်ဟုအော်ဟစ်သျှောက်ဆိုကြ၏။ ထိုဗာရဗ္ဗ
၁ ကားခါးမြဖြစ်သတည်း။ ။ထိုအခါပိလတ်မင်းသည်ယေရှု
၂ ကိုယူ၍ရိုက်စေ၏။ စစ်သူရဲများသည်ဆူးပင်နှင့်ရက်သောဦးရစ်ကို
၃ ခေါင်းတော်၌တင်၍နီမောင်းသောဝတ်လုံနှင့်ခြုံစေပြီးလျှင် ယုဒရှင်
ဘုရင်။ ကိုယ်တော်အားမင်္ဂလာဖြစ်စေသတည်းဟုပြော၍ရိုက်ပုတ်ကြ
၄ ၏။ ပိလတ်မင်းကလည်းဤသူ၌အဘယ်အပြစ်ကိုမျှငါမတွေ့ကြောင်း
၅ ကိုသင်တို့သိရအောင်သူကိုသင်တို့ဆီသို့ငါထုတ်ပြသည်ဟုဆို၏။ ထို
အခါယေရှုသည်ဆူးပင်ဦးရစ်နှင့်နီမောင်းသောဝတ်လုံကိုဝတ်လျက်
ပြင်သို့ထွက်ကြွတော်မူ၏။ ပိလတ်မင်းကလည်းသူကိုကြည့်ကြပါဟု
၆ ဆို၏။ ယဇ်ပုရောဟိတ်အကြီးတို့နှင့်သူတို့လုလင်များတို့ကသူကို
လက်ဝါးကပ်တိုင်မှာရိုက်ထားပါ။ ရိုက်ထားပါဟုဟစ်ကျော်ကြ၏။ ပိ
လတ်မင်းကသင်တို့သည်သူကိုယူ၍လက်ဝါးကပ်တိုင်မှာရိုက်ထားကြ
၇ ငါသည်သူ၌အပြစ်ကိုမတွေ့ဟုဆိုလျှင် ယုဒလူတို့ကအကျွန်ုပ်တို့၌ရှိ
သောဓမ္မသတ်အတိုင်းဤသူသေထိုက်ပေ၏။ အဘယ်ကြောင့်နည်းဟူ
မူကား။ ဘုရားသခင်သားတော်ဖြစ်ရောင်ဆောင်သည်ဟုသျှောက်
၈ ကြ၏။ ။ထိုစကားကိုကြားလျှင်ပိလတ်မင်းသည်သာ
၉ ၍ကြောက်သဖြင့်အိမ်တော်ဦးထဲသို့ဝင်ပြန်၍ယေရှုအားသင်သည်
၁၀ အဘယ်ဆီကဖြစ်သနည်းဟုမေးလျှင်တခွန်းကိုမျှပြန်တော်မမူ။ ပိ
လတ်မင်းကငါနှင့်စကားမပြောသလော။ ငါသည်သင်ကိုလက်ဝါးကပ်
တိုင်မှာရိုက်ထားပိုင်သည်ကိုရင် လွှတ်ပိုင်သည်ကိုရင်သင်မသိသလော
၁၁ ဟုဆိုလျှင် အထက်အရပ်မှအခွင့်ကိုမရလျှင်မင်းကြီးသည်ငါကိုဘာ
မျှမပြုပိုင်။ ထိုကြောင့်ငါကိုမင်းကြီးလက်သို့အပ်နှံသောသူသည်သာ
၁၂ ၍ကြီးသောအပြစ်ရှိ၏ဟုမိန့်တော်မူ၏။ ထိုအခါမှစ၍ပိလတ်မင်း

သည့်ကိုယ်တော်ကိုလွှတ်ရအောင်ရှာကြံလေ၏။ ယုဒလူတို့ကဤသူကို
လွှတ်လျှင်ကိုယ်တော်သည်ကဲသာဘုရင်၏အဆွေမဟုတ်။ ရှင်ဘုရင်
လုပ်သော သူမည်သည် ကား ကဲသာ ဘုရင် ၏ ရန်သူ ဖြစ်ပါ ၏ဟု
၁၃ ကြွေးကြော်ကြ၏။ ။ထိုစကားကိုကြား လျှင် ပိလတ်မင်း သည်
ယေရှုကိုပြင်သို့ထုတ်ပြီးမှ ဟေဗြဲစကားအားဖြင့်ဂဗ္ဗသဟူ၍ကျောက်
၁၄ ခင်းအမည်ရှိသော အရပ်၌တရားပလ္လင်ပေါ်မှာထိုင်လေ၏။ ထိုနေ့
အချိန်ကား ပသခါအဖိတ်နေ့။ တချက်တီး အချိန်လောက်ရှိ၏။ ပိလတ်
မင်းသည် ယုဒလူတို့အား သင်တို့ရှင်ဘုရင်ကိုကြည့်ကြပါဟုဆိုလျှင်
၁၅ သူကိုထုတ်ပါ။ ထုတ်ပါ။ လက်ဝါးကပ်တိုင်မှာရိုက်ထား ပါဟု လူများ
ဟစ်ကျော်ကြ၏။ ပိလတ်မင်းကသင်တို့ရှင်ဘုရင်ကိုလက်ဝါးကပ်တိုင်
မှာရိုက်ထားရာသလော ဟုဆိုပြန်လျှင် ယဇ်ပုရောဟိတ်အကြီးတို့က
ကဲသာ ဘုရင်မှတပါး အဘယ် ရှင်ဘုရင် အကျွန်ုပ်တို့၌ မရှိပါဟုပြန်
၁၆ ပြောကြ၏။ ထိုအခါပိလတ်မင်းသည်ယေရှုကိုလက်ဝါးကပ်တိုင်မှာ
ရိုက်ထားစေခြင်းငှါထိုသူတို့လက်သို့အပ်သဖြင့် သူတို့ သည် ကိုယ်
တော်ကိုယူ၍ထုတ်သွားကြ၏။



၁၇ ကိုယ်တော်သည်မိမိလက်ဝါး ကပ်တိုင်ကိုထမ်းလျက်ဦးခေါင်း ခွံအရပ်
ဟူ၍တွင်သော အရပ်သို့ထွက်တော်မူ၏။ ထိုအရပ်ကား ဟေဗြဲစကား
၁၈ အားဖြင့်ဂေါလဂေါသအမည်ရှိ၏။ ထိုအရပ်၌ကိုယ်တော်ကိုအချား
သောသူနှစ်ယောက်နှင့်တကွလက်ဝါး ကပ်တိုင် မှာရိုက် ထား ကြ၏။
၁၉ ထိုသူနှစ်ယောက်အလယ်မှာ ယေရှုနေရာကျသတည်း။ ပိလတ်မင်း
သည် လည်းကမ္ပည်း လိပ်စာကိုရေး၍လက်ဝါး ကပ်တိုင်တော်၌ တပ်
လေ၏။ လိပ်စာချက်ဟူမူကား။ ယုဒရှင်ဘုရင်နာဇရက်မြို့သား ယေရှု
၂၀ ဟုရေး ထား သတည်း။ ယေ ရှုကို လက်ဝါး ကပ် တိုင်မှာ ရိုက် ထား
သော အရပ်သည်မြို့နှင့်နီး သည် ဖြစ်၍ ထိုလိပ် စာ သည် ဟေဗြဲဘာ
သာ၊ ဟေ လသ ဘာ သာ၊ ရောမဘာ သာ အား ဖြင့်ရေး ထား သော
၂၁ ကြောင့် ယုဒလူများ တို့သည်ဖတ်ကြ၏။ ထိုကြောင့် ယုဒယဇ်ပုရော
ဟိတ်အကြီး တို့သည် ပိလတ်မင်း ထံသို့ဝင်၍ယုဒရှင်ဘုရင် ဟုမရေး
ပါနှင့်။ ငါသည်ယုဒရှင်ဘုရင်ဖြစ်သည်ဟုသူဆိုကြောင်းကိုရေးတော်
၂၂ မူပါဟုလျှောက်ကြလျှင် ပိလတ်မင်းကငါရေးပြီးသောအရာကိုငါ
၂၃ ရေးပြီးပြီးဟုပြန်ဆို၏။ ။စစ်သူရဲတို့သည်ယေရှုကိုလက်ဝါး

ကပ်တိုင် ၌ရိုက် ထား ပြီး မှအဝတ် တော် တို့ကို လေး ပိုင်း ပိုင်း ၍တ
ယောက် တပိုင်း စီယူကြလေ၏။ အတွင်း အင်္ကျီ တော်ကား မချုပ်ဘဲ
လျှက်အ ထက် စွန်း မှသည် အောက် စွန်း တိုင်အောင်ရက် သော အင်္ကျီ
၂၄ ဖြစ်သော ကြောင့် ထိုသူတို့က အင်္ကျီကိုမဆုတ်ကြနှင့်။အဘယ်သူယူရ
မည် ကိုစာရေး တံပြုကြစို့ဟုအချင်း ချင်း ဆိုကြ၏။ ကျမ်းစာလာသည်
ကား။ သူတို့ သည် အကျွန်ုပ်အ ဝတ်ကိုအချင်း ချင်း ဝေဖန်၍ အ ကျွန်ုပ်
အင်္ကျီကိုစာရေးတံပြုကြ၏ဟူသော အချက်စကား ကိုပြည့်စုံစေခြင်းငှါစစ်
၂၅ သူရဲ တို့သည်ထိုသို့ပြုကြ၏။ ။ယေရှု၏လက်ဝါးကပ်တိုင်တော်
နားမှာမယ်တော်နှင့်မယ်တော်၏ ညီမဖြစ် သောကလောဖမယားမာ
၂၆ ရိနှင့်မာဂဒလမာရိတို့သည်ရပ်နေကြ၏။ ထိုအခါ ယေရှုသည်မယ်
တော်နှင့်ချစ်တော်မူသော တပည့်တော်သည်အနား မှာရပ်နေသည်ကို
မြင် တော်မူလျှင် မယ်တော်အားအချင်း မိန်းမ။သင်၏သား ကိုကြည့်ပါ
၂၇ ဟူ၍၎င်း တပည့်တော်အားသင်၏အမိကိုကြည့်ပါဟူ၍၎င်းမိန့်တော်မူ
၏။ထိုအခါမှစ၍ထိုတပည့် တော်သည်မယ် တော်ကိုမိမိအိမ် ၌သိမ်း
၂၈ ထား၏။ ။ထိုနောက်မှာဆောင်ရွက်စရာအမှုကုန်စင်ပြီးသည်
ကိုသိ တော်မူလျှင်ငါ ရေငတ်သည် ဟုကျမ်း စာပြည့်စုံ စေခြင်းငှါမိန့်
၂၉ တော်မူ၏။ ထိုအရပ်၌ပုံးရည်နှင့်ပြည့်သောအိုးတလုံးရှိသည်ဖြစ်၍
ထိုသူတို့သည်ရေစုပ်တထွေးကိုပုံးရည်နှင့်ပြည့်စေ၍ဟုသုပ်ပင်အ
၃၀ ကိုင်း ဖျား၌တပ်ပြီးလျှင်ခံတွင်းတော်သို့ကပ်ထား ကြ၏။ ယေရှုသည်
ပုံးရည်ကိုခံ တော်မူပြီး မှအမှုပြီးပြီး ဟုမိန့်တော်မူသဖြင့်ခေါင်းတော်
၃၁ ကိုငိုက် ဆိုက်ညွှတ်၍အသက်တော်ကိုစွန့်တော်မူ၏။ ။ထိုနေ့
သည်အဖိတ်နေ့ ဖြစ်၍ ခက် ဖန်နေ့လည်း ကြီးမြတ်သောဥပုသ်နေ့ဖြစ်
သည်ကိုယုဒလူတို့သည်ထောက်ကြ၍အလောင်းကောင် တို့သည်ဥပုသ်
နေ့၌လက်ဝါး ကပ်တိုင်ပေါ်မှာမရှိရ အောင် ပိလတ်မင်း ထံသို့ဝင်သ
ဖြင့်ခြေကိုချိုး ၍အ လောင်း ကောင် တို့ယူသွား ရမည် အခွင့်တောင်း
၃၂ ကြ၏။ ထိုအခါစစ်သူရဲတို့သည်သွား၍ကိုယ်တော်နှင့်အတူလက်ဝါး
၃၃ ကပ်တိုင်မှာရိုက်ထားသော သူနှစ်ယောက်တို့၏ခြေကိုချိုးလေ၏။ ယေ
၃၄ ရှုဆီသို့ရောက်၍အသက်မရှိကြောင်းကိုမြင်လျှင်ခြေကိုမချိုးဘဲ စစ်
သူရဲတယောက်သည်နံ ပါး တော်ကိုလှံနှင့်ထိုး၍တချက်တည်းသွေးနှင့်
၃၅ ရေထွက်လာ၏။ ထိုအကြောင်းအရာ တို့ကိုမြင်သောသူသည်သက်သေ
ခံ၏။ သူ၏ သက် သေခံချက် မှန်ပေ ၏။ သင်တို့သည် ယုံကြည် ရအောင်

၃၆ သူသည်မှန်မှန်ပြောသည်ကိုသူသိ၏။ ထိုအကြောင်းအရာကား
သူ၏အရိုးကိုမချိုးရဟုကျမ်းစာလာချက်ပြည့်စုံမည်အကြောင်းတည်း။
၃၇ တဖန်ကျမ်းစာလာသည်ကား။ ထိုသူတို့သည်မိမိထိုးသောသူကိုမိမိရှု
၃၈ မြင်ရကြလိမ့်မည်ဟုလာ၏။ ။ထိုနောက်မှာအရိမသဲမြို့သား
ယောသပ်သည်ယုဒလူတို့ကိုကြောက်၍မထင်မရှားတပည့်တော်ဖြစ်
သည်နှင့်ပိလတ်မင်းထံသို့ဝင်၍ယေရှု၏အလောင်းတော်ကိုယူသွား
မည်အခွင့်တောင်းလျှောက်၏။ ပိလတ်မင်းသည်အခွင့်ပေးပြီးမှထို
၃၉ သူသည်သွား၍ယေရှု၏အလောင်းတော်ကိုယူလေ၏။ အထက်က
ညည့်အခါယေရှုထံတော်သို့လာသောနိကောဒင်သည်လည်းအခွက်
သုံးဆယ်မျှလောက်အချိန်ရှိသောမုရန်နှင့်အာလောရောနှောသောနံ့
၄၀ သာပျောင်းကိုဆောင်လျက်လာ၏။ ထိုသူတို့သည်ယေရှု၏အ
လောင်းတော်ကိုယူ၍ယုဒလူတို့၌သင်းပြုဟ်မည်ပြင်ဆင်ခြင်းထုံးစံ
ရှိသည်အတိုင်းနံ့သာမျိုးနှင့်တကွပိတ်ပုဆိုးဖြင့်အလောင်းတော်ကို
၄၁ ထုတ်ရစ်ကြ၏။ လက်ဝါးကပ်တိုင်မှာရိုက်ထားသောအရပ်တွင်ဥ
ယျာဉ်ရှိ၏။ ထိုဥယျာဉ်၌တယောက်ကိုမျှမသင်းပြုဟ်ဘူးသောသင်း
၄၂ ပြုင်းတွင်းသစ်ရှိ၏။ ယုဒလူတို့၏အဖိတ်နေ့ဖြစ်သောကြောင့်အ
နီးအပါးရှိသောထိုသင်းပြုင်းတွင်း၌အလောင်းတော်ကိုထားကြ၏။

❋❋

၁ ခုနှစ်ရက်တွင်ပဌမနေ့ရက်။မိုးယံ့မလင်းမှီစောစောအချိန်၌မာဂဒ္ဒလ
မာရိသည်သင်းပြုင်းတော်ဆီသို့သွား၍တွင်းဝပိတ်သောကျောက်
၂ သည်ရွှေလျက်ရှိသည်ကိုမြင်လျှင် ရှိမုန်ပေတရုနှင့်ယေရှုချစ်တော်
မူသောအချားတပည့်တော်ဆီသို့ပြေးသွား၍သင်းပြုင်းတော်မှသခင်
ကိုယူသွားကြပြီ။ အဘယ်ဆီမှာထားသည်ကိုမသိပါဟုပြောဆို၏။
၃ ထိုအခါပေတရုနှင့်အချားသောတပည့်တော်သည်ထွက်၍သင်းပြုင်း
၄ တော်ဆီသို့သွားကြ၏။ ထိုသူနှစ်ယောက်တို့သည်အတူပြေးသည်
တွင်အချားသောတပည့်တော်သည်ပေတရုကိုလွန်၍သင်းပြုင်းတော်
၅ သို့အရင်ရောက်သည်ရှိသော်ငုံ့ကြည့်သဖြင့် ပိတ်ပုဆိုးရှိရစ်သည်
၆ ကိုမြင်၍မဝင်ဘဲနေ၏။ ရှိမုန်ပေတရုသည်နောက်သို့လိုက်၍
ရောက်သောအခါတွင်းထဲသို့ဝင်သဖြင့်ပိတ်ပုဆိုးရှိရစ်သည်ကို
၇ ၎င်း ခေါင်းတော်ကိုဖုံးသောပဝါသည်ပိတ်ပုဆိုးနှင့်အတူမရှိဘဲတချား
၈ စီလိပ်လျက်ရှိနေသည်ကို၎င်းမြင်လေ၏။ ထိုအခါသင်းပြုင်းတော်သို့

အရင်ရောက် သောအချား တပည့် တော်သည် ဝင်၍မြင်သဖြင့် ယုံလေ
၉ ၏။ ကိုယ်တော်သည်သေခြင်းမှထမြောက်ရ၏ ဟူ သောကျမ်းစကား
၁၀ ကိုတ ပည့် တော် တို့ သည် နား မလည် သေး။ နောက်မှာ ထိုသူနှစ်
ယောက်တို့သည်မိမိတို့အပေါင်းအသင်းဆီသို့ပြန်သွားကြ၏။ ။
၁၁ မာရိ သည်သင်း ဂြိုင်းတော်အနား မှာငိုကြွေး လျက်ရပ်နေ၏။ ငိုကြွေး
၁၂ စည့်ငုံ၍တွင်း ထဲသို့ကြည့် လျှင် ကောင်းကင်တမန်နှစ်ပါးတို့သည်
ဖြူသော အဝတ်ကို ဝတ်ဆင်လျက် ယေရှု၏ အလောင်း တော်လျောင်း
ရာအရပ်။ခေါင်းရင်း၌တပါး။ခြေရင်း၌တပါးထိုင်နေကြသည်ကိုမြင်
၁၃ လေ၏။ ထိုသူတို့ကအချင်းမိန်းမ။အဘယ်ကြောင့်ငိုကြွေးသနည်းဟု
မေးလျှင်ကျွန်မသခင်ကိုယူသွားကြပြီ။အဘယ်ဆီမှာထားသည်ကို
၁၄ မသိပါ ဟုဆို ၏။ ထိုသို့ ဆိုပြီး မှ နောက် သို့ လှည့် လျှင်ယေရှုရပ်
လျက်နေတော်မူသည် ကိုမြင်သော်လည်း ယေရှုဖြစ် တော် မူမှန်းကိုမ
၁၅ သိ။ ယေရှုကလည်းအချင်းမိန်းမ။အဘယ်ကြောင့်ငိုကြွေးသနည်း။အ
ဘယ် သူကိုရှာသနည်းဟုမေး တော်မူ၏။မာရိကထိုသူသည်ဥယျာဉ်
စောင့်ဖြစ်သည်ဟုထင်မှတ်၍ သင်သည်သူကိုဆောင်သွား သည်မှန်
လျှင်အဘယ်ဆီမှာထား သည်ကိုကျွန်မအား ပြောပါ။ကျွန်မ ယူသွား
၁၆ ပါမည်အရှင်ဟုဆို၏။ ယေရှုကလည်းမာရိဟုမိန့်တော်မူလျှင်မာရိ
သည်လှည့်၍ရဗ္ဗုနိဟုထူ လေ၏။ရဗ္ဗုနိအနက်ကားအရှင်ဘုရားဆိုလို
၁၇ သတည်း။ ယေရှုကလည်း ငါ့ကိုမဖက်နှင့်ဦး။ ငါ၏ခမည်းတော်ထံ
သို့ငါ မတက်ရ သေး။ ငါ့ညီတို့ဆီသို့သွား တော့။ ငါ၏ ခမည်း တော်
တည်းဟူသော သင်တို့၏ ခမည်း တော်။ငါ၏ ဘုရား သခင်တည်း ဟူ
သောသင် တို့၏ဘုရား သခင်ထံတော်သို့ငါတက်ရမည့် အကြောင်းအ
၁၈ ရာကိုကြား ပြောတော့ ဟုမိန့်တော်မူ သည်နှင့်အညီ မာဂဒလမာရိ
သွား၍ မိမိသည်သခင်ကိုတွေ့မြင်သည်ကိုဇင်ထိုသို့မိန့်တော်မူသည်
၁၉ ကိုဇင်တပည့်တော်တို့အားကြားလေ၏။ ။ခုနှစ်ရက်တွင်
ပဌမနေ့ရက်ဖြစ် သောထိုနေ့၌ည အချိန်ရောက် သောအခါယုဒ လူတို့
ကိုကြောက်၍တံခါးများကိုပိတ်ထားလျက်တပည့်တော်တို့သည်စည်း
ဝေး၍နေ သော အရပ် သို့ယေရှုသည်ကြွ လာ၍ အလယ်၌ရပ် တော်မူ
လျက်သင်တို့အား ညိမ်သက်ခြင်း ဖြစ်စေသတည်းဟုမိန့်တော်မူ၏။
၂၀ ထိုသို့မိန့် တော်မူပြီး မှလက်တော်။ နံပါး တော်ကိုပြတော်မူ၏။ တပည့်
၂၁ တော်တို့သည်သခင်ကိုမြင်လျှင်ဝမ်းမြောက်ခြင်းသို့ရောက်ကြ၏။ တ

ဖန်ယေရှု ကလည်း သင်တို့အား ငြိမ် သက် ခြင်း ဖြစ်စေသ တည်း။ ခ
မည်းတော်သည် ငါကိုစေလွှတ်တော်မူသည်နည်းတူ ငါသည် သင်တို့ကို ငါစေ
၂၂ လွှတ်၏ဟု မိန့်တော်မူပြီး လျှင်သူတို့အပေါ်၌မှုတ်၍သန့်ရှင်းသောဝိ
၂၃ ညာဉ်တော်ကိုခံကြလော့။ အကြင်သူ၏ အပြစ် ကိုသင်တို့သည် လွှတ်
၍ထိုသူ၏ အပြစ်လွတ်လျက်ရှိ၏။အကြင်သူ၏ အပြစ်ကိုသင်တို့သည်
တည်စေ၍ထိုသူ၏ အပြစ်တည် လျက်ရှိ၏ ဟုမိန့်တော်မူ၏။
၂၄ ။ထိုသို့ ယေရှုသည် ကြွလာ တော်မူသော အခါ တမန် တော်တကျိပ်
နှစ်ပါးအဝင် ဒိဒုမုဟုဆိုလိုသောသောမအမည်ရှိသောသူ တယောက်
၂၅ သည်ထိုတပည့်တော်တို့နှင့်အတူမရှိ။ ထိုသူတို့ကလည်းအကျွန်ုပ်
တို့သည် သခင် ကိုမြင်ရ ပြီး ဟုသောမ အား ဆို ကြလျှင် သော မက
လက်တော် ၌ သံ ရိုက်ရာ ချက် ကိုမမြင်။ သံ ရိုက်ရာ ချက် ကို လက်ညှိုး
နှင့် မ တို့ မစမ်း။ နံပါး တော် ကို လည်း လက် နှင့် မစမ်းမ သပ် ရလျှင် အ
၂၆ ကျွန်ုပ်မယုံ ဟုဆို၏။ ထိုနောက် ရှစ် ရက်မြောက် သောနေ့၌ တပည့်
တော်တို့သည်တဖန်အထဲ၌ရှိနေ၍ သောမလည်းပါ၏။တံခါးများပိတ်
ထားလျက်ပင်ယေရှုသည်ကြွလာ၍အလယ်၌ရပ်တော်မူလျက်သင်တို့
၂၇ အား ငြိမ် သက် ခြင်း ဖြစ်စေသတည်း ဟုမိန့်တော်မူ၏။ ထိုအခါ
သောမအား သင်လက်ညှိုး ကိုဆန့်၍ ငါလက်ကိုကြည့်တော့။ သင်လက်
ကိုဆန့်၍ ငါနံပါး ကိုစမ်းသပ် တော့။ယုံမှားခြင်းမရှိ နှင့်။ယုံ တော့ဟုမိန့်
၂၈ တော်မူ၏။ သောမကလည်း အကျွန်ုပ်အရှင်။အကျွန်ုပ်ဘုရားသခင်ပေ
၂၉ တကား ဟုပြန်၍ လျှောက်၏။ ယေရှု ကလည်း သင်သည်ငါ ကိုမြင်
သောကြောင့်ယုံခြင်း ရှိ၏။ ငါကိုမမြင်ဘဲယုံသောသူတို့ သည်မင်္ဂလာရှိ
၃၀ ကြ၏ဟုမိန့်တော်မူ၏။ ။ဤကျမ်းစာ၌ရေးမထားသောအချား
နိမိတ်လက္ခဏာအများ တို့ကိုယေရှုသည်တပည့်တော်တို့မျက် မှောက်
၃၁ ၌ ပြတော်မူ၏။ ယေရှုသည် ခရစ်တော်ဖြစ် တော်မူ ကြောင်း နှင့်
ဘုရားသခင်သား တော်ဖြစ်တော်မူကြောင်းကိုသင်တို့ယုံရအောင်၎င်
ထိုသို့ယုံ၍နာမတော်အားဖြင့် အသက်ကိုရအောင်၎င်ဤမျှလောက်ရေး
ထားလျက်ရှိသတည်း။

**

၁ တဖန်ယေရှုသည်တိဗေရိအိုင်နားမှာတပည့်တော်တို့အား ကိုယ်ကိုပြ
၂ တော်မူ၏။ပြတော်မူသည်အကြောင်းအရာဟူမူကား။ ရှိမုန်ပေတရု
နှင့်ဒိဒုမုဟုဆိုလိုသောသောမ။ဂါလိလဲပြည်ကာနမြို့သားနာသနေလ။

ဇေဗေဒဲ၏သားနှစ်ယောက်။အချားသောတပည့်တော်နှစ်ယောက်တို
၃ သည်အတူရှိကြ၏။ ရှိမုန်ပေတရုက ကျွန်ုပ်ငါးဖမ်းသွားမည်ဟုဆို
လျှင်ထိုသူတို့က ကျွန်ုပ်တို့လည်းလိုက်မည်ဟုဆိုသည်နှင့် ထွက်သွား
ကြ၏။ချက်ချင်း လှေထဲသို့ဝင် သဖြင့်ထိုညည့် တွင် ပင်ဘာမျှမရကြ
၄ နံနက်ရောက်သောအခါယေရှုသည်ကမ်းနား မှာရပ်တော်မူ၏။သို့ရာ
၅ တွင်တပည့်တော်တို့သည်ယေရှုဖြစ်တော်မူမှန်းကိုမသိကြ။ ယေရှု
ကလည်း ချစ်သားတို့။ စားစရာ တစုံ တခုရှိသ လောဟု မေးတော်မူ
၆ လျှင်မရှိပါဟုပြန်ပြောကြ၏။ တဖန်ယေရှုကလည်း လှေလက်ျာဘက်
မှာပိုက်ကွန်ကိုပြစ်ချတော့။သို့ပြုလျှင်ရလိမ့်မည်ဟုမိန့်တော်မူသည်
အတိုင်းထိုသူတို့သည်ပြစ်ချ၍ငါး တို့သည်များလှသော ကြောင့်ပိုက်
၇ ကွန်ကိုဆွဲ၍မရနိုင်။ ။ထိုအခါယေရှုချစ်တော် မူသောတပည့်
တော်ကငါတို့သခင်ပေတည်းဟုပေတရုအားဆို၏။သခင်ဖြစ်ကြောင်း
ကိုရှိမုန် ပေတရုကြား လျှင်မိမိ အဝတ် ကိုမရုံဘဲ နေ သည် ဖြစ် ၍အ
၈ ပေါ်အင်္ကျီကိုဝတ်စည်းသဖြင့်အိုင်ထဲသို့ဆင်းလေ၏။ အချားသော
တပည့် တော်တို့ သည်ကမ်း နှင့် မနီး မဝေး။ အလံ ငါး ဆယ် လောက်ရှိ
သည် ဖြစ် ၍ငါးများ နှင့်ပိုက် ကွန်ကို ဆွဲငင် လျက် လှေစီး ၍လာ ကြ၏။
၉ ကုန်း ပေါ်သို့ရောက် သောအခါ မီး ခဲပုံကိုငင်ကင်လျက် ရှိ သောငါးကို
၁၀ ငင်မုန့်ကိုငင်တွေ့မြင်ကြ၏။ ယေရှုကလည်း ယခုရ သောငါးအချို့ကို
၁၁ ယူခဲ့ကြဟုမိန့်တော်မူ၏။ ရှိမုန်ပေတရုသည်လှေ ပေါ်သို့တက်၍ငါး
ကြီး တရာ ငါး ဆယ် သုံး ကောင်နှင့် ပြည့်လျက်ရှိ သော ပိုက် ကွန်ကို
ကုန်း ပေါ်သို့ ဆွဲငင် လေ၏။ ထိုမျှ လောက် များ သော် လည်း ပိုက်ကွန်
၁၂ မစုတ်မပြတ်ရှိ၏။ ယေရှုကလည်းလာ၍နံနက်စာကိုစားကြပါဟုမိန့်
တော်မူ၏။သခင်ဖြစ်တော် မူကြောင်း ကိုတပည့် တော်တို့သည်သိကြ
သဖြင့်ကိုယ်တော်သည်အဘယ်သူနည်းဟူ၍တစုံတယောက်မျှမမေး
၁၃ မလျှောက်ဝံ့ကြ။ ယေရှုသည်လာ၍မုန့်နှင့်ငါးကိုယူသဖြင့်သူတို့အား
၁၄ ပေးတော်မူ၏။ ဤပြ တော်မူ ခြင်းကား ယေရှုသည် သေခြင်းမှထ
မြောက်တော်မူသောနောက် တပည့် တော် တို့အားကိုယ်ကို သုံး ကြိမ်
၁၅ မြောက်အောင်ပြတော်မူခြင်းဖြစ်သတည်း။ ။နံနက်စာကိုစား
ကြသောနောက်ယေရှုသည် ရှိမုန်ပေတရု အား ယောန ၏သား ရှိမုန်။
သင်သည် ဤသူတို့ထက်သာ၍ငါ ကိုချစ် သလောဟုမေး တော်မူလျှင်
ဟုတ်ပါ၏ သခင်၊ ကိုယ်တော်ကိုအကျွန်ုပ် ချစ်သည် ကိုကိုယ်တော်သိ

တော်မူ၏ဟုလျှောက်လေသော်ငါ၏သိုးသငယ်တို့ကိုကျွေးမွေးလော့
၁၆ ဟုမိန့်တော်မူ၏။ တဖန်ယေရှုက ယောနဧ၏သား ရှိမုန်။ သင်သည်
ငါကိုချစ် သလော ဟု ဒုတိယအကြိမ် မေးတော်မူလျှင် ဟုတ်ပါ၏ သ
ခင်။ ကိုယ်တော် ကိုအကျွန်ုပ်ချစ်သည်ကိုကိုယ်တော်သိတော်မူ၏ ဟု
၁၇ လျှောက်လေသော်ငါ၏သိုးတို့ကိုထိန်းလော့ဟုမိန့်တော်မူ၏။ ယေ
ရှုကလည်းယောနဧ၏ သား ရှိမုန်။သင်သည်ငါကိုချစ် သလောဟု တတိ
ယအကြိမ်မေး တော်မူ လျှင်သင် သည်ငါကိုချစ် သလောဟုသုံး ကြိမ်
မြောက်အောင်မေးတော်မူသော့ကြောင့်ကြွင်နာသောစိတ်ရှိ၍သခင်။
ကိုယ်တော်သည်ခပ်သိမ်းသောအရာတို့ကိုသိတော်မူ၏။ ကိုယ်တော်
ကိုအ ကျွန်ုပ်ချစ် သည် ကို ကိုယ် တော်သိ တော်မူ၏ ဟုလျှောက် လေ
၁၈ သော် ယေရှုကလည်း ငါ၏သိုး တို့ကို ကျွေးမွေး လော့။ ငါအမှန် အ
ကန်ဆို သည်ကား။ သင်သည်ပျိုသော အသက် ရှိစဉ် ကိုယ်ကိုကိုယ်
ပတ်စည်း ၍ အလိုရှိရာရာ သွား လာတတ်၏။ သင်သည်အိုသော အခါ
လက်နှစ်ဖက်ကိုဆန့်သဖြင့်သူတပါးသည်သင်ကိုပတ်စည်း၍အလိုမရှိ
၁၉ ရာအရပ်သို့ယူသွားလိမ့်မည်ဟုမိန့်တော်မူ၏။ ထိုသို့မိန့်တော်မူ
သော်အဘယ် သို့သော သေခြင်း အားဖြင့်ပေတရုသည် ဘုရားသခင်
၏ဘုန်း တော်ကို ထင်ရှား စေမည် အရိပ် ကိုပေး တော် မူ၏။ ထိုသို့မိန့်
တော် မူပြီး မှငါနောက် သို့လိုက် တော့ ဟုပေတ ရုအား မိန့်တော်မူ ပြန်
၂၀ ၏။ ။ယေရှုချစ်တော်မူ၍အထက်ကညစာဉ်ရင်တော်ကိုမှီ၍
လျောင်း နေလျက်သခင်။ ကိုယ်တော် ကိုအပ်နှံ သော သူကား အဘယ်
သူနည်းဟုမေးခဲ့သောတပည့်တော်သည်လည်းနောက်တော်သို့လိုက်
၂၁ သည်ကိုပေတ ရုလှည့်၍မြင်လျှင် သခင်။ ဤသူသည်အဘယ် သို့ပြု
၂၂ ရပါမည်နည်း ဟုလျှောက် လေသော် ယေရှုကငါကြွလာ သောကာ
လတိုင်အောင် သူနေစေခြင်း ငှါငါအလိုရှိ လျှင်သင်သည်အဘယ် သို့
ဆိုင်သနည်း။ သင့်မှုကား။ ငါနောက်သို့လိုက်တော့ ဟုမိန့်တော်မူ၏။
၂၃ ထိုစကားတော်ကိုထောက်လျှင် ညီအစ်ကိုတို့ကထိုတပည့်တော်သည်
မသေရ ဟုအနှံ့ အပြား ပြောဆိုကြ၏။ သို့သော် လည်း ထိုသူ သည်မ
သေရဟူ ၍ ယေရှု မိန့် တော်မမူ။ ငါကြွလာသည် ကာလ တိုင် အောင်
သူနေစေခြင်းငှါငါအလိုရှိလျှင်သင်သည်အဘယ် သို့ဆိုင်သနည်းဟု
၂၄ မိန့်တော် မူသတည်း။ ။ထိုတပည့်တော်ကား ဤအကြောင်း
၂၅ အရာ တို့ကို သက်သေ ခံ၍ရေး ထားသော သူဖြစ်၏။ သူ၏သက်

သေတုတ်မှန်သည်ကိုငါတို့သိကြ၏၊ ယေရှုပြုတော်မူသောအချင်းအမှုအရာအများရှိသေး၏၊ ထိုအမှုအရာရှိသမျှတို့ကို အသီးအချင်းရေးထားလျှင်မြေကြီးမဆံ့နိုင်အောင်ကျမ်းစာများပြားလိမ့်မည်ဟုထင်မှတ်ခြင်းရှိ၏၊

ရှင်ယောဟန်ခရစ်ဝင်ပြီး၏း

၁၄၈

# ။တမန်တော်ဝတ္ထု။

၁။၂ အိုသော်ဖိလု။ယေရှုသည်ရွေးကောက်သောတမန်တော်တို့ကိုဝိညာဉ်
တော်အားဖြင့်မှာထားပြီးမှ ချီတက်ကြွတော်မူသောနေ့မရောက်မှီ
ကာလတွင်ပြုမူသွန်သင်တော်မူသမျှတို့ကိုထုတ်ဖော်၍အထက်ကျမ်း
၃ စာကိုငါဒီရင်ရေထားခဲ့ပြီး။ အသေခံတော်မူပြီးလျှင်ထိုတမန်တော်
တို့အားအရက်လေးဆယ်ပတ်လုံးကိုယ်ကိုပြ၍ဘုရားသခင်၏နိုင်ငံ
တော်နှင့်စပ်ဆိုင်သောအရာတို့ကိုမြွက်ဟတော်မူလျက်မညင်းခုံနိုင်
သောသက်သေအများအားဖြင့်မိမိရှင်သည်အကြောင်းကိုပြတော်မူ
၄ ၏။ ထိုတမန်တော်တို့ကိုစုဝေးစေတော်မူပြီးလျှင်ယေရုရှလင်မြို့မှမ
ထွက်မသွားဘဲခမည်းတော်၏ဂတိကိုငံ့နေရမည်အကြောင်း။ မှာ
တော်မူ၍ထိုဂတိတော်ကိုငါဟောပြောသဖြင့်သင်တို့သည်ကြားသိ
၅ ရပြီး။ဂတိတော်အချက်ဟူမူကား။ ယောဟန်သည်ရေ၌သာနှစ်ခြင်း
ကိုပေး၏။သင်တို့သည်များမကြာသန့်ရှင်းသောဝိညာဉ်တော်၌နှစ်
၆ ခြင်းကိုခံရကြလိမ့်မည်ဟုမိန့်တော်မူ၏။ ။ထိုတမန်တော်တို့
သည်လည်းစုဝေးကြသောအခါ သခင်ဘုရား။ယခုအခါကိုယ်တော်
သည်ဣသရေလအမျိုးသားတို့အားနိုင်ငံကိုပြန်ပေးတော်မူမည်လော
၇ ဟုမေးလျှောက်ကြလျှင် သခင်ဘုရားကခမည်းတော်၏တန်ခိုးအား
၈ ဖြင့်စီရင်တော်မူသောကာလအချိန်ကိုသိရသောအခွင့်သင်တို့၌မရှိ။
ထိုသို့မရှိသော်လည်းသင်တို့အပေါ်၌သန့်ရှင်းသောဝိညာဉ်တော်
ဆင်းသက်သဖြင့်သင်တို့သည်တန်ခိုးကိုခံရ၍ယေရုရှလင်မြို့မှစသော
ယုဒပြည်။ရှမာရိပြည်။မြေကြီးစွန်းတိုင်အောင်ငါ၏သက်သေဖြစ်
၉ ကြလိမ့်မည်ဟုမိန့်တော်မူ၏။ တမန်တော်တို့သည်ကြည့်ရှုနေကြ
စဉ်သခင်ဘုရားချီတက်ကြွတော်မူသည်ဖြစ်၍တိမ်လွှာသည်ကိုယ်
၁၀ တော်ကိုမျက်ကွယ်အောင်ခံယူလေ၏။ ထိုသို့ခံယူကြွတော်မူသည်ကို
တမန်တော်တို့သည်ကောင်းကင်သို့စေ့စေ့ကြည့်မျှော်လျက်နေကြသော
အခါလူနှစ်ယောက်တို့သည်ဖြူစင်သောအဝတ်နှင့်ဝတ်ဆင်လျက်တမန်
၁၁ တော်တို့အနားမှာပေါ်လာ၍ ဂါလိလဲလူတို့။ အဘယ်ကြောင့်မိုးယံ

ကောင်းကင်သို့ကြည့်မျှော်လျက်နေကြသနည်း။သင်တို့နှင့် ခွာ၍ကောင်း
ကင်သို့ချီတက်ကြွတော်မူသော ထိုယေရှုသည် သင် တို့မျက် မှောက်
ကောင်းကင် သို့ ကြွသွား တော်မူသည်နည်း တူတဖန်ကြွလာတော်မူ
၁၂ သတည်းဟုဆို၏။ ။ထိုအခါယေရုရှလင်မြို့ နှင့်ဥပုသ်နေ့ခရီး
သာကွာ ၍ သံလွင် အမည် ရှိသော တောင် မှယေရု ရှလင် မြို့သို့ တမန်
၁၃ တော်တို့သည် ပြန်ကြ၏။ ရောက်ကြလျှင် ပေ တရု။ယာကုပ်။ ယော
ဟန်။ အန္ဒြေ။ ဖိလိပ္ပု။ သောမ။ ဗာသောလောမဲ။ မဿဲ။ အာလဖဲသား
ယာကုပ်။ ရှိမုန်ဇေလုတ်။ ယာကုပ် ညီယုဒတို့သည်တည်းနေရာအိမ်
၁၄ အထက် ခန်း အပေါ်သို့တက်ကြ ၏။ ထိုသူအား လုံးတို့သည် ယေရှု၏
မယ်တော်မာရိမှစ၍ မိမ္မတို့နှင့်ရင် ညီတော် တို့နှင့် ရင်တ ညီတညွတ်
၁၅ တည်းကျိုးစား၍ဆုတောင်းပဌနာပြုလျက် နေကြ၏။ ထိုအ
ခါအရေအတွက် အားဖြင့်တရာ နှစ် ဆယ်သောတပည့် တော်တို့၏အ
၁၆ လယ် ၌ပေတရုထ ၍ ညီအစ် ကိုတို့။ယေရှုကိုဖမ်း ဆီး သော သူတို့အား
လမ်းပြသော ယုဒရှကာရုတ်ကိုရည်၍သန့်ရှင်းသောဝိညာဉ်တော်သည်
ဒါဝိဒ် မင်း ၏ နှုတ် ဖြင့် ဗျာဒိတ်ထားတော်မူ နှင့် သောကျမ်း စာချက်အ
၁၇ တိုင်းမပြည့်စုံဘဲမနေရ။ ထိုသူသည်ငါတို့နှင့်ရေတွက်ဝင်ခြင်းသို့ရော
၁၈ က်၍ဆရာ၏အရာကိုခံရပြီး။ ထိုသူသည်မတရားသောအမှုအတွက်
ရသောအခနှင့် မြေကိုဝယ် ပြီးမှမှောက်လျက်ကျလဲ၍ဝမ်းကွဲသဖြင့်အ
၁၉ အူများ ပေါက် လေ ၏။ ထိုအ ကြောင်းအရာ ကို ယေရုရှလင်မြို့၌နေ
သော သူအပေါင်း တို့သည် သိကြ၍ မိမိတို့ဘာသာအားဖြင့် ထိုမြေအ
ကွက် ကို အကေလဒမဟူ ၍ တွင်ကြ၏။ အနက် ကား သွေး မြေ ဆိုလိုသ
၂၀ တည်း။ ဆာလံကျမ်းစာ၌လာသည်ကား။သူ၏နေရာအရပ်သည်လူ
ဆိတ် ညံရာအရပ် ဖြစ် ပါစေ။နေသော သူမရှိစေနှင့်။ သူ၏အရာကို
၂၁ လည်းအချားသူရပါစေဟုရေး မှတ်သတည်း။ ထိုကြောင့် ယောဟန်
၂၂ သည်ရေနှစ်မင်္ဂလာကိုပေးသည်ကါလမှစ၍သခင်ယေရှုသည်ငါတို့ နှင့်
ခွာ၍ ချီတက်ကြွတော်မူသောနေ့ရက်တိုင်အောင်တပည့်တော်တို့နှင့်
အတူ ထွက်ဝင်သွားလာတော်မူသောကာလပတ် လုံးငါတို့နှင့်ပေါင်း
ဖော်၍ နေသော သူ တစုံတယောက်သည် ထိုသခင်ထမြောက် တော်မူ
သည်အကြောင်း ကိုဟောပြော၍ ငါတို့နှင့်အတူသက်သေခံဖြစ်ရမည်
၂၃ ဟုပေတရုဆို၏။ ။ဗာသာဗဟုခေါ်ဝေါ်၍ယုတ္တုအမည်သစ်
၂၄ ရပြန် သောယောသပ် နှင့် မဿိတို့ကိုခန့် ထား၍ ဤသို့ဆုတောင်းကြ

၂၅ ၏။ လူအပေါင်းတို့၏စိတ်နှလုံးကိုသိတော်မူသောသခင်ဘုရား။ ယု
ဒရှကာရုတ်သည် မိမိနေရာအရပ်သို့ သွားအံ့သော ငှါ ရွေ့လျော့စွန့်
ပြစ်သော ဆရာ အရာ။ တမန်တော်အရာကို ခံစေခြင်းငှါ ဤ သူနှစ်
ယောက်တို့တွင် ရွေးကောက်တော်မူ သော သူကို ပြတော်မူပါဟု ဆု
၂၆ တောင်းပြီးမှ စာရေးတံပြုကြသဖြင့် မဿိသည် စာရေးတံကိုရ၍တ
ကျိပ်တပါးသောတမန်တော်တို့နှင့်ရေတွက်ဝင်ခြင်းသို့ရောက်ရ၏။



၁ ပင်တေကုတ္တေပွဲနေ့ရောက်သောအခါထိုသူအပေါင်းတို့သည်တညီတ
၂ ညွတ်တည်းစည်းဝေး၍နေကြ၏။ ထိုအခါလေပြင်းမုံတိုင်းကဲ့သို့
သောအသံသည် တခဏချင်း ကောင်းကင်မှလာ၍ ထိုသူတို့နေထိုင်
၃ သောအိမ်ကိုဖြည့်လေ၏။ ထိုခဏတွင်နှစ်ခွရှိသောလျှာများသည်
မီးလျှာကဲ့သို့ထင်ရှားရှိ၍ ထိုသူအသီးအသီးတို့အပေါ်၌တည်ရပ်နေ
၄ ၏။ ထိုသူအပေါင်းတို့သည်လည်းသန့်ရှင်းသောဝိညာဉ်တော်နှင့်ပြည့်
ဝ၍ဝိညာဉ်တော်သည် ဟောပြောသောအခွင့်ကိုပေးတော်မူသည်အ
တိုင်းအမျိုးမျိုးသောဘာသာစကားအားဖြင့်ဟောပြောကြလေ၏။
၅ ။ထိုရောအခါတရားကိုရိုသေ၍ကောင်းကင်အောက်ရှိလေသမျှ
သောလူမျိုးထဲကယုဒလူတို့သည်ယေရုရှလင်မြို့၌တည်းနေကြသတည်း။
၆ ထိုအသံသည် မြည်လာသောအခါလူများတို့သည် စုဝေးလာကြလျှင်
အသီး အသီး အချားအချား သောမိမိတို့ ဘာသာ စကား ဖြင့် တမန်
တော် တို့ သည် ဟော ပြော သည် ကို ကြား ၍ တွေ ဝေ လျက် ရှိ နေ ကြ
၇ ၏။ ထိုလူအပေါင်းတို့သည်အံ့ဩမိန်းမောတွေဝေလျက်ရှိ၍ယခု
ဟော ပြော သော သူ အားလုံး တို့ သည် ဂါလိလဲလူ ဖြစ် သည် မဟုတ်
၈ လော။ သို့ဟုတ်လျှင်ငါတို့သည် အသီးအသီးမွေးဖွားရာဌာန၏ဘာ
၉ သာစကားများကိုကြားရသည်အဘယ်သို့နည်း။ ပါသိပြည်မှစ၍
မေဒိပြည်။ ဧလံပြည်။ မေသောပေါတာမိပြည်။ ယုဒပြည်။ ကပ္ပဒေါကိ
၁၀ ပြည်။ ပုန္တုပြည်။ အာရှိပြည်။ ဖြုဂိပြည်။ ပမ်ဖုလိပြည်။ အဲဂုတ္တုပြည်၌
နေသောသူ။ ကုရင်မြို့နှင့်စပ်သောလိဗုကျေးလက်၌နေသောသူ။ ရောမ
၁၁ မြို့မှလာခဲ့သောဧည့်သည်များ။ ယုဒလူဖြစ်စေ။ ဘာသာဝင်ဖြစ်စေ။
ကရက်ပြည်သား။ အာရပ်ပြည်သားအသီးအသီးဖြစ်ကြသောငါတို့
အား၌သူများသည်ဘုရားသခင်၏အံ့ဖွယ်သောအရာတို့ကိုငါတို့အ
မျိုးဘာသာစကားဖြင့်ဟောပြောကြသည်ကိုကြားရပါသည်တကားဟု

၁၂ အချင်းချင်းပြောဆိုကြ၏။ထိုလူအပေါင်းတို့သည်မိန်းမောတွေးတော
သောစိတ်ရှိသည်နှင့်ဤအမှုအရာသည် အဘယ်အမှုအရာဖြစ်နိုင်သ
၁၃ နည်းဟုတယောက်နှင့်တယောက်ပြောဆိုကြ၏။ လူအချို့တို့ကဤသူ
တို့သည်ချိုသောစပျစ်ရည်နှင့်ပြည့်ဝသည်ဟုကဲ့ရဲ့ပြောဆိုကြ၏။
၁၄ ။ထိုအခါတကျိပ်တပါးသောတမန်တော်တို့နှင့်တကွပေတ
ရုသည် ထလျက် ထို သူ တို့ကိုကျယ်သောအသံ နှင့် ဟောပြော သည်
ကား။ယေရုရှလင်မြို့သားတို့နှင့်ယုဒလူအပေါင်းတို့။ဤအရာကိုသင်
၁၅ တို့သည်သိရအောင်ငါ့စကားကိုစေ့စေ့နားခံကြပါ။ ယခုအချိန်ကား
နံနက်တချက်တီးအချိန်သာ ရှိသည် ဖြစ်၍ သင်တို့ထင်သည့်အတိုင်း
၁၆ ဤသူများရစ်မူးသည် မဟုတ်။ ဤအရာကား ပရောဖက် ယော
၁၇ လ ဟော ဘူး သော အရာ ဖြစ် သတည်း။ ဟောဘူးသောအချက်
ကား။နောက်ကာလနေ့ရက်၌လူမျိုးတကာတို့အပေါ်မှာငါ၏ဝိညာဉ်
တော်ကို ငါသွန်းလောင်းမည်။ သင်တို့၏သားသမီးတို့သည်ပရော
ဖက်ဉာဏ်နှင့်ဟောပြောရလိမ့်မည်။အသက်ငယ်သောသူတို့သည်
ဗျာဒိတ်ရူပါရုံတို့ကိုမြင်ရလိမ့်မည်။အသက်ကြီးသောသူတို့သည်လည်း
၁၈ နိမိတ်အိပ်မက်တို့ကိုမြင်မက်ရလိမ့်မည်။ ထိုနေ့ရက်၌လည်းငါ၏အမှု
ကိုဆောင်ရွက်သောယောကျ်ားမိန်းမတို့အပေါ်မှာငါ၏ဝိညာဉ်တော်ကို
ငါသွန်းလောင်း၍သူတို့သည်ပရောဖက်ဉာဏ်နှင့်ဟောပြောရလိမ့်
၁၉ မည်။ အထက်မိုဃ်းကောင်းကင်မှာအံ့ဘွယ်သရဲတို့ကိုငါအောက်
အရပ်မြေကြီးအပေါ်မှာသွေး။မီးလျှံ။မီးခိုးတည်းဟူသောပုပ္ပနိမိတ်တို့
၂၀ ကိုငါပြမည်။ထာဝရဘုရား၏ထူးမြတ်သောနေ့ကြီးမတိုင်မှီ၌နေ
သည်မှောင်မိုက်အတိဖြစ်လိမ့်မည်။လသည်လည်းအသွေးဖြစ်လိမ့်
၂၁ မည်။ ထိုအခါအကြင်သူသည်ထာဝရဘုရားကိုပဌနာပြုအံ့။ထိုသူ
သည်ကယ်တင်တော်မူခြင်းသို့ရောက်လတံ့ဟုဘုရားဗျာဒိတ်တော်
ရှိ၏။

**

၂၂ ဣသရေလလူတို့။ငါ့စကားကိုနားထောင်ကြလော့။သင်တို့သိကြသည်
အတိုင်းနာဇရက်မြို့သားယေရှုသည်ထူးဆန်းသောတန်ခိုး။နိမိတ်လက္ခ
ဏာ။ အံ့ဘွယ်သောအမှုတို့ကိုဘုရားသခင်အခွင့်နှင့်သင်တို့အလယ်
၂၃ မှာပြုသောအားဖြင့်ထင်ရှားစေတော်မူသောသူဖြစ်၍ ဘုရားသခင်
ပြဋ္ဌာန်းတော်မူသောအလိုတော်အားဖြင့်၎င်အနာဂတံသညာဏ်တော်

အားဖြင့်ဋင်အပ်နှံခြင်းခံသောထိုယေရှုကိုသင်တို့သည်ဖမ်းဆီး၍မ
တရားသောသူတို့လက်ဖြင့်လက်ဝါးကပ်တိုင်၌ရိုက်ထားလျက်ကွပ်
၂၄ မျက်ကြပြီ။ ထိုသူကိုသေခြင်းဝေဒနာသည်အစည်ချုပ်နှောင်ချုပ်
ကိုင်၍မဖြစ်နိုင်ရသည်နှင့်ထိုဝေဒနာကိုဘုရားသခင်သည်ချွတ်
၂၅ ပယ်၍ထမြောက်စေတော်မူပြီ။ ဒါဝိဒ်မင်းကထိုသူကိုအကြောင်းပြု
လျက်ထာဝရဘုရားသည်ငါ့မျက်မှောက်၌ရှိတော်မူသည်ကိုအစဉ်
မပြတ်ငါမြင်ရပါ၏။ အဘယ်ကြောင့်နည်းဟူမူကား။ ငါသည်တုန်
လှုပ်ခြင်းမရှိရအောင်ထိုဘုရားသခင်သည်ငါ့လက်ျာဘက်၌တည်ရှိ
၂၆ တော်မူ၏။ ထိုကြောင့်ငါ့စိတ်နှလုံးသည်သာရာခြင်း။ ငါ့လျှာသည်
လည်းရွှင်လန်းခြင်းရှိ၏။ ထိုမှတပါး။ ငါ့အသားသည်မျှော်လင့်လျက်
၂၇ ကျိန်းဝပ်လိမ့်မည်။ အကြောင်းမူကား။ ကိုယ်တော်သည်အကျွန်ုပ်
စိတ်ဝိညာဉ်ကိုမရဏာနိုင်ငံ၌ပြစ်ထားတော်မမူ။ ကိုယ်တော်၏သန့်
ရှင်းသူအားလည်းပုပ်စပ်ခြင်းကိုရှိစေတော်မမူဘဲလျက်အသက်
၂၈ လမ်းကိုပြညွှန်၍မျက်နှာတော်ကိုဖူးမြင်ရသဖြင့်ရွှင်လန်းသော
စိတ်နှင့်အကျွန်ုပ်ကိုပြည့်စုံစေတော်မူလတ့ံဟုဒါဝိဒ်ဆိုသတည်း။
၂၉ ။ညီအစ်ကိုတို့။ အမျိုး၏အဖဖြစ်သောဒါဝိဒ်၏အကြောင်း
ကိုငါသည်သင်တို့အားအတည့်အလင်းပြောပါရစေ။ ဒါဝိဒ်သေ၍
၃၀ သင်းဂြိုဟ်သောတွင်းသည်ယခုတိုင်အောင်ငါတို့၌ရှိ၏။ ထိုသူသည်
ကားမိမိအမျိုးအနွယ်ကိုမိမိပလ္လင်ပေါ်မှာဘုရားသခင်တင်တော်မူ
မည်အကြောင်း။ မိဋ္ဌာန်ကျိန်ဆိုတော်မူသည်ကိုပရောဖက်ညာဏ်
၃၁ အားဖြင့်သိ၍ ခရစ်တော်၏ထမြောက်ခြင်းအကြောင်းကိုရည်မှတ်
လျက်မရဏာနိုင်ငံ၌မပြစ်ထား၍အသားသည်လည်းပုပ်စပ်ခြင်းသို့မ
၃၂ ရောက်ဟုအနာဂတံသညာဏ်နှင့်ဟောလေ၏။ ထိုယေရှုကိုဘုရား
သခင်ထမြောက်စေတော်မူသည်ကိုငါတို့အားလုံးသည်သက်သေခံ
၃၃ ဖြစ်ကြ၏။ ထိုသို့ဘုရားသခင်၏လက်ျာတော်အားဖြင့်ချီးမြှင့်သည်
ဖြစ်၍ခမည်းတော်ထံသန့်ရှင်းသောဝိညာဉ်တော်၏ဂတိကိုခံပြီး၍
သင်တို့သည်ယခုသိမြင်ကြားရသောအရာကိုသွန်းလောင်းတော်မူ
၃၄ ၏။ ဒါဝိဒ်သည်ကောင်းကင်သို့တက်သည်ဖြစ်၍ထာဝရဘုရားသည်
၃၅ သင်၏ရန်သူတို့ကိုသင်၏ခြေတင်ရာငါမချမထားမှီတိုင်အောင်ငါ
လက်ျာဘက်၌ထိုင်နေလော့ဟုငါ့သခင်အားမိန့်တော်မူသည်ဟုဒါ
၃၆ ဝိဒ်ဆို၏။ ထိုကြောင့်သင်တို့သည်လက်ဝါးကပ်တိုင်မှာကွပ်မျက်

သောယေရှုကိုဘုရားသခင်သည်ခရစ်တော်အရာန္ဒိုင်အစိုးရသော
အရှင်အရာ၌ ခန့်ထားတော်မူသည် အကြောင်းကိုဣသရေလအမျိုး
သားအပေါင်းတို့အတပ်အမှန် သိကြလော့ဟုပေတရုဟောလေ၏။
၃၇ ။ထိုသူတို့သည်ကြားရလျှင်စိတ်နှစ်လုံးကြင်နာခြင်းရှိ၍ညီ
အစ်ကိုတို့။အဘယ်သို့ ပြုရပါမည်နည်းဟုပေတရုမှစ၍အချားသော
၃၈ တမန်တော်တို့အားဆိုကြ၏။ ပေတရုကလည်းသင်တို့အားလုံးနောင်
တရကြလော့။အပြစ် မှလွှတ်မည် အကြောင်း။ယေရှု ခရစ်၏ ဘာသာ
သွင်းခြင်းအလို ၌ ရေနှစ်မင်္ဂလာကိုခံကြလော့။ သို့ပြုလျှင်သန့်ရှင်း
သောဝိညာဉ် တော်တည်း ဟူသော ဆုကျေးဇူး တော်ကို ခံရကြလိမ့်
၃၉ မည်။ အဘယ်ကြောင့်နည်းဟူမူကား။ဂတိတော်သည်သင်တို့နှင့်ငင်
သင်တို့သား သမီး နှင့် ငင်အဝေး၌ ရှိသော သူတို့ တွင်ထာဝရ ဘုရား
တည်း ဟူသောငါတို့ဘုရားသခင် သည် ခေါ်တော်မူသမျှသော သူတို့
၄၀ နှင့်ငင်ဆိုင်ပေသည်ဟုဟော၏။ ထိုမှတပါး။မဖြောင့်မမှန်ဖောက်
ပြန်သောဤအမျိုးမှကယ်တင်ခြင်းသို့ရောက်ကြလော့ဟူ၍အထူးထူး
အပြားပြားသောစကားနှင့်သက်သေခံ၍တိုက်တွန်းသွေးဆောင်လေ
၄၁ ၏။ ။ထိုစကားကိုအသင့်နှစ်လုံးသွင်းမိသောသူတို့သည်ရေ
နှစ်မင်္ဂလာကိုခံကြ၍ထိုနေ့၌အရေအတွက်အားဖြင့်သုံးထောင်မျှလော
၄၂ က်သောလူတို့သည်ဝင်ကြ၏။ ထိုသူများသည်တမန်တော် တို့၏အ
ဆုံးအမဩဝါဒကိုခံခြင်း။ အပေါင်းအသင်းဖွဲ့ခြင်း။ မုန့်ကိုဖဲ့ခြင်း။ပဌ
၄၃ နာပြုခြင်းတို့ကိုအမြဲဆောင်ရွက်၍နေကြ၏။ လူအပေါင်းတို့သည်
ကြောက်လန့်ခြင်းရှိသည်ဖြစ်၍တမန်တော်တို့သည်များသောနိမိတ်
၄၄ လက္ခဏာ။အံ့ဖွယ်သောအမှုတို့ကိုပြု၍နေကြ၏။ ယုံကြည်သောသူအ
ပေါင်းတို့သည်တစုတဝေးတည်းနေကြသဖြင့်မိမိတို့၌ရှိသမျှကိုဆက်
၄၅ ဆံ၍သုံးဆောင်ကြ၏။ မိမိပစ္စည်းဥစ္စာတို့ကိုရောင်းပြီးလျှင်လူများ
၄၆ ဆင်းရဲသည်အတိုင်းအသီးအသီးတို့အားဝေဌခြင်းကိုပြုကြ၏။ ထို
သူတို့သည်လည်းဗိမာန်တော်၌နေ့တိုင်းအစည်တညီတညွတ်တည်း
နေ၍ကိုယ်အိမ်၌မုန့်ကိုဖဲ့လျက်ကြည်ဖြူရှင်လန်းဝမ်းမြောက်သော
၄၇ စိတ်နှင့်အစာအာဟာရကိုသုံးဆောင်ကြ၏။ဘုရားသခင်ကိုလည်းချီး
မွမ်း၍လူအပေါင်းတို့ရှေ့မှာမျက်နှာပွင့်လန်းခြင်းအခွင့်ကိုရကြ၏။
ကယ်တင်ခြင်းသို့ရောက်သောသူတို့ကိုလည်းနေ့တိုင်းအစည်သခင်
ဘုရားသည်သင်းဝင်စေတော်မူ၏။

✻✻

၁ ထိုရောအခါပဥ္စနာပြုရသောသုံးချက်တီးအချိန် ၌ ပေတရု နှင့် ယော
၂ ဟန်တို့သည်ဗိတ်မှာန်ကော်သို့တက်မည် လာကြသည် ရှိသော် အမိ
ဝမ်းထဲမှစ၍ခြေဆွံ့သောလူတယောက်ကိုသူတပါးတို့သည်ထမ်းလျက်
လာကြ၏။ ဗိတ်မှာန်တော်သို့ဝင်သောသူတို့ မှအလှူတောင်းရအောင်
တင့်တယ်တံခါးအမည်ရှိသောတံခါးနားမှာထိုသူကိုထားလေ့ရှိ၏။
၃ ပေတရုနှင့်ယောဟန်တို့သည်ဗိတ်မှာန်တော်သို့ဝင် မည်လာကြသည်
၄ ကိုထိုသူကမြင်လျှင်အလှူကိုတောင်းလေ၏။ ထိုအခါပေတရုနှင့်ယော
ဟန်တို့သည်ထိုသူကိုစေ့စေ့ကြည့်၍ငါတို့အားမျှော်ကြည့်တော့ဟု ဆို
၅ လျှင် ထိုသူသည် တစုံတခုကို ရမည် စိတ် ထင် နှင့် တမန်တော်တို့ကို
၆ မျှော်ကြည့်လျက်နေ၏။ ပေတရုကလည်းငါ၌ရွှေငွေမရှိ။ရှိသည်အရာ
ကိုသင်အားငါပေး၏။နာဇရက်မြို့သားယေရှုခရစ်၏အခွင့်တော်နှင့်
၇ ထ၍လှမ်းသွားတော့ဟု ဆိုလျက် သူ၏ လက်ျာ လက်ကို ကိုင်ဆွဲ ချီကြွ
၈ လေသောခဏ၌ခြေနှစ်ဖက်ဖမျက်စိတို့သည်ခွန်အားကိုရသဖြင့် ရုတ်
တရက်ထ၍မတ်တတ်ရပ်ပြီး လျှင်လှမ်း သွား လေ၏။ သွားလျက် ခုန်
လျက်ဘုရားသခင်ကိုချီးမွမ်းလျက်တမန်တော်တို့ နှင့် အတူ ဗိတ်မှာန်
၉ တော်သို့ဝင်လေ၏။ ထိုသို့လှမ်းသွား၍ဘုရားသခင်အားချီး မွမ်းသည်
၁၀ ကိုလူအပေါင်းတို့သည်မြင်၍ ဤသူသည်ဗိတ်မှာန်တော်၏တင့်တယ်
တံခါးနားမှာအလှူခံ၍ထိုင်နေသောသူဖြစ်သည်ကိုသိမိကြသဖြင့်သူ
၁၁ ၌ဖြစ်သည် အမှုကိုအံ့ဩမိန်း မောတွေဝေခြင်းရှိကြသည်နှင့် ထို
သူသည်ပေတရုယောဟန် တို့ကိုကိုင်၍ နေရာအရပ် ရှောလောမုန်က
နားပြင်အမည်ရှိသောကနားပြင်သို့ပြေးဝင်၍စုဝေးကြ၏။ ။
၁၂ ပေတရုသည်မြင် လျှင်ဣသရေလလူတို့။အဘယ်ကြောင့် ဤအမှုကိုအံ့
ဩကြသနည်း။ဤသူသည်လှမ်း၍သွား နိုင်သောအခွင့်ကိုငါတို့သည်
ကိုယ်တန်ခိုး။ ကိုယ်သီလအားဖြင့် ပေးဘိသကဲ့သို့အဘယ်ကြောင့် ငါ
၁၃ တို့ကိုစေ့စေ့ကြည့်ကြသနည်း။ အာဗြဟံ။ ဣဇာက်။ယာကုပ်တို့၏ဘု
ရားသခင်။ငါတို့အဖများ၏ဘုရားသခင်သည်မိမိသားတော်၏ဘုန်း
ကိုထင်ရှားစေတော်မူပြီ။ ထိုသခင်ကိုသင်တို့သည် ပိလတ်မင်းလက်
သို့အပ် နှံ၍ ထိုမင်း သည်လွှတ်မည် အကြံရှိသော်လည်း သင် တို့သည်
၁၄ လက်မခံဘဲငြင်း ပယ်ကြ၏။ သန့်ရှင်းဖြောင့်မတ် တော်မူသောသ
ခင်ကိုငြင်းပယ်၍လူအသက် ကိုသတ်ခြင်းအပြစ်ရှိသော သူတယော

၁၅ က်ကိုရမည့် အကြောင်း။ သင်တို့သည် တောင်းလျှောက်သဖြင့်အ
သက်ရှင်ခြင်းသို့ပို့ဆောင်တော်မူသောအရှင်ကိုကွပ်မျက်ကြပြီးတ
ကား။ထိုအရှင်ကိုဘုရားသခင်သည်သေခြင်းမှထမြောက်စေတော်မူ
၁၆ သည်ကိုငါတို့သည်သက်သေခံဖြစ်ကြ၏။ ထိုသခင်၏အခွင့်တန်ခိုး
တော်ကိုယုံကြည်သောအားဖြင့် ထိုတန်ခိုးတော်သည် သင်တို့သိမြင်
သောဤသူ၏ခွန်အားကိုပေးတော်မူပြီ။ထိုသခင်ကြောင့်ရသောသ
ဒ္ဓါသည် သင်တို့မျက်မှောက်တွင် ဤသူ၌ စေ့ရ်ခြင်းအခွင့်ကိုပေး၍ရှိ
၁၇ လေပြီ။ ။ယခုလည်းညီအစ်ကိုတို့။သင်တို့မှစ၍အစိုးရ
သောမင်းများတို့သည်မသိဘဲလျက်ထိုအမှုကိုပြုကြသည်ဟုငါသိ၏။
၁၈ ခရစ်တော်သည်အသေခံရမည်ဟုပရောဖက်ဆရာအပေါင်းတို့သည်
ဟောပြော၍ ဘုရားသခင်ဖော်ပြနှင့်တော်မူသောအမှုကိုထိုသို့အား
၁၉ ဖြင့်ပြီးစီးတော်မူပြီ။ ထိုကြောင့်သင်တို့အပြစ်များကိုပြေစေခြင်းငှါ
နောင်တရ၍စိတ်ပြောင်းလဲခြင်းသို့ရောက်ကြလော့။အပြစ်ပြေသည့်
ရှိသော်ထာဝရဘုရားထံတော်မှချမ်း၆သောကပ်ကာလရောက်လာ
၂၀ လိမ့်မည်။ သင်တို့အဖို့အလို့ငှါခန့်ထားတော်မူနှင့်သောယေရှုခရစ်
၂၁ ကိုစေလွှတ်တော်မူလိမ့်မည်။ ကမ္ဘာဦးမှစ၍သန့်ရှင်းသောပရော
ဖက်ဆရာတော်တို့နှုတ်ဖြင့် ဘုရားသခင်ဗျာဒိတ်ထားတော်မူထ
သော။အလုံးစုံသောအရာတို့ကိုအသစ်ပြုပြင်တော်မူထသောကပ်ကါ
လမရောက်မှီတိုင်အောင်ကောင်းကင်ဘုံသည် ထိုခရစ်တော်ကိုခံယူ
၂၂ သိမ်းဆည်းရမည်။ ငါတို့အဖများတို့အားလည်းမောရှေကထာဝရ
ဘုရားတည်းဟူသောသင်တို့၏ဘုရားသခင်သည်သင်တို့အမျိုးသား
ချင်းအထဲ၌ငါနှင့်တူသောပရောဖက်တပါးကိုသင်တို့အားပေါ်ထွန်း
စေတော်မူမည်။ထိုပရောဖက်ဟောပြောသမျှသောအရာတို့ကိုသင်
၂၃ တို့သည်နားထောင်ရကြမည်။ အကြင်သူသည် ထိုပရောဖက်၏စ
ကားကိုနားမထောင်ဘဲနေအံ့။ထိုသူသည် မိမိအမျိုးထဲကပယ်ရှင်း
၂၄ ခြင်းကိုခံရမည်ဟုဟော၏။ ပရောဖက်ရှမွေလမှစ၍ နောက်ဟော
သောပရောဖက်ရှိသမျှတို့သည်ဤသည်နေ့ရက်ကာလကိုဟောပြော
၂၅ ပြည့်စုံကြပြီ။ သင်တို့သည် ပရောဖက်အမျိုးအနွယ်ဖြစ်ကြ၏။ဘု
ရားသခင်သည်အာဗြဟံအားသင်၏အမျိုးအနွယ်အားဖြင့်လူမျိုးအ
ပေါင်းတို့သည်ကောင်းကြီးမင်္ဂလာခံရကြလိမ့်မည်ဟုဗျာဒိတ်ထား
တော်မူ၍ငါတို့အဖများတို့အားပေးတော်မူသောဝန်ခံခြင်းတရား

၂၆ တော်နှင့်သင်တို့သည် ဆိုင်ကြ၏။ သင်တို့အထဲတွင်မိမိဒုစရိုက်တို့
ကိုကြဉ်ရှောင်ပယ်ရှင်းသောသူရှိသမျှတို့အားကောင်းကြီးမင်္ဂလာ
ကိုပေးစေခြင်းငှါဘုရားသခင်သည်မိမိသားတော်ကိုထမြောက်စေ
တော်မူပြီးလျှင်သင်တို့ဆီသို့ရှေးဦးစွာစေလွှတ်တော်မူသည်ဟုပေတ
ရုသည်လူများတို့အားဟောပြော၏။

**

၁ ထိုသို့တမန်တော်တို့သည်လူများတို့အားဟောပြော၍နေစဉ်တွင်မိတ်
မှာန်မှူးမှစသောယဇ်ပုရောဟိတ်တို့နှင့်ဇဒ္ဒုကဲလူများတို့သည်လာကြ
၂ သဖြင့် တမန်တော်တို့သည်လူများတို့အားဆုံးမြွဩဝါဒပေး၍ယေရှုကို
အကြောင်းပြုလျက်သေခြင်းမှထမြောက်ခြင်းတရားကိုဟောသော
၃ ကြောင့်ထိုမင်းများတို့သည်စိတ်ပူပန်ခြင်းရှိသည်နှင့် တမန်တော်
တို့ကိုဖမ်းဆီးပြီးမှညအချိန်ဖြစ်သောကြောင့်နက်ဖန်နေ့တိုင်အောင်
၄ နှောင်အိမ်၌ချုပ်ထားကြ၏။ တရားနာသောသူအများတို့သည်ယုံ
ကြည်ခြင်းသို့ရောက်၍ အရေအတွက်အားဖြင့်လူငါးထောင်မျှလော
၅ က်ဖြစ်ကြ၏။ ။နက်ဖန်နေ့ရောက်သော်အကဲအမှူး။လွှတ်
၆ အရာရှိ။ကျမ်းပြုဆရာတို့နှင့် ယဇ်ပုရောဟိတ်မင်းအန္နတ်။ကယာဖ။
ယောဟန်။အာလေဇန္ဒြုမှစ၍ယဇ်ပုရောဟိတ်မင်းမျိုးရှိသမျှတို့သည်
၇ ယေရုရှလင်မြို့၌စုဝေးကြပြီးလျှင် တမန်တော်တို့ကိုအလယ်၌ထား
၍သင်တို့သည်အဘယ်သို့သောတန်ခိုး။အဘယ်သူ၏အခွင့်နှင့်၍အ
၈ မှုကိုပြုဘိသနည်းဟုမေးမြန်းကြ၏။ ။ထိုအခါပေတရုသည်
သန့်ရှင်းသောဝိညာဉ်တော်နှင့်ပြည့်ဝလျက်လူများကိုအစိုးရသော
၉ မင်းတို့မှစ၍ဣသရေလအမျိုး၌လွှတ်အရာရှိတို့။ အင်္ဂါချို့တဲ့သောလူ
အားပြုသောကျေးဇူးအကြောင်း။အဘယ်သို့သောအားဖြင့်အနာ
၁၀ ရောဂါကင်းသေသည်ကိုငါတို့သည်ယနေ့အစစ်ခံရလျှင် သင်တို့
သည်လက်ဝါးကပ်တိုင်မှာကွပ်မျက်၍ဘုရားသခင်သည်သေခြင်းမှ
ထမြောက်စေတော်မူသောနာဇရက်မြို့သားယေရှုခရစ်၏အခွင့်
တော်အားဖြင့်၍သူသည်သင်တို့မျက်မှောက်၌ကျန်းမာလျက်ရှိသည်
၁၁ ကိုသင်တို့မှစ၍ဣသရေလလူအပေါင်းတို့သိမှတ်ကြလော့။ ထိုသခင်
ကားသင်တို့သည်တိုက်ကိုတည်လုပ်သောအခါကဲ့ရဲ့ပယ်ထား၍ နော
က်တဖန်တိုက်ထောင့်အထွဋ်ဖျားသို့ရောက်ပြန်သောကျောက်ပင်
ဖြစ်တော်မူ၏။ ထိုသခင်မှတပါးအဘယ်သူမျှကယ်တင်ခြင်းအမှုကို

၁၂ မတတ်နိုင်။ ထိုသခင်၏အခွင့်တော်မှတပါးငါတို့ကိုကယ်တင်နိုင်
သောအခွင့်တစုံတပါးမျှကောင်းကင်အောက်လူတို့တွင်မပေါ်မရှိဟု
၁၃ ပေတရုသည်ထိုသူတို့အားမြွက်ဆို၏။ ။ထိုသူတို့သည်ပေ
တရုနှင့်ယောဟန်တို့၏ရဲရင့်ခြင်းသဘောကိုမြင်၍လူတတ်မဟုတ်ဘဲ
လူသာမညသာဖြစ်သည်ကိုသိမှတ်သဖြင့်အံ့ဩ၍နေကြ၏။ထို
သူနှစ်ယောက်တို့သည်အထက်ကယေရှုနှင့်အတူရှိသည်ကိုသတိရ၍
၁၄ ဝင်အနာကင်းသောလူသည်ထိုသူတို့နှင့်အတူရှိနေသည်ကိုမြင်၍ငြင်
၁၅ ငြင်းခုံဆိုဘွယ်ရာမရှိမတွေ့ကြ၊ တမန်တော်တို့ကိုလွှတ်တော်မှ
၁၆ ထွက်သွားစေပြီးလျှင်၍လူတို့ကိုအဘယ်သို့ပြုရမည်နည်း။ သူတို့
သည်ထင်ရှားစွာသောနိမိတ်လက္ခဏာကိုပြုပြီးသည်ကိုယေရုရှလင်
မြို့၌နေသောသူအပေါင်းတို့သည်သိမြင်ကြ၏။ငါတို့သည်လည်းမ
၁၇ ငြင်းမခုံနိုင်ပြီး။ သို့သော်လည်းလူများအထဲ၌သာ၍မနှံ့ပြားစေ
ခြင်းငှါနောက်တဖန်ထိုအခွင့်နှင့်အဘယ်သူကိုမျှမဟောမပြောရ
ဟူ၍သူတို့ကိုကြပ်တည်းစွာချိမ်းချောက်ကြဟုအချင်းချင်းတိုင်ပင်
၁၈ ပြီးမှ တမန်တော်တို့ကိုခေါ်၍ယေရှုအခွင့်နှင့်ဟောပြောသွန်သင်
၁၉ ခြင်းကိုအလျှင်းမပြုနှင့်ဟုအမိန့်ရှိကြ၏။ ။ပေတရုနှင့်
ယောဟန်တို့ကလည်းဘုရားသခင်၏စကားတော်ကိုနားထောင်
သည်ထက်သင်တို့၏စကားကိုသာ၍နားထောင်သော်ဘုရားသခင်
၂၀ ရှေ့မှာကောင်းမည်မကောင်းမည်ကိုစီရင်ကြသော့။ ငါတို့သည်ကြား
လျက်မြင်လျက်ရှိသောအရာတို့ကိုမပြောဘဲမနေနိုင်ဟုထိုသူတို့အား
၂၁ ဆိုကြ၏။ ထိုအခါတမန်တော်တို့၌အပြစ်ဒဏ်ပေးသင့်သောအ
၂၂ ကြောင်းကိုမတွေ့သဖြင့်တဖန်ချိမ်းချောက်ပြီးလျှင်လွှတ်ကြ၏။ အ
ဘယ်ကြောင့်နည်းဟူမူကား။အနာကင်းခြင်းနိမိတ်လက္ခဏာကိုခံရ
သောလူသည်အသက်လေးဆယ်ကျော်ရှိသည်ဖြစ်၍လူအပေါင်း
တို့သည်ထိုအမှုကိုထောက်၍ဘုရားသခင်၏ဂုဏ်တော်ကိုချီးမွမ်း
ကြ၏။

❋❋

၂၃ တမန်တော်တို့သည်လွှတ်သောအခါမိမိတို့အပေါင်းအသင်းဆီသို့
သွား၍ယဇ်ပုရောဟိတ်အကြီးတို့နှင့်လွှတ်အရာရှိများတို့သည်မိမိ
၂၄ တို့အားပြောဆိုသမျှကိုပြန်ကြားကြ၏။ ထိုသူများတို့သည်ကြားရ
လျှင်တညီတညွတ်တည်းဘုရားသခင်ထံသို့အသံလွှင့်လျက်အစိုးရ

ဘော်မူသောအရှင်။ကိုယ်တော်သည်ကောင်းကင်။မြေကြီး။သမုဒ္ဒရာ
တို့မှစ၍ထိုအရပ်ရပ်၌ရှိသမျှတို့ကိုဖန်ဆင်းတော်မူသောဘုရားသ
၂၅ ခင်ဖြစ်တော်မူ၏။ ကိုယ်တော်ကလည်းလူမျိုးတို့သည်အဘယ်ကြောင့်
အမျက်ဟုံးဟုံးထွက်ကြသနည်း။လူဒုတို့သည်အဘယ်ကြောင့်အချည်း
၂၆ နှီးကြံစည်ကြသနည်း။ လောကီရှင်ဘုရင်တို့သည်ထကြ၍မှူးမတ်အ
ရာရှိတို့သည်ထာဝရဘုရားကိုင်၎ ဘုရားသခင်၏ခရစ်တော်ကို၎ရန်
ဘက်ပြု၍စည်းဝေးကြ၏ဟုကိုယ်တော်ကျွန်ဒါဝိဒ်၏နှုတ်ဖြင့်ဗျာဒိတ်
၂၇ ထားတော်မူသည်နှင့်အညီ ဟေရုဒ်မင်း။ပုန္တိပိလတ်မင်းမှစ၍ဣသ
၂၈ ရေလလူ။ တပါးအမျိုးသားတို့သည် ကိုယ်တော်၏ အလိုရှိသည် အ
တိုင်း ရှေးမဆွကလက်တော်ဖြင့် ခွဲခန့်မှတ်သားတော်မူနှင့်သမျှတို့ကို
ပြုစေခြင်း၌ ဘိသိတ်ပေးတော်မူသောသားတော်မြတ်ယေရှုကို၍
မြို့၌ရန်ဘက်ပြု၍စည်းဝေးကြပြီးအမှန်ဖြစ်ပါ၏။ထာဝရဘုရား။
၂၉ ယခုအခါထိုသူတို့၏ခြိမ်းချောက်ခြင်းကိုမှတ်တော်မူပါ။အနာရော
၃၀ ဂါညိမ်းစေခြင်း၌လက်တော်ကိုဆန့်တော်မူသဖြင့်ရင်သားတော်
မြတ်ယေရှု၏အဘ္ဘုတ်နှင့်နိမိတ်လက္ခဏာ။အံ့ဘွယ်သရဲတို့ကိုဖြစ်စေ
တော်မူသဖြင့်ရင်ကိုယ်တော်ကျွန်တို့သည် နှုတ်ကပတ်တရားတော်
ကိုရဲရင့်စွာဟောပြောမည်အကြောင်းကယ်သနားတော်မူပါဟု
၃၁ တောင်းလျှောက်ကြ၏။ ထိုသို့ဆုတောင်းပဌနာပြုသည်တွင်စုဝေး
ရာအရပ်ဘုန်လှုပ်၍ထိုသူအပေါင်းတို့သည်သန့်ရှင်းသောဝိညည်
တော်နှင့်ပြည့်ဝသဖြင့်ဘုရားသခင်၏နှုတ်ကပတ်တရားတော်ကိုရဲ
၃၂ ရင့်စွာဟောပြောကြ၏။ ။ယုံကြည်သောသူအပေါင်းတို့
သည်မိတ်နှလုံးတညီတညွတ်တည်းရှိကြ၍အဘယ်သူမျှမိမိဥစ္စာ
တစုံတခုကိုငါ့ဥစ္စာဟူ၍မဆိုဘဲလျက်ရှိသမျှသောဥစ္စာတို့ကိုဆက်ဆံ
၃၃ သဖြင့်သုံးဆောင်ကြ၏။ သခင်ယေရှုထမြောက်တော်မူခြင်းအ
ကြောင်းကိုတမန်တော်တို့သည်ကြီးသောတန်ခိုးနှင့်သက်သေခံ၍ထို
၃၄ သူအပေါင်းတို့သည်ကြီးသောကျေးဇူးနှင့်ပြည့်စုံကြ၏။ ထိုသူတို့
တွင်သုံးဆောင်လောက်အောင်မရှိသောသူတယောက်မျှမရှိ။ အ
ဘယ်ကြောင့်နည်းဟူမူကား။အိမ်လယ်ယာကိုပိုင်သောသူရှိသမျှတို့
၃၅ သည်ရောင်းပြီးလျှင်ရသောအဖိုးကိုယူဆောင်ခဲ့၍ တမန်တော်တို့
ခြေရင်း၌ချထားကြ။လသဖြင့်လူများဆင်းရဲသည်အတိုင်းအသီးအ
၃၆ သီးတို့အားဝေဌပေးကမ်းကြ၏။ ။ယောသေအမည်ရှိ၍သက်

သာစေခြင်း၏သားဟုဆိုလိုသောဗာနာဗအမည်သစ်ကိုတမန်တော်
တို့သမုတ်ခြင်းအားဖြင့်ရပြန်သောကုပရုပြည်သား။ လေဝိလူတယေါ
၃၇ က်သည် ပိုင်သောမြေကိုရောင်းပြီးလျှင်မိမိရသောဥစ္စာကိုယူ
၁ ဆောင်ခဲ့၍တမန်တော်တို့ခြေရင်း၌ချထားလေ၏။ ။အနနိ
နှင့်ယေဖိရေအမည်ရှိသောလင်မယားနှစ်ယောက်တို့သည်ဥစ္စာတရံ
၂ တခုကိုရောင်းပြီးလျှင် ထိုသူသည်မိမိခင်ပွန်းနှင့်သဘောတူလျက်
အဖိုး၏တဖို့ကိုဖွက်ထားသဖြင့် တဖို့ကိုသာယူဆောင်ခဲ့၍တ
၃ မန်တော်တို့၏ခြေရင်း၌ချထားလေ၏။ ပေတရုကလည်းအနနိ။သင်
သည်သန့်ရှင်းသောဝိညာဉ်တော်ကိုလှည့်စား၍မြေကိုရောင်းသော
အဖိုး၏တဖို့ကိုဖွက်ထားမည်အကြောင်း။ စာတန်မာရ်နတ်သည်သင်
၄ စိတ်နှစ်လုံးကိုအဘယ်ကြောင့်တိုက်တွန်းဘိသနည်း။ ထိုမြေရှိစဉ်
ကိုယ်ဥစ္စာဖြစ်သည်မဟုတ်လော။ရောင်း၍ရသောဥစ္စာကိုကိုယ်ပိုင်
သည်မဟုတ်လော။အဘယ်ကြောင့်ဤသို့ကြံစည်သနည်း။ လူအား
သာမုသာပြောပြီးမဟုတ်။ ဘုရားသခင်အားမုသာပြောပြီးဟုပေ
၅ တရုဆို၏။ ထိုစကားကိုကြားလျှင်အနနိလဲ၍သေ၏။ထိုအကြောင်း
အရာကိုကြားသောသူအားလုံးတို့သည်အလွန်ကြောက်လန့်ခြင်းသို့
၆ ရောက်ကြ၏။ လုလင်တို့သည်လည်းထ၍အလောင်းကောင်ကိုထုပ်
၇ ရစ်ပြီးလျှင်ယူသွား၍သင်းဂြိုဟ်ကြ၏။ ။ထိုနောက်
သုံးနာရီမျှလောက်ကြာလျှင်သူ၏ခင်ပွန်းသည်ဖြစ်ခဲ့ပြီးသောအ
၈ ကြောင်းအရာကိုမသိဘဲဝင်လာ၏။ ပေတရုကလည်းဤမျှလော
က်နှင့်မြေကိုရောင်းသလောဝါအားပြောတော့ဟုမေးလျှင်ထိုမိန်းမက
၉ ဟုတ်ပါ၏။ဤမျှလောက်နှင့်ပင်ရောင်းပေသည်ဟုဆို၏။ ပေတရုက
လည်းထာဝရဘုရား၏ဝိညာဉ်တော်ကိုစုံစမ်းမည်သဘောတူနှင့်အ
ဘယ်ကြောင့်ကြံစည်ကြသနည်း။ကြည့်ရှုပါ။သင်၏ခင်ပွန်းကိုသင်း
ဂြိုဟ်သောသူတို့၏ခြေသည်တံခါးနားမှာရှိသည်ဖြစ်၍သင်ကိုလည်း
၁၀ ဆောင်ယူသွားလိမ့်ဦးမည်ဟုဆိုသောခဏ၌ ထိုမိန်းမသည်ပေတရု၏
ခြေရင်း၌လဲ၍သေလေ၏။လုလင်တို့သည်လည်းဝင်၍ထိုမိန်းမသေသည်ကို
တွေ့လျှင်ဆောင်ယူသွား၍ သူ၏ခင်ပွန်းအနားမှာသင်းဂြိုဟ်ကြ၏။
၁၁ သင်းဝင်သူအပေါင်းမှစ၍ထိုအကြောင်းအရာကိုကြားရသောသူ
အားလုံးတို့သည်အလွန်ကြောက်လန့်ခြင်းသို့ရောက်ကြ၏။ ။
၁၂ တမန်တော်တို့သည်လည်း လူများရှေ့မှာနိမိတ်လက္ခဏာ။ အံ့ဖွယ်

သောအမှုအများကိုပြု၍ထိုသူအားလုံးတို့သည် ရှောလောမုန်ကနား
၁၃ ပြင်ခွဲ၌တညီတညွတ်တည်းနေကြ၏။ ကြွင်းသောသူတို့တွင်အဘယ်
သူသည်မပေါင်းဖော်ဝံ့သည်ဖြစ်၍ လူများတို့သည်ကောင်းကြီးပေး
၁၄ ကြ၏။ သခင်ဘုရားနှင့်ယုံကြည်သောသူယောကျ်ားမိန်းမအပေါင်းတို့
၁၅ သည်သင်းဝင်ကြ၏။ ပေတရုသည်လမ်း၌ရှောက်သွားစဉ်အနာစွဲ
သောသူတို့တွင် တယောက်ယောက်ကိုသူ၏အရိပ်သည်သွမ်းမိုးရ
အောင်လူနာတို့ကိုလမ်းနားသို့ထုတ်၍ခုတင်နှင့်ရာပေါ်မှာထားကြလေ
၁၆ ၏။ ပတ်လည်ဝန်းကျင်၌ရှိသောမြို့တို့မှသူအပေါင်းတို့သည် ယေရုရှ
လင်မြို့သို့စုဝေးလာကြ၍ အနာစွဲသောသူ။နတ်ဆိုးညှဉ်းဆဲသောသူ
တို့ကိုသယ်ပို့ယူဆောင်ခဲ့ကြသဖြင့်ထိုသူနာအားလုံးတို့သည် အနာ
ကင်းလွတ်ခြင်းသို့ရောက်ကြ၏။

✻✻

၁၇ ထိုအခါယဇ်ပုရောဟိတ်မင်း။ဇဒ္ဒုကဲလူဖြစ်သောထိုမင်း၏အပေါင်း
၁၈ အဖော်အားလုံးတို့သည်ထ၍ဒေါသအမျက်နှင့်ပြည့်ကြသဖြင့် တမန်
၁၉ တော်တို့ကိုဖမ်းဆီး၍ထောင်ထဲ၌လှောင်ထားကြလေ၏။ ညည့်အခါ
ထာဝရဘုရား၏ကောင်းကင်တမန်သည် ထောင်တံခါးကိုဖွင့်ပြီး
၂၀ လျှင်ထိုသူတို့ကိုနှုတ်၍သင်တို့သွားကြလော့။ ဗိတ်မှာန်တော်၌ရပ်၍
အသက်ရှင်ခြင်းတရားစကားအလုံးစုံကိုလူများတို့အားဟောပြော
ကြလော့ဟုမှာဆို၏။ထိုစကားကိုကြားလျှင်နံနက်စောစောဗိတ်မှာန်
၂၁ တော်သို့ဝင်၍ဆုံးမဩဝါဒပေးကြ၏။ ။ယဇ်ပုရောဟိတ်
မင်းနှင့်သူ၏အပေါင်းအဖော်တို့သည်လာကြ၍ လွှတ်အရာရှိ။ဣသ
ရေလလူတို့တွင်အသက်ကြီးသောသူအားလုံးတို့ကိုစုဝေးစေပြီးမှတ
မန်တော်တို့ကိုခေါ်စေခြင်းငှါလုလင်တို့ကိုထောင်ဆီသို့စေလိုက်ကြ
၂၂ ၏။ မင်းလုလင်တို့သည်ထောင်သို့ရောက်၍တမန်တော်တို့ကိုထောင်
၂၃ ထဲမှာမတွေ့သည်ရှိသော်ပြန်ကြလျှင် ထောင်တံခါးလည်းသတိနှင့်
ကောင်းစွာပိတ်လျက်ရှိသည်ကိုငင်ထောင်စောင့်သူတို့လည်းတံခါး
ပြင်မှာရပ်နေသည်ကိုငင်ကျွန်တော်တို့တွေ့ပါသည်။ဖွင့်ပြီးမှအထဲ၌
၂၄ အဘယ်သူကိုမတွေ့ပါဟုလျှောက်ကြားကြ၏။ ယဇ်ပုရောဟိတ်
မင်း။ဗိတ်မှာန်မှူးအစရှိသောယဇ်ပုရောဟိတ်အကြီးတို့သည် ထိုစ
ကားကိုကြားလျှင်ထိုအမှုသည်အဘယ်သို့သောအမှုဖြစ်မည်နည်း
၂၅ ဟူ၍တွေးတောခြင်းရှိကြ၏။ ထိုအခါလူတယောက်လာ၍ထောင်ထဲ

မှာလှောင်ထားသောသူတို့သည် ဗိမာန်တော်၌ရပ်နေလျက်လူများ
တို့အား ဆုမ္ပြေဩဝါဒပေး၍နေကြသည်ဟု လျှောက်ကြားလေ၏။
၂၆ ။ထိုအခါ ဗိမာန်မှူးသည်မင်းလုလင်တို့နှင့်အတူသွား၍
လျှင် မိမိတို့ကို လူများတို့သည် ခဲနှင့်ပစ်မည် စိုးရိမ်သော
၂၇ ကြောင့် တမန်တော်တို့ကို အနိုင်မပြုဘဲခေါ်ယူဆောင်လေ၏။ ထိုသို့
ဆောင်ယူပြီးလျှင် လွှတ်တော်၌ထား၍ ယဇ်ပုရောဟိတ်မင်းကထိုအ
၂၈ ခွင့်နှင့်မဆုံးမ္ပမသွန်သင်မည်အကြောင်း၊ သင်တို့အားငါတို့သည်
ကြပ်တည်းစွာ စီရင်မှာထားသည်မဟုတ်လော။ ယခုကြည့်ကြ။ ယေ
ရုရှလင်မြို့ကို သင်တို့အယူဝါဒနှင့်ပြည့်စေသည်ဖြစ်၍ ငါတို့အပေါ်၌
ထိုသူ၏အသွေးကို ရောက်စေမည် သင်တို့ကြံသည်ဟူ၍ တကားဟု
၂၉ မေးမြန်းပြောဆိုကြ၏။ ပေတရုနှင့်တမန်တော်တို့ကလည်း လူစကား
၃၀ ထက်ဘုရားသခင်စကားတော်ကို နားထောင်သင့်ပါ၏။ သင်တို့
သည် သစ်တိုင်၌ဆွဲ၍ ကွပ်မျက်သော ယေရှုကို ငါတို့အဘများ၏ဘုရား
၃၁ သခင်သည် ထမြောက်စေတော်မူပြီ။ ဣသရေလလူတို့အား နောင်တ
တရားနှင့် အပြစ်လွှတ်ခြင်းအခွင့်ကိုပေးစေခြင်းအလို့ငှာ ထိုသူ
ကို အစိုးရသောအရှင်၊ အရာ၌ရှင်ကယ်တင်သောသခင်အရာ၌ ရှင်ဘု
ရားသခင်သည် ချီးထား၍ မိမိလက်ျာတော်ဘက်သို့ ချီးမြှောက်တော်
၃၂ မူပြီ။ ထိုအကြောင်းအရာများသည် အမှန်ဖြစ်သည်ဟု ငါတို့သည်
သက်သေခံဖြစ်ကြ၏။ ဘုရားသခင်စကားတော်ကို နားထောင်သော
သူတို့အား ပေးသနားတော်မူသော ဝိညာဉ်တော်မြတ်သည်လည်း
၃၃ သက်သေခံဖြစ်တော်မူသည်ဟု ပြန်ဆိုကြ၏။ ။ထိုစကားကို
ကြားလျှင် ထိုသူတို့နှလုံးသည် ကွဲပြတ်ခတတ်ဖြစ်၍ တမန်တော်တို့ကို
၃၄ ကွပ်မျက်ရအောင် အချင်းချင်းတိုင်ပင်ပြောဆိုကြ၏။ ထိုအခါ လူအ
ပေါင်းတို့သည် ရိုသေသောသူ၊ ဂမာလျေလအမည်ရှိသော ပညတ်ကျမ်း
ဆရာ၊ ဖာရိရှဲလူတယောက်သည် လွှတ်တော်ပေါ်၌ထ၍ တမန်တော်
၃၅ တို့ကို ပြင်သို့ခဏထွက်စေပြီးလျှင် ဣသရေလလူတို့၊ ဤသူတို့အား
၃၆ အဘယ်သို့ပြုမည်အရာကို သတိနှင့်ဆင်ခြင်ကြလော့။ အကြောင်းမူ
ကား၊ အထက်ကာလ သုဒအမည်ရှိသော သူတယောက်သည် ထ၍ ငါကား
ဤမည်သောသူဖြစ်သည်ဟုဆိုလေသဖြင့် သူ၌လူလေးရာမျှလောက်
ဆည်းကပ်ကြ၏။ ထိုသူသည် ပျက်စီးခြင်းသို့ရောက်၍ သူကိုရုံးကြည်
၃၇ သမျှသောလူတို့သည် ဖရိုဖရဲကွဲပြားပျောက်ကြလေ၏။ ထိုသူနောက်

ငွေတော်ခွဲစည်းကာလယုဒအရပ်၌ ရှိသောဂါလိလဲလူတယောက်သည်
လည်းထ၍ မိမိနောက်သို့လူများကိုသွေးဆောင်လေ၏။ ထိုသူသည်
လည်းပျက်စီးခြင်းသို့ရောက်၍ သူကိုရုံကြည်သမျှသောလူတို့သည်
၃၈ ပျောက်လွင့်ကြ၏။ ယခုလည်း ဤသူတို့ကိုရှောင်ရှား၍ သူတို့တတ်
တိုင်းရှိကြပါလေစေတော့ဟုငါဆိုသည်။ဤအကြံဤအမှုသည်လူ့အကြံ
၃၉ အမှုဖြစ်လျှင်ပျက်စီးခြင်းသို့ရောက်လိမ့်မည်။ ဘုရားသခင်၏အကြံ
အမှုဖြစ်လျှင်သင်တို့သည်မဖျက်ဆီးနိုင်ကြ။သင်တို့သည်ဘုရားသခင်
အာဏာတော်ကိုဆန့်သောသူမဖြစ်မည်အကြောင်း။သတိပြုကြလေ
၄၀ ဟုပြောဆို၏။ ။ထိုစကားကိုနားထောင်ကြသဖြင့်တမန်
တော်တို့ကိုခေါ်၍ရိုက်နှက်ပြီးမှယေရှု၏အခွင့်နှင့်မဟောမပြောမည်အ
၄၁ ကြောင်းမြစ်တား၍လွှတ်ကြ၏။ တမန်တော်တို့သည်လည်းသခင်ယေ
ရှုခရစ်၏အမှုတော်ကြောင့်မိမိတို့သည်အရှက်ကွဲခြင်းခံထိုက်ကြသည်
ဟုမှတ်တော်မူသည်ကိုဝမ်းမြောက်ဝမ်းသာသဖြင့် လွှတ်တော်မှထွက်
၄၂ သွားကြ၏။ ဗိမာန်တော်၌၎င်အိမ်၌၎င်နေ့တိုင်းဆုံမှုသွန်သင်
လျက် ယေရှုသည် ခရစ်တော်ဖြစ်၏ဟူ၍ ဧဝံဂေလိတရားကိုဟော
ပြောလျက်ပြုမြဲပြုနေကြ၏။

**

၁ ထိုနေ့ရက်ကာလ၌ဘပည့်တော်တို့သည် များပြားသည်ရှိသော်နေ့
ရက်အစည်အတိုင်းလုပ်ကျွေးကြသောအခါ ဟေလေနစ်အမျိုးမုတ်
ဆိုးမတို့ကိုမလုပ်ကျွေးဟုထိုအမျိုးသားတို့သည်မြည်တမ်း၍ ဟေဗြဲ
၂ လူတို့ကိုအပြစ်တင်ကြ၏။ ထိုအခါတကျိပ်နှစ်ပါးသောတမန်တော်
တို့သည် တပည့်တော်အပေါင်းတို့ကိုခေါ်ပြီးလျှင် ငါတို့သည် ဘုရား
သခင်၏နှုတ်ကပတ်တရားတော်ကိုထား၍စားပွဲ၌လုပ်ကျွေးမှုကိုမ
၃ စောင့်သင့်။ ထိုကြောင့်ညီအစ်ကိုတို့။ဝိညာဉ်တော်နှင့် ၎င်ပညာနှင့်
၎င်ပြည့်စုံလျက်အသရေရှိသောလူခုနစ်ယောက်ကိုသင်တို့တွင်ရှာ
ကြလော့။ထိုသူတို့သည် ဤအမှုကိုစောင့်စေခြင်းငှါငါတို့ခန့်ထားကြ
၄ မည်။ ငါတို့မူကားဆုတောင်းပဌနာပြုခြင်း။နှုတ်ကပတ်တရားတော်
၅ ကိုဟောပြောခြင်းအမှုတို့ကိုအမြဲပြု၍ နေမည်ဟုဆိုကြ၏။ ထိုစ
ကားကိုလူအစုအဝေးအပေါင်းတို့သည်နှစ်သက်ကြသဖြင့်ရုံကြည်
ခြင်းနှင့်၎င်သန့်ရှင်းသောဝိညာဉ်တော်နှင့်၎င်ပြည့်စုံသောသတေဖန်
မှစ၍ ဖိလိပ္ပု။ ပြောခေါ်။ နိကနော်။ တိမုန်။ ပါမေနာ။ ယုဒဘာသာဝင်

၆ သောအနှုတ်အုတ်မြို့သားနိကောလတို့ကိုရွေးကောက်၍ တမန်တော်တို့
ရှေ့၌ထားကြ၏။ တမန်တော်တို့သည်လည်းဆုတောင်းပြီးလျှင်ထိုသူ
၇ တို့ခေါင်းပေါ်၌လက်ကိုတင်ကြ၏။ ။ဘုရားသခင်၏သာသနာ
တော်တိုးပွားသဖြင့်ယေရုရှလင်မြို့၌တပည့်တော်တို့သည်အလွန်ပွား
များသည်ဖြစ်၍ယဇ်ပရောဟိတ်အပေါင်းတို့သည်ရုံကြည်ခြင်းတရား
၈ ကိုနားထောင်ကြ၏။ သတေဖန်သည်ကျေးဇူးတော်နှင့်ငတန်ခိုးတော်
နှင့်ပြည့်စုံသဖြင့်ကြီးစွာသောနိမိတ်လက္ခဏာ။အံ့ဖွယ်သောအမှုတို့ကို
၉ လူများရှေ့မှာပြုလေ၏။ ထိုအခါလိဗေရတိန်လူတို့မှစ၍ ကုရင်ပြည်
သား။အာလေဇန္ဒြိပြည်သား။ကိလိကိပြည်သား။အာရှိပြည်သားတို့
၏တရားဇရပ်ပါဝင်သူအချို့တို့သည်ထ၍ သတေဖန်နှင့် ညင်းခုံခြင်း
၁၀ ကိုပြုလျက် သူပြောပြော၍သုံးသောပညာနှင့် ဝိညာဉ်တော်ကိုမ
၁၁ ခံမဆီးနိုင်ကြ။ ထိုအခါ၌သူသည်မောရှေကိုရင်ဘုရားသခင်ကိုရင်
ပြစ်မှားသောစကားပြောသည်ကိုငါတို့ကြားရပြီးဟုသက်သေခံမည်
၁၂ သူတို့ကိုတိတ်တိတ်ခေါ်၍ထားကြပြီးလျှင် လူများကိုရင်လွှတ်အရာ
ရှိကျမ်းပြုဆရာတို့ကိုရင်နှိုးဆော်၍ သတေဖန်ဆီသို့လာသဖြင့်ဖမ်
၁၃ ဆီး၍လွှတ်တော်သို့ပို့ပြီးမှ မမှန်သောသက်သေတို့ကိုခေါ်ကြ၏။ထို
သက်သေတို့က၊ဤသူသည်ဘုရားနှင့်စပ်ဆိုင်သော၊ဤအရပ်ဌာနတော်
ကိုရင်ပညတ်တရားတော်ကိုရင်ဆန့်ကျင်ဘက်ပြု၍အစဉ်မပြတ်ပြော
၁၄ နေသည်။ ထိုနာဇရက်မြို့သားယေရှုသည်ဤအရပ်ဌာနတော်ကိုဖျက်
ဆီး၍ငါတို့အားမောရှေအပ်ပေးသောထုံးဥပဒေကိုပြောင်းလဲမည်
၁၅ ဟုဤသူဆိုသည်ကိုငါတို့သည်ကြားရပြီးဟုသက်သေခံကြ၏။ လွှတ်
တော်၌ထိုင်လျက်ရှိသောသူအားလုံးတို့သည် သတေဖန်ကိုစေ့စေ့
ကြည့်၍ သူ၏မျက်နှာကို ကောင်းကင်တမန်၏မျက်နှာကဲ့သို့ထင်
၁ ကြ၏။ ။ထိုအခါယဇ်ပရောဟိတ်မင်းက၊ဤစကားမှန်သ
၂ လောဟုမေးသည်ရှိသော် သတေဖန်ကလည်း၊ညီအစ်ကိုအဖတို့၊နား
ထောင်ကြပါလော့။ငါတို့အဖအာဗြဟံသည်ခါရန်မြို့၌မနေမှီမေသော
ပေါတာမိတိုင်း၌ရှိစဉ်အခါဘုန်းကြီးတော်မူသောဘုရားသခင်
၃ သည်ထင်ရှားရှိတော်မူ၍ သင်သည်ကိုယ်ပြည်နှင့်တကွအမျိုးသား
ချင်းတို့ကိုစွန့်၍ ငါပြလတ္တံ့သောပြည်သို့သွားလော့ဟုအာဗြဟံအား
၄ မိန့်တော်မူ၏။ ထိုအခါအာဗြဟံသည်ခါလဒဲပြည်မှထွက်၍ခါရန်မြို့
၌နေ၏။မိမိအဖသေလွန်သည်ရှိသော်ထိုမြို့မှယခုသင်တို့နေသော၊ဤ

၅ ပြည်သို့ပြောင်းစေတော်မူ၏။ ဤပြည်၌ခြေနင်းရာကိုမျှအမွေပေး
တော်မမူသော်လည်းသူ့အားဎင်သူ့သားမြေးတို့အားဎင် ဤပြည်ကိုအ
ပိုင်ပေးတော်မူမည်ဟုသားတဦးကိုမျှမရမှီဂတိထားတော်မူ၏။
၆ သင်၏အမျိုးအနွယ်သည်သူ့ဘပါးပိုင်သောပြည်၌ဧည့်သည်ဖြစ်ကြ
သဖြင့်သူတပါးကို၌ကျွန်ခံခြင်း။ နှိပ်စက်ညှဉ်းဆဲခြင်းကိုအနှစ်လေး
၇ ရာပတ်လုံးခံကြလိမ့်မည် ။သူတို့ကိုစေခိုင်းသောလူမျိုးကိုလည်းငါ
စီရင်မည်။ထိုနောက်မှာသူတို့သည် ထွက်၍ ဤအရပ်၌ငါ့အားဝတ်ပြု
၈ ကြလိမ့်မည်ဟုဗျာဒိတ်ထားတော်မူ၏။ ဘုရားသခင်သည်လည်းအ
ရေဖျားသိုးမင်္ဂလာနှင့် ဆိုင်သောဝန်ခံခြင်းတရားကိုအာဗြဟံအား
ပေးတော်မူ၏။ ထိုသို့ဣဇာက်ကို ဖွားမြင်၍ ရှစ်ရက်မြောက် သော
နေ့ ၌ အရေဖျားလှီးမင်္ဂလာကို ပေးလေ၏။ ဣဇာက်သား ယာကုပ်။
၉ ယာကုပ် သား အမျိုး ၏အဖ တကျိပ်နှစ် ပါး တည်း။ အမျိုး၏ အဖ
တို့သည်လည်းညူရှုသောစိတ်နှင့်ယောသပ်ကိုအဲဂုတ္တုပြည်သို့ ရော
၁၀ င်းကြ၏။ ဘုရား သခင်သည် သူကို စောင့် မတော် မူ လျက် အလုံးစုံ
သောဒုက္ခဆင်းရဲထဲမှကယ်နှုတ်၍ အဲဂုတ္တုပြည် ကိုအစိုးရသောဖာ
ရောမင်း ကြီးထံမျက်နှာပွင့်လန်းခြင်းနှင့်ပညာအတတ်ကိုပေးတော်
မူသဖြင့်ထိုမင်းကြီးသည်ယောသပ်ကိုအဲဂုတ္တုနိုင်ငံအုပ်။နန်းတော်
အုပ်ခန့်ထားလေ၏။

**

၁၁ ခါနာန်ပြည်။ အဲဂုတ္တုပြည်တရှောက်လုံးအစာခေါင်းပါးခြင်း။ ကြီး
စွာသောဆင်းရဲခြင်းရှိ၍ငါတို့အဖများ၌စားစရာဘုန်သောအခါ
၁၂ အဲဂုတ္တုပြည်မှာဆံစပါးရှိသည်ကိုယာကုပ်ကြားလျှင်ငါတို့အဖများ
၁၃ ကိုပဌမအကြိမ်တွင် စေလိုက်လေ၏။ ဒုတိယအကြိမ်တွင်ယောသပ်
သည် မိမိညီအစ်ကိုတို့ အားမိမိအကြောင်း ကိုဖော်ပြ၍ ဖာရောမင်း
၁၄ ကြီးသည်ယောသပ်၏အမျိုးကိုသိတော်မူ၏။ ထိုအခါယောသပ်စေ
လိုက်၍မိမိအဖယာကုပ်နှင့်တကွအရေအတွက်အားဖြင့်ခုနစ်ကျိပ်ငါး
၁၅ ယောက်သောမိမိအမျိုးသားချင်းအလုံးစုံတို့ကိုခေါ်ပင့်လေ၏။ ယာကုပ်
သည်လည်းအဲဂုတ္တုပြည်သို့သွား၍သူမှစသောငါတို့အဖများစုဋ္ဌေတသေ
၁၆ လွန်၍ ရှခင်မြို့သို့ပို့ဆောင်သဖြင့်ယာကုပ်သည် ရှခင်၏အဖဖြစ်
သောဟေမော်၏သားတို့အားအဖိုးကိုပေး၍ငွေ နှင့် ဝယ်ခဲ့သောသင်း
၁၇ ဂြိုင်းတွင်းထဲ၌ချထားသည်ဖြစ်ကြလေ၏။ ။အာဗြဟံအား

ဘုရားသခင်မိန့်တော်မူသောဂတိတော်၏အချိန်ရောက်လုသော
၁၈ အခါထိုလူမျိုးသည်အဲဂုတ္တုပြည်၌တိုးပွား၍ ယောသပ်နှင့်မသိမ
ကျွမ်းသောမင်းကြီးတပါးပေါ်လာသည့်တိုင်အောင်များပြားကြလေ
၁၉ ၏။ ထိုမင်းကြီးသည်ငါတို့အဆွေအမျိုးကိုပရိယာယ်ပြု၍သဖြင့်သူ
ငယ်များကိုအသက်မရှင်ရအောင်ပြစ်ထားစေခြင်းငှါငါတို့အဖများ
၂၀ ကိုညှဉ်းဆဲနှိပ်စက်လေ၏။ ထိုအခါအလွန်လှသောအဆင်းနှင့်ပြည့်စုံ
သောမောရှေကိုဖွားမြင်၍သုံးလပတ်လုံးမိဘအိမ်တွင်ကျွေးမွေး
၂၁ ၏။ နောက်မှာပြစ်ထားသည့်ရှိသော်ဖာရောမင်းကြီး၏သမီးတော်
၂၂ သည်ကောက်ယူ၍မိမိသားအရာ၌မွေးစားထား၏။ မောရှေသည်
လည်းအဲဂုတ္တုအတတ်ပညာအလုံးစုံတို့ကိုသင်၍နှုတ်ဖြင့်၎င်လက်
၂၃ ဖြင့်၎င်အစွမ်းသတ္တိရှိသည်ဖြစ်၍ အသက်လေးဆယ်ရောက်သော
အခါဣသရေလအမျိုးသားဖြစ်သောမိမိညီအစ်ကိုတို့ကိုအကြည့်အ
၂၄ ရှုသွားမည်အကြံရှိ၏။ အမျိုးသားချင်းတယောက်သည်ညှဉ်းဆဲခံ
ရသည်ကိုမြင်လျှင်သူဘက်ကနေသဖြင့်အဲဂုတ္တုလူကိုကွပ်မျက်၍
၂၅ ညှဉ်းဆဲခံသောသူအားတရားပြုလေ၏။ ဘုရားသခင်သည်၏သူ
လက်ဖြင့်ငါတို့ကိုကယ်တင်တော်မူမည်အရာကိုညီအစ်ကိုတို့သည်နား
လည်လိမ့်မည်ဟုထင်မှတ်သော်လည်းထိုသူတို့သည်နားမလည်ဘဲ
၂၆ နေကြ၏။ နက်ဖန်နေ့၌အချင်းချင်းခိုက်ရန်ပြုကြသောသူတို့ဆီသို့
ချဉ်းသွား၍အချင်းလူတို့။ညီအစ်ကိုချင်းဖြစ်လျက်နှင့်အဘယ်ကြော
င့်တယောက်ကိုတယောက်ညှဉ်းဆဲကြသနည်းဟုဆို၍ရန်ညှိမ်းရာ
၂၇ သို့သွေးဆောင်သည့်ရှိသော် မိမိအိမ်နီးချင်းကိုညှဉ်းဆဲသောသူ
ကအဘယ်သူသည်သင်ကိုငါတို့အပေါ်မှာအကဲအမှူးတရားသူကြီး
၂၈ ခန့်ထားသနည်း။ မနေ့ကအဲဂုတ္တုလူကိုသတ်သကဲ့သို့ငါကိုသတ်လို
၂၉ သလောဟုမောရှေကိုပယ်၍ဆို၏။ ထိုစကားကိုကြားလျှင်မောရှေ
ပြေး၍မာဒျန်ပြည်၌ဧည့်သည်ဖြစ်၍နေသည်တွင်သားနှစ်ယောက်ကို
၃၀ မြင်လေ၏။ ။အနှစ်လေးဆယ်စေ့သောအခါသိနာတောင်
ခြေရင်းတောတွင်မီးလောင်သောခြုံ၌ထာဝရဘုရား၏ကောင်းကင်
၃၁ တမန်ထင်ရှားလေ၏။ ထိုရူပရုံကိုမြင်လျှင်မောရှေသည်အံ့ဩ၍
၃၂ စေ့စေ့ကြည့်ရအောင်အနားသို့ချဉ်းကပ်လေသော် ငါကားသင်အဖတို့
၏ဘုရား။အာဗြဟံ၏ဘုရား။ဣဇာက်၏ဘုရား။ယာကုပ်၏ဘုရား
ဖြစ်၏ဟုထာဝရဘုရား၏ဗျာဒိတ်တော်အသံထွက်တော်မူ၏။

၃၃ ထိုအခါ မောရှေတုန်လှုပ်လျက် စေ့စေ့မကြည့်ဝံ့။ ထာဝရဘုရားက
လည်း သင်၏ခြေနင်းကိုချွတ်တော့။ သင်ရပ်၍နေသောအရပ်ကား
၃၄ မြေမြတ်ဖြစ်၏။ အဲဂုတ္တုပြည်၌ရှိသော ငါလူတို့သည် ခံရသောညှဉ်း
ဆဲခြင်းကို ငါစေ့စေ့မြင်ခဲ့ပြီ။ သူတို့ညည်းတွားမြည်တမ်းခြင်းအသံ
ကိုလည်း ငါကြားခဲ့ပြီ။ သူတို့ကိုကယ်နှုတ်ရအောင် ငါဆင်းလာပြီ။ ယ
ခုသွားတော့။ သင့်ကိုအဲဂုတ္တုပြည်သို့ ငါစေလွှတ်မည်ဟု ဗျာဒိတ်တော်
၃၅ ရှိ၏။ အဘယ်သူသည် သင့်ကိုအကဲအမှူးတရားသူကြီးခန့်ထားသ
နည်း ဟူ၍ အငြင်းအပယ်ခံရသော ထိုမောရှေကို အကဲအမှူးကယ်
လွှတ်သောသူဖြစ်စေခြင်းငှါ ဘုရားသခင်သည် ခြုံ၌ထင်ရှားသော
၃၆ ကောင်းကင်တမန်အားဖြင့် စေခန့်တော်မူ၏။ ထိုသူသည် ဣသရေလ
အမျိုးသားတို့ကို နှုတ်ဆောင်၍ အနှစ်လေးဆယ်ပတ်လုံး အဲဂုတ္တုပြည်
၌၎င်း၊ ဒေါပင်လယ်၌၎င်း၊ တော၌၎င်း နိမိတ်လက္ခဏာ အံ့ဖွယ်သောအမှု
တို့ကိုပြုလေ၏။ ❋❋
၃၇ ထာဝရအရှင်ဘုရားသခင်သည် သင်တို့အမျိုးသားချင်းအထဲ၌ ငါနှင့်
တူသော ပရောဖက်တပါးကို သင်တို့အား ပေါ်ထွန်းစေတော်မူမည်။ ထို
သူ၏စကားကို သင်တို့သည် နားထောင်ရကြမည်ဟု ဣသရေလအ
မျိုးသားတို့အား ပြောဆိုသောသူကား အချားသူမဟုတ်။ ထိုမောရှေ
၃၈ ပင်ဖြစ်သတည်း။ ထိုသူသည် တောတွင်ရှိသောအစည်းအဝေး၌ ဒေသိနာ
တောင်ပေါ်၌ သူ့ကိုနှုတ်ဆက်သော ကောင်းကင်တမန်နှင့်၎င်း ငါတို့အဘ
များနှင့်၎င်း ရှိ၏။ ထိုသူသည် ငါတို့အား အပ်ပေးရအောင် အသက်ရှင်
၃၉ စေနိုင်သော ဗျာဒိတ်တော်ကို ခံလေ၏။ ထိုသူ၏စကားကို ငါတို့အဘ
၄၀ များသည် နားမထောင်လိုဘဲ လျက်ပယ်၍ ငါတို့ရှေ့မှာ သွားရသောဘု
ရားတို့ကို ငါတို့အဖို့ လုပ်ပါ။ ငါတို့ကို အဲဂုတ္တုပြည်မှ နှုတ်ဆောင်သော
ထိုမောရှေ၌ အဘယ်သို့ဖြစ်သည်ကို ငါတို့မသိဟု အဲဂုတ္တုပြည်
၄၁ သို့ပြန်လိုသောစိတ်နှင့် အာရုန်ကိုဆိုကြ၏။ ထိုနေ့ရက်ကာလ၌နွား
သငယ်ကိုလုပ်၍ ထိုရုပ်တုအား ယဇ်ပူဇော်သဖြင့် မိမိတို့လက်နှင့်လုပ်
၄၂ သောအရာ၌ ပျော်မွေ့ကြ၏။ အနာဂတ္တိကျမ်း၌လာသည်ကား။ ဣ
၄၃ သရေလအမျိုး။ သင်တို့သည် စီရင်သော တိရိစ္ဆာန်နှင့် ယဇ်များကို
တော၌ အနှစ်လေးဆယ်ပတ်လုံး ငါ့အားပူဇော်ကြသလော။ သင်တို့
သည် မောလုတ်၏တဲနှင့် သင်တို့ဘုရားရဖန်၏ကြယ်တည်းဟူ
သောကိုးကွယ်ခြင်းငှါ မိမိတို့လုပ်သောရုပ်တုတို့ကို ဆောင်ရွက်ကြ

ပြီးတကား။ထိုကြောင့်ငါသည်သင်တို့ကိုဗာဗုလုန်မြို့တဖက်သို့ဆောင်
သွားမည်ဟုကျမ်းလာရှိသည်နှင့်အညီဘုရားသခင်သည်မျက်နှာ
တော်ကိုလွှဲ၍ကောင်းကင်တန်ဆာများတို့အားဝတ်ပြုစေခြင်းငှါထို
၄၄ သူတို့ကိုစွန့်ပြစ်ထားတော်မူ၏။ ။သက်သေခံတင်မှုချက်
ဌာပနာရာတဲတော်သည်မြင်ရသောပုံနှင့်အညီလုပ်စေခြင်းငှါမော
ရှေကိုမိန့်တော်မူသောသူသည်မှာထားတော်မူသည်အတိုင်းတော
၄၅ တွင်ငါတို့အဘများ၌ရှိ၏။ နောက်ကျသောငါတို့အဘများသည်ထိုတဲ
တော်ကိုတပါးအမျိုးသားတို့ပိုင်သောမြေထဲသို့ယောရှုနှင့်အတူဆော
င်ကြ၏။ထိုတပါးအမျိုးသားတို့ကိုဘုရားသခင်သည်ဒါဝိဒ်မင်းလက်
၄၆ ထက်တိုင်အောင်ငါတို့အဘများဆီမှနှင်ထုတ်တော်မူ၏။ ထိုဒါဝိဒ်
သည်ဘုရားသခင်၏ကျေးဇူးတော်ကိုခံ၍ယာကုပ်၏ဘုရားသခင်
၄၇ ကျိန်းဝပ်တော်မူရာဗိမာန်ကိုလုပ်မည်အခွင့်ကိုဆုတောင်းလေ၏။ ရှောလမုန်
၄၈ သည်လည်းဗိမာန်တော်ကိုတည်ဆောက်လေ၏။ သို့သော်လည်း
၄၉ ကောင်းကင်ဘုံကားငါပလ္လင်ဖြစ်၏။မြေကြီးကားငါခြေတင်ခုံဖြစ်
၏။ အဘယ်သို့သောဗိမာန်ကိုငါ့အဖို့တည်ဆောက်ကြမည်
နည်း။အဘယ်အရပ်သည်ငါကျိန်းဝပ်ရာအရပ်ဖြစ်မည်နည်း ငါ၏
၅၀ လက်ဖြင့်သာ ဤအရာအလုံးစုံတို့ကိုဖန်ဆင်းသည်မဟုတ်လော
ဟုထာဝရဘုရားဗျာဒိတ်တော်ကိုပရောဖက်သည်ဟောမြွက်သည်
နှင့်အညီအထွဋ်အမြတ်ဖြစ်တော်မူသောသူသည်လူလက်ဖြင့်လုပ်သ
၅၁ မျှတို့၌ကျိန်းဝပ်နေတော်မူသည်မဟုတ်။ ။လည်ပင်းခိုင်မာ
၍နှစ်လုံးဖြင့်၎င်နားဖြင့်၎င်အရေဖျားမလှီးသောသူတို့။သင်တို့သည်သန့်ရှင်းသော
ဝိညာဉ်တော်ကိုအစဉ်မပြတ်ဆန့်ကျင်ဘက်ပြုလျှက်ရှိ၏။သင်တို့အဖ
၅၂ များ၏အလေ့နှင့်သင်တို့အလေ့တူ၏။ သင်တို့အဖများသည်အဘယ်
ပရောဖက်ကိုမညှဉ်းဆဲသနည်း။ဖြောင့်မတ်သောသူကြွလာတော်မူ
မည်အကြောင်းအရာကိုဟောပြောပြဿနသောသူတို့ကိုကွပ်မျက်ကြ
၏။ထိုဖြောင့်မတ်သောသူကိုပင်ယခုလည်းသင်တို့သည်အပ်နှံ၍အ
၅၃ သေသတ်ကြပြီ။ သင်တို့သည်ကောင်းကင်တမန်များခင်းကျင်းသော
အားဖြင့်ပညတ်တရားတော်ကိုခံရသော်လည်းစောင့်မရှောက်ကြ
ပြီဟုသတေဖန်မြွက်ဆို၏။

❋❋

၅၄ ထိုစကားကိုကြားလျှင်နှစ်လုံးကွဲပြတ်မတတ်ဖြစ်၍သတေဖန်၌အံ

၅၅ သွားခဲကြိတ်ခြင်းကိုပြုကြလေ၏။ သူသည်လည်းသန့်ရှင်းသောဝိ
ညာဉ်တော်နှင့်ပြည့်ဝသဖြင့်ကောင်းကင်သို့စေ့စေ့ကြည့်မျှော်၍ဘု
ရားသခင်၏ဘုန်းတော်ကိုင်ဘုရားသခင်၏လက်ျာတော်ဘက်၌ယေ
၅၆ ရှုရပ်နေသည်ကိုငါမြင်လျှင် ကြည့်ပါ။ကောင်းကင်ဖွင့်လှစ်သည်ကို
ငါလူသားသည်ဘုရားသခင်၏လက်ျာတော်ဘက်၌ရပ်နေသည်ကို
၅၇ ငါမြင်သည်ဟုဆို၏။ ထိုသူတို့သည်ပြင်းစွာသောအသံနှင့်ဟစ်
ကျော်၍နားပိတ်သို့လျက်တညီတညွတ်တည်းသူ့ထံသို့ဟုံးဟုံးပြေးလါ
၅၈ ၍ မြို့ပြင်သို့နှင်ထုတ်ပြီးမှခဲကျောက်ခဲနှင့်ပြစ်ကြ၏။သက်သေတို့သည်
လည်းမိမိအဝတ်တို့ကိုရှောလုအမည်ရှိသောလုလင်၏ခြေရင်း၌ချ
ထားကြ၏။ကျောက်ခဲနှင့်ပြစ်ကြစဉ်သတေဖန်သည်ပဌနာပြုလျက်
သခင်ယေရှု။အကျွန်ုပ်ဝိညာဉ်ကိုသိမ်းယူတော်မူပါဟုလျှောက်ဆို၏။
၆၀ ဒူးထောက်လျက်သခင်။ဤသူတို့ပြုသောဒုစရိုက်အပြစ်ကိုမှတ်တော်
မမူပါနှင့်ဟုကြီးသောအသံနှင့်ကျွေးကျော်ပြီးမှကျိန်းစက်လေ၏။သူ့
ကိုကွပ်မျက်သောအမှုကိုရှောလုသည်လည်းဝန်ခံလျက်နေ၏။
၁ ။ထိုအခါယေရုရှလင်မြို့၌ရှိသောအသင်းတော်သည်ပြင်းစွာ
သောညှဉ်းဆဲခြင်းကိုခံရသဖြင့်တမန်တော်တို့ကိုထား၍သင်းဝင်
သူအားလုံးတို့သည်ယုဒပြည်။ရှမာရိပြည်အနှံ့အပြားအရပ်ရပ်ကွဲပြား
၂ ကြ၏။ တရားကိုရိုသေသောသူတို့သည်သတေဖန်ကိုသင်းဂြိုဟ်၍
၃ ပြင်းစွာသောငိုကြွေးမြည်တမ်ခြင်းကိုပြုကြ၏။ ရှောလုသည်ကား
အသင်းတော်ကိုဖျက်ဆီးလျက်အိမ်တိုင်းသို့ဝင်၍ယောက်ျားမိန်းမတို့ကို
၄ ဆွဲငင်သဖြင့်ထောင်ထဲ၌လှောင်ထား၏။ ထိုကြောင့်အရပ်ရပ်ကွဲ
ပြားသောသူတို့သည်လှည့်လည်၍နှုတ်ကပတ်တော်တည်းဟူသော
၅ ဧဝံဂေလိတရားကိုဟောပြောကြ၏။ ။ဖိလိပ္ပုသည်
၆ လည်းရှမာရိမြို့သို့သွား၍ခရစ်တော်၏တရားကိုဟောလေ၏။ လူ
အစုအဝေးတို့သည်ကြား၍ငင်ဖိလိပ္ပုပြုသောနိမိတ်လက္ခဏာ
တို့ကိုမြင်၍ငင်သူ၏စကားကိုတညီတညွတ်တည်းနားထောင်
၇ ကြ၏။ အဘယ်ကြောင့်နည်းဟူမူကား။နတ်ဆိုးစွဲသောသူအများထဲ
မှနတ်ဆိုးတို့သည်ပြင်းသောအသံနှင့်အော်ဟစ်လျက်ထွက်ကြ၏။
ကိုယ်မလှုပ်နိုင်သောသူ။ခြေဆွံ့သောသူအများတို့သည်သည်းပကတိ
၈ အဖြစ်သို့ရောက်ကြ၏။ ထိုမြို့သူမြို့သားတို့သည်အလွန်ဝမ်းမြောက်
၉ ဝမ်းသာခြင်းရှိကြ၏။ရှိမုန်အမည်ရှိသောသူတယောက်သည်ထိုမြို့၌

နတ်ဝိဇ္ဇာအတတ်နှင့် ပြုပြင်၍မိမိသည်ထူးဆန်းသောသူဖြစ်ရောင်
ဆောင်သဖြင့် ရှမာရိအမျိုးသားတို့သည် မိန်းမောတွေဝေအောင်ပြု
၁၀ နေ၏။ လူငယ်မှစ၍လူကြီးရှိသမျှအားလုံးတို့သည် ဤသူကားအ
ကြီးခေါ်ရသောဘုရားသခင်၏တန်ခိုးတော်ဖြစ်သည်ဟုဆိုလျက်ထို
၁၁ သူ၌ဆည်းကပ်ကြ၏။ ဆည်းကပ်သည်အကြောင်းကား။သူတို့သည်
မိန်းမောတွေဝေခြင်းဖြစ်အောင်ထိုသူသည်နတ်ဝိဇ္ဇာအတတ်အား
၁၂ ဖြင့်ကြာမြင့်စွာပြုနေ၏။ ဖိလိပ္ပုသည်ဘုရားသခင်၏နိုင်ငံတော်နှင့်
ယေရှုခရစ်၏ဘွဲ့သာနှင့်စပ်ဆိုင်သောဧဝံဂေလိတရားကို
ဟောပြောသဖြင့်ထိုသူတို့သည်ယုံကြည်ခြင်းရှိ၍ယောကျ်ားမိန်းမရေ
၁၃ နှစ်မင်္ဂလာကိုခံကြလေ၏။ ရှိမုန်သည်လည်းကိုယ်တိုင်ယုံကြည်သည်
ဖြစ်၍ရေနှစ်မင်္ဂလာကိုခံပြီးမှဖိလိပ္ပုဘက်၌မှီဝဲဆည်းကပ်သဖြင့်ထူး
ဆန်းသောတန်ခိုး။ကြီးသောနိမိတ်လက္ခဏာများကိုမြင်၍မိန်းမော
တွေဝေလျက်ရှိလေ၏။

**

၁၄ ရှမာရိမြို့သားတို့သည်ဘုရားသခင်၏နှုတ်ကပတ်တရားတော်ကိုခံ
ယူကြပြီးဟုယေရုရှလင်မြို့၌ရှိသောတမန်တော်တို့သည်သိတင်းကြား
၁၅ လျှင်ပေတရုနှင့်ယောဟန်တို့ကိုစေလွှတ်ကြ၏။ ထိုမြို့သူမြို့သားတို
၁၆ သည်သခင်ယေရှု၏ဘွဲ့သာသွင်းခြင်းအလို၌ရေနှစ်မင်္ဂလာကိုခံရုံ
သာရှိသဖြင့်တစုံတယောက်သောသူအပေါ်၌သန့်ရှင်းသောဝိညာဉ်
တော်သည်သက်ရောက်တော်မမူသေးသည်ဖြစ်၍တမန်တော်တို့
သည်ရောက်ကြလျှင်ဝိညာဉ်တော်ကိုခံရမည်အကြောင်း။ထိုမြို့သူမြို့
၁၇ သားတို့အဖို့ဆုတောင်းပြီးမှ ထိုသူတို့အပေါ်၌လက်ကိုတင်သော
အားဖြင့်သန့်ရှင်းသောဝိညာဉ်တော်ကိုခံရကြလေ၏။ ။
၁၈ တမန်တော်တို့လက်ကိုတင်သောအားဖြင့်သန့်ရှင်းသောဝိညာဉ်တော်
၁၉ သက်ရောက်သည်ကိုရှိမုန်မြင်လျှင်ငွေကိုဆောင်ယူခဲ့၍ အကျွန်ုပ်
လက်တင်ခြင်းကိုခံရသောသူသည်သန့်ရှင်းသောဝိညာဉ်တော်ကိုခံ
၂၀ စေမည်အကြောင်း။ အကျွန်ုပ်အားအခွင့်ပေးပါဟုဆိုသော် ပေတ
ရုကလည်းဘုရားကျေးဇူးတော်ကိုငွေနှင့်ဝယ်ယူမည်အကြံရှိသော
၂၁ ကြောင့်သင်နှင့်သင်၏ငွေသည်ပျက်စီးခြင်းသို့ရောက်ပါစေ။ သင်
သည်ဤအမှုအရာ၌မဆက်ဆံသည်တကား။အဘယ်ကြောင့်နည်းဟူ
မူကား။ဘုရားသခင်ရှေ့မှာသင်၏စိတ်နှလုံးဖြောင့်မတ်ခြင်းမရှိ။

၂၂ ထိုကြောင့်သင်၌ ယခုဆိုးညစ်သောအမှုကိုနောင်တရလော့။သင်၏
စိတ်နှလုံး၌ကြံစည်ခြင်းအပြစ်ကိုလွှတ်ကောင်းလွှတ်လိမ့်မည်ဖြစ်
၂၃ ၍ဘုရားသခင်ကိုတောင်းပန်လော့။ သင်သည်ခါးစွာသောသည်း
ခြေဖွဲ့သည်ဖြစ်၍ဒုစရိုက်အနှောင်အဖွဲ့နှင့်မလွတ်ကြောင်းကိုငါမြင်
၂၄ သည်ဟုပေတရုဆို၏။ရှိမုန်ကလည်းမိန့်တော်မူသောအရာတစုံတခု
မျှအကျွန်ုပ်အပေါ်သို့မရောက်ပါမည့်အကြောင်း။ထာဝရဘုရားကို
၂၅ အကျွန်ုပ်အဖို့အလို့ငှါဆုတောင်းတော်မူကြပါဟုပြန်ဆို၏။ တမန်
တော်တို့သည်သက်သေခံ၍သခင်ဘုရား၏နှုတ်ကပတ်တရားတော်
ကိုဟောပြီးမှယေရုရှလင်မြို့သို့ပြန်သည့်တွင်ရှမာရိရွာအများတို့၌
လည်းဧဝံဂေလိတရားကိုဟောပြောကြ၏။
၂၆ ။တဖန်ဖိလိပ္ပုအားလည်းထာဝရဘုရား၏ကောင်း
ကင်တမန်က သင်ထ၍ ယေရုရှလင်မြို့မှဂါဇမြို့သို့သွားရာတော
လမ်းတွင် တောင်မျက်နှာ သို့သွား တော့ ဟု ဆို သည် အတိုင်း
၂၇ ဖိလိပ္ပုထ၍သွားလေ၏။ ထိုအခါအဲသယောပိပြည်ကိုအစိုးရသောမိ
ဘုရားထံဘုန်းကြီးသောအမတ်ဖြစ်၍ဘဏ္ဍာတော်အားလုံးကိုအုပ်
စိုးသောအဲသယောပိပြည်သားတယောက်သည် ကိုးကွယ်ခြင်းအလို
၂၈ ငှါယေရုရှလင်မြို့သို့သွားပြီး၍ ပြန်စဉ်တွင်မိမိရထားပေါ်၌ထိုင်
၂၉ လျက်ပရောဖက်ဟေရှာယကျမ်းစာကိုဖတ်နေ၏။ ဝိညာဉ်တော်က
လည်းထိုရထားသို့ချဉ်းကပ်မှီဝဲတော့ဟုဖိလိပ္ပုအားဗျာဒိတ်ပေး
၃၀ တော်မူသဖြင့် ဖိလိပ္ပုသည်ရထားဆီသို့ပြေး၍ပရောဖက်ဟေရှာယ
ကျမ်းစာ၌ဖတ်သည်ကိုကြားလျှင်ဖတ်သောအရာကိုနားလည်ပါ၏
၃၁ လောဟုမေးမြန်း၏။ ထိုသူကလည်းသွန်သင်ပဲ့ပြင်သောသူမရှိလျှင်
အဘယ်သို့နားလည်နိုင်သနည်းဟုဆိုပြီးမှမိမိနှင့်အတူဖိလိပ္ပုတက်
၃၂ ၍ထိုင်နေပါမည့်အကြောင်းတောင်းပန်၏။ ။ကျမ်းစာ၌ဖတ်
သောအချက်ဟူမူကား။ အသေသတ်ရအောင်ဆောင်သွားသောသိုး
ကဲ့သို့သူကိုဆောင်သွား၍သိုးသငယ်သည်အမွေးညှပ်သောသူရှေ့၌
၃၃ အသံမမြည်ဘဲနေသကဲ့သို့သူသည်နှုတ်ကိုမဖွင့်ဘဲနေ၏။ နှိမ့်ချခြင်း
ကိုခံစဉ်သူတပါးတို့သည်ထိုသူကိုမတရားသဖြင့်စီရင်ကြ၏။ထိုသူ
၏အသက်ကိုမြေကြီးကသိမ်းရုတ်သည်ဖြစ်၍အဘယ်သူသည်သူ၏
၃၄ အမျိုးကိုပြညွှန်မည်နည်းဟုကျမ်းစာလာသတည်း။ ။ထိုအ
မတ်သည်လည်းအဘယ်သူကိုရည်၍ပရောဖက်သည်ဤသို့ဆိုပါလေ

သောတပည့်တော်တယောက်သည်ဒမာသက်မြို့၌ရှိ၏။ထိုသူကိုသခ
ခင်ဘုရားသည်ဗျာဒိတ်တော်အားဖြင့်အနနိပဟူ၍ခေါ်တော်မူ၏။အနနိ
၁၁ ကလည်းသခင်ဘုရား။အကျွန်ုပ်ရှိပါ၏ဟုထူး၏။ သခင်ဘုရားက
လည်းသင်ထ၍လမ်းဖြောင့်အမည်ရှိသောလမ်းသို့သွားတော့။ရှောလု
အမည်ရှိသောတာရှုမြို့သားကိုယုဒ၏အိမ်၌ရှာဖွေတော့။အကြောင်း
မူကား။ထိုသူသည်ဆုတောင်းလျက်နေ၏။ မိမိသည်မျက်စိမြင်ပြန်ရ
၁၂ အောင် အနနိအမည်ရှိသောသူသည်ဝင်၍ မိမိအပေါ်၌လက်တင်
၁၃ သည်ကိုဗျာဒိတ်တော်အားဖြင့်မြင်လေပြီးဟုမိန့်တော်မူ၏။ အနနိက
လည်းသခင်ဘုရား။ထိုသူသည်ယေရုရှလင်မြို့၌ကိုယ်တော်၏သန့်ရှင်း
သူတို့ကိုဘယ်မျှလောက်ညှဉ်းဆဲလေသည်ကိုလူများပြော၍အကျွန်ုပ်
၁၄ ကြားရပါပြီ။ ဤအရပ်မှာကိုယ်တော်ကိုပဌနာပြုသောသူရှိသမျှတို့
ကိုချည်နှောင်ရမည်အခွင့်ကိုယဇ်ပုရောဟိတ်အကြီးတို့ဆီမှာရပါ
၁၅ သည်ဟုပြန်လျှောက်၏။ သခင်ဘုရားကလည်းထိုသူကားတပါးအ
မျိုးသားတို့ဆီသို့၎င်ရှင်ဘုရင်တို့ဆီသို့၎င်ဣသရေလအမျိုးသား
တို့ဆီသို့၎င်ငါ့နာမကိုပို့ဆောင်စေခြင်းငှါငါရွေးကောက်သော
၁၆ တန်ဆာပင်ဖြစ်၏။ အဘယ်ကြောင့်နည်းဟူမူကား။ ထိုသူသည်ငါ
နာမကြောင့်ဘယ်မျှလောက်ဆင်းရဲခံရမည်ကိုငါသည်သူ့အား
၁၇ ပြမည်။သို့ကြောင့်သင်သွားတော့ဟုအနနိအားမိန့်တော်မူ၏။ အနနိ
သည်လည်းသွား၍အိမ်သို့ရောက်လျှင်ရှောလုအပေါ်၌ မိမိလက်ကို
တင်၍ ညီရှောလု။သင်လာသောလမ်း၌သင်အားထင်ရှားတော်မူသော
သခင်ယေရှုသည်သင်၏မျက်စိမြင်ပြန်စေခြင်းငှါ၎င်သင်ကိုသန့်ရှင်း
သောဝိညာဉ်တော်နှင့်ပြည့်စေခြင်းငှါ၎င်ငါ့ကိုစေခန့်တော်မူသည်ဟု
၁၈ ဆို၏။ ထိုခဏ၌ရှောလု၏မျက်စိမှငါးကြေးကွာကျလေသကဲ့သို့ဖြစ်
၍မျက်စိမြင်ပြန်သဖြင့်ထ၍ရေနှစ်မင်္ဂလာကိုခံပြီးလျှင်အစာအာဟာ
၁၉ ရကိုသုံးဆောင်၍အားဖြည့်လေ၏။ ။ထိုနောက်ရှောလုသည်
ဒမာသက်မြို့၌ရှိသောတပည့်တော်တို့နှင့်အတူကာလအတန်အရာ
၂၀ နေ၍ ယေရှုသည်ဘုရားသခင်၏သားတော်ဖြစ်ကြောင်းကိုတရားဇ
၂၁ ရပ်တို့၌မဆိုင်းမလင့်ဟောလေ၏။ ကြားသောသူအပေါင်းတို့သည်
အံ့ဩ၍ဤသူကားထိုသခင်ကိုပဌနာပြုသောသူတို့ကိုယေရုရှလင်
မြို့၌ဖျက်ဆီးသည်သာမက ထိုသူများကိုချည်နှောင်၍ယဇ်ပုရော
ဟိတ်အကြီးဆီသို့ပို့ရအောင်ဤအရပ်သို့လာပြန်သောသူဖြစ်သည်

၂၂ မဟုတ်လောဟုဆိုကြ၏။ ရှောလုသည်လည်း အားတိုးပွားသဖြင့် ဒ
မာသကုမြို့၌နေသောယုဒလူတို့သည်ပြောသမျှသောစကားကိုဖျက်
၍ယေရှုသည်ခရစ်တော်ဖြစ်ကြောင်းကိုထင်ရှားပြ၏။

**

၂၃ နေ့ရက်များတို့သည် စေ့ပြီးမှ ရှောလု ကို သတ် အံ့သော ငှါ ယုဒလူတို့
၂၄ သည်အချင်းချင်းတိုင်ပင်ကြ၏။ ထိုအကြံအစည် ကို ရှောလုသိ၏။
၂၅ သူကိုသတ်အံ့သောငှါတံခါးတို့ကိုနေ့ညမပြတ်စောင့်ကြစဉ် တပည့်
တော်တို့သည်ညည့်အခါသူကိုယူ၍တောင်း၌ထည့်ပြီးလျှင် မြို့ရိုးအ
၂၆ ပေါ်ကလျှော့ချကြ၏။ ။ယေရုရှလင်မြို့သို့ရောက်ပြီးလျှင်တ
ပည့်တော်တို့နှင့် ပေါင်းဖော်မည် ပြုလေသော် သူသည်တပည့်တော်
ဖြစ်ကြောင်းကိုတပည့်တော်အားလုံးတို့သည်မယုံသဖြင့် သူကိုကြော
၂၇ က်ရွံ့ကြ၏။ ထိုအခါဗာနာဗသည်သူကိုခေါ်၍တမန်တော်များထံသို့
သွင်းပေးပြီးလျှင်အထက်ကရှောလုသည်လမ်းခရီး၌သခင်ဘုရားကို
မြင်သည်ဟူ၍၎င်သူအားမိန့်တော်မူသည်ဟူ၍၎င် ဒမာသကုမြို့၌
၂၈ ယေရှု၏ဘာသာကိုရဲရင့်စွာဟောသည်ဟူ၍၎င် ပြောလေ၏။ ထို
နောက်မှာရှောလုသည်ယေရုရှလင်မြို့၌တမန်တော်တို့နှင့်ပေါင်းဖော်
၍သခင်ယေရှု၏ဘာသာကိုရဲရင့်စွာဟောလျက်နေ၏။ ။
၂၉ ဟေလေနစ်လူတို့အားနှီးနှောပြောဆိုလေသဖြင့်ထိုသူတို့သည်ရှောလု
၃၀ ကိုသတ်မည်ပြုကြ၏။ ထိုအကြောင်းကိုညီအစ်ကိုတို့သည်သိလျှင်
ရှောလုကိုကဲသရိမြို့သို့ပို့၍တာရှုမြို့တိုင်အောင်စေလွှတ်ကြ၏။ ။
၃၁ ထိုအခါယုဒပြည်။ဂါလိလဲပြည်။ရှမာရိပြည်တို့တွင်အသင်းတော်များ
တို့သည်ငြိမ်သက်ခြင်းသို့ရောက်သဖြင့်တည်ဆောက်ကြသည်ဖြစ်
၍ သခင်ဘုရား ကို ကြောက်ရွံ့ခြင်း၌၎င်သန့်ရှင်းသောဝိညာဉ်တော်
၏အခံအမ၌၎င်မွေ့လျော်သောအားဖြင့်ပွားများကြလေ၏။ ။
၃၂ ပေတရုသည်အရပ်ရပ်တို့ကိုလှည့်လည်သည်တွင်သန့်ရှင်းသူတို့ရှိရာ
၃၃ လုဒ္ဒမြို့သို့ရောက်လေ၏။ ထိုအရပ်၌အဲနေအမည်ရှိသော။လက်ခြေသေ
၍ရှစ်နှစ်ပတ်လုံးအိပ်ရာ၌တုံးလုံးနေသောသူတယောက်ကိုတွေ့လျှင်
၃၄ အဲနေ။ယေရှုခရစ်သည်သင်အားချမ်းသာပေးတော်မူ၏။ထ၍အိပ်ရာ
၃၅ ကိုပြင်တော့ဟုပေတရုဆိုသော်ထိုသူသည်တခဏခြင်းထ၏။ လုဒ္ဒ
မြို့။သာရုန်မြို့၌နေသောသူအပေါင်းတို့သည်ထိုသူကိုမြင်သဖြင့်သခင်
၃၆ ဘုရားသို့ပြောင်းလဲကြ၏။ ။ယုပ္ပေမြို့၌ဒေါကာဟုဆိုလို

သောတဗိသအမည်ရှိသောတပည့်တော်မတယောက်ရှိ၏။ ထိုမိမ္မ
၃၇ သည် ကောင်းသောအကျင့်။ အစွန့်အကြဲနှင့် ပြည့်စုံလျက် ထိုအ
ခါ၌ နာ၍သေလေ၏။ အလောင်းကောင်ကိုရေချိုးပြီးလျှင်အထက်
၃၈ ခန်း၌ ထင်ထားကြ၏။ လုဒ္ဒမြို့သည် ယုပ္ပေမြို့နှင့်နီးသည်ဖြစ်၍
ထိုမြို့၌ပေတရုရှိကြောင်းကိုတပည့်တော်တို့သည်ကြားလျှင်ပေတရု
အလျှင်အမြန်ကြွလာပါမည်အကြောင်း။လူနှစ်ယောက်ကိုစေလိုက်၍
၃၉ တောင်းပန်ကြ၏။ ပေတရုသည်ထ၍ထိုသူတို့နှင့်အတူသွားလေ၏။
ရောက်လျှင်အထက်ခန်းသို့ခေါ်ပင့်၍မုတ်ဆိုးမများတို့သည်ငိုကြွေး
လျက်မိမိတို့နှင့်အတူရှိဘုန်းခါဒေါ်ကာသည်လုပ်ခဲ့သောအင်္ကျီအဝတ်
၄၀ များတို့ကိုပြ၍နေကြ၏။ ပေတရုသည်ထိုသူအားလုံးတို့ကိုပြင်သို့
ထွက်စေပြီးမှ ဒူးထောက်၍ဆုတောင်းပဌနာပြုသဖြင့်ထိုအလောင်း
သို့မျက်နှာလှည့်လျက်တဗိသ။ ထတော့ဟုဆိုလေ၏။ ထိုမိမ္မသည် မျက်
၄၁ စိကိုဖွင့်၍ပေတရုကိုမြင်လျှင်ထိုင်နေ၏။ ပေတရုသည်မိမိလက်ကိုသူ
အားပေး၍ချီကြွပြီးမှသန့်ရှင်းသူတို့နှင့်မုတ်ဆိုးမများတို့ကိုခေါ်၍အ
၄၂ သက်ရှင်လျက်ရှိသောထိုမိမ္မကိုအပ်လေ၏။ ထိုအကြောင်းကိုယုပ္ပေ
မြို့လုံးတွင်သိကြ၍ လူများတို့သည် သခင်ဘုရားကိုယုံကြည်ခြင်းသို့
၄၃ ရောက်ကြ၏။ ပေတရုသည်ယုပ္ပေမြို့၌ရှိမုန်အမည်ရှိသောသားရေ
လုပ်သမားနှင့်ကြာမြင့်စွာနေ၏။

❋❋

၁ ကဲသရိမြို့၌ကောနေလိအမည်ရှိသော။ဣတလိဘပ်ဟုခေါ်ဝေါ်သော
၂ တပ်၌လူတရာကိုအုပ်ချုပ်သောတပ်မှူးတယောက်ရှိ၏။ ထိုသူသည်
မိမိအိမ်တွင်ရှိလေသောသူတို့နှင့်တကွဘုရားဝတ်၌မွေ့လျော်၍ဘု
ရားသခင်ကိုကြောက်ရွံ့ခြင်းရှိသဖြင့် လူတို့အားများစွာသောစွန့်
၃ ကြဲခြင်းကိုပြု၍ဘုရားသခင်ကိုအစဉ်ဆုတောင်းလေ့ရှိ၏။ ထိုသူ
သည်နေ့ကိုးနာရီတီးအချိန်တွင်ဘုရားသခင်၏ကောင်းကင်တမန်
ရောက်လာသဖြင့်ကောနေလိဟူ၍မိမိအားခေါ်သည်ကိုဗျာဒိတ်တော်
၄ အားဖြင့်အထင်အရှားတွေ့မြင်၏။ ကောင်းကင်တမန်ကိုစေ့စေ့ကြည့်လျှင်
ထိတ်လန့်ခြင်းရှိသည်ဖြစ်၍ သခင်။ အဘယ်အခွင်းရှိပါလေသနည်း
ဟုမေးသော်ကောင်းကင်တမန်ကသင်သည်ဆုတောင်းပဌနာပြုခြင်း။
စွန့်ကြဲခြင်းတို့သည် ဘုရားသခင်ရှေ့တော်အောင်းမေ့စရာဖို့တက်
၅ ၍ရောက်လေပြီး။ ထိုကြောင့်ယခုပင်ယုပ္ပေမြို့သို့လူကိုစေလိုက်၍ဖေ

၆ တရုအမည်ဘွင်ရှိနေသော ရှိမုန်ကိုခေါ်ပင့်ဘော့၊ ထိုသူသည်ရှိမုန်
အမည်ရှိသောသားရေနယ်သမားအိမ်၌တည်းနေ၏၊ ထိုအိမ်သည်
၇ ပင်လယ်နားမှာရှိသည်ဟုဆို၏၊ ထိုသို့ပြောဆိုသောကောင်းကင်
တမန်သွားပြီးလျှင် ကော်နေလိသည် မိမိဥယ်သားနှစ်ယောက် မိမိ
ထံ၌ခစားမပြတ်ရှိသော ဘုရားဝတ်၌ ခံခြောင်သော သူရဲတ
၈ ယောက်ကိုခေါ်၍ ထိုအကြောင်းအရာအလုံးစုံတို့ကိုပြောပြီးမှယု
၉ ပ္ပမြို့သို့စေလိုက်၏၊ နောက်ဇန်ခွေသို့သူတို့သည်ယုပ္ပမြို့သို့
သွား၍ရောက်ခါနီး၊ နှစ်ချက်တီးအချိန်တွင်ပေတရုသည်ဆုတောင်း
၁၀ ခြင်းငှါအိမ်မိုးပေါ်သို့တက်လေ၏၊ ထိုအခါ၌အငတ်အစာဟာရကိုအ
လိုရှိသဖြင့်သူတပါးတို့သည်အစာအာဟာရကိုပြင်ဆင်လေသောအခါ
၁၁ မိမိသည်ဘဝင်မြင်၍နေ၏၊ ကောင်းကင်ဖွင့်လှစ်သည်ကိုမြင်စောင်
ကြီးကဲ့သို့လေးထောင့်ချုပ်၍ မြေကြီးသို့ချလွှတ်သောတန်ဆာဆင်း
၁၂ သက်လာသည်ကိုမြင်၏။ ထိုတန်ဆာထဲ၌သားရဲမှစ၍မြေ၌ကျင်
လည်သောသားမျိုး။ တွားတတ်သောတိရစ္ဆာန်မျိုး၊ မိုဃ်းကောင်းကင်
၁၃ ၌ကျင်လည်သောငှက်မျိုးတို့သည်ရှိကြ၏။ စကားအသံသည်လည်း
၁၄ ပေတရု၊ ထ၍သတ်စားတော့ဟုလာ၏။ ပေတရုကလည်း မဖြစ်နိုင်
ရာသခင်။ အပြစ်ပါ၍မစင်ကြယ်သောအရာကိုအကျွန်ုပ်သည်တရံ
၁၅ တခါမျှမစားသေးဟုဆို၏။ နောက်တဖန်စကားအသံကားဘုရား
ခင်သည်စင်ကြယ်စေတော်မူသောအရာကိုအပြစ်ပါသည်မထင်နှင့်
၁၆ ဟုလာပြန်၏။ ထိုသို့သုံးကြိမ်မြောက်အောင်လာပြီးလျှင်ထိုတန်ဆာ
၁၇ ကိုကောင်းကင်ထဲသို့သိမ်းရုတ်ပြန်လေ၏။ ။ပေတရုသည်
မိမိမြင်ခဲ့သောဗျာဒိတ်တော်အဘယ်သို့ဆိုလိုသနည်းဟုတွေးတော
ဆင်ခြင်၍ရှိနေစဉ် ကော်နေလိစေလိုက်သောလူတို့သည် ရှိမုန်အိမ်
၁၈ ကိုမေးမြန်းရှာဖွေ၍ တံခါးရှေ့မှာရပ်လျက် ပေတရုအမည်သစ်ရ
ပြန်သောရှိမုန်သည် ဤမှာတည်းနေပါသလောဟုမေးမြန်းဟစ်ခေါ်
၁၉ ၏။ ပေတရုသည်ဗျာဒိတ်တော်ကိုဆင်ခြင်၍နေစဉ်ဝိညာဉ်တော်ကလူ
၂၀ သုံးယောက်တို့သည်သင့်ကိုရှာနေ၏။ ထ၍ဆင်းတော့။ တွေးတော
ခြင်းမရှိဘဲထိုသူတို့နှင့်အတူသွားတော့။ အကြောင်းမူကား၊ ငါသည်သူတို့
၂၁ ကိုငါစေလိုက်ခဲ့ပြီးဟုမိန့်တော်မူလျှင် ပေတရုသည်ဆင်း၍ ငါကား
သင်တို့ရှာသောသူဖြစ်၏။ အဘယ်အကြောင်းရှိ၍လာကြသနည်းဟု
၂၂ ထိုသူတို့အားမေး၏။ ထိုသူတို့ကလည်းဘုရားသခင်ကိုကြောက်ရွံ့

၍ယုဒလူအပေါင်းတို့တွင်အသရေရှိသောသူတော်ကောင်းတည်း ဟူ
သောတပ်မှူး ကော်နေလိသည် ကိုယ်တော်ကို မိမိအိမ် သို့ ခေါ်ပင့် ၍
ကိုယ်တော်၏စကားကိုနားထောင်ရသည်အကြောင်း။ သန့်ရှင်းသော
ကောင်းကင်တမန်အားဖြင့်ဗျာဒိတ်တော်ကိုခံရပါသည် ဟု ပြန်ပြော
၂၃ ကြ၏။ ပေတရုသည်လည်းထိုသူတို့ကိုအိမ်ထဲ သို့ ခေါ်၍ ဧည့်သည်
ဝတ်ကိုပြုလေ၏။

❋❋

နက်ဖြန်နေ့ ၌ထ ၍ ထိုသူတို့ နှင့်အတူ သွားသဖြင့် ယုပ္ပမြို့ သားဖြစ်
၂၄ သောညီအစ်ကိုအချို့တို့သည် လိုက်ကြ၏။ ထိုနောက်နေ့၌ကဲသရိ
မြို့သို့ဝင်ကြလျှင်ကော်နေလိသည် မိမိ အဆွေအမျိုးမိတ်ဆွေပွန်းများ
၂၅ တို့ကိုစုဝေးစေသဖြင့်ထိုသူတို့ကိုမျှော်လင့်လျက်နေ၏။ ပေတရုသည်
ရောက်လာသော အခါ ကော်နေလိ သည် ကြိုဆို ၍ ခြေရင်း ၌ ပျပ်ဝပ်
၂၆ လျက်ကိုးကွယ်လေ၏။ ပေတရုသည် သူ့ကိုချီပင့်လျက် ထ တော့။ ငါ
၂၇ ကိုယ်တိုင်လူဖြစ်သည် ဟု ဆို ၏။ ထို သို့ နှုတ်ဆက် ၍ ဝင်လေသော်
၂၈ စုဝေးလျက်ရှိကြသောလူများကိုတွေ့လျှင် ပေတရုသည်ထိုသူတို့အား
လည်း ယုဒ လူ ဖြစ်သော သူကို သည် တပါးအမျိုးသားတို့ နှင့် မပေါင်း
ဖော်မချည်းကပ်အပ်သည်ကိုသင်တို့သိကြ၏။ သို့သော်လည်းအဘယ်
သူကို မျှအပြစ် ပါ သည်။ မစင်ကြယ်သည်ဟူ၍မပြောမဆို ရမည်အ
၂၉ ကြောင်း။ဘုရားသခင်သည်ငါ့အားဆုမ္ပြသတော်မူပြီး။ ထိုကြော
င့်ငါ့ကိုခေါ် ကြ သောအခါမငြင်း မခံ ဘဲလျက် ငါလာသည်။ သို့ဖြစ်၍
အဘယ်အကြောင်းကြောင့်ငါ့ကိုခေါ် ကြသနည်း။ငါမေးလိုသည်ဟုပေ
၃၀ တရုဆို၏။ ။ကော်နေလိကလည်းယခုအချိန်နာရီတိုင်အောင်
အကျွန်ုပ်သည်အစာကိုရှောင်၍သုံးချက်တီးအချိန်တွင်အိမ်၌ဆုတောင်
း၍နေသည်ယခုလေးရက် ရှိပါ ပြီး။ ထိုအချိန် ၌ လူတယောက် သည်
ထွန်းတောက်သောအဝတ်ကိုဝတ်လျက်အကျွန်ုပ်ရှေ့ မှောက် ၌ ရပ်နေ
၃၁ ပြီးလျှင် ကော်နေလိ။သင်ပြုသောပဌနာကိုကြားတော်မူ ၍ သင်စွန့်
၃၂ ကြဲခြင်းသည်ဘုရားသခင်ရှေ့မှာမှတ်လျက်ရှိ၏။ ထို့ကြောင့် ယုပ္ပ
မြို့သို့ လူလိုက်၍ပေတရုအမည်သင်ရှိမုန်သော ရှိမုန်ကိုခေါ်ပင့်တော့။
ထိုသူသည်ပင်လယ် နားမှာ ရှိမုန် အမည် ရှိသောသားရေလုပ်သွား
အိမ်၌တည်းခို၏။ထိုသူသည်ရောက် လာလျှင်သင်အား ဟောပြော
၃၃ လိမ့်မည်ဟုဆို၏။ ထို့ကြောင့်အကျွန်ုပ်သည် ကိုယ်တော်ဆီသို့ အ

သော့စေလိုက်၍ကိုယ်တော်သည်ကြွလာသော အားဖြင့် ကောင်းမွန်
စွာပြုပါပြီ။ဘုရားသခင်သည်ကိုယ်တော်၌မှာထားတော်မူသမျှတို့
ကိုနားထောင်ရအောင်အကျွန်ုပ်တို့အားလုံးသည်ဘုရားသခင်ရှေ့၌
၃၄ နေကြပါသည်ဟုကော်ဇနေလိဆို၏။ ။ထိုအခါပေတရုသည်နှုတ်
ကိုဖွင့်လျက်အကယ်၍ ဘုရားသခင်သည် မျက်နှာ ကို မှတ်တော်မ
၃၅ မူ။ လူအမျိုးမျိုးတို့တွင်အကြင်သူသည်ဘုရားသခင်ကိုကြောက်ရွံ့၍
တရားသဖြင့်ကျင့်ဆောင်၏။ ထိုသူသည်အထံတော်၌မျက်နှာရသည်
၃၆ ဟုငါသိမြင်၏။ အလုံးစုံတို့ကိုအစိုးရတော်မူသောသခင်ယေရှုခရစ်
အားဖြင့် ငြိမ်ဝပ်ခြင်း တရား တည်းဟူ သော ဧဝံဂေလိ တရား ကို
ဟော တော်မူလျက် ဣသရေလ အမျိုး သား တို့ အား ပေးလိုက်တော်မူ
၃၇ သောတရားတော်နှင့်အညီ ယောဟန်သည်ရေနှစ်ခြင်းမင်္ဂလာတရားကို
ဟောသည်နောက်ဂါလိလဲပြည်မှစ၍ယုဒပြည်အားလုံး၌နှံ့ပြားသော
၃၈ အကြောင်းအရာကိုသင်တို့သည်သိကြ၏။ ထိုအကြောင်းအရာဟူမူ
ကား။ ဘုရားသခင်သည် သန့်ရှင်းသော ဝိညာဉ်တော်နှင့်ဒုင်တန်ခိုး
တော်နှင့်ဇိနာဇရက်မြို့သားယေရှုကိုဘိသိတ်ပေးတော်မူ သဖြင့် ထို
သူသည်ဘုရားသခင်၏အခွင့်တော်နှင့် ကျေးဇူးပြု၍မာရ်နတ်ညှဉ်းဆဲ
ဆဲသောသူအပေါင်းတို့အားချမ်းသာကိုပေးလျက် လှည့်လည်တော်မူ
၃၉ ၏။ ငါတို့သည်လည်း ယေရုရှလင်မြို့မှစ၍ ယုဒပြည်တွင် ပြုတော်မူ
သောအမှုများတို့၏သက်သေခံဖြစ်ကြ၏။ ထိုသူကိုသစ်တိုင်၌ဆွဲ၍
၄၀ ကွပ်မျက်ကြလေ၏။ သုံးရက်မြောက်သောနေ့၌ဘုရားသခင်သည်
၄၁ ထမြောက်စေတော်မူ၍ လူအပေါင်းတို့အားထင်ရှားစွာမပြဘဲလျက်
ဘုရားသခင်ခန့်ထားတော်မူနှင့်သောသက်သေတည်းဟူသောငါတို့
အားထင်ရှားစွာပြတော်မူ၏။ သေခြင်းမှထမြောက်တော်မူသည်နောက်
၄၂ ထိုသခင်နှင့်အတူငါတို့သည်စားသောက်ကြ၏။ ထိုသခင်သည်လည်းအ
သက်ရှင်သောသူတို့ကိုင်၎သေသောသူတို့ကို၎ တရားစီရင်သောသခင်
ဖြစ်စေခြင်းငှါဘုရားသခင်ခန့်ထားတော်မူကြောင်းကိုလူအပေါင်းတို့
အားဟောပြောကြလော့။ သက်သေခံကြလော့ဟုငါတို့အားပညတ်ထား
၄၃ တော်မူ၏။ ထိုသခင်ကိုယုံကြည်သော်သူ ရှိသမျှတို့သည်သူ၏အခွင့်အား
ဖြင့်အပြစ်လွှတ်ခြင်းကျေးဇူးကိုခံရလတ္တံ့ဟူ၍ပရောဖက်အားလုံးတို့
သည်ထိုသခင်၏သက်သေခံဖြစ်ကြသည်ဟုပေတရုမြွက်ဆို၏။ ။
၄၄ ထိုစကားကိုမြွက်ဆိုစဉ်နှုတ်ကပတ်တရားတော်ကိုကြားနာသောသူ

အပေါင်းတို့အပေါ်မှာသန့်ရှင်းသောဝိညာဉ်တော်သည်သက်ရောက်
၄၅ တော်မူ၏။ တပါးအမျိုးသားတို့အပေါ်မှာသန့်ရှင်းသောဝိညာဉ်ဆုကျေးဇူးကိုသွန်းလောင်းသောကြောင့်ဓာတ်သွင်းမင်္ဂလာခံသူတည်း
ဟူသောပေတရုနှင့်ပါသမျှသောဘာသာသူတော်တို့သည် မိန်းမောတွေဝေ
၄၆ ခြင်းရှိကြ၏။ အဘယ်ကြောင့်နည်းဟူမူကား။ ထိုသူတို့သည်အမျိုးမျိုး
သောဘာသာစကားအားဖြင့်ပြော၍ဘုရားသခင်ကိုချီးမွမ်းသည်ကို
၄၇ ကြားကြလေ၏။ ထိုအခါပေတရုက ငါတို့ကဲ့သို့သန့်ရှင်းသောဝိညာဉ်
တော်ကိုခံကြသောဤသူတို့သည်ရေနှစ်မင်္ဂလာကိုမခံရအောင်အဘယ်
၄၈ သူသည်ရေကိုမြစ်တားနိုင်သနည်းဟုဆိုလျက် သခင်ဘုရား၏ဘာ
သာသွင်းခြင်းအလို၄ါခရေနှစ်မင်္ဂလာကိုခံမည်အကြောင်းစီရင်လေ၏။
ထိုနောက်မှာပေတရုသည်ကာလအတန်အရာနေမည်အကြောင်း။ ထို
သူတို့သည်တောင်းပန်ကြ၏။

**

၁ တပါးအမျိုးသားတို့သည်ဘုရားသခင်၏နှုတ်ကပတ်တရားတော်ကို
ခံယူကြသည်ဟုယုဒပြည်၌ရှိသောတမန်တော်တို့နှင့်ညီအစ်ကိုများ
၂ တို့သည်ကြားသိကြ၏။ ပေတရုသည်ယေရုရှလင်မြို့သို့တက်လာ
၃ သောအခါဓာတ်သွင်းမင်္ဂလာခံသူတို့က သင်သည်အဓာတ်လူတို့နှင့်
ပေါင်းဖော်၍စားသောက်နေသည်တကားဟုအပြစ်တင်လိုသောစ
၄ ကားနှင့်ဆိုကြ၏။ ပေတရုသည်လည်းထိုအကြောင်းအရာကိုအစမှ
၅ အဆုံးတိုင်အောင်မော်ပြလျက် ငါသည်ယုပ္ပမြို့၌ဆုတောင်းစဉ်ဘ
ဝင်ဖြစ်၍ကောင်းကင်မှလေးထောင့်ဖြင့်ချသွက်သောစောင်ကြီးကဲ့
သို့သောတန်ဆာဆင်းသက်၍ငါဆီသို့ရောက်လာသည်ကိုဗျာဒိတ်
၆ တော်အားဖြင့်မြင်၏။ ထိုတန်ဆာကိုစေ့စေ့ကြည့်၍ဆင်ချင်လျှင်
သားခြေလေးချောင်းရှိ၍မြေ၌ကျင်လည်သောသားမျိုး။တွားတတ်သောတိရစ္ဆာန်
၇ မျိုး။မိုးယံကောင်းကင်၌ကျင်လည်သောငှက်မျိုးတို့ကိုမြင်၏။ ထိုအ
ခါပေတရု။ ထ၍သတ်စားတော့ဟုငါအားပြောသောစကားသံကို
၈ လည်းငါကြားလေ၏။ ငါသည်လည်းမဖြစ်နိုင်ရာသခင်။ အပြစ်ပါ၍
မစင်ကြယ်သောအရာသည်အဘယ်နည်းခံတွင်းထဲသို့တရံတခါမျှမဝင်
၉ သေးဟုဆို၏။ နောက်တဖန်စကားအသံကားဘုရားသခင်စင်ကြယ်
စေတော်မူသောအရာကိုအပြစ်ပါသည်မထင်နှင့်ဟုကောင်းကင်ထဲ
၁၀ ကလာပြန်၏။ ထိုသို့သုံးကြိမ်မြောက်အောင်ရှိပြီးလျှင်ထိုအရာအါး

နတ်ဝိဇ္ဇာအတတ်နှင့် ပြုပြင်၍မိမိသည်ထူးဆန်းသောသူဖြစ်ရောင်
ဆောင်သဖြင့် ရှမာရိအမျိုးသားတို့သည် မိန်းမောတွေဝေအောင်ပြု
၁၀ နေ၏။ လူငယ်မှစ၍လူကြီးရှိသမျှအားလုံးတို့သည် ဤသူကားအ
ကြီးခေါ်ရသောဘုရားသခင်၏တန်ခိုးတော်ဖြစ်သည်ဟုဆိုလျက်ထို
၁၁ သူ၌ဆည်းကပ်ကြ၏။ ဆည်းကပ်သည်အကြောင်းကား။သူတို့သည်
မိန်းမောတွေဝေခြင်းဖြစ်အောင်ထိုသူသည်နတ်ဝိဇ္ဇာအတတ်အား
၁၂ ဖြင့်ကြာမြင့်စွာပြုနေ၏။ ဖိလိပ္ပုသည်ဘုရားသခင်၏နိုင်ငံတော်နှင့်
ယေရှုခရစ်၏ဘာသာနှင့်ဆိုင်သောဧဝံဂေလိတရားကို
ဟောပြောသဖြင့်ထိုသူတို့သည်ယုံကြည်ခြင်းရှိ၍ယောကျ်ားမိန်းမရေ
၁၃ နှစ်မင်္ဂလာကိုခံကြလေ၏။ ရှိမုန်သည်လည်းကိုယ်တိုင်ယုံကြည်သည်
ဖြစ်၍ရေနှစ်မင်္ဂလာကိုခံပြီးမှဖိလိပ္ပုထံ၌မှီဝဲဆည်းကပ်သဖြင့်ထူး
ဆန်းသောတန်ခိုး။ကြီးသောနိမိတ်လက္ခဏာများကိုမြင်၍မိန်းမော
တွေဝေလျက်ရှိလေ၏။

**

၁၄ ရှမာရိမြို့သားတို့သည်ဘုရားသခင်၏နှုတ်ကပတ်တရားတော်ကိုခံ
ယူကြပြီးဟုယေရုရှလင်မြို့၌ရှိသောတမန်တော်တို့သည်သိတင်းကြား
၁၅ လျှင်ပေတရုနှင့်ယောဟန်တို့ကိုစေလွှတ်ကြ၏။ ထိုမြို့သူမြို့သားတို့
၁၆ သည်သခင်ယေရှု၏ဘာသာသွင်းခြင်းအလို၌ရေနှစ်မင်္ဂလာကိုခံရုံ
သာရှိသဖြင့်တစုံတယောက်သောသူအပေါ်၌သန့်ရှင်းသောဝိညာဉ်
တော်သည်သက်ရောက်တော်မမူသေးသည်ဖြစ်၍တမန်တော်တို့
သည်ရောက်ကြလျှင်ဝိညာဉ်တော်ကိုခံရမည်အကြောင်း။ထိုမြို့သူမြို့
၁၇ သားတို့အဖို့ဆုတောင်းပြီးမှ ထိုသူတို့အပေါ်၌လက်ကိုတင်သော
အားဖြင့်သန့်ရှင်းသောဝိညာဉ်တော်ကိုခံရကြလေ၏။ ။
၁၈ တမန်တော်တို့လက်ကိုတင်သောအားဖြင့်သန့်ရှင်းသောဝိညာဉ်တော်
၁၉ သက်ရောက်သည်ကိုရှိမုန်မြင်လျှင်ငွေကိုဆောင်ယူခဲ့၍ အကျွန်ုပ်
လက်တင်ခြင်းကိုခံရသောသူသည်သန့်ရှင်းသောဝိညာဉ်တော်ကိုခံ
၂၀ စေမည်အကြောင်း။ အကျွန်ုပ်အားအခွင့်ပေးပါဟုဆိုသော် ပေတ
ရုကလည်းဘုရားကျေးဇူးတော်ကိုငွေနှင့်ဝယ်ယူမည်အကြံရှိသော
၂၁ ကြောင့်သင်နှင့်သင်၏ငွေသည်ဖျက်ဆီးခြင်းသို့ရောက်ပါစေ။ သင်
သည်ဤအမှုအရာ၌မဆက်ဆံသည်တကား။အဘယ်ကြောင့်နည်းဟူ
မူကား။ဘုရားသခင်ရှေ့မှာသင်၏စိတ်နှလုံးဖြောင့်မတ်ခြင်းမရှိ။

၂၂ ထိုကြောင့်သင်၏ယုတ်ညံ့သောအမှုကိုနောင်တရလော့။သင်၏
စိတ်နှလုံး၌ကြံစည်ခြင်းအပြစ်ကိုလွှတ်ကောင်းလွှတ်လိမ့်မည်ဖြစ်
၂၃ ၍ဘုရားသခင်ကိုတောင်းပန်လော့။ သင်သည်ခါးစွာသောသည်း
ခြေစွဲသည်ဖြစ်၍ဒုစရိုက်အနှောင်အဖွဲ့နှင့်မလွတ်ကြောင်းကိုငါမြင်
၂၄ သည်ဟုပေတရုဆို၏။ရှိမုန်ကလည်းမိန့်တော်မူသောအရာတစုံတခု
မျှအကျွန်ုပ်အပေါ်သို့မရောက်ပါမည့်အကြောင်း။ထာဝရဘုရားကို
၂၅ အကျွန်ုပ်အဖို့အလို့ငှါဆုတောင်းတော်မူကြပါဟုပြန်ဆို၏။ တမန်
တော်တို့သည်သက်သေခံ၍သခင်ဘုရား၏နှုတ်ကပတ်တရားတော်
ကိုဟောပြီးမှယေရုရှလင်မြို့သို့ပြန်စဉ်တွင်ရှမာရိရွာအများတို့၌
လည်းဧဝံဂေလိတရားကိုဟောပြောကြ၏။
၂၆ ။တဖန်ဖိလိပ္ပုအားလည်းထာဝရဘုရား၏ကောင်း
ကင်တမန်ကသင်ထ၍ယေရုရှလင်မြို့မှဂါဇမြို့သို့သွားရာတော
လမ်းတွင်တောင်မျက်နှာသို့သွားတော့ဟုဆိုသည်အတိုင်း
၂၇ ဖိလိပ္ပုထ၍သွားလေ၏။ထိုအခါအဲသယောပိပြည်ကိုအစိုးရသောမိ
ဘုရားထံဘုန်းကြီးသောအမတ်ဖြစ်၍ဘဏ္ဍာတော်အားလုံးကိုအုပ်
စိုးသောအဲသယောပိပြည်သားတယောက်သည်ကိုးကွယ်ခြင်းအလို
၂၈ ငှါယေရုရှလင်မြို့သို့သွားပြီး၍ ပြန်စဉ်တွင်မိမိရထားပေါ်၌ထိုင်
၂၉ လျက်ပရောဖက်ဟေရှာယကျမ်းစာကိုဖတ်နေ၏။ ဝိညာဉ်တော်က
လည်းထိုရထားသို့ချဉ်းကပ်မှီဝဲတော့ဟုဖိလိပ္ပုအားမျှာဒိတ်ပေး
၃၀ တော်မူသဖြင့် ဖိလိပ္ပုသည်ရထားဆီသို့ပြေး၍ပရောဖက်ဟေရှာယ
ကျမ်းစာ၌ဖတ်သည်ကိုကြားလျှင်ဖတ်သောအရာကိုနားလည်ပါ၏
၃၁ လောဟုမေးမြန်း၏။ ထိုသူကလည်းသွန်သင်ပဲ့ပြင်သောသူမရှိလျှင်
အဘယ်သို့နားလည်နိုင်သနည်းဟုဆိုပြီးမှမိမိနှင့်အတူဖိလိပ္ပုတက်
၃၂ ၍ထိုင်နေပါမည်အကြောင်းတောင်းပန်၏။ ။ကျမ်းစာ၌ဖတ်
သောအချက်ဟူမူကား။ အသေသတ်ရအောင်ဆောင်သွားသောသိုး
ကဲ့သို့သူကိုဆောင်သွား၍သိုးသငယ်သည်အမွေးညှပ်သောသူရှေ့၌
၃၃ အသံမမြည်ဘဲနေသကဲ့သို့သူသည်နှုတ်ကိုမဖွင့်ဘဲနေ၏။ နှိမ့်ချခြင်း
ကိုခံစဉ်သူတပါးတို့သည်ထိုသူကိုမတရားသဖြင့်စီရင်ကြ၏။ထိုသူ
၏အသက်ကိုမြေကြီးကသိမ်းရုတ်သည်ဖြစ်၍အဘယ်သူသည်သူ၏
၃၄ အမျိုးကိုပြည့်နှံမည်နည်းဟုကျမ်းစာလာသတည်း။ ။ထိုအ
မတ်သည်လည်းအဘယ်သူကိုရည်၍ပရောဖက်သည်ဤသို့ဆိုပါလေ

သနည်း။ ကိုယ်ကိုတည်း ဆိုသလော။ သူတပါးကို တည်း ဆိုသလော။
၃၅ မေးချင်ပါသည် ဟုဖိလိပ္ပုအားဆိုလျှင် ဖိလိပ္ပုသည်မိမိနှုတ်ကိုဖွင့်
၍ ထိုကျမ်းစာလာချက်ကိုအစပြုသဖြင့်ယေရှု၏ အကြောင်းတည်းဟူ
၃၆ သောဧဝံဂေလိတရားကိုဟောလေ၏။ ထိုသို့လမ်း၌သွားကြစဉ်ရေ
ရှိရာသို့ရောက်၍ အမတ်ကလည်း ဤ၌အရပ်တွင်ရေရှိပါ၏။ အကျွန်ုပ်
သည်ရေနှစ်မင်္ဂလာကိုခံရအောင်မည်သည့်အကြောင်းဆီးတားလေ
၃၈ သနည်းဟုဆိုလျှင် ရထားကိုရပ်စေပြီး မှဖိလိပ္ပုသည် ထိုအမတ်နှင့်
၃၉ တကွရေထဲသို့ဆင်း၍ ရေနှစ်မင်္ဂလာကိုပေး၏။ ရေထဲကတက်ကြ
လျှင်ထာဝရဘုရား၏ဝိညာဉ်တော်သည်ဖိလိပ္ပုကိုယူသွားတော်မူ၍
အမတ်သည် ဖိလိပ္ပုကိုနောက်တဖန်မတွေ့မမြင်ရ။ ဝမ်းမြောက်ဝမ်း
၄၀ သာခြင်းနှင့်မိမိသွားရသောလမ်းကိုသွားလေ၏။ ဖိလိပ္ပုသည်လည်း
အာဇုတ်မြို့၌ပေါ်လာ၍ ထိုမြို့မှကဲသရိမြို့တိုင်အောင်အသီးအသီးမြို့
အစည်အတိုင်းရောက်၍ဧဝံဂေလိတရားကိုဟောလေ၏။

❊❊

၁ ရှောလုသည်ကားသခင်ဘုရား၏ကပည့်တော်တို့ကိုခြိမ်းခြောက်၍အ
သေသတ်လိုသောဒေါသအမျက်ဟုံးဟုံးထွက်သဖြင့် ထိုဘာသာဝင်
၂ သူ။ယောကျ်ားမိန်းမတို့ကိုတွေ့လျှင်ချည်နှောင်၍ယေရုရှလင်မြို့သို့ပို့ရ
သောအခွင့်ရှိအောင်ဒမာသကုမြို့ကရဟူဇရပ်မှူးတို့ဆီသို့မှာစာကို
၃ ပေးပါဟုယဇ်ပုရောဟိတ်ခင်းထံဝင်၍တောင်းသေ၏။ ဒမာသကု
မြို့သို့သွား၍ရောက်ခါနီးတွင်ကောင်းကင်ယံကအလင်းသည်သူပတ်
၄ လည် ရုတ်ခနဲ ထွန်း တောက် သဖြင့် သူ သည် မြေပေါ်၌လဲ ၍ ရှောလု
ရှောလု။အဘယ်ကြောင့်ငါကိုညှဉ်းဆဲသနည်းဟုမိမိအားပြောသော
၅ စကားသံကိုကြားလျှင် သခင်။ကိုယ်တော်သည်အဘယ်သူနည်းဟု
မေးလျှောက်၏။သခင်ဘုရားသည်လည်းငါကားသင်ညှဉ်းဆဲသော
၆ ယေရှုဖြစ်သတည်း။ သို့သော်လည်းထ၍ မြို့သို့ဝင်တော့။ သင်ပြုရ
၇ မည်အမှုကိုပြောလိမ့်မည် ဟုမိန့်တော်မူ၏။ ရှောလုနှင့်အတူသွား
သောသူတို့သည် အသံကိုကြား ရုံမျှသာရှိ၍ အဘယ်သူကိုမမြင်ဘဲ
၈ မိန်းမောတွေဝေလျက်ရှိနေကြ၏။ ရှောလုသည်လည်းမြေမှထ၍မျက်
စိကို ဖွင့်လျှင်အဘယ်သူကိုမမြင်နိုင်သည်ဖြစ်၍ သူကိုလက်ဆွဲသ
၉ ဖြင့်ဒမာသကုမြို့သို့ပို့ဆောင်ကြ၏။ သုံးရက်ပတ်လုံးမျက်စိမမြင်။မ
၁၀ စားမသောက်ဘဲလျက်နေလေ၏။ ။ထိုအခါအနနိအမည်ရှိ

သောတပည့်တော်တယောက်သည်ဒမာသကမြို့၌ရှိ၏။ထိုသူကိုသခင်ဘုရားသည်ဗျာဒိတ်တော်အားဖြင့်အနနိယဟူ၍ခေါ်တော်မူ၏။အနနိ
၁၁ ကလည်းသခင်ဘုရား။အကျွန်ုပ်ရှိပါ၏ဟုထူး၏။ သခင်ဘုရားက
လည်းသင်ထ၍လမ်းဖြောင့်အမည်ရှိသောလမ်းသို့သွားတော့။ရှောလု
အမည်ရှိသောတာရှုမြို့သားကိုယုဒ၏အိမ်၌ရှာဖွေတော့။အကြောင်း
မူကား။ထိုသူသည်ဆုတောင်းလျက်နေ၏။ မိမိသည်မျက်စိမြင်ပြန်ရ
၁၂ အောင် အနနိအမည်ရှိသောသူသည်ဝင်၍ မိမိအပေါ်၌ လက်တင်
၁၃ သည်ကိုဗျာဒိတ်တော်အားဖြင့်မြင်လေပြီးဟုမိန့်တော်မူ၏။ အနနိက
လည်းသခင်ဘုရား။ထိုသူသည်ယေရုရှလင်မြို့၌ကိုယ်တော်၏သန့်ရှင်း
သူတို့ကိုဘယ်မျှလောက်သည်းခဲလေသည်ကိုလူများပြော၍အကျွန်ုပ်
၁၄ ကြားရပါပြီး။ ဤအရပ်မှာကိုယ်တော်ကိုပဌနာပြုသောသူရှိသမျှတို့
ကိုချည်နှောင်ရမည်အခွင့်ကိုယဇ်ပုရောဟိတ်အကြီးတို့ဆီမှာရပါ
၁၅ သည်ဟုပြန်လျှောက်၏။ သခင်ဘုရားကလည်းထိုသူကားတပါးအ
မျိုးသားတို့ဆီသို့၎င်ရှင်ဘုရင်တို့ဆီသို့၎င်ဣသရေလအမျိုးသား
တို့ဆီသို့၎င်ငါ့ဘွဲ့သာကိုပို့ဆောင်စေခြင်းငှါငါရွေးကောက်သော
၁၆ တန်ဆာပင်ဖြစ်၏။ အဘယ်ကြောင့်နည်းဟူမူကား။ ထိုသူသည်ငါ
ဘွဲ့သာကြောင့်ဘယ်မျှလောက်ဆင်းရဲခံရမည်ကိုငါသည်သူအား
၁၇ ပြမည်။ထို့ကြောင့်သင်သွားတော့ဟုအနနိအားမိန့်တော်မူ၏။ အနနိ
သည်လည်းသွား၍အိမ်သို့ရောက်လျှင်ရှောလုအပေါ်၌ မိမိလက်ကို
တင်၍ ညီရှောလု။သင်လာသောလမ်း၌သင်အားထင်ရှားတော်မူသော
သခင်ယေရှုသည်သင်၏မျက်စိမြင်ပြန်စေခြင်းငှါ၎င်သင်ကိုသန့်ရှင်း
သောဝိညာဉ်တော်နှင့်ပြည့်စေခြင်းငှါ၎င်ငါကိုစေခန့်တော်မူသည်ဟု
၁၈ ဆို၏။ ထိုခဏ၌ရှောလု၏မျက်စိမှငါးကြေးကွာကျလေသကဲ့သို့ဖြစ်
၍မျက်စိမြင်ပြန်သဖြင့်ထ၍ရေနှစ်မင်္ဂလာကိုခံပြီးလျှင်အစာအာဟာ
၁၉ ရကိုသုံးဆောင်၍အားပြည့်လေ၏။ ။ထိုနောက်ရှောလုသည်
ဒမာသကမြို့၌ရှိသောတပည့်တော်တို့နှင့်အတူကာလအတန်အရာ
၂၀ နေ၍ ယေရှုသည်ဘုရားသခင်၏သားတော်ဖြစ်ကြောင်းကိုတရားဇ
၂၁ ရပ်တို့၌မဆိုင်းမလင့်ဟောလေ၏။ ကြားသောသူအပေါင်းတို့သည်
အံ့ဩ၍ဤသူကားထိုသခင်ကိုပဌနာပြုသောသူတို့ကိုယေရုရှလင်
မြို့၌ဖျက်ဆီးသည်သာမက ထိုသူများကိုချည်နှောင်၍ယဇ်ပုရော
ဟိတ်အကြီးဆီသို့ပို့ရအောင်ဤအရပ်သို့လာပြန်သောသူဖြစ်သည်

၂၂ မဟုတ်လောဟုဆိုကြ၏။ ရှောလုသည်လည်းအားတိုးပွားသဖြင့်ဒ
မာသကုမြို့၌နေသောယုဒလူတို့သည်ပြောသမျှသောစကားကိုဖျက်
၍ယေရှုသည်ခရစ်တော်ဖြစ်ကြောင်းကိုထင်ရှားပြ၏။

✱✱

၂၃ နေ့ရက်များတို့သည် စေ့ပြီးမှ ရှောလု ကို သတ် အံ့သော ငှါ ယုဒလူတို့
၂၄ သည်အချင်းချင်းတိုင်ပင်ကြ၏။ ထိုအကြံအစည် ကို ရှောလုသိ၏။
၂၅ သူကိုသတ်အံ့သောငှါတံခါးတို့ကိုနေ့ညမပြတ်စောင့်ကြစဉ် တပည့်
တော်တို့သည်ညည့်အခါသူကိုယူ၍တောင်း၌ထည့် ပြီးလျှင် မြို့ရိုးအ
၂၆ ပေါ်ကလျှော့ချကြ၏။ ။ယေရုရှလင်မြို့သို့ရောက်ပြီးလျှင်က
ပည့်တော်တို့ နှင့် ပေါင်းဖော်မည် ပြု လေသော် သူသည်တပည့်တော်
ဖြစ်ကြောင်းကိုတပည့်တော်အားလုံးတို့သည်မယုံသဖြင့်သူကိုကြော
၂၇ က်ရွံ့ကြ၏။ ထိုအခါဗာနာဗသည်သူကိုခေါ်၍တမန်တော်များသို့
သွင်းပေးပြီးလျှင်အထက်ကရှောလုသည်လမ်းခရီး၌သခင်ဘုရားကို
မြင်သည်ဟူ၍၎င်သူအားမိန့်တော်မူသည်ဟူ ၍ ၎င် ဒမာသကုမြို့၌
၂၈ ယေရှု၏ဘာသာကိုရဲရင့်စွာဟောသည်ဟူ ၍ ၎င် ပြောလေ၏။ ထို
နောက်မှာရှောလုသည်ယေရုရှလင်မြို့၌တမန်တော်တို့နှင့်ပေါင်းဖော်
၍သခင်ယေရှု၏ဘာသာကိုရဲရင့်စွာဟောလျက်နေ၏။ ။
၂၉ ဟေလေနစ်လူတို့အားနှုတ်ဆွေးနွေးပြောဆိုလေသဖြင့်ထိုသူတို့သည်ရှောလု
၃၀ ကိုသတ်မည်ပြုကြ၏။ ထိုအကြောင်းကိုညီအစ်ကိုတို့သည်သိလျှင်
ရှောလုကိုကဲသရိမြို့သို့ပို့၍တာရှုမြို့ကိုင်အောင်စေလွှတ်ကြ၏။ ။
၃၁ ထိုအခါယုဒပြည်။ဂါလိလဲပြည်။ရှမာရိပြည်တို့တွင်အသင်းတော်များ
တို့သည်ညီမ်သက်ခြင်းသို့ရောက်သဖြင့်တည်ဆောက်ကြသည်ဖြစ်
၍ သခင်ဘုရား ကို ကြောက်ရွံ့ခြင်း၌၎င်သန့်ရှင်းသောဝိညည်တော်
၏အခံသုံးအမ၌၎င်မွေ့လျော်သောအားဖြင့်ပွားများကြလေ၏။ ။
၃၂ ပေတရုသည်အရပ်ရပ်တို့ကိုလှည့်လည်သည်တွင်သန့်ရှင်းသူတို့ရှိရာ
၃၃ လုဒ္ဒမြို့သို့ရောက်လေ၏။ ထိုအရပ်၌အဲနေအမည်ရှိသော။လက်ခြေသေ
၍ရှစ်နှစ်ပတ်လုံးအိပ်ရာ၌တုံးလုံးနေသောသူကယောက်ကိုတွေ့လျှင်
၃၄ အဲနေ။ယေရှုခရစ်သည်သင်အားချမ်းသာပေးတော်မူ၏။ထ၍အိပ်ရာ
၃၅ ကိုပြင်တော့ဟုပေတရုဆိုသော်ထိုသူသည် တခဏချင်းထ၏။ လုဒ္ဒ
မြို့။သာရုန်မြို့၌နေသောသူအပေါင်းတို့သည်ထိုသူကိုမြင်သဖြင့်သခင်
၃၆ ဘုရားသို့ပြောင်းလဲကြ၏။ ။ယုပ္ပေမြို့၌ဒေါ်ကာဟုဆိုလို

သောတဗိသအမည်ရှိသောတပည့်တော်မတယောက်ရှိ၏။ ထိုမိန်းမ
၃၇ သည်ကောင်းသောအကျင့်။ အစွန့်အကြဲနှင့်ပြည့်စုံလျက် ထိုအ
ခါ၌နာ၍သေလေ၏။ အလောင်းကောင်ကိုရေချိုးပြီးလျှင်အထက်
၃၈ ခန်း၌ကင်ထားကြ၏။ လုဒ္ဒမြို့သည်ယုပ္ပေမြို့နှင့်နီးသည်ဖြစ်၍
ထိုမြို့၌ပေတရုရှိကြောင်းကိုတပည့်တော်တို့သည်ကြားလျှင်ပေတရု
အလျှင်အမြန်ကြွလာပါမည်အကြောင်း။ လူနှစ်ယောက်ကိုစေလိုက်၍
၃၉ တောင်းပန်ကြ၏။ ပေတရုသည်ထ၍ထိုသူတို့နှင့်အတူသွားလေ၏။
ရောက်လျှင်အထက်ခန်းသို့ခေါ်ပင့်၍မုတ်ဆိုးမများတို့သည်ငိုကြွေး
လျက်မိမိတို့နှင့်အတူရှိစဉ်ဒေါ်ကာသည်လုပ်ခဲ့သောအင်္ကျီအဝတ်
၄၀ များတို့ကိုပြ၍နေကြ၏။ ပေတရုသည်ထိုသူအားလုံးတို့ကိုပြင်သို့
ထွက်စေပြီးမှ ဒူးထောက်၍ဆုတောင်းပဌနာပြုသဖြင့်ထိုအလောင်း
သို့မျက်နှာလှည့်လျက်တဗိသ။ ထတော့ဟုဆိုလေ၏။ ထိုမိန်းမသည်မျက်
၄၁ စိကိုဖွင့်၍ပေတရုကိုမြင်လျှင်ထိုင်နေ၏။ ပေတရုသည်မိမိလက်ကိုသူ
အားပေး၍ချီကူပြီးမှသန့်ရှင်းသူတို့နှင့်မုတ်ဆိုးမများတို့ကိုခေါ်၍အ
၄၂ သက်ရှင်လျက်ရှိသောထိုမိန်းမကိုအပ်လေ၏။ ထိုအကြောင်းကိုယုပ္ပေ
မြို့လုံးတွင်သိကြ၍လူများတို့သည်သခင်ဘုရားကိုယုံကြည်ခြင်းသို့
၄၃ ရောက်ကြ၏။ ပေတရုသည်ယုပ္ပေမြို့၌ရှိမုန်အမည်ရှိသောသားရေ
လုပ်သမားနှင့်ကြာမြင့်စွာနေ၏။

❋❋

၁ ကဲသရိမြို့၌ကော်နေလိအမည်ရှိသော။ ဣတလိတပ်ဟုခေါ်ဝေါ်သော
၂ တပ်၌လူတရာကိုအုပ်ချုပ်သောတပ်မှူးတယောက်ရှိ၏။ ထိုသူသည်
မိမိအိမ်တွင်ရှိသမျှသောသူတို့နှင့်တကွဘုရားဝတ်၌မွေ့လျော်၍ဘု
ရားသခင်ကိုကြောက်ရွံ့ခြင်းရှိသဖြင့်လူတို့အားများစွာသောစွန့်
၃ ကြဲခြင်းကိုပြု၍ဘုရားသခင်ကိုအစဉ်ဆုတောင်းလေ့ရှိ၏။ ထိုသူ
သည်နေ့သုံးချက်တီးအချိန်တွင်ဘုရားသခင်၏ကောင်းကင်တမန်
ရောက်လာသဖြင့်ကော်နေလိဟူ၍မိမိအားခေါ်သည်ကိုဗျာဒိတ်တော်
၄ အားဖြင့်ထင်ရှားစွာမြင်၏။ ကောင်းကင်တမန်ကိုစေ့စေ့ကြည့်လျှင်
ထိတ်လန့်ခြင်းရှိသည်ဖြစ်၍သခင်။ အဘယ်အခင်းရှိပါလေသနည်း
ဟုမေးသော်ကောင်းကင်တမန်ကသင်သည်ဆုတောင်းပဌနာပြုခြင်း။
စွန့်ကြဲခြင်းတို့သည်ဘုရားသခင်ရှေ့တော်အောင်းမေ့စရာမှီတက်
၅ ၍ရောက်လေပြီ။ ထိုကြောင့်ယခုပင်ယုပ္ပေမြို့သို့လူကိုစေလိုက်၍ဖေ

၆ တရုအမည်သစ်ရပြန်သောရှိမုန်ကိုခေါ်ပင့်တော့။ ထိုသူသည်ရှိမုန်
အမည်ရှိသောသားရေလုပ်သမားအိမ်၌တည်းနေ၏။ ထိုအိမ်သည်
၇ ပင်လယ်နားမှာရှိသည်ဟုဆို၏။ ထိုသို့ပြောဆိုသောကောင်းကင်
တမန်သွားပြီးလျှင်ကော်နေလိသည်မိမိငယ်သားနှစ်ယောက်၊ မိမိ
ထံ၌ခစားမြဲလုလင်အဝင်။ ဘုရားဝတ်၌မွေ့လျော်သောစစ်သူရဲတ
၈ ယောက်ကိုခေါ်၍ ထိုအကြောင်းအရာအလုံးစုံတို့ကိုပြောပြပြီးမှယ
၉ ပ္ပုမြို့သို့စေလိုက်၏။ ။နက်ဖန်နေ့ထိုသူတို့သည်ယပ္ပုမြို့သို့
သွား၍ရောက်ခါနီး။ နှစ်ချက်တီးအချိန်တွင်ပေတရုသည်ဆုတောင်း
၁၀ ခြင်းငှါအိမ်မိုးပေါ်သို့တက်လေ၏။ ဆာမွတ်၍အစာအာဟာရကိုအ
လိုရှိသဖြင့်သူတပါးတို့သည်အစာအာဟာရကိုပြင်ဆင်လေသောအခါ
၁၁ မိမိသည်ဘဝင်ဖြစ်၍နေ၏။ ကောင်းကင်ဖွင့်လှစ်သည်ကိုရှင်စောင်
ကြီးကဲ့သို့လေးထောင့်ချုပ်၍မြေကြီးသို့ချလွှတ်သောတန်ဆာဆင်း
၁၂ သက်လာသည်ကိုရှင်မြင်၏။ ထိုတန်ဆာထဲ၌သားရဲမှစ၍မြေ၌ကျင်
လည်သောသားမျိုး။ တွားတတ်သောတိရိစ္ဆာန်မျိုး။ မိုဃ်းကောင်းကင်
၁၃ ၌ကျင်လည်သောငှက်မျိုးတို့သည်ရှိကြ၏။ စကားအသံသည်လည်း
၁၄ ပေတရု။ ထ၍သတ်စားတော့ဟုလာ၏။ ပေတရုကလည်းမဖြစ်နိုင်
ရာသခင်။ အပြစ်ပါ၍မစင်ကြယ်သောအရာကိုအကျွန်ုပ်သည်တရံ
၁၅ တခါမျှမစားသေးဟုဆို၏။ နောက်တဖန်စကားအသံကား ဘုရား
ခင်သည်စင်ကြယ်စေတော်မူသောအရာကိုအပြစ်ပါသည်မထင်နှင့်
၁၆ ဟုလာပြန်၏။ ထိုသို့သုံးကြိမ်မြောက်အောင်လာပြီးလျှင်ထိုတန်ဆာ
၁၇ ကိုကောင်းကင်ထဲသို့သိမ်းရုတ်ပြန်လေ၏။ ။ပေတရုသည်
မိမိမြင်ခဲ့သောဗျာဒိတ်တော်အဘယ်သို့ဆိုလိုသနည်းဟုတွေးတော
ဆင်ချင်၍ရှိနေစဉ် ကော်နေလိစေလိုက်သောလူတို့သည်ရှိမုန်အိမ်
၁၈ ကိုမေးမြန်းရှာဖွေ၍တံခါးရှေ့မှာရပ်လျက် ပေတရုအမည်သစ်ရ
ပြန်သောရှိမုန်သည်ဤမှာတည်းနေပါသလောဟုမေးမြန်းဟစ်ခေါ်
၁၉ ၏။ ပေတရုသည်ဗျာဒိတ်တော်ကိုဆင်ချင်၍နေစဉ်ဝိညာဉ်တော်ကလူ
၂၀ သုံးယောက်တို့သည်သင်ကိုရှာနေ၏။ ထ၍ဆင်းတော့။ တွေးတော
ခြင်းမရှိဘဲထိုသူတို့နှင့်အတူသွားတော့။ အကြောင်းမူကား ငါသူတို့
၂၁ ကိုငါစေလိုက်ခဲ့ပြီးဟုမိန့်တော်မူလျှင် ပေတရုသည်ဆင်း၍ ငါကား
သင်တို့ရှာသောသူဖြစ်၏။ အဘယ်အကြောင်းရှိ၍လာကြသနည်းဟု
၂၂ ထိုသူတို့အားမေး၏။ ထိုသူတို့ကလည်းဘုရားသခင်ကိုကြောက်ရွံ့

၍ယုဒလူအပေါင်းတို့တွင်အသရေရှိသောသူတော်ကောင်းတည်း ဟူ
သောတပ်မှူး ကော်နေလိ သည် ကိုယ်တော်ကို မိမိအိမ် သို့ ခေါ်ပင့် ၍
ကိုယ်တော်၏စကားကိုနားထောင်ရမည်အကြောင်း။ သန့်ရှင်းသော
ကောင်းကင်တမန်အားဖြင့်ဗျာဒိတ်တော်ကိုခံရပါသည် ဟု ပြန်ပြော
၂၃ ကြ၏။ ပေတရုသည်လည်းထိုသူတို့ကိုအိမ်ထဲ သို့ ခေါ်၍ ဧည့်သည်
ဝတ်ကိုပြုလေ၏။

❋❋

နက်ဖန်နေ့ ၌ ထ၍ ထိုသူတို့ နှင့်အတူ သွားသဖြင့် ယုပ္ပမြို့ သားဖြစ်
၂၄ သော ညီအစ်ကိုအချို့ကိုသည် လိုက်ကြ၏။ ထိုနောက်နေ့၌ကဲသရိ
မြို့သို့ဝင်ကြလျှင်ကော်နေလိ သည် မိမိ အဆွေအမျိုးမိတ်ဆွေပွန်းများ
၂၅ တို့ကိုစုဝေးစေသဖြင့်ထိုသူတို့ကိုမျှော်လင့်လျက်နေ၏။ ပေတရုသည်
ရောက်လာသော အခါ ကော်နေလိ သည် ကြိုဆို ၍ ခြေရင်း ၌ ပျပ်ဝပ်
၂၆ လျက်ကိုးကွယ်လေ၏။ ပေတရုသည် သူကိုချီပင့်လျက် ထ တော့။ ငါ
၂၇ ကိုယ်တိုင်လူဖြစ်သည် ဟု ဆို ၏။ ထို သို့ နှုတ်ဆက် ၍ ဝင်လေသော်
၂၈ စုဝေးလျက်ရှိကြသောလူများကိုတွေ့လျှင် ပေတရုသည်ထိုသူတို့အား
လည်း ယုဒ လူ ဖြစ်သော သူတို့ သည် တပါးအမျိုးသားတို့ နှင့် မပေါင်း
ဖော်မချည်းကပ်အပ်သည်ကိုသင်တို့သိကြ၏။ သို့သော်လည်းအဘယ်
သူကို မျှအပြစ် ပါ သည်၊ မစင်ကြယ်သည်ဟူ၍မပြောမဆို ရမည်အ
၂၉ ကြောင်း။ဘုရားသခင်သည်ငါ့အားရှုမြင်ပြသတော်မူပြီ။ ထိုကြော
င့်ငါ့ကိုခေါ်ကြ သောအခါမငြင်း မခံ ဘဲလျက် ငါလာသည်။ သို့ဖြစ်၍
အဘယ်အကြောင်းကြောင့်ငါ့ကိုခေါ်ကြသနည်းငါမေးလိုသည်ဟုပေ
၃၀ တရုဆို၏။ ။ကော်နေလိကလည်းယခုအချိန်နာရီတိုင်အောင်
အကျွန်ုပ်သည်အစာကိုရှောင်၍သုံးရက်တီးအချိန်တွင်အိမ်၌ဆုတောင်း၍နေသည်ယခုလေးရက် ရှိပါ ပြီ။ ထိုအချိန် ၌ လူတယောက် သည်
ထွန်းတောက်သောအဝတ်ကိုဝတ်လျက်အကျွန်ုပ်ရှေ့ မှောက် ၌ ရပ်နေ
၃၁ ပြီးလျှင် ကော်နေလိ။သင်ပြုသောပဌနာကိုကြားတော်မူ ၍ သင်စွန့်
၃၂ ကြဲခြင်းသည်ဘုရားသခင်ရှေ့မှာမှတ်လျက်ရှိ၏။ ထိုကြောင့် ယုပ္ပ
မြို့သို့ စေလိုက်၍ပေတရုအမည်သင်ရှိမုန်သောရှိမုန်ကိုခေါ်ပင့်တော့။
ထိုသူသည်ပင်လယ် နားမှာ ရှိမုန် အမည် ရှိသော သားရေလုပ်သွား
အိမ်၌တည်းနေ၏။ ထိုသူသည် ရောက် လာလျှင် သင် အား ဟောပြော
၃၃ လိမ့်မည်ဟုဆို၏။ ထိုကြောင့် အကျွန်ုပ်သည် ကိုယ်တော်ဆီသို့ အ

သော့စေလိုက်၍ကိုယ်တော်သည်ကြွလာသော အားဖြင့် ကောင်းမွန်
စွာပြုပါပြီ။ဘုရားသခင်သည်ကိုယ်တော်၌မှာထားတော်မူသမျှကို
ကိုနားထောင်ရအောင်အကျွန်ုပ်တို့အားလုံးသည်ဘုရားသခင်ရှေ့၌
၃၄ နေကြပါသည်ဟုကော်ဇနေလိဆို၏။ ။ထိုအခါပေတရုသည်နှုတ်
ကိုဖွင့်၍ လျှက်အကယ်၍ ဘုရားသခင်သည် မျက်နှာ ကိုမှတ်တော်မ
၃၅ မူ။ လူအမျိုးမျိုးတို့တွင်အကြင်သူသည်ဘုရားသခင်ကိုကြောက်ရွံ့၍
တရားသဖြင့်ကျင့်ဆောင်၏။ ထိုသူသည်အထံတော်၌မျက်နှာရသည်
၃၆ ဟုငါသိမြင်၏။ အလုံးစုံတို့ကိုအစိုးရတော်မူသောသခင်ယေရှုခရစ်
အားဖြင့် ရန်ငြိမ်းခြင်း တရား တည်းဟူ သော ဧဝံဂေလိ တရား ကို
ဟောတော်မူလျှက် ဣသရေလ အမျိုး သားတို့ အားပေးလိုက်တော်မူ
၃၇ သောတရားတော်နှင့်အညီ ယောဟန်သည်ရေနှစ်ခြင်းကိုလာ တရားကို
ဟောသည်နောက်ဂါလိလဲပြည်မှစ၍ယုဒပြည်အားလုံး၌နှံ့ပြားသော
၃၈ အကြောင်းအရာကိုသင်တို့သည်သိကြ၏။ ထိုအကြောင်း အရာဟူမူ
ကား။ ဘုရား သခင် သည် သန့်ရှင်းသော ဝိညာဉ်တော်နှင့်ဣင်တန်ခိုး
တော်နှင့်ဒိန်ခွာဇရက်မြို့သားယေရှုကိုဘိသိတ်ပေးတော်မူ သဖြင့် ထို
သူသည်ဘုရားသခင်၏အ ခွင့်တော်နှင့် ကျေးဇူးပြု၍မာရ်နတ်ညှဉ်း
ဆဲသော သူအပေါင်းတို့အားချမ်းသာကိုပေးလျှက် လှည့်လည်တော်မူ
၃၉ ၏။ ငါတို့သည် လည်း ယေရုရှလင်မြို့မှစ ၍ ယုဒပြည်တွင် ပြုတော်မူ
သောအမှုများတို့၏သက်သေခံဖြစ်ကြ၏။ ထိုသူကိုသစ်တိုင်၌ဆွဲ၍
၄၀ ကွပ်မျက်ကြလေ၏။ သုံးရက်မြောက်သောနေ့၌ဘုရားသခင်သည်
၄၁ ထမြောက်စေတော်မူ၍ လူအပေါင်းတို့အားထင်ရှားစွာမပြဘဲလျှက်
ဘုရားသခင်ခန့်ထားတော်မူနှင့်သောသက်သေတည်းဟူသောငါတို့
အားထင်ရှားစွာပြတော်မူ၏။ သေခြင်းမှထမြောက်တော်မူသည်နောက်
၄၂ ထိုသခင်နှင့်အတူငါတို့သည်စားသောက်ကြ၏။ ထိုသခင်သည်အသည်းအ
သက်ရှင်သောသူတို့ကိုဋ်သေသောသူတို့ကိုဋ် တရားစီရင်သောသခင်
ဖြစ်စေခြင်းငှါဘုရားသခင်ခန့်ထားတော်မူကြောင်းကိုလူအပေါင်းတို့
အားဟောပြောကြလော့။ သက်သေခံကြလော့ဟုငါတို့အားပညတ်ထား
၄၃ တော်မူ၏။ ထိုသခင်ကိုယုံကြည်သောသူရှိသမျှတို့သည်သူ၏အခွင့်အား
ဖြင့်အပြစ်လွှတ်ခြင်းကျေးဇူးကိုခံရလတံ့ဟူ၍ပရောဖက်အားလုံးတို့
သည်ထိုသခင်၏သက်သေခံဖြစ်ကြသည်ဟုပေတရုမြွက်ဆို၏။ ။
၄၄ ထိုစကားကိုမြွက်ဆိုစဉ်နှုတ်ကပတ်တရားတော်ကိုကြားနာသောသူ

အပေါင်းတို့အပေါ်မှာသန့်ရှင်းသောဝိညာဉ်တော်သည်သက်ရောက်
၄၅ တော်မူ၏။ တပါးအမျိုးသားတို့အပေါ်မှာသန့်ရှင်းသောဝိညာဉ်တော်
၏ကျေးဇူးကိုသွန်းလောင်းသော့ကြောင့်ဇာတ်သွင်းမင်္ဂလာခံသူတဦး
ဟူသောပေတရုနှင့်ပါသမျှသောဘပဍ္ဍတော်တို့သည် မိန်းမောတွေဝေ
၄၆ ခြင်းရှိကြ၏။ အဘယ်ကြောင့်နည်းဟူမူကား။ ထိုသူတို့သည်အမျိုးမျိုး
သောဘာသာစကားအားဖြင့်ပြော၍ဘုရားသခင်ကိုချီးမွမ်းသည်ကို
၄၇ ကြားကြလေ၏။ထိုအခါပေတရုက ငါတို့ကဲ့သို့သန့်ရှင်းသောဝိညာဉ်
တော်ကိုခံကြသော၊ ဤသူတို့သည်ရေနှစ်မင်္ဂလာကိုမခံရအောင်အဘယ်
၄၈ သူသည်ရေကိုမြစ်တားနိုင်သနည်းဟုဆိုလျက် သခင်ဘုရား၏ဘာ
သာသွင်းခြင်းအလို၌ရေနှစ်မင်္ဂလာကိုခံမည်အကြောင်းစီရင်လေ၏။
ထိုနောက်မှာပေတရုသည်ကာလအတန်အရာနေမည်အကြောင်း။ ထို
သူတို့သည်တောင်းပန်ကြ၏။

**

၁ တပါးအမျိုးသားတို့သည်ဘုရားသခင်၏နှုတ်ကပတ်တရားတော်ကို
ခံယူကြသည်ဟုယုဒပြည်၌ရှိသောတမန်တော်တို့နှင့်ညီအစ်ကိုများ
၂ တို့သည်ကြားသိကြ၏။ ပေတရုသည် ယေရုရှလင်မြို့သို့တက်လာ
၃ သောအခါဇာတ်သွင်းမင်္ဂလာခံသူတို့က သင်သည်အဇာတိလူတို့နှင့်
ပေါင်းဖော်၍စားသောက်နေသည်တကားဟု အပြစ်တင်လိုသောစ
၄ ကားနှင့်ဆိုကြ၏။ ပေတရုသည်လည်းထိုအကြောင်းအရာကိုအစမှ
၅ အဆုံးတိုင်အောင်ဖော်ပြလျက် ငါသည်ယုပ္ပမြို့၌ဆုတောင်းစဉ်ဘာ
ဝင်ဖြစ်၍တောင်းကင်မှလေးထောင့်ဖြင့်ချသွင်းသောစောင်ကြီးကဲ့
သို့သောတန်ဆာဆင်းသက်၍ငါဆီသို့ရောက်လာသည်ကိုဗျာဒိတ်
၆ တော်အားဖြင့်မြင်၏။ ထိုတန်ဆာကိုစေ့စေ့ကြည့်၍ဆင်ခြင်လျှင်
သားခြေလေးချောင်းရှိသောသားမျိုး၊တွားတတ်သောတိရစ္ဆာန်
၇ မျိုး၊မိုးကောင်းကင်၌ပျံလည်သောငှက်မျိုးတို့ကိုမြင်၏။ ထိုအ
ခါပေတရု၊ထ၍ယက်စားတော့ဟုငါအားပြောသောစကားသံကို
၈ လည်းငါကြားလေ၏။ ငါသည်လည်းမဖြစ်နိုင်ရာသခင်၊အပြစ်ပါ၍
မစင်ကြယ်သောအရာသည်အဘယ်နှုတ်ခံတွင်းထဲသို့တရံတခါမျှမဝင်
၉ သေးဟုဆို၏။ နောက်တဖန်စကားအသံကားဘုရားသခင်စင်ကြယ်
စေတော်မူသောအရာကိုအပြစ်ပါသည်မထင်နှင့်ဟုကောင်းကင်ထဲ
၁၀ ကလာပြန်၏။ ထိုသို့သုံးကြိမ်မြောက်အောင်ရှိပြီးလျှင်ထိုအရာအါး

၁၁ လုံးတို့ကိုကောင်းကင်ထဲသို့ဆွဲယူပြန်လေ၏။ ထိုခဏချင်းကဲသရိ
မြို့မှငါ့ထံသို့စေလိုက်သောလူသုံးယောက်ကိုသည် ငါရှိသောအိမ်အ
၁၂ နားမှာရပ်နေကြ၏။ တွေးတောခြင်းမရှိဘဲထိုသူတို့နှင့်အတူငါ
သွားမည်အကြောင်း။ဝိညာဉ်တော်သည်မိန့်တော်မူ၏။ ဤညီအစ်ကို
ခြောက်ယောက်တို့သည်လည်းငါနှင့်အတူသွား၍ ထိုလူ၏အိမ်သို့ဝင်
၁၃ ကြ၏။ ကောင်းကင်တမန်သည်သူ၏အိမ်၌ကိုယ်ကိုထင်ရှားစွာပြ၍
ရပ်နေလျက်သင်သည် ယာပေမြို့သို့စေလိုက်၍ပေတရုအမည်သင်ရှိမှန်
၁၄ သော်ရှိမုန်ကိုခေါ်ပင့်လော့။ ထိုပေတရုသည်သင်မှစ၍သင်၏အိမ်၌ရှိ
သမျှသောသူတို့သည်ကယ်တင်တော်မူခြင်းသို့ရောက်ရမည်အကြောင်း
တည်းဟူသောစကားကိုသင်အားဟောပြောလိမ့်မည် ဟုမြွက်ဆိုခဲ့
၁၅ သောအကြောင်းအရာကိုပြသူသည်ငါ့ကိုဟောကြားပြန်ကြားလေ၏။ ငါ
သည်ဟောပြောစပြုသည်ကာလ၌သန့်ရှင်းသောဝိညာဉ်တော်သည်ရှေးဦးစွာ
ငါတို့အပေါ်မှာသက်ရောက်တော်မူသည်နည်းတူ ထိုသူတို့အပေါ်မှာကျ
၁၆ ရောက်တော်မူ၏။ ယောဟန်သည်ရေနှင့်ဗတ္တိဇံခြင်းကိုပေး၏။သင်
တို့သည်သန့်ရှင်းသောဝိညာဉ်တော်၌နှစ်ခြင်းကိုခံရကြလိမ့်မည် ဟု
၁၇ သခင်ဘုရားမိန့်တော်မူသောစကားကိုထိုအခါငါအောင်းမေ့၏။ သ
ခင်ယေရှုခရစ်ကိုရုံကြည်သော ငါတို့အား ဘုရားသခင် ပေးတော်မူ
သောဆုကျေးဇူးတော်နှင့်ကူသောဆုကျေးဇူးတော်ကိုထိုသူတို့အား
လည်းပေးတော်မူသည်ဖြစ်သောကြောင့်ငါသည်အဘယ်သို့သောသူဖြစ်
၁၈ ၍ဘုရားသခင်ကိုဆီးတားနိုင်သနည်းဟုပေတရုဆို၏။ ဤအကြောင်း
အရာတို့ကိုထိုသူတို့သည်ကြားလေသော်မြည်းဘဲနေသည်နှင့်အကယ်
၍ဘုရားသခင်သည်အသက်ရှင်စေခြင်းအလို့ငှါနောင်တတရားကိုတ
ပါးအမျိုးသားတို့အားလည်းပေးတော်မူပြီးတကားဟုဘုရားသခင်ဂုဏ်
၁၉ တော်ကိုချီးမွမ်းကြ၏။ ထိုမှတပါး။သတေဖန်အသေသတ်ခြင်းကိုခံသည်
မှစ၍ညှဉ်းဆဲခံလျက်အရပ်ရပ်ကွဲပြားသောသူတို့သည်ဖိနိဘ်။ကုပ
ရု။အန္တိအုတ်မြို့များတိုင်အောင်သွား၍ယုဒလူတို့အားသာ နှုတ်ကပတ်
၂၀ တရားတော်ကိုဟောပြောကြ၏။ နောက်မှာထိုသူအချို့တို့သည်ကုပရု
ပြည်သား။ကုရင်ပြည်သားဖြစ်သဖြင့်အန္တိအုတ်မြို့သို့သွား၍သခင်ယေ
ရှု၏အကြောင်းတည်းဟူသောဝေံဂေလိတရားကိုဟေလသလူတို့အား
၂၁ ဟောကြ၏။ သခင်ဘုရား၏လက်တော်သည်ထိုသူတို့နှင့်တကွရှိတော်
မူ၍ လူအပေါင်းတို့သည် ရုံကြည်သဖြင့်သခင်ဘုရားထံသို့ပြောင်းလဲ

၂၂ ကြ၏။ ။ထိုအကြောင်းအရာကိုယေရုရှလင်မြို့၌ရှိသောသင်းဝင်
သူတို့သည် ကြားလျှင် အန္တိအုတ်မြို့ တိုင်အောင် ဗာနာဗ သွားမည်အ
၂၃ ကြောင်းစေလွှတ်ကြ၏။ ထိုသူသည်ရောက်၍ဘုရားသခင်၏ကျေး
ဇူးတော်ကို မြင်လျှင်ဝမ်းမြောက်ဝမ်းသာသည်ဖြစ်၍ ထိုသူအားလုံး
တို့သည်တည်ကြည်သောစိတ်နှင့် သခင်ဘုရားကိုမှီဝဲဆည်းကပ်မည်
၂၄ အကြောင်း။တိုက်တွန်းနှိုးဆော်လေ၏။ ထိုသူသည်သူတော်ကောင်း
ဖြစ်၍သန့်ရှင်းသောဝိညာဉ်တော်နှင့်ဇုင်ရုံကြည်ခြင်းနှင့် ဇုင်ပြည့်စုံ
သောအားဖြင့်လူများအပေါင်းတို့သည်သခင်ဘုရားထံဝင်ကြ၏။
၂၅ ။ဗာနာဗသည်လည်းရှောလုကိုရှာလျက်တာရှုမြို့သို့သွား၏။
၂၆ ရှောလုကိုတွေ့ပြီးလျှင်အန္တိအုတ်မြို့သို့ခေါ်ခဲ့၏။ ထိုသူတို့သည်တနှစ်
ပတ်လုံးထိုအသင်းတော်နှင့်အတူစည်းဝေး၍လူများအပေါင်းတို့အါး
ဆုံးမသြဝါဒပေးကြ၏။တပည့်တော်တို့သည်လည်းခရစ်ယျန်ဟူသော
၂၇ ခေါ်ဝေါ်သမုတ်ခြင်းကိုအန္တိအုတ်မြို့၌အဦးခံကြ၏။ ။ထိုအခါ
၌ပရောဖက်တို့သည်ယေရုရှလင်မြို့မှအန္တိအုတ်မြို့သို့လာကြ၏။ ထို
၂၈ သူတို့အဝင်။ အဂဗုအမည်ရှိသောသူတယောက်သည်ထ၍မြေတပြင်
လုံး၌အစာ အာဟာရ အလွှန် ခေါင်းပါးခြင်း ဖြစ်လတံ့ ဟု ဝိညာဉ်
တော်အားဖြင့်ဖော်ပြ၏။ထိုခေါင်းပါးခြင်းသည်ကလောဒိ မင်းလက်
၂၉ ထက်၌ဖြစ်သတည်း။ ထိုအခါတပည့်တော်တို့သည်အသီးအသီးတတ်
နိုင်ကြသည်အတိုင်းယုဒပြည်၌ နေသောညီအစ်ကိုတို့အားအကူအ
၃၀ မပေးလိုက်မည်ဟု စီရင်ကြသည်နှင့်အညီ ဗာနာဗနှင့် ရှောလုတို့၏
လက်တွင်သင်းအုပ်တို့ဆီသို့ပေးလိုက်ကြ၏။

**

၁ ထိုရောအခါဟေရုဒ်မင်းကြီးသည်သင်းဝင်သူအချို့တို့ကို ညှဉ်းဆဲ
၂ ခြင်းငှါပြု၏။ ယောဟန်၏အစ်ကိုဖြစ်သောယာကုပ်ကိုဓားနှင့်ကွပ်
၃ မျက်လေ၏။ ယုဒလူတို့သည်အားရဝမ်းသာရှိသည်ကို မြင်လျှင် အဇူ
၄ မပွဲနေ့ရက်တို့၌တဖန်ထပ်၍ ပေတရုကိုလည်းဖမ်းဆီးပြီးမှ ပသခါပွဲ
နောက်မှာလူများတို့အားထုတ်အပ်မည်အကြံ နှင့် အစောင့်အရှောက်
စစ်သူရဲတကျိပ်ခြောက်ယောက်တို့အားအပ် ၍ ထောင်ထဲ ၌ လှောင်
၅ ထားလေ၏။ ပေတရုသည်ထောင်ထဲ၌အကျဉ်းနေရစဉ်သင်းဝင်သူ
တို့သည်သူ့အဖို့ကျိုးစား၍ဘုရားသခင်အားဆုတောင်းပဌနာပြုကြ
၆ ၏။ ။ဟေရုဒ်မင်းသည်ထုတ်ခါနီး။ညဉ့်အချိန်တွင်ပေတရုသည်

သံကြိုးနှစ်စင်းဖြင့်ချည်နှောင်ခြင်းကိုခံလျက်စစ်သူရဲနှစ်ယောက်တို့
အလယ်၌အိပ်ပျော်၍အစောင့်များတို့သည်ထောင်တံခါးရှေ့မှာစော
၇ င့်နေကြ၏။ ထိုအခါထာဝရဘုရား၏ကောင်းကင်တမန်သည်ပေါ်လာ
သဖြင့်ထောင်အိမ်၌အလင်းထွန်းတောက်လေ၏။ ကောင်းကင်တမန်
သည် ပေတရု၏ နံပါး ကို ပုတ်ခတ် ၍ ချက်ချင်းထတော့ဟုဆိုလျက်ထ
၈ စေ၏။သံကြိုးသည်လည်းပေတရုလက်မှကျွတ်လေ၏။ ကောင်းကင်တ
မန် ကလည်းသင်ခါးပန်းကိုစည်းတော့။ခြေနင်းကိုလည်းစွပ်တော့ဟု
ဆိုလျှင်ဆိုသည်အတိုင်းပေတရုပြု၏။ ဝတ်လုံခြုံ၍ ငါနောက်သို့လိုက်
၉ တော့ဟုဆိုပြန်၏။ ပေတရုသည်ထွက်၍လိုက်သဖြင့်ကောင်းကင်တ
မန်ပြုသမျှတို့သည်မှန်သောအမှုအရာဖြစ်သည်ကိုမသိဘဲ မိမိသည်
၁၀ ဗျာဒိတ်ရူပါရုံကိုမြင်သည်ဟုမိမိထင်လေ၏။ ပဌမအစောင့်ဒုတိယအ
စောင့်သူတို့ ကို ကျော်သွား ၍ မြို့ထဲသို့ဝင်သောသံတံခါးသို့ရောက်
လျှင်ထိုတံခါးသည်အလိုလိုပွင့်သဖြင့် သူ တို့သည် ထွက် ၍ လမ်း တ
ချောင်း၌ရှောက်သွားပြီးမှချက်ချင်းကောင်းကင်တမန်သည် ပေတရု
၁၁ နှင့်ခွာ၍သွားလေ၏။ ။ပေတရုသည်သတိရလျှင်ယခုပင်သ
ခင်ဘုရားသည်မိမိကောင်းကင်တမန်ကိုစေလိုက်၍ဟေရုဒ်မင်းလက်
မှ၎င်ယုဒလူတို့၏မျှော်လင့်ခြင်းမှ၎င်ငါကိုကယ်နှုတ်တော်မူသည်ကို
၁၂ ငါအမှန်သိ၏ဟု အောင်းမေ့စဉ်လူအများစုဝေး၍ဆုတောင်းရာ။မာ
ကုအမည်သစ်ရပြန်သောယောဟန်၏အမိဖြစ်သောမာရိ၏အိမ်သို့
၁၃ ရောက်၍ အိမ်ဦးတံခါး ကို ခေါက် လေသော် ရောဒေအမည်ရှိသော
၁၄ မိန်းမငယ်တယောက်သည်နားထောင်ရအောင်လာ၍ ပေတရုအသံကို
သိမိလျှင် ဝမ်းမြောက်သောအားဖြင့် တံခါးကိုမဖွင့်ဘဲ အထဲသို့ပြေး
၁၅ ဝင်၍ပေတရုသည်တံခါးရှေ့မှာရပ်နေသည်ကိုကြားဆို၏။ ထိုသူတို့
ကသင်သည်အရူးဖြစ်၏ဟုထိုမိန်းမငယ်အားဆိုကြသော်လည်း ပေတရု
အမှန်ရှိသည် ဟု သူသည် ခိုင်မာစွာ ဆို ၍ နေလျှင်ပေတရု၏ကောင်း
၁၆ ကင်တမန်ဖြစ်တော့သည်ဟုဆိုကြလေ၏။ ပေတရုသည်ခေါက်၍နေ
သော်တံခါးကိုဖွင့်ကြ၍သူကိုမြင်သဖြင့်အလွန်တရာအံ့သြကြ၏။
၁၇ ပေတရုကလည်းထိုသူတို့ကိုတိတ်ဆိတ်စွာနေစေခြင်းငှါမိမိလက်နှင့်
အမှတ်ပေး၍မိမိကိုထောင်ထဲမှသခင်ဘုရားသည်နှုတ်သောအကြော
င်းအရာကိုထုတ်ဖော်ပြောဆိုပြီးမှသင်တို့သွား၍ယာကုပ်နှင့်တကွ
ညီအစ်ကိုတို့အား၍အကြောင်းများကိုပြန်ကြားကြလော့ဟု ဆို ပြီး

၁၈ လျှင်ထွက်၍အချားသို့သွားလေ၏။ ။နံနက်အချိန်ရောက်သော
အခါပေတရုအဘယ်သို့ဖြစ်သနည်း ဟု စစ်သူရဲများသည်ရုန်းရင်း
၁၉ ခတ်မျှဖြစ်ကြ၏။ ဟေရုဒ်မင်းသည်ပေတရုကိုရှာ၍ မတွေ့သဖြင့်
စောင့်ရှောက်သောသူတို့ကိုစစ်ပြီး၍ သတ်မည်အကြောင်းစီရင်လေ
၏။

❋❋

၂၀ ထိုနောက်ဟေရုဒ်မင်းသည်ယုဒပြည်မှကဲသရိမြို့သို့သွား၍နေသည်
ရှိသော်တုရုမြို့သား။ဇိဒုန်မြို့သားတို့ကိုအမျက်ထွက်လေ၏။ ထိုသူတို့
သည်တညီတညွတ်တည်းလာကြ၍ဗလဿုအမည်ရှိသောအတွင်းဝန်
ကိုဖျောင်းဖျပြီးမှ ထိုမင်းအမျက်ပြေမည်အကြောင်းတောင်းပန်ကြ
၏။ အဘယ်ကြောင့်နည်း ဟူမူကား။ သူတို့ပြည်သည်ပြည်တော်
၂၁ ကိုမှီ၍ကျွေးမွေးခြင်းကိုခံရ၏။ ဟေရုဒ်မင်းသည်လည်းချိန်းချက်
သောနေ့၌မင်းမြောက်တန်ဆာကိုဝတ်ဆင်၍ ပလ္လင်တော်ပေါ်မှာ
၂၂ ထိုင်လျက်ထိုသူတို့အားမိန့်တော်မူ၏။ လူများတို့က ဤသသံသည်
လူအသံမဟုတ်။ ဘုရားသခင်၏အသံဖြစ်၏ဟုကျွေးကျော်သည်ရှိ
၂၃ ကြသော် ထိုမင်းကြီးသည်ဘုရားသခင်၏ဂုဏ်အသရေတော်ကိုမ
ထောက်ထားသောကြောင့်ထိုခဏချင်းပင်ထာဝရဘုရား၏ကောင်း
ကင်တမန်သည်ဒါဏ်ခတ်၍ကိုယ်အတွင်း၌ပိုးများကိုက်ခဲသဖြင့်အ
၂၄ နိစ္စရောက်လေ၏။ ။ဘုရားသခင်၏သာသနာတော်သည်တိုး
၂၅ ပွားများပြားလေ၏။ ဗာနာဗနှင့်ရှောလုတို့သည်လုပ်ကျွေးခြင်းအ
မှုကိုဆောင်ရွက်ပြီးလျှင်မာကုအမည်သစ်ရပြန်သောယောဟန်ကို
၁ လည်းခေါ်ယူခဲ့၍ယေရုရှလင်မြို့မှပြန်ကြ၏။ ။အန္တိအုတ်မြို့တွင်
ရှိသောအသင်းတော်၌ ဗာနာဗမှစ၍ နိဂါဟုခေါ်ဝေါ်သောရှုမောင်၊
ကုရင်ပြည်သားလုကိ။ စော်ဘွား ဟေရုဒ်၏ မွေးဖက်မာနင်နှင့်ရှော
၂ လုတည်း ဟူသောပရောဖက်ပြုသူ၊ ဆရာပြုသူရှိကြ၏။ ထိုသူတို့
သည်သခင်ဘုရားဝတ်ကိုပြု၍အစားကိုရှောင်ကြစဉ်သန့်ရှင်းသော
ဝိညာဉ်တော်ကငါခန့်ထားသောအမှုကိုဆောင်ရွက်စေခြင်းငှါဗာနာ
ဗနှင့်ရှောလုတို့ကိုခွဲချယ်ခွဲထားကြတော့ဟုမိန့်တော်မူသည်အ
၃ တိုင်း အစားကိုရှောင်၍ပဌနာပြုလျက်ထိုသူတို့ခေါင်းပေါ်မှာလက်
၄ ကိုတင်၍သွတ်လိုက်ကြ၏။ ။ထိုသို့သန့်ရှင်းသောဝိညာဉ်
တော်စေလွှတ်တော်မူသောအားဖြင့်ထိုသူတို့သည်သေလုကိမြို့သို့

သွား၍ထိုမြို့မှသင်္ဘောနှင့်သွင့်သဖြင့်ကုပရုကျွန်းသို့ရောက်ကြ၏။
၅ သလမိမြို့၌ရှိနေသည်ယုဒတရားဇရပ်များတွင်ဘုရားသခင်၏နှုတ်
ကပတ်တရားတော်ကိုဟောပြောကြ၏။ယောဟန်သည်လည်းထို
၆။၇ သူတို့လက်ထောက်ဖြစ်သေ၏။ ကျွန်းလုံးကိုရှောက်၍ပါဖုမြို့သို့
ရောက်လျှင်သေရဂိုပေါလုအမည်ရှိသောမြို့ဝန်ထံ၌ပရောဖက်ရော
င်ဆောင်သောနတ်ဝိဇ္ဇာအတတ်သမား။ယုဒမျိုး။ဗာယေရှုကိုတွေ့ကြ
၏။ထိုမြို့ဝန်သည်ပညာသတိရှိသဖြင့်ဗာနဗနှင့်ရှောလုတို့ကိုခေါ်
ပင့်၍ဘုရားသခင်၏နှုတ်ကပတ်တရားတော်ကိုနာလိုသောစိတ်ရှိ
၈ လေသော် နတ်ဝိဇ္ဇာအတတ်သမားဧလုမ၍ဆိုလိုသောထိုလူသည်မြို့
ဝန်ကိုယုံကြည်ခြင်းမှလွှဲခြင်းငှါတမန်တော်တို့စကားကိုညင်းခံလေ၏။
၉ ထိုအခါပေါလုဟူ၍ခေါ်ဝေါ်သောရှောလုသည်သန့်ရှင်းသောဝိညာဉ်
တော်နှင့်ပြည့်သဖြင့် ထိုနတ်ဝိဇ္ဇာအတတ်သမားကိုစေ့စေ့ကြည့်
၁၀ လျက် လှည့်ဖြားခြင်း။အကျိုးကိုဖျက်ခြင်းအမျိုးမျိုးနှင့်ပြည့်စုံသော
မာရ်နတ်၏သား။ဖြောင့်မတ်ခြင်းတရား၏ရန်သူ။သင်သည်ထာဝရ
ဘုရား၏ဖြောင့်မတ်သောလမ်းခရီးတို့ကိုဖျက်ဆီး၍မနေနိုင်သ
၁၁ လော။ ယခုပင်ထာဝရဘုရား၏လက်တော်သည်သင်အပေါ်၌ရောက်
၍နေကိုမမြင်နိုင်အောင်အင်တန်ကာလပတ်လုံးသင်၏မျက်စိကွယ်
လိမ့်မည်ဟုပေါလုဆိုသောခဏတွင်မျက်စိမြေးရှက်၍မှောင်မိုက်အ
တိဖြစ်သဖြင့်လက်ဆွဲပေးသောသူတို့ကိုရှာလျက်တလည်လည်ရှိ၍
၁၂ နေ၏။ ထိုအကြောင်းအရာကိုမြင်လျှင်မြို့ဝန်သည်ယုံကြည်ခြင်းသို့
ရောက်၍သခင်ဘုရား၏ဒေသနာတော်ကိုအလွန်အံ့ဩမိန်းမော
၍နေ၏။

**

၁၃ ပေါလုနှင့်ပါသောသူတို့သည်ပါဖုမြို့မှလွှင့်ကြ၍ပံဖုလိပြည်ပေရဂေ
မြို့သို့ရောက်ပြီးလျှင်ယောဟန်မလိုက်ဘဲဩဇာလျက်ယေရုရှလင်မြို့သို့
၁၄ ပြန်လေ၏။ ပေရဂေမြို့မှထွက်သွားပြန်၍ပိသိဒိပြည်အန္တိအုတ်မြို့
သို့ရောက်ပြီးလျှင်ဥပုသ်နေ့၌တရားဇရပ်သို့ဝင်၍ထိုင်နေကြ၏။
၁၅ ပညတ်ကျမ်းအနာဂတ္တိကျမ်းကိုဖတ်ရွတ်ပြီးမှတရားဇရပ်မှူးတို့သည်
ညီအစ်ကိုတို့။လူများအားဆုံးမစရာစကားရှိလျှင်ဟောပြောကြပါ
၁၆ ဟုကြားလိုက်လေ၏။ ။ထိုအခါပေါလုသည်ထ၍မိမိလက်
နှင့်အမှတ်ပေးလျက်ဣသရေလလူမှစ၍ဘုရားသခင်ကိုကြောက်ရွံ့

၁၇ သောသူတို့။နားထောင်ကြပါ။ ဣသရေလအမျိုး၏ဘုရားသခင်သည်
ငါတို့အဘများကိုရွေးကောက်တော်မူ၍ အဲဂုတ္တုပြည်၌ဧည့်သည်ဖြစ်
သောထိုလူမျိုးကိုချီးမြှောက်သဖြင့် ထင်ရှားသောလက်တော်နှင့်ထို
၁၈ ပြည်မှနှုတ်ဆောင်တော်မူ၏။ အနှစ်လေးဆယ်မျှလောက်သောကာ
၁၉ လပတ်လုံးတော၌ကျွေးမွေးတော်မူ၏။ ခါနာန်ပြည်၌လူခုနစ်မျိုးတို့
ကိုပယ်ရှားပြီးလျှင်ထိုပြည်ကိုဣသရေလအမျိုးအားအမွေပေးကမ်း
၂၀ ဝေငှတော်မူ၏။ ထိုနောက်မှာပရောဖက်ရှမွေလမပေါ်မရှိမီအနှစ်
လေးရာငါးဆယ်မျှလောက်သောကာလပတ်လုံးတရားသူကြီးတို့ကို
၂၁ ပေးတော်မူပြီးမှ ထိုအမျိုးသားတို့သည်မင်းကြီးကိုတောင်းသော
အခါ ရှောလုအမည်ရှိသော။ ကိရှ၏သား ဗင်္ယာမိန်မျိုးဖြစ်သောလူ
၂၂ တယောက်ကိုအနှစ်လေးဆယ်ပတ်လုံးပေးတော်မူ၏။ နောက်မှာထို
သူကိုပယ်၍ ဣသရေလမင်းကြီးအရာ၌ဒါဝိဒ်ကိုချီးမြှောက်ခန့်ထား
တော်မူပြန်၏။ ထိုသူအားသက်သေခံတော်မူလျက်ငါ့စိတ်နှလုံးနှင့်
ညီညွတ်သည်ဖြစ်၍ငါ့အလိုကိုပြည့်စုံစေမည့်သူ။ယေရှဲ၏သားဒါ
၂၃ ဝိဒ်ကိုငါတွေ့ရပြီးဟုမိန့်တော်မူ၏။ ထိုသူ၏အမျိုးအနွယ်ထဲ၌ဘုရား
သခင်သည်ဂတိတော်အတိုင်းကယ်တင်သောသခင်ယေရှုကိုဣသရေ
၂၄ လလူတို့အားပေါ်ထွန်းစေတော်မူပြီ။ ထိုသခင်ကြွလာတော်မ
မူမီယောဟန်သည်ဣသရေလလူအပေါင်းတို့အားနောင်တတရားနှင့်
၂၅ စပ်ဆိုင်သောရေနှစ်မင်္ဂလာတရားကိုဟောပြောနှင့်လေ၏။ ယော
ဟန်သည်မိမိအမှုကိုဆောင်ရွက်နေလျှင် ငါသည်အဘယ်သူဖြစ်
သည်ကိုသင်တို့ထင်မှတ်ကြသနည်း။ ငါသည်ထိုသူဖြစ်သည်မ
ဟုတ်။ငါ့နောက်လာသောသူတပါးရှိ၏။ ထိုသူ၏ခြေနင်းတော်ကိုငါ
၂၆ မချွတ်ထိုက်ပါဟုဆို၏။ ။အာဗြဟံမျိုးဖြစ်သောညီအစ်ကိုမှ
စ၍သင်တို့တွင်ဘုရားသခင်ကိုကြောက်ရွံ့သောသူတို့။ ဤကယ်တင်
၂၇ တော်မူခြင်းတရားစကားကိုသင်တို့အားကြားလိုက်တော်မူ၏။ ယေ
ရုရှလင်မြို့၌နေသောသူတို့နှင့်တကွမင်းများတို့သည် ထိုသခင်ကိုရင်
ဥပုသ်နေ့တိုင်းအစည်ဖတ်ရွတ်သောပရောဖက်တို့၏စကားကိုရင်မ
သိနားမလည်သောကြောင့်ထိုသခင်ကိုစီရင်သောအားဖြင့်ထိုပရော
၂၈ ဖက်စကားကိုပြည့်စုံစေကြပြီးတကား။ ကိုယ်တော်၌သေထိုက်သော
အပြစ်တစုံတခုကိုမတွေ့သော်လည်း ကွပ်မျက်စေမည်အကြောင်း။ပိ
၂၉ လတ်မင်းထံ၌တောင်းလျှောက်ကြ၏။ ထိုသခင်ကိုရည်မှတ်၍ကျမ်း

မိမိတို့အားနောက်ဥပုသ်နေ့၌ဟောပြောပါမည်အကြောင်း။တောင်း
၄၃ ပန်ကြ၏။ အစည်းအဝေးဖျက်၍ပြန်ရသောအခါယုဒလူမှစ၍ဘုရား
ကိုကိုးကွယ်သော။ဘာသာဝင်သူများတို့သည်ပေါလုဗာနာဗနောက်
သို့လိုက်ကြသည်ဖြစ်၍ ထိုသူများတို့သည် ဘုရားသခင်၏ကျေးဇူး
တော်၌ကည်ကြည်မည်အကြောင်း။တမန်တော်တို့သည် ဖျားယောင်း
၄၄ ၍ဆုမ္မဩဝါဒပေးလေ၏။ ။နောက်ဥပုသ်နေ့၌ဘုရားသခင်
၏နှုတ်ကပတ်တရားတော်ကိုနာရအောင်တမြို့လုံးကျန်မတတ်စည်း
၄၅ ဝေးကြ၏။ ယုဒလူတို့သည်အစည်းအဝေးတို့ကိုမြင်လျှင်ငြူစူသော
စိတ်နှင့်ပြည့်စုံသဖြင့် ပေါလုစကား ကို ညှင်းခံသည်သာမကဆဲရေး
၄၆ ကြ၏။ ။ထိုအခါပေါလုဗာနာဗတို့သည် ရဲရင့်ခြင်းသတ္တိရှိ
လျက်ဘုရားသခင်၏နှုတ်ကပတ်တရားတော်ကို သင်တို့အားရှေ့ဦး
စွာဟောပြောရ၏။သင်တို့သည်ပယ်၍ထာဝရအသက်ကိုမိမိတို့မခံ
၄၇ ထိုက်သည်ဟုမိမိတို့စီရင်ကြသောကြောင့် ထာဝရဘုရားသည်မှာ
တော်မူသည်အတိုင်းငါတို့သည်မျက်နှာကိုလွှဲ၍တပါးအမျိုးသားတို့
ဆီသို့လှည့်ကြ၏။ မှာတော်မူသောဗျာဒိတ်တော်အချက်ကား။ သင်
သည်မြေကြီးစွန်းတိုင်အောင်ကယ်တင်ခြင်းကိုပြုစိမ့်သော ငါသင်ကို
တပါးအမျိုးသားတို့လင်းစရာဘို့ငါခန့်ထား၏ဟုဗျာဒိတ်တော်ရှိသည်
၄၈ ဟုဆိုကြ၏။ ထိုစကားကိုတပါးအမျိုးသားတို့သည် ကြားလျှင်ဝမ်း
မြောက်၍ထာဝရဘုရား၏နှုတ်ကပတ်တရားတော်ကိုချီးမွမ်းကြ၏။
ထာဝရအသက်ရှင်ခြင်းကိုရစေခြင်းငှါခန့်ထားသောသူရှိသမျှတို့
၄၉ သည်ယုံကြည်ခြင်းသို့ရောက်ကြသဖြင့် ထာဝရဘုရား၏သာသနာ
၅၀ တော်သည်တပြည်လုံးနှံ့ပြားလေ၏။ ။ထိုအခါယုဒလူတို့သည်
ဘုရားကိုကိုးကွယ်၍အသရေရှိသောမိမ္မတို့ကိုငင် ထိုမြို့၌ ထင်ပေါ်
ခြင်းရှိသောလူကြီးတို့ကိုငင်နှိုးဆော်၍ပေါလုဗာနာဗတို့ ကို ညှဉ်း
၅၁ ဆဲစေသဖြင့်ထိုပြည်၏နယ်မှနှင်ထုတ်ကြ၏။ တမန်တော်တို့သည်
မိမိတို့ခြေဖဝါးမြေမှုန့်ကိုထိုသူတို့အားခါလိုက်၍ဣကောနိမြို့သို့သွား
၅၂ ကြ၏။ တပည့်တော်များတို့သည် ဝမ်းမြောက်ခြင်း နှင့် ဝိဉ် သန့်ရှင်း
၁ သောဝိညည်တော်နှင့်ပြည့်စုံကြ၏။ ။ဣကောနိမြို့သို့ရော
က်လျှင်ထိုသူနှစ်ပါးတို့သည်ယုဒတရားဇရပ်သို့ဝင်၍ဟောပြောသ
ဖြင့်ယုဒလူ။ဟေလသလူများအပေါင်းတို့သည်ယုံကြည်ခြင်းသို့ရောက်
၂ ကြ၏။ မယုံကြည်သောယုဒလူတို့သည် တပါးအမျိုးသားတို့ကို နှိုး

ဆော်၍ ညီအစ်ကိုတို့အားမနာလိုသောစိတ်ကိုရှိစေခြင်းငှါဂုံးတိုက်
၃ ကြ၏။ ထိုကြောင့်ကြာမြင့်စွာနေသဖြင့်သခင်ဘုရား၏တရားတော်
ကိုမဆုတ်မဆိုင်းဟောပြောလေ၏။သခင်ဘုရားသည်လည်းကျေးဇူး
တရားတော်ဘက်သက်သေခံလျက်နိမိတ်လက္ခဏာ။အံ့ဖွယ်သေါအမှု
၄ တို့ကိုတမန်တော်တို့လက်ဖြင့်ပြု နိုင်သောအခွင့်ပေးတော်မူ၏။ ထို
မြို့သူမြို့သားအပေါင်းတို့သည်ကွဲပြားခြင်းရှိ၍အချို့တို့သည် ယုဒလူ
၅ တို့ဘက်၌၎င်အချို့တို့သည်ကမန်ကော်တို့ဘက်၌ ၎င် နေကြ၏။ မင်း
အရာရှိတို့နှင့်ယုဒအမျိုး သား။တပါးအမျိုးသားတို့သည်တမန်တော်
တို့ကိုညှဉ်းဆဲ၍ကျောက်ခဲနှင့်ပြစ်မည်တဟုန်တဦးပြေးလါကြသည်
၆ အကြောင်းကို တမန်တော်တို့သည်သိသဖြင့်လုကောနိပြည် ၌လုတ္တ
၇ ရမြို့။ဒေရဗေမြို့မှစ၍ကျေးလက်များသို့ပြေးထွက်၍ ထိုအရပ်များ
မှာဧဝံဂေလိတရားကိုဟောပြောကြ၏။

❋❋

၈ အမိဝမ်းထဲမှစ၍ခြေဆွံ့သဖြင့်တခါမျှမသွားဘူးသောလူတယောက်
၉ သည်လုတ္တရမြို့၌ထိုင်လျက် ပေါလုဟောပြောသည်ကိုကြားလေ၏။
ပေါလုသည်လည်း ထိုသူကို စေ့စေ့ကြည့်၍အနာရောဂါကင်းမည်အ
၁၀ ကြောင်း။ယုံကြည်ခြင်းရှိသည်ကိုသိမြင်လျှင်ထ၍မတ်တတ်ရပ်တော့ဟု
ကြီးသောအသံနှင့်ဆိုသဖြင့်ထိုသူသည်ရုတ်တရက်ထ၍လှမ်းသွားလေ
၁၁ ၏။ ပေါလုပြုသောအမှုကိုလူအစုအဝေးတို့သည်မြင်လျှင်စကားသံ
ကိုလွှင့်လျက်နတ်ဘုရားတို့ သည် လူ အရောင်ဆောင် ၍ ငါတို့ဆီသို့
ဆင်းသက်ပါသည်တကား ဟု လုကောနိဘာသာစကားအားဖြင့်ဆို
၁၂ ကြ၏။ ပေါလုသည်သာ၍ဟောပြောသောကြောင့်သူကိုဟောရမေဟု
၁၃ ၍၎င်ဗာနာဗကိုဇုသဟူ၍၎င်ခေါ်ဝေါ်ကြ၏။ ထိုမြို့ရှေ့၌ရှိသောဇုသ
၏ယဇ်ပရောဟိတ်သည်နွားနှင့် ပန်းကုံး ကိုမြို့တံခါးနားသို့ ယူခဲ့၍
၁၄ လူအစုအဝေးတို့နှင့်တကွယဇ်ပူဇော်မည်ပြုသည်ကို တမန်တော်ဗာ
နာဗပေါလုတို့သည်သိတင်းကြားလျှင်မိမိတို့အဝတ်ကိုဆုတ်၍လူရှု
၁၅ ထဲသို့ ပြေးဝင်လျက် အချင်းလူတို့။အဘယ်ကြောင့်ဤသို့ပြုကြသ
နည်း။ငါတို့သည်သင်တို့ကဲ့သို့လူဇာတိရှိသောသူဖြစ်ပါ၏။ သင်တို့
သည်ဤအချည်းနှီးသောအရာတို့ကိုပယ်ကြ၍ကောင်းကင်မြေကြီး
သမုဒ္ဒရာတို့မှစ၍အရပ်ရပ်ရှိလေသမျှတို့ ကို ဖန်ဆင်းတော်မူ၍ အ
သက်ရှင်တော်မူသောဘုရားသခင်ဆီသို့ပြောင်းလဲကြမည်အကြော

၁၆ င်း။ ငါတို့သည် ဧဝံဂေလိတရားကိုဟောပြော၏။ ထိုဘုရားသခင်
သည်ရှေးလွန်လေပြီးသောကာလတို့၌ လူအမျိုးမျိုးတို့သည် မိမိတို့အ
၁၇ လိုအလျောက်ကျင့်ကြမည်အကြောင်း။အလွှတ်ထားတော်မူ၏။ သို့
သော်လည်းသင်တို့အား ကျေးဇူးပြုလျက် အစာအာဟာရနှင့်ဝပြော
၍ဝမ်းမြောက်စေခြင်းငှါမိုဃ်းကောင်းကင်မှ မိုဃ်းရွာစေတော်မူ၍အ
သီးအနှံ့တို့ကိုသီးစေတတ်သောဥတုကိုပေးတော်မူသောအားဖြင့်ဘု
ရားသခင်ရှိတော်မူသည်ကိုသက်သေမခံဘဲနေတော်မမူဟုပေါလုဗါ
၁၈ နာဗတို့သည်ကျေးကျော်လေ၏။ ထိုသို့ကျေးကျော်သဖြင့် လူအစုအ
ဝေးတို့သည်ယဇ်ပူဇော်ခြင်းကိုမပြုရအောင်မြစ်တားလျက် မြစ်တား
၁၉ ခဲလှ၏။ ။ထိုအခါယုဒလူတို့သည်အန္တိအုတ်မြို့။ဣကောနိမြို့တို့
မှလာကြ၍လူအစုအဝေးတို့ကိုညှိ ညွှတ် တိုင်ပင်ပြီးလျှင် ပေါလု ကို
၂၀ ကျောက်ခဲနှင့်ပြစ်၍သေပြီးဟုမှတ်ထင်နှင့်မြို့ပြင်သို့ဆွဲငင်ကြ၏။ တ
ပည့်တော်တို့သည်ဝန်းရံ၍နေကြစဉ်ပေါလုထ၍မြို့ထဲသို့ဝင်ပြန်၏။
၂၁ နက်ဖန်နေ့၌ဗာနာဗနှင့်တကွဒေရဗေမြို့သို့ထွက်သွားလေ၏။ထိုမြို့၌
ဧဝံဂေလိတရားကိုဟောပြော၍လူအများတို့ကိုတပည့်တော်ဖြစ်စေ
ပြီးမှလုတ္တရမြို့။ ဣကောနိမြို့။ အန္တိအုတ်မြို့တို့ကိုအစဉ်အတိုင်းလှည့်
၂၂ လည်၍ပြန်ကြ၏။ ထိုသို့ပြန်ကြစဉ်တပည့်တော်များ၏ စိတ်နှစ်လုံး
ကိုမြဲမြံခိုင်ခံ့စေသဖြင့်ယုံကြည်ခြင်းတရား၌တည်ကြည်မည် အကြော
င်းနှိုးဆော်ချီးပင့်၍ငါတို့သည်များပြားသောညှဉ်းဆဲခြင်းဆင်းရဲ
ဒုက္ခကိုခံ၍ဘုရားသခင်၏နိုင်ငံတော်သို့ဝင်ရကြမည်ဟုဟောပြော
၂၃ ပြည့်ြွန်ကြ၏။ အသင်းတော်များတို့၌သင်းအုပ်တို့ကိုခန့်ထား၍အ
စားရှောင်လျက်ဆုတောင်းပဌနာပြုပြီးလျှင်သင်းဝင်သူတို့သည်ယုံ
ကြည်ရာသခင်ဘုရား၏လက်တော်သို့ ထိုအသင်းတော်များတို့ကို
၂၄ အပ်နှံကြ၏။ ပိသိဒိပြည် လုံးကိုရှောက်သွား၍ပံဖုလိပြည် သို့ရော
၂၅ က်လျှင် ပေရဂေမြို့၌နှုတ်ကပတ်တရားတော်ကိုဟောပြော၍အတ္တလိ
၂၆ မြို့သို့သွားပြန်ကြ၏။ ထိုမြို့မှသင်္ဘောနှင့်သွင့်၍မိမိတို့ဆောင်ရွက်ခဲ့
ပြီးသောအမှုအလို့ငှါဘုရားသခင်၏ကျေးဇူးတော်သို့အပ်နှံ၍ စေ
၂၇ လွှတ်သောအန္တိအုတ်မြို့သို့ရောက်လာကြ၏။ထိုမြို့သို့ရောက်ပြီးလျှင်
သင်းဝင်သူတို့ကိုစုဝေးစေ၍မိမိတို့အားဖြင့်ဘုရားသခင်သည်ပြု
တော်မူသမျှတို့ကိုဇင်ရုံကြည်ခြင်းတံခါးကိုတပါးအမျိုးသားတို့အား

၂၈ ဖွင့်တော်မူကြောင်းကို ရင်ပြန်ကြားကြ၏။ ထိုမြို့၌ လည်း တပည့်
တော်တို့နှင့်အတူကြာမြင့်စွာနေကြ၏။

**

၁ ယုဒပြည်မှအန္တိအုတ်မြို့သို့ရောက်လာသောသူအချို့တို့ကသင်တို့သည်
မောရှေ၏တရားအတိုင်းအရေဖျားလှီးမင်္ဂလာကိုမခံလျှင်ကယ်တင်
တော်မူခြင်းသို့မရောက်နိုင်ဟုညီအစ်ကိုတို့အားဆုံးမြွက်ဩဝါဒပေးကြ
၂ ၏။ ထိုသူတို့ နှင့် ပေါလု။ဗာနဗ တို့သည် ဆွေးနွေး ညင်းခုံခြင်း
များသော အခါ ပေါလု။ဗာနဗ တို့သည် အခြားသော တပည့်တော်
အချို့တို့နှင့်တကွထိုပြဿနာ ကို အကြောင်းပြု၍ ယေရုရှလင်မြို့၌ ရှိ
သောတမန်တော်တို့ နှင့် သင်းအုပ်တို့ ထံသို့သွားရမည် အကြောင်းစီ
၃ ရင်ကြ၏။ သင်းဝင်သူတို့သည်လမ်းခရီးပို့ကြသဖြင့် ပေါလု။ဗာနဗတို့
သည်ဖိနိတ်ပြည်။ ရှမာရိပြည် ကို ရှောက်သွား၍တပါးအမျိုးသားတို့
ပြောင်းလဲခြင်း အကြောင်းအရာကိုကြားပြော သဖြင့် ညီအစ်ကိုအ
၄ ပေါင်းတို့ကိုအလွန်ဝမ်းမြောက်စေကြ၏။ ယေရုရှလင်မြို့သို့ ရောက်
ပြီးလျှင်တမန်တော်။သင်းအုပ်တို့မှစ၍သင်းဝင် သူများတို့တွင်လက်
ခံသိမ်းဆည်းခြင်းကျေးဇူးကိုခံရသည်ဖြစ်၍မိမိတို့ အားဖြင့်ဘုရား
၅ သခင်ပြုတော်မူသမျှတို့ကိုပြန်ကြားကြ၏။ ။ဖာရိရှဲလူစုထဲက
ယုံကြည်သော သူအချို့တို့သည်ထလျက်တပါးအမျိုးသားတို့ အားအရေ
ဖျားလှီးမင်္ဂလာ ကို ပေးရမည်။ မောရှေ၏တရား ကို ကျင့်စေခြင်းငှါ
၆ ဆုမ္မရမည်ဟုဆိုကြ၏။ ထိုအခါတမန်တော်တို့နှင့်သင်းအုပ်တို့သည်
၇ ထိုအမှုကိုကြည့်ရှုဆင်ချင်ရအောင်စည်းဝေးကြ၏။ များစွာသောဆွေး
နွေးညင်းခုံ ခြင်း ရှိ လေသော်ပေတရုထ လျက်ညီအစ်ကိုတို့။ ဘုရား
သခင်သည်ရှေးဦးစွာငါတို့တွင်ရွေးတော်မူ၍ငါဟောပြောသောအား
ဖြင့်တပါးအမျိုးသားတို့သည်ဧဝံဂေလိ တရားကိုကြား နာ၍ ယုံကြည်
၈ ရမည်အကြောင်းစီရင်တော်မူသည်ကိုသင်တို့သိကြ၏။ စိတ်နှလုံး
ကိုသိတော်မူသောဘုရားသခင်သည်သန့်ရှင်းသောဝိညာဉ်တော်ကို
ငါတို့အားပေးသည် နည်းတူ သူတို့အားပေးသဖြင့်သူတို့ဘက်သက်
၉ သေခံတော်မူ၏။ ယုံကြည်ခြင်းအားဖြင့်လည်းသူတို့၏စိတ်နှလုံးကို
၁၀ သန့်ရှင်းစေ၍ငါတို့နှင့်သူတို့ကို ချားနားစေတော်မမူ။ သို့ ဖြစ်လျှင်
ငါတို့မထမ်းနိုင်။ငါတို့အဖများလည်းမထမ်းနိုင်သောထမ်းဘိုးကိုတပည့်
တော်တို့၏လည်ပင်းအပေါ်၌တင်စေခြင်းငှါအဘယ်ကြောင့်ဘုရား

၁၁ သခင်ကိုရုံစမ်းကြသနည်း။ သခင်ယေရှု၏ကျေးဇူးတော်အားဖြင့်သါ
ထိုသူတို့သည် ကယ်တင် တော်မူခြင်းသို့ရောက်သည့်နည်းတူ ငါတို့
၁၂ သည်လည်းရောက်မည်ကိုငါတို့ယုံကြ၏ဟုပေတရုဆို၏။ ထိုအခါဗာနာ
ဗနှင့်ပေါလုတို့သည်မိမိတို့အားဖြင့်တပါးအမျိုးသားတို့တွင်ဘုရား
သခင်ပြုတော်မူသမျှသော နိမိတ်လက္ခဏာ။ အံ့ဖွယ်သောအမှုတို့ကို
ကြားပြောသည်ကို အပုအဝေး အားလုံး တို့သည်တိတ်ဆိတ်စွာနေ၍
၁၃ နားထောင်ကြ၏။ ။သူတို့သည်ကုန်စင်အောင်စကားပြော
၁၄ ပြီးမှယာကုပ်ကညီအစ်ကိုတို့။ငါ့စကားကိုနားထောင်ကြပါ။ ဘုရား
သခင်သည် မိမိ အမှီအလို့ငှါတပါးအမျိုးသါးအထဲကအချို့သောသူတို့
ကိုနှုတ်ယူခြင်းငှါရှေ့ဦးစွာတပါးအမျိုးသားတို့ကိုအကြည့်အရှုကြွလါ
၁၅ တော်မူသည့်အကြောင်းအရာကိုရှိမုန်ဟောပြောခဲ့ပြီး။ ထိုအကြော
၁၆ င်းအရာသည်လည်းပရောဖက်တို့၏စကားနှင့်ညီလျက်ရှိ၏။ ကျမ်း
စာလာသည်ကား။ ငါနာမတော်အားဖြင့်ထပ်ဆင့်၍ ခေါ်ဝေါ်အပ်
သောတပါးအမျိုးသားအပေါင်းတည်းဟူသော ကျန်ကြွင်းရစ်သော
လူများတို့သည် ထာဝရ ဘုရားသခင် ကို ရှာစေခြင်းငှါနောက်မှာ
၁၇ ငါပြန်လာမည်။ လဲလျက်ရှိသောဒါဝိဒ်၏တဲကိုဆောက်တည်ပြန်မည်။
ပြိုပျက်ရာများကိုလည်းပြုပြင်သဖြင့်ထိုတဲကို မတ်စေပြန်မည်ဟု
၁၈ ကမ္ဘာဦးမှစ၍သိတော်မူသော ဤအမှုအရာတို့ကိုစီရင်တော်မူသော
၁၉ ထာဝရဘုရား၏ဗျာဒိတ်တော်ရှိသည်ဟုလာသတည်း။ ထို့ကြောင့်
တပါးအမျိုးသားတို့ထဲမှဘုရားသခင်ဆီသို့ပြောင်းလဲသောသူတို့ကို
၂၀ မနှောင့်ရှက်ဘဲလျက် ရုပ်တုတို့၏ညစ်ညူးရာကိုငှင် မတရားသော
မေထုန်ကိုငှင်လည်ပင်းကိုညှစ်၍သတ်သောအရာကိုငှင်အသွေးကိုင
ငှင်ကြည်ရှောင်စေခြင်းငှါသူတို့ကိုမှာလိုက်သင့်သည်ဟုငါသဘောရှိ
၂၁ ၏။ အဘယ်ကြောင့်နည်းဟူမူကား။ မောရှေ၏ပညတ်ကျမ်းကိုတ
ရားဇရပ်၌ဥပုသ်နေ့တိုင်းဖတ်ရွတ်သဖြင့်မောရှေတရားကိုရှေးကာ
လမှစ၍ခပ်သိမ်းသောမြို့တို့၌ဟောပြောလေ့ရှိသည်ဟုယာကုပ်ဆို၏။

**

၂၂ ထိုအခါတမန်တော်။သင်းအုပ်တို့နှင့်သင်းဝင်သူအပေါင်းတို့သည်မိ
မိတို့အထဲ၌ရွေးကောက်၍ညီအစ်ကိုတို့တွင်ထင်ရှားသောသူတည်း
ဟူသောဗာသဗအမည်သစ်ရှိသောယုဒနှင့်သိလတို့ကိုအန္တိအုတ်မြို့
သို့ပေါလု။ဗာနာဗတို့နှင့်တကွစေလွှတ်မည်အကြောင်း။ သဘောညီ

၂၃ ညွှတ်ကြ၏။ သူတို့လက်ဖြင့်ပေးလိုက်သောစာဟူမူကား။ တမန်တော်
သင်းအုပ်ညီအစ်ကိုများတို့သည်အန္တိအုတ်မြို့မှာ၎င်း ရှုရိပြည်။ ကိလိ
ကိပြည်တို့၌၎င်းရှိနေ၍ တပါးအမျိုးသားဖြစ်သော ညီအစ်ကိုတို့ကိုမေတ္တါ
၂၄ နှင့်ကြားလိုက်ပါ၏။ လူအချို့တို့သည်ငါတို့အခွင့်မရှိဘဲ ငါတို့ဆီမှ
ထွက်သွား၍သင်တို့သည်အရေဖျားသိုးခြင်းမင်္ဂလာကိုခံရမည်။ ပညတ်
တရားကိုကျင့်ရမည် ဟူ သော စကားဖြင့် သင် တို့၏စိတ်နှစ်လုံးကို
၂၅ နှောင့်ရှက်ဖျက်ဆီးသည်ကိုငါတို့ကြားရသည်ဖြစ်၍ ငါတို့သခင်ယေ
၂၆ ရှုခရစ်၏အမှုတော်ကြောင့် မိမိအသက်ကို စွန့် ဝံ့ သော သူ တည်းဟူ
သော။ ငါတို့ချစ်သောဗာနာဗ။ ပေါလုတို့နှင့် တကွ ရွေးကောက် သော
သူတို့ကိုသင်တို့ဆီသို့စေလွှတ်ခြင်းငှါတညီတညွတ်တည်းစီရင်သည်
၂၇ နှင့်အညီ ၍အကြောင်းအရာကိုသင်တို့အားနှုတ်ဖြင့်ကြားစေခြင်း
၂၈ ငှါယုဒနှင့်သိလကိုစေလွှတ်ကြ၏။ ရုပ်တုရှေ့မှာပူဇော်သောယဇ်ကော
၂၉ င်ကိုဂုဏ်အသွေးကိုဂုဏ်လည်ပင်းကိုညှစ်၍ သတ်သောအရာကိုဂုဏ်မတ
ရားသောမေထုန်ကိုဂုဏ်ကြည်ရှောင်ရမည်ဟူသောပညတ်မှတပါးအ
ချားသောဝန်ကိုသင်တို့၏အပေါ်၌တင်ခြင်းငှါသန့်ရှင်းသောဝိညာဉ်
တော်နှင့်ငါတို့သည်အလိုမရှိ။ ထိုအရာများကိုကြည်ရှောင်အပ်၏။ ကျန်း
၃၀ မာပါစေသောဟုရေးလိုက်သတည်း။ ။ထိုသူတို့သည်သွားသောအ
ခွင့်ကိုရပြီးလျှင်အန္တိအုတ်မြို့သို့သွား၍လူအပေါင်းကိုစုဝေးစေသဖြ
၃၁ င့်မှာစာကိုအပ်ပေးကြ၏။ မှာစာကိုဖတ်ရွတ်သောအခါထိုသက်သါ
၃၂ ခြင်းအကြောင်းကြောင့်ဝမ်းမြောက်ခြင်းသို့ရောက်ကြ၏။ ယုဒနှင့်သိ
လတို့သည်ပရောဖက်ဖြစ်သဖြင့်များသော စကား နှင့် ညီအစ်ကိုတို့
၃၃ ကိုဆုံးမ၍မြဲမြံခိုင်ခံ့စေကြ၏။ ထိုသူတို့သည်အတန်အံရာနေပြီးမှတမန်
တော်တို့ဆီသို့ငြိမ် သက် စွာပြန်ရအောင် ညီအစ်ကို တို့ သည်အ ခွင့်
၃၄ ပေးကြ၏။ သို့သော်လည်းသိလသည်အလိုလိုနေသေး၏။ ပေါလု။
၃၅ ဗာနာဗတို့သည်လည်းအန္တိအုတ်မြို့၌နေလျက် အချားသောသူ အများ
တို့နှင့် တကွ ဆုံးမခြင်းဝါဒပေး ၍ သခင်ဘုရား၏နှုတ်ကပတ် တရား
၃၆ တည်းဟူသောဧဝံဂေလိတရားကိုဟောပြောကြ၏။ ။အခင်တန်
ကာလကြာသောအခါပေါလုကငါတို့သည် သခင်ဘုရား၏နှုတ်ကပတ်
တရားကိုဟောပြောဘူးသောမြို့များတို့၌ရှိသော ညီအစ်ကိုတို့ သည်
အဘယ်သို့ ရှိနေသည်ကိုကြည့်ရှု၍ပြန်သွားကြစို့ဟု ဗာနာဗ အားဆို
၃၇ ၏။ ဗာနာဗ သည် မာကုအမည် ရှိသောယောဟန်ကိုခေါ်ခြင်းငှါအ

၃၈ ကြံရှိ၏။ ပေါလုကားပံဖုလိပြည်၌ သူတို့နှင့်ခွာ၍အမှုထမ်းရာသို့
၃၉ မလိုက်မသွားသောထိုသူကိုမခေါ်သင့်ဟုသဘောရှိ၏။ ထိုအကြော
င်းနှင့်အချင်းချင်းမသင့်သဖြင့်တခြားစီသွား၍ ဗာနာဗသည်မာကု
၄၀ ကိုခေါ်လျက်ကုပရုကျွန်းသို့သွင်္ဘော်လေ၏။ ညီအစ်ကိုတို့သည်ပေါလုကို
ဘုရားသခင်၏ကျေးဇူးတော်သို့အပ်နှံကြပြီးမှသူသည်သိလကိုရွေး
၄၁ ချယ်သဖြင့်ထွက်၍အသင်းတော်များကိုမြဲမြံခိုင်ခံ့စေလျက် ရှုရိပြည်။
၁ ကိလိကိပြည်တို့ကိုရှောက်သွားလေ၏။ ။ထိုနောက်မှာပေါလု
သည်ဒေရဗေမြို့နှင့်လုတ္တရမြို့သို့ရောက်လေ၏။ လုတ္တရမြို့၌ တိမောသေအမည်ရှိသောတပည့်တော်တယောက်ရှိ၏။ သူ၏အမိကားယုံ
၂ ကြည်သောယုဒမိန်းမဖြစ်၏။အဖကားဟေလသလူဖြစ်၏။ ထိုသူသည်
လုတ္တရမြို့။ ဣကောနိမြို့၌ရှိသောညီအစ်ကိုတို့တွင်အသရေရှိသော
၃ သူဖြစ်၏။ ပေါလုသည်ထိုသူကိုခေါ်ခြင်းငှါအလိုရှိ၍သူ၏အဖဟေ
လသလူဖြစ်သည်ကိုထိုအရပ်တို့၌ရှိသောယုဒလူအပေါင်းတို့သည်
၄ သိသောကြောင့်အရေဖျားလှီးမင်္ဂလာကိုသူအားပေးလေ၏။ သူတို့
သည်မြို့များကိုရှောက်သွားစဉ်တွင်ယေရုရှလင်မြို့၌နေသောတမန်
တော်။ သင်းအုပ်တို့သည် စီရင်သောပညတ်တို့ကိုအသင်းများကျင့်
၅ စောင့်မှီရာအပ်ပေးကြ၏။ ထိုသို့အသင်းတော်တို့သည်ယုံကြည်ခြင်း
၌တည်ကြည်မြဲမြံသည်ဖြစ်၍ အရေအတွက်အားဖြင့်တနေ့ထက်တနေ့
၆ တိုးပွားများကြလေ၏။ ။ဖြုဂိပြည်။ဂလာတိပြည်ကိုရှောက်
သွားပြီးမှအာရှိပြည်၌နှုတ်ကပတ်တရားတော်ကိုမဟောရမည်အ
၇ ကြောင်း။သန့်ရှင်းသောဝိညာဉ်တော်သည်မြစ်တားတော်မူသဖြင့် မု
သိပြည်သို့ရောက်၍ဗိသုနိပြည်သို့သွားမည်ပြုကြစဉ်ယေရှု၏ဝိညာဉ်
၈ တော်သည်အခွင့်ပေးတော်မမူသောကြောင့် မုသိပြည်အနားမှာရှော
က်၍တရောမြို့သို့ရောက်ကြ၏။

❋❋

၉ ညည့်အခါပေါလုသည် ဗျာဒိတ်တော်ကိုမြင်ရ၍ မာကေဒေါနိလူတ
ယောက်ရပ်နေလျက်မာကေဒေါနိပြည်သို့ကူး ပါ။ ငါတို့ကို မ ပါဟု
၁၀ တောင်းပန်၏။ ထိုဗျာဒိတ်တော်ကိုမြင်ရလျှင်မာကေဒေါနိပြည်၌ဧဝံ
ဂေလိတရားကိုဟောစေခြင်းငှါသခင်ဘုရားသည်ငါတို့ကိုခေါ်တော်
မူသည်ဟုငါတို့သဘောကျသဖြင့် ထိုပြည်သို့သွားရအောင်ချက်ချင်း
၁၁ ရှာကြံကြ၏။ ထိုကြောင့်တရောမြို့မှသဘော်နှင့်သွင်္ဘော်လျှင် သာမော

သွား၍ထို မြို့ မှသဘော်နှင့်လှေ့င့် သဖြင့်ကုပရုကျွန်း သို့ရောက် ကြ၏။
၅ သလမိမြို့ ၌ရှိနေစဉ်ယုဒတရားဇရပ်များ တွင်ဘုရား သခင် ၏ နှုတ်
ကပတ်တရား တော် ကို ဟောပြော ကြ ၏။ ယောဟန် သည် လည်း ထို
၆။၇ သူတို့ လက် ထောက်ဖြစ်လေ၏။ တကျွန်း လုံး ကို ရှောက်၍ပါဖုမြို့သို့
ရောက်လျှင်သေရ္ဂိပေါလုအမည်ရှိသောမြို့ဝန်ထံ၌ပရောဖက် ရော
င်ဆောင်သောနတ်ဝိဇ္ဇာအတတ်သမား။ယုဒမျိုး။ ဗာယေရှုကိုတွေ့ကြ
၏။ထို မြို့ဝန် သည် ပညာသတိ ရှိသဖြင့်ဗာနာဗ နှင့် ရှောလုတို့ကိုခေါ်
ပင့်၍ဘုရားသခင် ၏ နှုတ် ကပတ် တရား တော်ကိုနာလိုသောစိတ် ရှိ
၈ လေသော် နတ်ဝိဇ္ဇာအတတ်သမားဟူ၍ဆိုလိုသောထိုဧလုမသည်မြို့
ဝန်ကိုရုံကြည်ခြင်းမှလွဲခြင်းငှါတမန်တော်တို့စကားကိုညင်းခံလေ၏။
၉ ထိုအခါပေါလုဟူ၍ ခေါ်ဝေါ်သောရှောလုသည်သန့်ရှင်းသောဝိညဉ်
တော်နှင့်ပြည့်သဖြင့် ထို နတ် ဝိဇ္ဇာ အတတ်သမား ကို စေ့ စေ့ကြည့်
၁၀ လျက် လှည့်စား ခြင်း။အကျိုးကိုဖျက်ခြင်းအမျိုး မျိုး နှင့်ပြည့်စုံသော
မာရ်နတ်၏သား။ ဖြောင့်မတ်ခြင်း တရား၏ရန်သူ။သင်သည်ထာဝရ
ဘုရား ၏ ဖြောင့် မတ် သော လမ်းခရီး တို့ကိုမဖျက် ဆီး ဘဲမနေနိုင်သ
၁၁ လော။ ယခုပင်ထာဝရဘုရား၏လက်တော်သည်သင်အပေါ်၌ရောက်
၍ နေကိုမမြင် နိုင် အောင် အင်တန် ကာလပတ်လုံးသင်၏မျက်စိကွယ်
လိမ့်မည်ဟုပေါလုဆို သောခဏတွင် မျက်စိမြေးရှက် ၍ မှောင်မိုက်အ
တိဖြစ်သဖြင့်လက်ဆွဲပေးသောသူတို့ကို ရှာလျက် တလည် လည် ရှိ၍
၁၂ နေ၏။ ထိုအကြောင်းအရာကိုမြင်လျှင် မြို့ဝန်သည်ရုံကြည် ခြင်းသို့
ရောက် ၍ သခင်ဘုရား၏ဒေသနာတော်ကိုအလွန် အံ့သြောမိန်း မော
၍နေ၏။

**

၁၃ ပေါလု နှင့်ပါသော သူတို့သည်ပါဖုမြို့ မှလှေ့င့်ကြ ၍ ပံဖုလိပြည် ပေရဂေ
မြို့သို့ရောက်ပြီး လျှင်ယောဟန် မလိုက် ဦးဘဲလျက်ယေရုရှလင် မြို့သို့
၁၄ ပြန်လေ၏။ ပေရဂေမြို့ မှထွက် သွားပြန် ၍ ပိသိဒိ ပြည် အန္တိအုတ်မြို့
သို့ရောက်ပြီးလျှင်ဥပုသ်နေ့ ၌ တရားဇရပ်သို့ဝင်၍ထိုင် နေကြ၏။
၁၅ ပညတ္တိကျမ်းအနာဂတ္တိကျမ်းကိုဖတ်ရွတ်ပြီးမှတရားဇရပ်မှူးတို့သည်
ညီအစ် ကိုတို့။လူများ အား ဆုံးမစရာစကား ရှိလျှင် ဟောပြောကြပါ
၁၆ ဟုကြားလိုက်လေ၏။ ။ထိုအခါပေါလုသည်ထ၍မိမိလက်
နှင့်အမှတ်ပေးလျက် ဣသရေလလူ မှစ၍ဘုရားသခင်ကို ကြောက်ရွံ

၁၇ သောသူတို့။နားထောင်ကြပါ။ ဣသရေလအမျိုး၏ဘုရားသခင်သည်
ငါတို့အဘများကိုရွေးကောက်တော်မူ၍ အဲဂုတ္တုပြည်၌ဧည့်သည်ဖြစ်
သောထိုလူမျိုးကိုချီးမြှောက်သဖြင့် တင်ရှားသောလက်တော်နှင့်ထို
၁၈ ပြည်မှနှုတ်ဆောင်တော်မူ၏။ အနှစ်လေးဆယ်မျှလောက်သောကာ
၁၉ လပတ်လုံးတောခရီးကျေးမွေးတော်မူ၏။ ခါနာန်ပြည်၌လူခုနစ်မျိုးတို့
ကိုပယ်ရှားပြီး လျှင်ထိုပြည်ကိုဣသရေလအမျိုးအားအမွေပေးကမ်
၂၀ ဝေဌတော်မူ၏။ ထိုနောက်မှာပရောဖက်ရှမွေလမပေါ်မရှိမီအနှစ်
လေးရာငါးဆယ်မျှလောက်သောကာလပတ်လုံးတရားသူကြီးတို့ကို
၂၁ ပေးတော်မူပြီးမှ ထိုအမျိုးသားတို့သည် မင်းကြီးကိုကောင်းသော
အခါ ရှောလုအမည်ရှိသော။ ကိရှ၏သား ဗင်္ယာမိန် မျိုးဖြစ်သောလူ
၂၂ တယောက်ကိုအနှစ်လေးဆယ်ပတ်လုံးပေးတော်မူ၏။ နောက်မှာထို
သူကိုပယ်၍ ဣသရေလမင်းကြီး အရာ၌ဒါဝိဒ်ကိုချီး မြှောက်ခန့်ထား
တော်မူပြန်၏။ထိုသူအားသက်သေခံတော်မူလျက်ငါ့စိတ်နှလုံးနှင့်
ညီညွတ်သည်ဖြစ်၍ငါ့အလိုကိုပြည့်စုံစေမည့်သူ။ယေရှဲ၏သားဒါ
၂၃ ဝိဒ်ကိုငါတွေ့ရပြီးဟုမိန့်တော်မူ၏။ ထိုသူ၏အမျိုးအနွယ်ထဲ၌ဘုရား
သခင်သည်ဂတိတော်အတိုင်းကယ်တင်သောသခင်ယေရှုကိုဣသရေ
၂၄ လလူတို့အားပေါ်ထွန်းစေတော်မူပြီး။ ထိုသခင်ကြွလာတော်မ
မူမီယောဟန်သည်ဣသရေလလူအပေါင်းတို့အားနောင်တတရားနှင့်
၂၅ စပ်ဆိုင်သောရေနှစ်မင်္ဂလာတရားကိုဟောပြောနှင့်လေ၏။ ယော
ဟန်သည် မိမိအမှုကိုဆောင်ရွက်နေလျှင် ငါသည်အဘယ်သူဖြစ်
သည်ကိုသင်တို့ထင်မှတ်ကြသနည်း။ ငါသည်ထိုသူဖြစ်သည်မ
ဟုတ်။ငါ့နောက်လာသောသူတပါးရှိ၏။ ထိုသူ၏ခြေနင်းတော်ကိုငါ
၂၆ မချွတ်ထိုက်ပါဟုဆို၏။ ။အာဗြဟံမျိုးဖြစ်သောညီအစ်ကိုမှ
စ၍သင်တို့တွင်ဘုရားသခင်ကိုကြောက်ရွံ့သောသူတို့။ ဤကယ်တင်
၂၇ တော်မူခြင်းတရားစကားကိုသင်တို့အားကြားလိုက်တော်မူ၏။ ယေ
ရုရှလင်မြို့၌နေသောသူတို့နှင့်တကွမင်းများတို့သည် ထိုသခင်ကိုဥင်
ဥပုသ်နေ့တိုင်းအစဉ်ဖတ်ရွတ်သောပရောဖက်တို့၏စကားကိုဥင်မ
သိနားမလည်သောကြောင့်ထိုသခင်ကိုစီရင်သောအားဖြင့်ထိုပရော
၂၈ ဖက်စကားကိုပြည့်စုံစေကြပြီးတကား။ ကိုယ်တော်၌သေထိုက်သော
အပြစ်တစုံတခုကိုမတွေ့သော်လည်း ကွပ်မျက်စေမည်အကြောင်း။ပိ
၂၉ လတ်မင်းထံ၌တောင်းလျှောက်ကြ၏။ ထိုသခင်ကိုရည်မှတ်၍ကျမ်

စာ ၌ ရေးထားသမျှတို့ကိုပြည့်စုံစေပြီးလျှင်အလောင်းတော်ကိုသစ်
၃၀ တိုင်မှန္နုတ်ယူ၍သင်းဂြိုင်းတွင်း၌ချထားကြ၏။ ဘုရားသခင်သည်
၃၁ လည်းသေခြင်းမှထမြောက်စေတော်မူသည် ဖြစ်၍ ဂါလိလဲပြည်မှ
ယေရုရှလင်မြို့သို့နောက်တော်လိုက်သောသူကို အားနေ့ရက်များစွာ
၃၂ ကိုယ်ကိုထင်ရှားပြတော်မူ၏။ ထိုသူကိုသည်လူများတို့အားသက်
၃၄ သေခံဖြစ်ကြ၏။ဆာလံကျမ်းဒုတိယခဏ်း၌လာသည်ကား။သင်သည်
ငါသားဖြစ်၏။ယနေ့ပင်သင်ကိုငါဖြင်ဖွားစေပြီးဟုလာသည် နှင့်အ
ညီဘုရားသခင်သည်ယေရှုကိုထမြောက်စေတော်မူသဖြင့်ငါတို့အဖ
များ၌ ရှိသောဂတိတော် ကို ထိုသူ ကို၏ သား။ ငါတို့အား ပြည့်စုံစေ
တော်မူသည်ဟူ၍ငင်ဒါဝိဒ် ၌ မြဲမြံသောကျေးဇူးတော်ကိုသင်တို့အား
ငါပေးမည်ဟုဗျာဒိတ်တော်နှင့်အညီ ထိုသခင်ကိုသေခြင်းမှထမြော
က်စေ ၍ သင်းဂြိုင်းတွင်း နှင့် နောက်တဖန်မဆက်ဆံဘဲအစည်ကင်း
လွတ်ရမည်အခွင့်ကိုပေးတော်မူသည် ဟူ၍ ငင် ဝမ်မြောက်စရာသိ
တင်းဧဝံဂေလိတရားကိုငါတို့သည်သင်တို့အားကြားပြောကြ၏။
၃၅ ထိုကြောင့်ဆာလံကျမ်းတခဏ်း၌လာသည်ကား။ ကိုယ်တော်၏သန့်
၃၆ ရှင်းသောသူအားပုပ်စပ်ခြင်းကိုရှိစေတော်မမူဟုလာ၏။ ဒါဝိဒ်သည်
မိမိကာလ၌ဘုရားသခင်၏အလိုတော်ကိုဆောင်ရွက်ပြီးလျှင်ကျိန်း
၃၇ စက်၍မိမိအဖရုတဲသို့ဝင်သဖြင့်ပုပ်စပ်ခြင်းနှင့်တွေ့ကြုံလေ၏။ ဘု
ရားသခင်ထမြောက်စေတော်မူသောသူသည်ပုပ်စပ်ခြင်းနှင့်မကြုံမ
၃၈ တွေ့။ ။ထိုကြောင့်ညီအစ်ကိုတို့။ထိုသခင်၏ကျေးဇူးတော်
ကြောင့်အပြစ်လွှတ်ခြင်းတရားကိုသင်တို့အားဟောကြားသည်ကိုင်
၃၉ ထိုသခင်ကိုယုံကြည်သောသူ ရှိသမျှတို့သည်မောရှေ၏တရားအတိုင်း
မလွှတ်နိုင်သောအပြစ်အားလုံးတို့မှလွှတ်ကြသည် ကို ငင်သိမှတ်ကြ
၄၀ လော့။ အနာဂတ္တိကျမ်း၌လာသည်ကား။ အားမနာတတ်သောသူတို့။
၄၁ ကြည့်ရှုအံ့ဩ၍ပြယ်ပျောက်ခြင်းသို့ရောက်ကြလော့။ အကြောင်း
မူကား။သင်တို့အားတစုံတယောက်သောသူသည်ပြည့်နှံသော်လည်း
သင်တို့နားမလည်နိုင်သောအမှုကို သင်တို့လက်ထက်ကာလ ၌ ငါပြု
သည်ဟုကျမ်းစာ၌ပါသောအရာသည်သင်တို့အပေါ်မှာမရောက်စေ
မည်အကြောင်း။သတိပြုကြလော့ဟုပေါလုဟောလေ၏။



၄၂ လူများတို့သည် ဇရပ်မှထွက်သွားကြစည် ထိုအကြောင်းအရာတို့ကို

မိမိတို့အားနောက်ဥပုသ်နေ့၌ဟောပြောပါမည်အကြောင်း။တောင်း
၄၃ ပန်ကြ၏။ အစည်းအဝေးဖျက်၍ပြန်ရသောအခါယုဒလူမှစ၍ဘုရား
ကိုကိုးကွယ်သော။ဘာသာဝင်သူများတို့သည်ပေါလုဗာနာဗနောက်
သို့လိုက်ကြသည်ဖြစ်၍ ထိုသူများတို့သည် ဘုရားသခင်၏ကျေးဇူး
တော်၌ကည်ကြည်ရည်အကြောင်း။တမန်တော်တို့သည် ဖျားယောင်း
၄၄ ၍ဆုံးမဩဝါဒပေးလေ၏။ ။နောက်ဥပုသ်နေ့၌ဘုရားသခင်
၏နှုတ်ကပတ်တရားတော်ကိုနာရအောင်တမြို့လုံးကုန်မတတ်စည်း
၄၅ ဝေးကြ၏။ ယုဒလူတို့သည်အစည်းအဝေးတို့ကိုမြင်လျှင်သူရူသော
စိတ်နှင့်ပြည့်စုံသဖြင့်ပေါလုစကားကို ညင်းခုံသည်သာမကဆဲရေး
၄၆ ကြ၏။ ။ထိုအခါပေါလု။ဗာနာဗတို့သည် ရဲရင့်ခြင်းသတ္တိရှိ
လျက်ဘုရားသခင်၏နှုတ်ကပတ်တရားတော်ကို သင်တို့အားရှေးဦး
စွာဟောပြောရ၏။သင်တို့သည်ပယ်၍ထာဝရအသက်ကိုမိမိတို့မခံ
၄၇ ထိုက်သည်ဟုမိမိတို့စီရင်ကြသောကြောင့် ထာဝရဘုရားသည်မှာ
တော်မူသည်အတိုင်းငါတို့သည်မျက်နှာကိုလွှဲ၍တပါးအမျိုးသားတို့
ဆီသို့လှည့်ကြ၏။ မှာတော်မူသောဗျာဒိတ်တော်အချက်ကား။ သင်
သည်မြေကြီးစွန်းတိုင်အောင်ကယ်တင်ခြင်းကိုပြုစိမ့်သောငှါသင်ကို
တပါးအမျိုးသားတို့လင်းစရာဘို့ငါခန့်ထား၏ဟုဗျာဒိတ်တော်ရှိသည်
၄၈ ဟုဆိုကြ၏။ ထိုစကားကိုတပါးအမျိုးသားတို့သည် ကြားလျှင်ဝမ်း
မြောက်၍ထာဝရဘုရား၏နှုတ်ကပတ်တရားတော်ကိုချီးမွမ်းကြ၏။
ထာဝရအသက်ရှင်ခြင်းကိုရစေခြင်းငှါခန့်ထားသောသူရှိသမျှတို့
၄၉ သည်ယုံကြည်ခြင်းသို့ရောက်ကြသဖြင့် ထာဝရဘုရား၏သာသနာ
၅၀ တော်သည်တပြည်လုံးနှံ့ပြားလေ၏။ ။ထိုအခါယုဒလူတို့သည်
ဘုရားကိုကိုးကွယ်၍အသရေရှိသောမိန်းမတို့ကို၎င် ထိုမြို့၌ ထင်ပေါ်
ခြင်းရှိသောလူကြီးတို့ကို၎င်နှိုးဆော်၍ပေါလု။ဗာနာဗတို့ ကို ညှဉ်း
၅၁ ဆဲစေသဖြင့်ထိုပြည်၏နယ်မှနှင်ထုတ်ကြ၏။ တမန်တော်တို့သည်
မိမိတို့ခြေဖဝါးမြေမှုန့်ကိုထိုသူတို့အားခါလိုက်၍ဣကောနိမြို့သို့သွား
၅၂ ကြ၏။ တပည့်တော်များတို့သည်ဝမ်းမြောက်ခြင်း နှင့် ၎င် သန့်ရှင်း
၁ သောဝိညာဉ်တော်နှင့်၎င်ပြည့်စုံကြ၏။ ။ဣကောနိမြို့သို့ရော
က်လျှင်ထိုသူနှစ်ပါးတို့သည်ယုဒတရားဇရပ်သို့ဝင်၍ဟောပြောသ
ဖြင့်ယုဒလူ။ဟေလသလူများအပေါင်းတို့သည်ယုံကြည်ခြင်းသို့ရောက်
၂ ကြ၏။ မယုံကြည် သောယုဒ လူ တို့သည် တပါး အမျိုး သား တို့ကို နှိုး

ဆောင်၍ ညီအစ်ကိုတို့အားမနာလိုသောစိတ်ကိုရှိစေခြင်းငှါဂုံးတိုက်
၃ ကြ၏။ ထိုကြောင့်ကြာမြင့်စွာနေသဖြင့်သခင်ဘုရား၏တရားတော်
ကိုမဆုတ်မဆိုင်းဟောပြောလေ၏။သခင်ဘုရားသည်လည်းကျေးဇူး
တရားတော်ဘက်သက်သေခံလျက်နိမိတ်လက္ခဏာ။အံ့ဖွယ်သော်အမှု
၄ တို့ကိုတမန်တော်ကိုလက်ဖြင့်ပြု နိုင်သောအ ခွင့်ပေးတော်မူ၏။ ထို
မြို့သူမြို့သားအပေါင်းတို့သည်ကွဲပြားခြင်းရှိ၍အချို့တို့ သည် ယုဒလူ
၅ တို့ဘက်၌ပုင်အချို့တို့သည်ကမန်တော်တို့ဘက်၌ ရင် နေ ကြ၏။ မင်း
အရာရှိတို့နှင့်ယုဒအမျိုး သား။ကပါးအမျိုးသားတို့သည်တမန်တော်
တို့ကိုညှဉ်းဆဲ၍ကျောက်ခဲနှင့်ပြစ်မည်တဟုန်တဉ်းပြေးလါကြသည်
၆ အကြောင်းကို တမန်တော်တို့သည်သိသဖြင့်လုကောနိပြည် ၌လုတ္တြ
၇ ရမြို့။ဒေရဗေမြို့မှစ၍ကျေးလက်များသို့ပြေးထွက်၍ ထိုအရပ်များ
မှာဧဝံဂေလိတရားကိုဟောပြောကြ၏။

**

၈ အမိဝမ်းထဲမှစ၍ခြေဆွံ့သဖြင့်တခါမျှမသွားဘူးသောလူတယောက်
၉ သည်လုတ္တြရမြို့၌ထိုင်လျက် ပေါလုဟောပြောသည်ကိုကြားလေ၏။
ပေါလုသည်လည်း ထို သူ ကို စေ့စေ့ကြည့်၍ အနာရောဂါကင်းမည်အ
၁၀ ကြောင်း။ယုံကြည်ခြင်းရှိသည်ကိုသိမြင်လျှင်ထ၍မတ်တတ်ရပ်တော့ဟု
ကြီးသောအသံနှင့်ဆိုသဖြင့်ထိုသူသည်ရုတ်တရက်ထ၍လှမ်းသွားလေ
၁၁ ၏။ ပေါလုပြုသောအမှုကိုလူအစုအဝေးတို့သည်မြင်လျှင်စကားသံ
ကိုလွှင့်လျက်နတ်ဘုရားတို့ သည် လူ အရောင်ဆောင် ၍ ငါတို့ ဆီသို့
ဆင်းသက်ပါသည်တကား ဟု လုကောနိဘာသာစကားအားဖြင့်ဆို
၁၂ ကြ၏။ ပေါလုသည်သာ၍ဟောပြောသော့ကြောင့်သူကိုဟောရမေဟု
၁၃ ၍ဗင်ဗာနာဗကိုဇုသဟူ၍ဗင်ခေါ်ဝေါ်ကြ၏။ ထိုမြို့ရှေ့၌ရှိသောဇုသ
၏ယဇ်ပရောဟိတ်သည်နွားနှင့် ပန်းကုံး ကိုမြို့တံခါးနားသို့ ယူခဲ့၍
၁၄ လူအစုအဝေးတို့နှင့်တကွယဇ်ပူဇော်မည်ပြုသည်ကို တမန်တော်ဗာ
နာဗပေါလုတို့သည်သိတင်းကြားလျှင်မိမိတို့အဝတ်ကိုဆုတ်၍ လူစု
၁၅ ထဲသို့ ပြေး ဝင် လျက် အချင်း လူ တို့။အဘယ်ကြောင့်ဤသို့ပြုကြသ
နည်း။ငါတို့သည်သင်တို့ကဲ့သို့လူ ဇာတိရှိသောသူ ဖြစ်ပါ၏။ သင်တို့
သည်ဤအချည်းနှီးသောအရာတို့ကိုပယ်ကြ၍ကောင်းကင်မြေကြီး
သမုဒ္ဒရာတို့မှစ၍အရပ်ရပ် ရှိလေသမျှတို့ ကို ဖန်ဆင်းတော်မူ ၍ အ
သက်ရှင်တော်မူသောဘုရားသခင်ဆီသို့ပြောင်းလဲကြမည်အကြော

၁၆ င်း။ ငါတို့သည် ဧဝံဂေလိတရားကိုဟောပြော၏။ ထိုဘုရားသခင်
သည်ရှေးလွန်လေပြီးသောကာလတို့၌ လူအမျိုးမျိုးတို့သည် မိမိတို့အ
၁၇ လိုအလျောက်ကျင့်ကြမည်အကြောင်း။အလွှတ်ထားတော်မူ၏။ သို့
သော်လည်းသင်တို့အားကျေးဇူးပြုလျက်အစာအာဟာရနှင့်ဝပြော
၍ဝမ်းမြောက်စေခြင်းငှါမိုဃ်းကောင်းကင်မှမိုဃ်းရွာစေတော်မူ၍အ
သီးအနှံ့တို့ကိုသီးစေတတ်သောဥတုကိုပေးတော်မူသောအားဖြင့်ဘု
ရားသခင်ရှိတော်မူသည်ကိုသက်သေခံဘဲနေတော်မမူဟုပေါလုဗါ
၁၈ နာဗတို့သည်ကျေးကျော်လေ၏။ ထိုသို့ကျေးကျော်သဖြင့် လူအစုအ
ဝေးတို့သည်ယဇ်ပူဇော်ခြင်းကိုမပြုရအောင်မြစ်တားလျက် မြစ်တား
၁၉ ခဲလှ၏။ ။ထိုအခါယုဒလူတို့သည်အန္တိအုတ်မြို့။ဣကောနိမြို့တို့
မှလာကြ၍လူအစုအဝေးတို့ကိုညှိ ဩွတ် တိုင်ပင်ပြီးလျှင် ပေါလုကို
၂၀ ကျောက်ခဲနှင့်ပြစ်၍သေပြီးဟုမိတ်ထင်နှင့်မြို့ပြင်သို့ဆွဲငင်ကြ၏။ တ
ပည့်တော်တို့သည်ဝန်းရံ၍နေကြစဉ်ပေါလုထ၍မြို့ထဲသို့ဝင်ပြန်၏။
၂၁ နက်ဖန်နေ့၌ဗာနာဗနှင့်တကွဒေရဗေမြို့သို့ထွက်သွားလေ၏။ ထိုမြို့၌
ဧဝံဂေလိတရားကိုဟောပြော၍လူအများတို့ကိုတပည့်တော်ဖြစ်စေ
ပြီးမှလုတ္တရမြို့။ ဣကောနိမြို့။ အန္တိအုတ်မြို့တို့ကိုအစဉ်အတိုင်းလှည့်
၂၂ လည်၍ပြန်ကြ၏။ ထိုသို့ပြန်ကြစဉ်တပည့်တော်များ၏ စိတ်နှစ်လုံး
ကိုမြဲမြံခိုင်ခံ့စေသဖြင့်ယုံကြည်ခြင်းတရား၌တည်ကြည်မည် အကြော
င်းနှိုးဆော်ချီးပင့်၍ငါတို့သည်များပြားသောညှဉ်းဆဲခြင်း ဆင်းရဲ
ဒုက္ခကိုခံ၍ဘုရားသခင်၏နိုင်ငံတော်သို့ဝင်ရကြမည်ဟုဟောပြော
၂၃ ပြဩွန်ကြ၏။ အသင်းတော်များတို့၌သင်းအုပ်တို့ကို ခန့်ထား၍အ
စားရှောင်လျက်ဆုတောင်းပဌနာပြုပြီးလျှင်သင်းဝင်သူတို့သည်ယုံ
ကြည်ရာသခင်ဘုရား၏လက်တော်သို့ ထိုအသင်းတော်များတို့ကို
၂၄ အပ်နှံကြ၏။ ပိသိဒိပြည်လုံးကိုရှောက်သွား၍ပံဖုလိပြည်သို့ရော
၂၅ က်လျှင် ပေရဂေမြို့၌နှုတ်ကပတ်တရားတော်ကိုဟောပြော၍အတ္တလိ
၂၆ မြို့သို့သွားပြန်ကြ၏။ ထိုမြို့မှသင်္ဘောနှင့်လွှင့်၍မိမိတို့ဆောင်ရွက်ခဲ့
ပြီးသောအမှုအလိုငှါ ဘုရားသခင်၏ကျေးဇူးတော်သို့အပ်နှံ၍ စေ
၂၇ လွှတ်သောအန္တိအုတ်မြို့သို့ရောက်လာကြ၏။ထိုမြို့သို့ရောက်ပြီးလျှင်
သင်းဝင်သူတို့ကိုစုဝေးစေ၍ မိမိတို့အားဖြင့်ဘုရားသခင်သည်ပြု
တော်မူသမျှတို့ကိုင်ယုံကြည်ခြင်းတံခါးကိုတပါးအမျိုးသားတို့အား

၄၀ ဖွင့်တော်မူကြောင်းကို ဧင်ပြန်ကြားကြ၏။ ထိုမြို့၌ လည်း တပည့်
တော်တို့နှင့်အတူကြာမြင့်စွာနေကြ၏။

**

၁ ယုဒပြည်မှအန္တိအုတ်မြို့သို့ရောက်လာသောသူအချို့တို့ကသင်တို့သည်
မောရှေ၏တရားအတိုင်းအရေဖျားလှီးမင်္ဂလာကိုမခံလျှင်ကယ်တင်
တော်မူခြင်းသို့မရောက်နိုင်ဟုညီအစ်ကိုတို့အားဆုံးမဩဝါဒပေးကြ
၂ ၏။ ထိုသူတို့ နှင့် ပေါလု။ဗာနဗ တို့သည် ဆွေးနွေး ညှင်းခုံ ခြင်း
များသော အခါ ပေါလု။ဗာနဗ တို့သည် အခြားသော တပည့်တော်
အချို့တို့နှင့်တကွထိုပြဿနာ ကို အကြောင်းပြု၍ ယေရုရှလင်မြို့ ၌ ရှိ
သောတမန်တော်တို့ နှင့် သင်းအုပ်တို့ ဆီသို့သွားရမည် အကြောင်းစီ
၃ ရင်ကြ၏။ သင်းဝင်သူတို့သည်လမ်းခရီးပို့ကြသဖြင့် ပေါလု။ဗာနဗတို့
သည်ဖိနိတ်ပြည်။ ရှမာရိပြည် ကို ရှောက်သွား၍တပါးအမျိုးသားတို့
ပြောင်းလဲခြင်း အကြောင်းအရာကိုကြားပြော သဖြင့် ညီအစ်ကို အ
၄ ပေါင်းတို့ကိုအလွန်ဝမ်းမြောက်စေကြ၏။ ယေရုရှလင်မြို့သို့ ရောက်
ပြီးလျှင်တမန်တော်။သင်းအုပ်တို့မှစ၍သင်းဝင် သူများတို့တွင်လက်
ခံသိမ်းဆည်းခြင်းကျေးဇူးကိုခံရသည်ဖြစ်၍မိမိ တို့ အားဖြင့်ဘုရား
၅ သခင်ပြုတော်မူသမျှတို့ကိုပြန်ကြားကြ၏။ ။ဖာရိရှဲလူစုထဲက
ယုံကြည်သောသူအချို့တို့သည်ထလျက်တပါးအမျိုးသားတို့အားအရေ
ဖျားလှီးမင်္ဂလာ ကို ပေးရမည်။ မောရှေ၏တရား ကို ကျင့်စေခြင်းငှါ
၆ ဆုံးမရမည်ဟုဆိုကြ၏။ ထိုအခါတမန်တော်တို့နှင့်သင်းအုပ်တို့သည်
၇ ထိုအမှုကိုကြည့်ရှုဆင်ချင်ရအောင်စည်းဝေးကြ၏။ များစွာသောဆွေး
နွေးညှင်းခုံ ခြင်း ရှိ လေသော်ပေတရုထ လျက် ညီအစ်ကိုတို့။ ဘုရား
သခင်သည်ရှေးဦးစွာငါတို့တွင်ရွေးတော်မူ၍ငါဟောပြောသောအား
ဖြင့်တပါးအမျိုးသားတို့သည်ဧဝံဂေလိ တရားကိုကြား နာ၍ ယုံကြည်
၈ ရမည်အကြောင်းစီရင်တော်မူသည်ကိုသင်တို့သိကြ၏။ စိတ်နှလုံး
ကိုသိတော်မူသောဘုရားသခင်သည်သန့်ရှင်းသောဝိညာဉ်တော်ကို
ငါတို့အားပေးသည် နည်းတူ သူတို့အားပေး သဖြင့်သူတို့ဘက်သက်
၉ သေခံတော်မူ၏။ ယုံကြည်ခြင်းအားဖြင့်လည်းသူတို့၏စိတ်နှလုံးကို
၁၀ သန့်ရှင်းစေ၍ငါတို့နှင့်သူတို့ကို ချားနားစေတော်မမူ။ သို့ ဖြစ်လျှင်
ငါတို့မထမ်းနိုင်။ငါတို့အဖများလည်းမထမ်းနိုင်သောထမ်းဘိုးကိုတပည့်
တော်တို့၏လည်ပင်းအပေါ်၌တင်စေခြင်းငှါအဘယ်ကြောင့် ဘုရား

၁၁ သခင်ကိုရုံစမ်ကြသနည်း။ သခင်ယေရှု၏ကျေးဇူးတော်အားဖြင့်သါ
ထိုသူတို့သည် ကယ်တင် တော်မူခြင်းသို့ရောက်သည်နည်းတူ ငါတို့
၁၂ သည်လည်းရောက်မည်ကိုငါတို့ရုံကြ၏ဟုပေတရုဆို၏။ ထိုအခါဗာနာ
ဗနှင့်ပေါလုတို့သည်မိမိတို့အားဖြင့်တပါးအမျိုးသား တို့တွင် ဘုရား
သခင်ပြုတော်မူ သမျှသော နိမိတ်လက္ခဏာ။ အံ့ဖွယ်သောအမှုတို့ကို
ကြားပြော သည်ကို အရပ်အဝေး အားလုံး တို့သည်တိတ်ဆိတ်စွာနေ၍
၁၃ နားထောင်ကြ၏။ ။သူတို့သည်ကုန်စင်အောင်စကားပြော
၁၄ ပြီးမှယာကုပ်ကညီအစ်ကိုတို့။ငါစကားကိုနားထောင်ကြပါ။ ဘုရား
သခင်သည် မိမိ အမှီအလို့ငှါတပါးအမျိုးသါးအထဲကအချို့သောသူတို့
ကိုနှုတ်ယူခြင်းငှါရှေဦးစွာတပါးအမျိုးသားတို့ကိုအကြည့်အရှုကြွလါ
၁၅ တော်မူသည်အကြောင်းအရာကိုရှိမုန်ဟောပြောခဲ့ပြီး။ ထိုအကြော
၁၆ င်းအရာသည်လည်းပရောဖက်တို့၏စကားနှင့်ညီလျက်ရှိ၏။ ကျမ်
စာလာသည်ကား။ ငါနောက်တော်အားဖြင့်ထပ်ဆင့် ၍ ခေါ်ဝေါ်အပ်
သောတပါးအမျိုးသား အပေါင်းတည်းဟူ သော ကျန်ကြွင်းရစ်သော
လူများတို့သည် ထာဝရ ဘုရားသခင် ကို ရှာ စေခြင်း ငှါနောက်မှာ
၁၇ ငါပြန်လာမည်။ လဲလျက်ရှိသောဒါဝိဒ်၏တဲကိုဆောက်တည်ပြန်မည်။
ပြိုပျက်ရာများကိုလည်းပြုပြင်သဖြင့်ထိုတဲကို မတ်စေပြန်မည်ဟု
၁၈ ကမ္ဘာဦးမှစ၍သိတော်မူသော ဤအမှု အရာတို့ကိုစီရင်တော် မူသော
၁၉ ထာဝရဘုရား၏ဗျာဒိတ်တော်ရှိသည်ဟုလာသ တည်း။ ထိုကြောင့်
တပါးအမျိုးသားတို့ထဲမှဘုရားသခင်ဆီသို့ပြောင်းလဲသောသူတို့ကို
၂၀ မနှောင့်ရှက်ဘဲလျက် ရုပ်တုတို့၏ညစ်ညူး ရာကိုရင် မတရား သော
မေထုန်ကိုရင်လည်ပင်းကိုညှစ်၍သတ်သောအရာကိုရင်အသွေးကိုရ
င်ကြည်ရှောင်စေခြင်းငှါသူတို့ကိုမှာလိုက်သင့်သည်ဟုငါသဘောရှိ
၂၁ ၏။ အဘယ်ကြောင့်နည်းဟူမူကား။ မောရှေ၏ ပညတ်ကျမ် ကို တ
ရားဇရပ်၌ဥပုသ်နေ့ တိုင်းဖတ် ရွတ်သဖြင့်မောရှေတရားကိုရှေးကာ
လမှစ၍ခပ်သိမ်းသောမြို့တို့၌ဟောပြောလေ့ရှိသည်ဟု ယာကုပ်ဆို၏။

**

၂၂ ထိုအခါတမန်တော်။သင်းအုပ်တို့နှင့် သင်းဝင်သူအပေါင်းတို့ သည်မိ
မိတို့အထဲ၌ရွေးကောက်၍ညီအစ်ကိုတို့ တွင် ထင်ရှား သောသူတည်း
ဟူသောဗာသဗအမည်သစ်ရှိ သော ယုဒ နှင့် သီလတို့ ကိုအန္တိအုတ်မြို့
သို့ပေါလု။ဗာနာဗတို့နှင့်တကွစေလွှတ်မည် အကြောင်း။ သဘောညီ

၂၃ ညွှတ်ကြ၏။ သူတို့လက်ဖြင့်ပေးလိုက်သောစာဟူမူကား။တမန်တော်
သင်းအုပ်ညီအစ်ကိုများတို့သည်အန္တိအုတ်မြို့မှာ၍ရှုရိပြည်၊ ကိလိ
ကိပြည်တို့၌ရှိနေ၍တပါးအမျိုးသားဖြစ်သောညီအစ်ကိုတို့ကိုမေတ္တါ
၂၄ နှင့်ကြွေးလိုက်ပါ၏။ လူအချို့တို့သည်ငါတို့အခွင့်မရှိဘဲငါတို့ဆီမှ
ထွက်သွား၍သင်တို့သည်အရေဖျားလှီးမင်္ဂလာကိုခံရမည်။ ပညတ်
တရားကိုကျင့်ရမည်ဟူသောစကားဖြင့်သင်တို့၏စိတ်နှလုံးကို
၂၅ နှောင့်ရှက်ဖျက်ဆီးသည်ကိုငါတို့ကြားရသည်ဖြစ်၍ ငါတို့သခင်ယေ
၂၆ ရှုခရစ်၏အမှုတော်ကြောင့် မိမိအသက်ကိုစွန့်ပုံသောသူတည်းဟူ
သော။ငါတို့ချစ်သောဗာနာဗ။ ပေါလုတို့နှင့်တကွရွေးကောက်သော
သူတို့ကိုသင်တို့ဆီသို့စေလွှတ်ခြင်းငှါတညီတညွှတ်တည်းစီရင်သည်
၂၇ နှင့်အညီ ၍အကြောင်းအရာကိုသင်တို့အားနှုတ်ဖြင့်ကြားစေခြင်း
၂၈ ငှါယုဒနှင့်သိလကိုစေလွှတ်ကြ၏။ ရုပ်တုရှေ့မှာပူဇော်သောယဇ်ကော
၂၉ င်ကိုရှင်အသွေးကိုရှင်လည်ပင်းကိုညှစ်၍သတ်သောအရာကိုရှင်မတ
ရားသောမေထုန်ကိုရှင်ကြည်ရှောင်ရမည်ဟူသောပညတ်မှတပါးအ
ချားသောဝန်ကိုသင်တို့၏အပေါ်၌တင်ခြင်းငှါသန့်ရှင်းသောဝိညာဉ်
တော်နှင့်ငါတို့သည်အလိုမရှိ။ထိုအရာများကိုကြည်ရှောင်အပ်၏။ကျန်း
၃၀ မာပါစေသောဟုရေးလိုက်သတည်း။ ။ထိုသူတို့သည်သွားသောအ
ခွင့်ကိုရပြီးလျှင်အန္တိအုတ်မြို့သို့သွား၍လူအပေါင်းကိုစုဝေးစေသဖြ
၃၁ င့်မှာစာကိုအပ်ပေးကြ၏။ မှာစာကိုဖတ်ရွတ်သောအခါထိုသက်သါ
၃၂ ခြင်းအကြောင်းကြောင့်ဝမ်းမြောက်ခြင်းသို့ရောက်ကြ၏။ ယုဒနှင့်သိ
လတို့သည်ပရောဖက်ဖြစ်သဖြင့်များသောစကားနှင့်ညီအစ်ကိုတို့
၃၃ ကိုဆုံးမ၍မြဲမြံခိုင်ခံ့စေကြ၏။ ထိုသူတို့သည်အတန်အံရာနေပြီးမှတမန်
တော်တို့ဆီသို့ညီမ်သက်စွာပြန်ရအောင်ညီအစ်ကိုတို့သည်အခွင့်
၃၄ ပေးကြ၏။ သို့သော်လည်းသိလသည်အလိုလိုနေသေး၏။ ပေါလု။
၃၅ ဗာနာဗတို့သည်လည်းအန္တိအုတ်မြို့၌နေလျက်အချားသောသူအများ
တို့နှင့်တကွဆုံးမသြဝါဒပေး၍သခင်ဘုရား၏နှုတ်ကပတ်တရား
၃၆ တည်းဟူသောဧဝံဂေလိတရားကိုဟောပြောကြ၏။ ။အင်တန်
ကာလကြာသောအခါပေါလုကငါတို့သည်သခင်ဘုရား၏နှုတ်ကပတ်
တရားကိုဟောပြောဘူးသောမြို့များတို့၌ရှိသောညီအစ်ကိုတို့သည်
အဘယ်သို့ရှိနေသည်ကိုကြည့်ရှု၍ပြန်သွားကြစို့ဟုဗာနာဗအားဆို
၃၇ ၏။ ဗာနာဗသည်မာကုအမည်ရှိသောယောဟန်ကိုခေါ်ခြင်းငှါအ

၃၈ ကြံရှိ၏။ ပေါလုကားပံဖုလိပြည်၌သူတို့နှင့်ခွာ၍အမှုတမ်ရာသို့
၃၉ မလိုက်မသွားသောထိုသူကိုမခေါ်သင့်ဟုသဘောရှိ၏။ ထိုအကြော
င်းနှင့်အချင်းချင်းမသင့်သဖြင့်တခြားစီသွား၍ ဗာနာဗသည်မာကု
၄၀ ကိုခေါ်လျက်ကုပရုကျွန်းသို့လှော်လေ၏။ ညီအစ်ကိုတို့သည်ပေါလုကို
ဘုရားသခင်၏ကျေးဇူးတော်သို့အပ်နှံကြပြီးမှသူသည်သိလကိုရွေး
၄၁ ချယ်သဖြင့်ထွက်၍အသင်းတော်များကိုမြဲမြံခိုင်ခံ့စေလျက် ရှုရိပြည်။
၁ ကိလိကိပြည်တို့ကိုရှောက်သွားလေ၏။ ။ထိုနောက်မှာပေါလု
သည်ဒေရဗေမြို့နှင့်လုတ္တရမြို့သို့ရောက်လေ၏။ လုတ္တရမြို့၌တိမော
သေအမည်ရှိသောတပည့်တော်တယောက်ရှိ၏။ သူ၏အမိကားယုံ
၂ ကြည်သောယုဒမိန်းမဖြစ်၏။အဖကားဟေလသလူဖြစ်၏။ ထိုသူသည်
လုတ္တရမြို့။ ဣကောနိမြို့၌ရှိသောညီအစ်ကိုတို့တွင်အသရေရှိသော
၃ သူဖြစ်၏။ ပေါလုသည်ထိုသူကိုခေါ်ခြင်းငှါအလိုရှိ၍သူ၏အဖဟေ
လသလူဖြစ်သည်ကိုထိုအရပ်တို့၌ရှိသောယုဒလူအပေါင်းတို့သည်
၄ သိသောကြောင့်အရေဖျားလှီးမင်္ဂလာကိုသူအားပေးလေ၏။ သူတို့
သည်မြို့များကိုရှောက်သွားစဉ်တွင်ယေရုရှလင်မြို့၌နေသောတမန်
တော်။ သင်းအုပ်တို့သည် စီရင်သောပညတ်တို့ကိုအသင်းများကျင့်
၅ စောင့်ဖို့ရာအပ်ပေးကြ၏။ ထိုသို့အသင်းတော်တို့သည်ယုံကြည်ခြင်း
၌တည်ကြည်မြဲမြံသည်ဖြစ်၍အရေအတွက်အားဖြင့်တနေ့ထက်တနေ့
၆ တိုးပွားများကြလေ၏။ ။ဖြုဂိပြည်။ဂလာတိပြည်ကိုရှောက်
သွားပြီးမှအာရှိပြည်၌နှုတ်ကပတ်တရားတော်ကိုမဟောရမည်အ
၇ ကြောင်း။သန့်ရှင်းသောဝိညာဉ်တော်သည်မြစ်တားတော်မူသဖြင့် မု
သိပြည်သို့ရောက်၍ဗိသနိပြည်သို့သွားမည်ပြုကြစဉ်ယေရှု၏ဝိညာဉ်
၈ တော်သည်အခွင့်ပေးတော်မမူသောကြောင့် မုသိပြည်အနားမှာရှော
က်၍တရောမြို့သို့ရောက်ကြ၏။



၉ ညည့်အခါပေါလုသည် ဗျာဒိတ်တော်ကိုမြင်ရ၍ မာကေဒေါနိလူတ
ယောက်ရပ်နေလျက်မာကေဒေါနိပြည်သို့ကူး ပါ။ ငါတို့ကို မ ပါဟု
၁၀ တောင်းပန်၏။ ထိုဗျာဒိတ်တော်ကိုမြင်ရလျှင်မာကေဒေါနိပြည်၌ဧဝံ
ဂေလိတရားကိုဟောစေခြင်းငှါသခင်ဘုရားသည်ငါတို့ကိုခေါ်တော်
မူသည်ဟုငါတို့သဘောကျသဖြင့် ထိုပြည်သို့သွားရအောင်ချက်ချင်း
၁၁ ရှာကြံကြ၏။ ထိုကြောင့်တရောမြို့မှသမောသြာ နှင့်လှော်လျှင် သာမော

သရက်ကျွန်းသို့တည့်တည့်သွား၍နက်ဖန်နေ့၌ နာပေါလိမြို့သို့ရော
၁၂ က်ကြ၏။ ထိုမြို့မှထွက်ပြန်လျှင်မင်းမှုလွှတ်သောမြို့တည်းဟူသော
မာကေဒေါနိပြည်တပိုင်းကိုအစိုးရသောဖိလိပ္ပိမြို့သို့ရောက်၍ကာလ
၁၃ အတန်အရာနေကြ၏။ ။ဥပုသ်နေ့၌ငါတို့သည်မြို့ပြင်သို့ထွက်
လျှင်ပဌနာဇရပ်ရှိတတ်ရာ။မြစ်နားသို့သွား၍ထိုင်ပြီးမှ ထိုအရပ်၌
၁၄ စည်းဝေးသောမိမ္မတို့အားဟောပြောကြ၏။ ထိုအခါလုဒိအမည်ရှိ
၍နီမောင်းသောအထည်အလိပ်ကိုရောင်းသောသွာတိရဲမြို့သားမိမ္မ
တယောက်သည်ဘုရားသခင်ကိုကိုးကွယ်သောသူဖြစ်၍နားထောင်
လေ၏။ထိုမိမ္မ၏စိတ်နှစ်လုံးကိုသခင်ဘုရားသည် ဖွင့်တော်မူ သော
အားဖြင့်ပေါလုဟောပြောသောစကားကို သူ သည် မှိဝဲ ဆည်းကပ်
၁၅ သည်ဖြစ်၍ အိမ်သူအိမ်သားတို့နှင့် တကွ ရေ နှစ်ခြင်းကိုခံပြီးမှ
ကျွန်ုပ်သည်သခင်ဘုရား၌အမှန် ရုံကြည် သည် ကို သင်တို့သည်ထင်
မှတ်လျှင်ကျွန်ုပ်အိမ်၌ဝင်၍နေကြပါတော့ဟု တောင်းပန် ၍ ငါတို့ကို
၁၆ ကြပ်ကြပ်သွေးဆောင်လေ၏။ ။ထိုနောက်မှာငါတို့သည်ပဌ
နာဇရပ်သို့သွားစဉ်တွင်နက်ဝင်သူဖြစ်၍အနာဂတ်ဟောသဖြင့်မိမိ
သခင်တို့အားစီးပွားများကိုပြုတတ်သောမိမ္မငယ်တယောက်သည်ငါ
၁၇ တို့ကိုဆီးကြိုလေ၏။ ထိုမိမ္မသည်ပေါလုနောက်ငါတို့နောက်သို့လိုက်၍
ဤသူတို့ကားအကျွတ်တရားလမ်းကိုငါတို့အားဟောပြော ပြသသော
အမြတ်ဆုံးသောဘုရားသခင်ကျွန်ဖြစ်ကြ၏ဟုဟစ်ကျော်လေ၏။
၁၈ ထိုသို့အဖန်များစွာပြုပြီးသည်ကိုပေါလုသည်စိတ်မသာသဖြင့်လှည့်
ကြည့်၍သင်သည်သူ၏အထဲမှထွက်သွားတော့။ယေရှုခရစ်၏အခွင့်
နှင့်ငါအမိန့်ရှိ၏ဟုထိုနတ်ကိုဆို လေသောခဏ‌တွင် နတ်သည်ထွက်
၁၉ သွား၏။ သူ၏သခင်တို့သည်ကားမိမိတို့အားစီးပွားရသည့်အကြော
င်းမှာမျှော်လင့်ခြင်းပျက်သည် ကို သိမြင်သောအခါပေါလုနှင့်သိလ
၂၀ တို့ကိုဖမ်းဆီး၍ရုံးမင်းတို့ဆီသို့ ဆွဲငင်ကြ ၏။ စစ်ကဲမင်း ထံသို့
ရောက်သောအခါ ဤလူတို့ သည်ယုဒလူ ဖြစ်လျက်ငါတို့မြို့ကိုနှောင့်
၂၁ ရှက်တတ်၏။ ရောမလူ ဖြစ် သော ငါတို့ သည် မခံ မယူ မ ကျင့်
အပ် သော ဘာသာ ထုံး တမ်း များ ကို ဟော ပြော-သွန်သင်တတ်ပါ
၂၂ ၏ ဟု လျှောက် ဆို ကြ လျှင် စုဝေးသောလူတို့ သည် သူတို့ ဘဖက်
တပြိုင်နက်ထ၍စစ်ကဲတို့လည်းသူတို့၏အဝတ်ကိုချွတ်စေသဖြင့်ကြိမ်
၂၃ လုံးနှင့်ရိုက်စေဟုစီရင်ကြ၏။ ဒါဏ်ချက်များနှင့်ရိုက်ပြီးမှလုံချုံစွာ

စောင့်စေဟုထောင်မှူးကိုမှာလိုက်၍ထောင်ထဲမှာလှောင်ထားကြ၏။
၂၄ ထိုသို့မှာလိုက်သည်အတိုင်းထောင်မှူးသည်အတွင်းထောင်ထဲမှာ
၂၅ လှောင်၍ထိတ်ခတ်ထား၏။ ။သန်းခေါင်ယံမှာပေါလုနှင့်သိ
လတို့သည်ပဌနာပြု၍ဘုရားသခင်ဂုဏ်ကျေးဇူးတော်ကိုသီချင်းဆို
လေ၏။ထောင်ထဲမှာလှောင်ထားလျက်ရှိသောသူတို့သည်နားထောင်
၂၆ ကြ၏။ ထိုခဏချင်းကြီးစွာသောမြေလှုပ်ခြင်းရှိသောအားဖြင့်ထော
င်မြေရင်းလှုပ်ရှားသည်နှင့်တံခါးအားလုံးတို့သည်ချက်ချင်းပွင့်၍လူ
၂၇ အားလုံးတို့သည်ချည်နှောင်ခြင်းနှင့်လွတ်ကြ၏။ ထောင်မှူးနိုး၍ထောင်
တံခါးများပွင့်လျက်ရှိသည်ကိုမြင်လျှင်လှောင်ထားလျက်ရှိသောသူ
တို့သည်ထွက်ပြေးပြီးဟုထင်မှတ်သည်နှင့်ဓားကိုအိမ်မှထုတ်၍ကိုယ်
၂၈ ကိုကိုယ်သတ်မည်ပြုလေ၏။ ပေါလုကလည်းကိုယ်ကိုကိုယ်အပြစ်မ
ပြုနှင့်။ငါတို့အားလုံးရှိကြ၏ဟုကြီးသောအသံနှင့်ဟစ်၍ဆို၏။
၂၉ ထောင်မှူးသည်မီးထွန်းကိုတောင်း၍ပြေးဝင်သဖြင့်ပေါလု။ သီလတို့
၃၀ ၏ခြေရင်း၌ဘုန်လှုပ်ပျပ်ဝပ်လေ၏။ သူတို့ကိုပြင်သို့ထုတ်ပြီးလျှင်
လည်းသခင်တို့။ကျွန်တော်သည်ကယ်တင်ခြင်းသို့ရောက်ရအောင်အ
၃၁ ဘယ်သို့ပြုရပါမည်နည်းဟုမေးလျှောက်လေ၏။ ထိုသူတို့လည်းသ
ခင်ယေရှုခရစ်ကိုယုံကြည်လော့။ယုံကြည်လျှင်သင်နှင့်သင်အိမ်သူအိမ်
၃၂ သားတို့သည်ကယ်တင်ခြင်းသို့ရောက်လိမ့်မည်ဟုဆို၍ ထိုသူနှင့်
တကွသူ၏အိမ်၌ရှိသောသူအပေါင်းတို့အားသခင်ဘုရား၏နှုတ်က
၃၃ ပတ်တရားတော်ကိုဟောကြ၏။ ထိုညည့်ထိုအချိန်နာရီ၌ပင်ထောင်
မှူးသည်ပေါလု။သီလတို့ကိုယူ၍ဒါဏ်ချက်ရာများကိုဆေးပြီးလျှင်
သူမှစ၍သူ့လူအားလုံးတို့သည်ချက်ချင်းရေနှစ်မင်္ဂလာကိုခံကြ၏။
၃၄ ထောင်မှူးသည်လည်းပေါလု။သီလတို့ကိုမိမိအိမ်သို့ခေါ်ပင့်ပြီးမှသူ
တို့ကိုကျွေး၍ဘုရားသခင်ကိုယုံကြည်လျက်အိမ်သူအပေါင်းတို့နှင့်တ
ကွဝမ်းမြောက်ခြင်းသို့ရောက်လေ၏။

❋❋

၃၅ နံနက်ရောက်သောအခါစစ်ကဲတို့သည်ရုံးလုလင်တို့ကိုစေလိုက်၍ထို
၃၆ လူတို့ကိုလွှတ်စေဟုဆိုကြ၏။ ထိုစကားကိုထောင်မှူးသည်ပေါလု
အားကြား၍ကိုယ်တော်တို့ကိုလွှတ်စေခြင်းငှါစစ်ကဲတို့သည်စေလိုက်
ကြပြီ။ထိုကြောင့်ယခုထွက်၍ငြိမ်ဝပ်စွာကြွသွားတော်မူကြပါဟု
၃၇ လျှောက်လျှင် ပေါလုကရောမလူဖြစ်သောငါတို့ကိုမစွဲသတ်အတိုင်း

မစီရင်ဘဲလျှက်စစ်ကဲတို့သည်ထင်ရှားစွာရိုက်၍ထောင်ထဲမှာလှော
င်ထားပြီးမှတိတ်ဆိတ်စွာလွှတ်လိုက်မည်လော့။ထိုသို့မလွှတ်လိုက်ရ။
ကိုယ်တိုင်လာ၍ငါတို့ကိုနုတ်ယူပါလေစေဟုရုံးလုလင်တို့အားဆို၏။
၃၈ ထိုစကားကိုရုံးလုလင်တို့သည်စစ်ကဲတို့အားကြားလျှောက်ကြ၏။
ပေါလု။သိလတို့သည်ရောမလူဖြစ်ကြောင်းကိုစစ်ကဲတို့သည်ကြား
၃၉ သိလျှင်ကြောက်ခြင်းသို့ရောက်၍ ကိုယ်တိုင်လာသဖြင့်ချော့မော့
သောစကားနှင့်သူတို့ကိုနုတ်ယူ၍ထိုမြို့မှထွက်သွားမည်အကြောင်း။
၄၀ တောင်းပန်လေ၏။ ထိုအခါပေါလု၊သိလတို့သည်ထောင်မှထွက်၍
လုဒိအိမ်သို့ဝင်သွားသဖြင့်ညီအစ်ကိုများကိုတွေ့မြင်၍သက်သာ
၁ စေပြီးမှထွက်သွားကြ၏။ ॥ထိုနောက်အံဖိပေါလိမြို့။အာပေါ
လောနိမြို့တို့ကိုရှောက်သွား၍သက်သာလောနိတ်မြို့သို့ရောက်ကြ၏။
၂ ထိုမြို့မှာယုဒတရားဇရပ်ရှိ၏။ ပေါလုသည်မိမိထုံးစံရှိသည်အ
တိုင်းထိုဇရပ်သို့ဝင်၍ဥပုသ်နေ့သုံးရက်တိုင်အောင်ကျမ်းစာကိုအမှီ
၃ ပြု၍ထိုသူတို့နှင့်ဆွေးနွေးနှီးနှောသဖြင့် ခရစ်တော်သည်အသေခံရ
မည်။သေခြင်းမှထမြောက်ရမည်။ငါဟောပြောသောယေရှုသည်ကား
၄ ခရစ်တော်ပင်ဖြစ်သည်ဟူ၍ဟောကြားပြသလေ၏။ ထိုသူအချို့တို့
သည်ရုံကြည်ခြင်းသို့ရောက်၍ပေါလု။သိလတို့နှင့်ပေါင်းဖော်ကြ၏။
ဘုရားကိုကိုးကွယ်သောဟေလသလူအပေါင်းနှင့်ထင်ရှားသောမိန်း
၅ မများတို့လည်းရုံကြည်ကြ၏။ ယုဒလူတို့သည်ဆိုးယုတ်လျှပ်ပေါ်သော
သူအချို့တို့ကိုခေါ်၍လူများကိုစုဝေးစေသဖြင့်မြို့၌အုတ်အုတ်သဲသဲပြု
ကြ၏။ယာသုန်၏အိမ်ကိုပိုင်း၍သူတို့ကိုလူများဆီသို့ဆွဲထုတ်ခြင်းငှါ
၆ ရှာကြ၏။ မတွေ့လျှင်ယာသုန်နှင့်ညီအစ်ကိုအချို့တို့ကိုမင်းအရာရှိ
တို့ထံသို့ဆွဲငင်၍လောကီနိုင်ငံကိုမှောက်လှန်သော ဤသူတို့သည်ဤ
၇ အရပ်တိုင်အောင်ရောက်ပါပြီ။ ယာသုန်သည်လည်းသူတို့ကိုလက်ခံ
ပါပြီ။ထိုသူအားလုံးတို့သည်ကဲသာဘုရင်၏အမိန့်တော်ကိုဆန့်
ကျင်ဘက်ပြု၍ယေရှုအမည်ရှိသောအခြားရှင်ဘုရင်တပါးရှိသည်
၈ ကိုဆိုတတ်ပါ၏ဟုဟစ်ကျော်သဖြင့် ထိုစကားကိုကြားရသောမင်း
၉ အရာရှိမှစ၍စုဝေးသောသူများကိုဒိတ်ခွာစေခြင်းငှါပြုကြ၏။ ထိုအ
ခါယာသုန်မှစ၍ကြွင်းသောသူတို့ကိုအာမခံပေးစေပြီးမှလွှတ်လိုက်
၁၀ ကြ၏။ ॥ညည့်အခါညီအစ်ကိုတို့သည်ပေါလုနှင့်သိလကိုဗေ
ရိမြို့သို့ချက်ချင်းလွှတ်လိုက်ကြ၏။ထိုမြို့သို့ရောက်လျှင်ယုဒဇရပ်အ

၁၁ ရုပ်သို့ဝင်ကြ၏။ ဗေရိမြို့သားတို့သည် သက်သာလောနိတ်မြို့သား
တို့ထက်ထူးမြတ်သဖြင့်အလွန်ကြည်ညိုသောစေတနာစိတ်နှင့်နှုတ်က
ပတ်တရားတော်ကိုခံယူ၍မှန်သည်မမှန်သည်ကိုသိရအောင်ကျမ်းစာ
၁၂ ကိုနေ့တိုင်းအစည်စေ့စေ့ကြည့်ကြ၏။ ထိုကြောင့်ယုဒလူအများတို့
သည်ရုံကြည်ခြင်းသို့ရောက်ကြ၏။ အသရေထင်ရှားသောဟေလသ
၁၃ မိမ္မတို့နှင့်ယောကျ်ားအများတို့သည် လည်းရုံကြည်ကြ၏။ ပေါလု
သည်ဗေရိမြို့၌ဘုရားသခင်၏နှုတ်ကပတ်တရားကိုဟောပြောသည်
ကိုသက်သာလောနိတ်မြို့သားယုဒလူတို့သည်ကြားသိလျှင်ဗေရိမြို့
၁၄ သို့လာပြန်၍လူများတို့ကိုတိုက်တွန်းနှိုးဆော်ကြ၏။ ထိုအခါညီအစ်
ကိုတို့သည်ပေါလုကိုပင်လယ်သို့သွားကျွန်ပြုစေသည်နှင့်ချက်ချင်း
၁၅ လွှတ်လိုက်ကြ၏။သိလနှင့်တိမောသေသည်နေရစ်ကြ၏။ ပေါလုကို
ပို့သောသူတို့သည် အာသင်မြို့တိုင်အောင်ပို့ဆောင်ပြီးမှ သိလ။ တိ
မောသေတို့သည်အလျင်အမြန်လာစေခြင်းငှါမှာစာကိုခံ၍ပြန်ကြ၏။

❋❋

၁၆ ပေါလုသည်အာသင်မြို့၌သိလ။တိမောသေတို့ကိုငံ့လင့်၍နေစဉ်တွင်
ထိုမြို့သည်ရုပ်တုတို့နှင့်အပြည့်ရှိသည်ကိုမြင်လျှင်စိတ်ပူခြင်းသို့
၁၇ ရောက်၏။ထိုကြောင့်တရားဇရပ်၌ယုဒလူမှစ၍ဘုရားကိုကိုးကွယ်
သောသူတို့နှင့်ဈေးလူများစုဝေးရာအရပ်၌နေ့တိုင်းတွေ့ကြုံသောသူ
၁၈ တို့နှင့်ဈေးဆွေးနွေးနှီးနှောခြင်းကိုပြု၏။ ထိုအခါဧပိကုရုတပည့်တို့
နှင့်သတောအိပ်ပညာရှိအချို့တို့သည်ပေါလုနှင့်ဆိုင်ပြိုင်၍အချို့တို့က
ဤမရေရသောလူသည်အဘယ်သို့ပြောချင်သနည်းဟုဆို၏။အချို့တို့
လည်း ဤသူသည် တကျွန်းတနိုင်ငံ ခုတ်ဘုရားတို့၏အကြောင်းကို
ဟောပြောသောသူဖြစ်ဟန်ရှိသည်ဟုဆို၏။ ဆိုသည်အကြောင်းဟူ
မူကား။ပေါလုသည်ယေရှု၏တရား။ထမြောက်ခြင်းတရားတည်းဟူ
၁၉ သောဧဝံဂေလိတရားကိုဟောသတည်း။ ထိုအခါထိုသူများတို့သည်
ပေါလုကိုယူ၍အာရေတောင်ဆီသို့ဆောင်သွားပြီးလျှင်သင်သည်
၂၀ ဟောပြောသောဤအယူဝါဒသစ်ကိုငါတို့သိအပ်သလော။ ငါတို့မသိ
မကျွမ်းဘူးသောအရာတို့ကိုသင်သည်ကြားပြော၏။ ထိုအရာများအ
၂၁ ဘယ်သို့ဆိုလိုသည်ကိုငါတို့သိချင်ပါသည်ဟုဆိုကြ၏။ အာသင်မြို့
သူအားလုံးတို့နှင့်ဧည့်သည်များတို့သည်သိတင်းစကားကိုကြားပြော
ခြင်း။နားထောင်ခြင်းအမှုဖြင့်သာကာလကိုလွန်စေကြသတည်း။

၂၂ ။ထိုအခါပေါလုသည်အာရေတောင့်ပေါ်၌ ရပ်လျက် အချင်း
အာသင်လူတို့။သင်တို့သည်ခပ်သိမ်းသောအရာတို့၌နက်ဘုရားတို
၂၃ ကိုရိုသေလွန်းသည်ကိုငါမြင်၏။ လမ်း၌သွား၍သင်တို့၏ဘုရားများ
ကိုငါကြည့်ရှုသည်တွင်မသိအပ်သောဘုရားသခင်အဖို့ဟူ၍အက္ခရာ
တင်သောယဇ်ပလ္လင်တခုကိုတွေ့ခဲ့ပြီး။သင်တို့သည်မသိဘဲကိုးကွယ်
၂၄ ကွယ်သောဘုရားသခင်၏အကြောင်းကိုငါဟောပြော၏။ လောက
ဓာတ်မှစ၍လောကဓာတ်၌ရှိလေသမျှသောအရာတို့ကိုဖန်ဆင်းတော်
မူသောဘုရားသခင်သည်ကားကောင်းကင်ကိုဇင်မြေကြီးကိုဇင်အ
စိုးရတော်မူသောအရှင်ဖြစ်လျက် နှင့် လူတို့လက်ဖြင့် လုပ်သောဗိတ်
၂၅ မှာန်၌ကျိန်းဝပ်နေတော်မူသည်မဟုတ်။ ဘုရားသခင်သည်ခပ်သိမ်း
သောသူတို့အား ဇီဝအသက် နှင့် တကွထွက်သက်ဝင်သက် မှစ၍ခပ်
သိမ်းသောအရာတို့ကိုပေးတော်မူသောသူဖြစ်လျက် နှင့် တစုံတခုကို
အလိုတော်ရှိသကဲ့သို့ လူတို့လက် ဖြင့် ကျွေး မွေးခြင်း ကို ခံတော် မူ
၂၆ သည်မဟုတ်။ ဘုရားသခင်သည်မြေတပြင်လုံး၌နေရသောလူအမျိုး
မျိုးတို့ကို တသွေးတည်း နှင့် ဖန်ဆင်းတော်မူ ၍ သူတို့အား ခွဲဝေ စီမံ
သောအချိန်ကာလကိုဇင်သူတို့၏နေရာအပိုင်းအခြားကိုဇင်မှတ်သား
၂၇ တော်မူ၏။ အကြောင်းမူကား။ လူတို့ သည် ဘုရားသခင် ကို ရှာ၍စမ်း
သ ဖြင့် တွေ့ ကောင်း တွေ့ ကြ လိမ့် မည် အကြောင်း တည်း။ သို့ ဆို
သော် လည်း ဘုရားသခင်သည် ငါတို့ တွင်အဘယ်သူနှင့် ဝေးတော်
၂၈ မူသည်မဟုတ်။ အဘယ်ကြောင့်နည်းဟူမူကား။ငါတို့သည်ဘုရား
သခင်အားဖြင့်အသက်ရှင်လျက်လှုပ်ရှားလျက်ဖြစ်လျက်ရှိကြ၏။ ထို
သို့နှင့်အညီသင်တို့တွင်လင်္ကာဆရာအချို့တို့ကငါတို့သည်ကား။ နွယ်
တော်သားပင်။ဘုရားမျိုးပေ။ဖြစ်ကြလေဟုဆိုသတည်း။ ။
၂၉ ထိုသို့ငါတို့သည်ဘုရားသခင်၏အမျိုးအနွယ်ဖြစ်လျက် နှင့် လူတို့ အ
တတ်။အကြံအစည်အားဖြင့်ထုလုပ်သော ရွှေရုပ်တု။ ငွေရုပ်တု။ ကျော
၃၀ က်ရုပ်တု နှင့်ဘုရားသခင်တူတော်မူသည်ဟု မထင်မှတ်အပ်။ မိုက်
မဲသည်အချိန်ကာလတို့၌ဘုရားသခင်သည် သည်း ခံဘူး သော်လည်း
ယခုမှာကိုယ်အပြစ်ကိုမြင်၍နောင်တရကြလော့ဟုခပ်သိမ်းသောအ
၃၁ ရပ်တို့၌ရှိသောလူအပေါင်းတို့အားပညတ်တော်မူ၏။ အဘယ်ကြော
င့်နည်းဟူမူကား။ခန့်ထားတော်မူသောသူအားဖြင့် လောကီ သား တို့
ကိုဖြောင့်မတ်ခြင်းတရားနှင့်ညီလျော်စွာစစ်ကြောစီရင်မည့်နေ့ရက်

ကို ချိန်းချက်တော်မူပြီး။ ထိုသူကို သေခြင်းမှ ထမြောက်စေတော်မူ
သောအားဖြင့်ခပ်သိမ်းသောလူတို့အားမှုံသောက်သောသက်သေကို
၃၂ ပြတော်မူပြီးဟုပေါလုဟောပြော၏။ သေသောသူတို့၏ထမြောက်
ခြင်းအကြောင်းကိုကြားလျှင်အချို့တို့ကကဲ့ရဲ့ကြ၏။ အချို့တို့ကဤအမှု
မှာသင်၏စကားကိုငါတို့သည်နောက်တဖန်နားထောင်လိမ့်မည် ဟု
၃၃ ဆိုကြ၏။ ထိုသို့ဆိုကြသောအခါပေါလုသည်ထိုသူတို့ အထဲမှ ထွက်
၃၄ သွားလေ၏။ လူအချို့တို့သည်ပေါလုနှင့်မှီဝဲဆည်းကပ်၍ ယုံကြည် ခြင်း
သို့ရောက်ကြ၏။ ထိုသူတို့ အဝင်ဒယောနုသိ အမည် ရှိ သော အာရေ
ဘောင်မင်းတယောက်။ ဒမာရိအမည်ရှိသောမိန်းမတယောက်မှစ၍ အ
ချားသောသူ ရှိကြ၏။

❋❋

၁ ထိုနောက်မှာပေါလုသည်အာသင်မြို့မှထွက်သွား၍ကောရိန္သုမြို့သို့
၂ ရောက်လေ၏။ ထိုအခါယုဒလူ အားလုံး တို့သည် ရောမမြို့မှ ထွက်
သွားစေခြင်းငှါကလောဒိမင်းအမိန့်တော် ရှိ သည် ဖြစ် ၍ ပုန္တုပြည်
သားအာကုလအမည်ရှိသောယုဒလူတယောက်သည်ဣတလိပြည်မှလာ
၍မိမိမယားပြစ်ကိလနှင့်တကွများမကြာရောက်သည်ကိုပေါလုတွေ့
၃ လျှင်သူတို့ဆီသို့ဝင်၍ အလုပ်ချင်းတူသောကြောင့်သူတို့နှင့်နေ၍အ
လုပ်လုပ်လေ၏။ ထိုသူတို့သည် တဲရှင် ကို လုပ်တတ်သောလက်သွား
၄ ဖြစ်၏။ ပေါလုသည်လည်းဥပုသ်နေ့မပြတ် တရားဇရပ်၌ဆွေးနွေး
ဟောပြော၍ယုဒလူ။ဟေလသလူတို့ကို ဖျားယောင်းသွေးဆောင်လေ
၅ ၏။ သိလ။တိမောသေတို့သည်မာကေဒေါနိပြည် မှရောက် လာသော
အခါပေါလုသည်သူတို့နှင့်တကွတရားဟောခြင်းအမှုကိုပြု၍ယေရှုခ
၆ ရစ်၏အကြောင်းကိုယုဒလူတို့အားကျိုးစား၍သက်သေခံ၏။ ယုဒ
လူတို့သည်ညင်းခုံဆဲရေးခြင်းကိုပြုသည်ရှိသော်ပေါလုသည် မိမိအ
ဝတ်ကို ခါလိုက်လျက်သင်တို့၏အသွေးသည် သင် တို့၏ ခေါင်းပေါ်၌
တည် စေ။ ငါကင်းလွတ်၏။ ယခုမှစ၍ တပါးအမျိုးသားတို့ဆီသို့ငါ
၇ သွားမည်ဟုဆိုသဖြင့် ထိုအရပ်မှထွက်၍ဘုရားသခင်ကိုကိုးကွယ်
သောယုစ္စုအမည်ရှိသောသူ၏အိမ်သို့သွား၏။ ထိုအိမ်သည်တရား
၈ ဇရပ်နှင့်စပ်လျက်ရှိသတည်း။ ကရိပ္ပုအမည်ရှိသောတရားဇရပ်မှူး
သည်မိမိအိမ်သူအပေါင်းတို့နှင့်တကွသခင်ဘုရားကိုယုံကြည်လေ၏။
ကောရိန္သုပြည်သားအများတို့သည်လည်း ယုံကြည် ၍ ရေနှစ်မင်္ဂလာ

၉ ကိုခံကြ၏။ ။ညဉ့်အခါသခင်ဘုရားသည်ပေါလုအားဗျာ
ဒိတ်တော်ကိုပြ၍ သင်သည်မကြောက်နှင့်။ တိတ်ဆိတ်စွာမနေနှင့်။
၁၀ ဟောပြောတော့။ ငါသည်သင်နှင့်အတူရှိ၏။သင်ကိုညှဉ်းဆဲအော
င်အဘယ်သူမျှအနိုင်အထက်မပြုရ။ဤမြို့၌ငါ့လူအများရှိကြ၏ဟုမိန့်
၁၁ တော်မူ၏။ ပေါလုသည်ထိုမြို့သူမြို့သားတို့အားဘုရားသခင်၏နှုတ်
ကပတ်တရားတော်ကိုဟောပြောသွန်သင်၍တနှစ်နှင့်ခြောက်လပတ်
၁၂ လုံးနေလေ၏။ ။အခါယပြည်ကိုဂါလျုန်မင်းသည်ဝန်သောအ
ခါယုဒလူများသည်တညီတညွတ်တည်းပေါလုကိုအတင်းတိုက်လု၍
၁၃ တရားပလ္လင်ဆီသို့ဆောင်ယူသွားပြီးလျှင် လူတို့သည်ဘုရားကိုမ
တရားသဖြင့်ကိုးကွယ်စေခြင်းငှါဤသူသည်ဖျားယောင်းတတ်သည်
၁၄ ဟုဆိုကြ၏။ ပေါလုသည်နှုတ်ကိုဖွင့်မည်ပြုသော်ဂါလျုန်မင်းက အ
ချင်းယုဒလူတို့။မတရားသောအမှု။ ဆိုးယုတ်ညစ်ညူးသောအမှု ဖြစ်
လျှင်ငါသည်သင်တို့ကိုအကြောင်းရှိသည် အတိုင်းသည်းခံရမည်။
၁၅ သို့မဟုတ်။ စကားသော်၎င် ခေါ်ဝေါ်သမုတ်ခြင်းသော်၎င် သင်တို့၏
ဘာသာတရားသော်၎င် အစီရင်ခံလျှင် သင်တို့သည် ကိုယ်အမှုကို
ကိုယ်စောင့်ကြတော့။ထိုသို့သောအမှုကိုစီရင်ခြင်းငှါငါအလိုမရှိဟု
၁၆ ဆိုသဖြင့် ယုဒလူတို့ကိုတရားပလ္လင်မှပယ်ရှားစေ၏။ ထိုအခါဟေ
လသလူအပေါင်းတို့သည် တရားဇရပ်မှူး သုသင်ကို ယူ၍ တရား
ပလ္လင်ရှေ့မှာရိုက်ကြ၏။ထိုအမှုကိုလည်းဂါလျုန်မင်းသည်အမှုမထား
၁၈ ဘဲနေ၏။ ။ထိုနောက်မှာပေါလုသည်တာရှည်စွာနေဦးပြီးမှညီ
အစ်ကိုတို့ကိုအခွင့်တောင်း၍ထိုမြို့မှထွက်သွား၏။အထက်ကသစ္စာဂ
တိပြုသည်နှင့်အညီကင်ခြေမြို့၌ခေါင်းရိပ်မင်္ဂလာကိုခံပြီးလျှင်ပြစ်ကိ
၁၉ လနှင့်အာကုလကိုခေါ်၍ရှုရိပြည်သို့သင်္ဘောနှင့်လွှင့်လေ၏။ ဧဖက်မြို့
သို့ရောက်လျှင်တရားဇရပ်သို့ဝင်၍ယုဒလူတို့နှင့်ဆွေးနွေးနှီးနှော
၂၀ လေ၏။ ထိုသူတို့သည်မိမိတို့ဆီမှာပေါလုနေပါဦးမည်အကြောင်းတော
၂၁ င်းပန်သောအခါပေါလုသည်ဝန်မခံဘဲလျက် ယခုရောက်လနီးသော
ပွဲကိုယေရုရှလင်မြို့၌ငါအမှန်ခံရမည်။ဘုရားသခင်အလိုတော်ရှိလျှင်
နောက်တဖန်သင်တို့ဆီသို့ ငါပြန်ဦးမည်ဟူ၍အခွင့်တောင်းပြီးလျှင်
ပြစ်ကိလနှင့်အာကုလကိုဧဖက်မြို့၌ ထားရစ်၍ သင်္ဘောနှင့်လွှင့်ပြန်
၂၂ လေ၏။ ကဲသရိမြို့သို့ရောက်လျှင်ယေရုရှလင်မြို့သို့တက်၍ အသင်း
၂၃ တော်နှင့်နှုတ်ဆက်ပြီးမှအန္တိအုတ်မြို့သို့သွားပြန်၏။ ထိုမြို့၌ အတန်

အရာနေပြီးလျှင်ထွက်ပြန်၍ ဂလာတိပြည်၊ ဖြုဂိပြည် ကို အစဉ်အ
တိုင်းရှောက်သွားသဖြင့်တပည့်တော်အပေါင်းတို့ကိုမြဲမြံ ခိုင်ခံ့စေ၏။

***

၂၄ အာပေါလုအမည်ရှိ သောအာလေဇန္ဒြိမြို့ သား တည်းဟူသော၊ နှုတ်
သတ္တိနှင့်ပြည့်စုံ၍ကျမ်းစာ၌အားကြီး သောယုဒလူတယောက် သည်
၂၅ ဧဖက်မြို့သို့ရောက်လာ၏။ ထိုသူသည် သခင် ဘုရား၏ဘာသာ၌
လေ့ကျက်၍စိတ်အားကြီးသဖြင့် သခင်ဘုရား၏အကြောင်းများ ကို
စေ့စေ့ဟောပြော၍ ရှုမ္ဘြဩဝါဒ ပေး၏။ သို့သော်လည်း ယောဟန်၏
၂၆ ရေနှစ်မင်္ဂလာကိုသာသိ၏။ ထိုသူသည်တရားဇရပ်၌ရဲရင့်စွာဟော
ပြောစပြုသဖြင့်အာကုလ။ပြစ်ကိလ္လထို့သည်သူ စကားကိုကြား လျှင်
သူကိုယူ၍ဘုရားသခင်၏ဘာသာတရားကိုသာ ၍ သေ ချာ အောင်
၂၇ သင်ကြားကြ၏။ ထိုသူသည်အခါယပြည် သို့ သွား ခြင်း ငှါ အလို ရှိ
သော်တပည့်တော်ချင်းတို့သည် သူကိုလက်ခံမည်အကြောင်း။ ညီအစ်
ကိုတို့သည်မှာစာကိုပေးလိုက်ကြ၏။ သူသည်ရောက်လာလျှင်ကျေး
၂၈ ဇူးတော်ကိုခံ၍ ယုံကြည်သောသူတို့ကို အားများစွာပေးလေ၏။ ယော
ရှုသည်ခရစ်တော်ဖြစ်တော်မူကြောင်း ကို ကျမ်း စာ ၌ ထင်ရှားပြသ
ဖြင့်ယုဒလူတို့၏စကားကိုလူအပေါင်းရှေ့မှာအားကြီးသည် နှင့်ပယ်
၁ ဖျက်လေ၏။ ။အာပေါလုသည်ကောရိန္သုမြို့၌နေစဉ်ပေါလု
သည်အထက်အရပ်များကိုရှောက်သွားပြီးမှဧဖက်မြို့သို့ ရောက် ၍တ
၂ ပည့်တော်အချို့တို့ကိုတွေ့လျှင် သင်တို့သည် ယုံကြည်သောနောက်သန့်
ရှင်းသောဝိညာဉ်တော်ကိုခံကြပြီးလောဟုမေးသည် ရှိသော်သန့်ရှင်း
သောဝိညာဉ်တော်ရှိမှန်းကိုမျှအကျွန်ုပ်တို့မသိပါဟုပြန်၍ဆိုကြ၏။
၃ ပေါလုကလည်းသို့ ဖြစ်လျှင် သင် တို့သည် အဘယ် မည်သော ရေ နှစ်
မင်္ဂလာကိုခံကြသနည်းဟုမေးလျှင်ယောဟန်၏ရေနှစ်မင်္ဂလာကိုခံပါ
၄ ပြီးဟုဆိုကြ၏။ ပေါလုကလည်းယောဟန်က ငါနောက် ကြွလာသော
သူကိုယုံကြည်ရမည်ဟုလူများတို့အားပြောဆို လျက် နောင်တ တရား
၏ရေ နှစ်မင်္ဂလာကိုပေးလေ၏။ထိုသို့ဆိုရာ၌ယေရှုကိုဆိုလိုသတည်း။
၅ ထိုစကားကိုကြားလျှင်သူတို့သည်သခင်ယေရှု ၏ ဘာသာ ဝင်ခြင်း
၆ အလိုငှါရေနှစ်မင်္ဂလာကိုခံကြ၏။ ပေါလုသည်လည်းသူတို့အပေါ်၌လက်
ကိုတင်လျှင်သန့်ရှင်းသောဝိညာဉ်တော်သည်ဆင်းသက်တော်မူသည်
နှင့်ထိုသူတို့ သည် အမျိုးမျိုးသောဘာသာစကားအားဖြင့် ပြော ၍ ပ

၇ ရောဖက်ပြုကြ၏။ ထိုသူတို့သည်အရေအတွက်အားဖြင့်တကျိပ်နှစ်
၈ ယောက်မျှလောက်ဖြစ်သတည်း။ ။ထိုနောက်မှာပေါလုသည်
တရားဇရပ်သို့ဝင်၍ သုံးလပတ်လုံး ဘုရားသခင်၏ နိုင်ငံတော်အ
ကြောင်းများကိုဆွေးနွေးနှီးနှောဖျားယောင်း သွေးဆောင် သဖြင့် ရဲ
၉ ရင့်စွာဟောပြောလေ၏။ အချို့သောသူတို့သည် စိတ်နိုင်မာ၍ မယုံ
ကြည်ဘဲနေလျက်လူများရှေ့မှာထိုဘာသာကိုကဲ့ရဲ့သောအခါပေါလု
သည်သူတို့အထဲမှထွက်သွား၍တပည့်တော်တို့ကိုနှုတ်ယူခွဲထားပြီး
၁၀ မှ တုရန္နုအမည်ရှိသောသူ၏စာသင်ဇရပ်၌နှစ်နှစ်ပတ်လုံးနေ့တိုင်း
ဟောပြောသောအားဖြင့်အာရှပြည်သူပြည်သားအပေါင်းတို့သည်
ယုဒလူဖြစ်စေ၊ဟေလသလူ ဖြစ်စေ၊ သခင် ဘုရား၏ နှုတ်ကပတ်တ
၁၁ ရားတော်ကိုကြားရကြ၏။ဘုရားသခင်သည်ပေါလုလက်ဖြင့်အလွန်
၁၂ တရာထူးဆန်းသောတန်ခိုးများကိုပြတော်မူသည်ဖြစ်၍ ပေါလုသုံး
သောပဝါ၊ခါးပန်း၊တခုခုကိုအနာရောဂါရှိသောသူတို့ဆီသို့ပေးလိုက်
၍သူတို့အနာရောဂါကွယ်ပျောက်၏။နတ်ဆိုးတို့လည်းထွက်သွား၏။
၁၃ ။ထိုအခါဒေသစာရီလှည့်လည်၍မိဌာန်သစ္စာပေးတတ်
သောယုဒလူအချို့တို့ကပေါလုဟောပြောသောယေရှုကိုငါတိုင်တည်
၍သင်တို့ကိုမိဌာန်သစ္စာပေး၏ဟုဆိုသဖြင့်နတ်ဆိုးစွဲသောသူတို့၏
၁၄ အပေါ်၌သခင်ယေရှု၏နာမတော်ကိုမြွက်စမ်းကြ၏။ သကောဝအ
မည်ရှိသောယဇ်ပုရောဟိတ်မင်း၏ သားခုနှစ်ယောက်တို့သည်ထို
၁၅ သို့ပြုကြ၏။ နတ်ဆိုးကလည်းယေရှုကိုငါသိ၏။ပေါလုကိုလည်းငါသိ
၁၆ ၏။သင်တို့ကားအဘယ်သူနည်းဟု ပြန်ဆိုလျှင် နတ်ဆိုးစွဲသောသူ
သည်ထိုသူတို့အပေါ်၌ခုန်၍နိုင်သဖြင့်လုရက်နှိပ်စက်၍ထိုအိမ်မှအ
၁၇ ဝတ်မပါဘဲအနာများနှင့်ထွက်ပြေးစေ၏။ ထိုအကြောင်းအရာကိုဧ
ဖက်မြို့၌နေသောယုဒလူဟေလသလူအပေါင်းတို့သည်ကြားသိလျှင်
ကြောက်ခြင်းသို့ရောက်၍သခင်ယေရှု၏နာမတော်ကိုချီးမွမ်းကြ၏။
၁၈ ယုံကြည်သောသူအများတို့သည်လည်းလာ၍မိမိအကျင့်တို့ကိုဖော်ပြ
၁၉ တောင်းပန်ကြ၏။ နက်ဓိဗ္ဗာအတတ်ကိုသုံးဆောင်သောသူအများ
တို့သည်လည်းမိမိတို့စာစောင်ကိုယူခဲ့၍ လူအပေါင်းတို့ရှေ့မှာမီးရှို့
ကြ၏။ စာစောင်အဖိုးကိုချင့်တွက်၍ ငွေအသပြာငါးသောင်းထိုက်
၂၀ သည်ကိုသိကြ၏။ ထိုသို့သခင်ဘုရား၏သာသနာတော်သည်တန်
ခိုးနှင့်တိုးပွား၍အောင်မြင်လေ၏။

**

၂၁ ထိုနောက်မှာပေါလုကငါသည်မာကေဒေါနိပြည်။အခါယပြည်ကိုရှော
က်သွားပြီးလျှင်ယေရုရှလင်မြို့သို့သွားမည်။ ထို မြို့သို့ ရောက် သော
၂၂ နောက်ရောမမြို့ကိုမြင်ရမည်ဟု စိတ်ထဲ၌ အကြံရှိသည်ဖြစ်၍ မိမိ
အားလုပ်ကျွေးသောသူနှစ်ယောက်။တိမောသေနှင့် ဧရတ္တုတို့ကိုမာ
ကေဒေါနိပြည်သို့စေလွှတ်ပြီးမှမိမိသည်အာရှိပြည်၌ခဏနေသေး၏။
၂၃ ။ထိုအခါဘာသာတရားကြောင့်အမှုကြီးရောက် လေ၏။
၂၄ ဒေမေကရိအမည်ရှိသောပန်းတိမ်သွားတယောက်သည်အာတေမိနတ်
သမီး၏ငွေဗိမ်မာန်ငယ်တို့ကိုလုပ်သဖြင့် ပန်းတိမ်သွားတို့အားစီး
၂၅ ပွားများကိုပြုတတ်၏။ ထိုသူသည်ပန်းတိမ်သွားတို့နှင့်ထိုသို့သော
အကတ်သွားများကိုရှုရုံးစေလျှင်အချင်းလူတို့။ဤအတတ်ကိုအမှီပြု၍
၂၆ ငါတို့အားစီးပွားအကျိုးဖြစ်သည်ကိုသင်တို့သိကြ၏။ ယခုတွင် ထို
ပေါလုကလူလက်ဖြင့်လုပ်သမျှတို့သည်ဘုရားမဟုတ်ဟု ဆိုသဖြင့်ဧ
ဖက်မြို့မှစ၍အာရှိပြည်လုံးကုန်မှတတ်လူအပေါင်းတို့ကိုဖျားယောင်း
၂၇ သွေးဆောင်သည်ကိုသင်တို့သည်မြင်လျက်ကြားလျက်ရှိကြ၏။ ထို
သို့လူများတို့သည် ငါတို့၏အတတ် ကို ကဲ့ရဲ့သည်သာမက ကြီးမြတ်
သောနတ်သမီးအာတေမိ၏ဗိမ်မာန်တော်ကိုပမာဏမပြုသဖြင့်အာရှိ
ပြည်လုံးမှစ၍လောကီနိုင်ငံသည်ကိုးကွယ်သောဘုန်းအသရေတော်
ပျက်စီးခြင်းသို့ရောက်မည်စိုးရိမ်စရာအကြောင်းရှိ ပါသည် ဟု ဆို
၂၈ ၏။ ထိုစကားကိုကြားလျှင်ထိုသူများသည်ဒေါသအမျက် နှင့် ပြည့်
သဖြင့်ဧဖက်လူတို့၏အာတေမိသည်ကြီးမြတ်တော်မူ၏ဟု အော်ဟစ်
၂၉ ကြ၏။ တမြို့လုံးရုန်းရင်းခတ်မျှဖြစ်၍ပေါလုနှင့်အတူဒေသစာရီသွား
သောမာကေဒေါနိလူဂါယု။အာရိတ္တာခတို့ကိုဆွဲယူသွားသဖြင့်တညီ
၃၀ တညွတ်တညီးပွဲခံဇရပ်ထဲသို့ဟုံးဟုံးပြေးဝင်ကြ၏။ ပေါလုသည်လူ
အရုထဲသို့ဝင်ခြင်းငှါအလို ရှိလျှင်တပည့်တော်တို့သည်မြစ်တားကြ
၃၁ ၏။ ပေါလုအဆွေဖြစ်သောအာရှိပွဲ မင်း အချို့တို့ကလည်းပွဲ ခံဇရပ်
ထဲ၌ကိုယ်ကိုကိုယ်အအပ်ပါနှင့်မှာသူဆီသို့စေလိုက်၍တောင်းပန်လေ
၃၂ ၏။ ရုဝေးသောလူတို့သည်ရုန်းရင်းခတ်မျှဖြစ်၍ တယောက် တချား
စီမြစ်ကျော်သဖြင့်အများတို့သည်ကိုယ်ရုဝေးရသည် အကြောင်းကို
၃၃ ပင်ကိုယ်မသိကြ။ ။ယုဒလူမှစသောအချားလူများတို့သည်
အာလေဇန္ဒြုကိုလူရုရှေ့သို့တွန်း၍သွားစေသဖြင့်သူသည်လက်နှင့်အ

မှတ်ပေး၍အပြင်ဓမ္မရာဇဝင်ကား ကို လူများတို့ အားပြောခြင်းငှါအလို
၃၄ ရှိ၏၊ သူသည်ယုဒလူဖြစ်သည်ကိုသိကြသောအခါ ဧဖက်လူတို့၏အာတေ
မိသည်ကြီးမြတ်တော်မူ၏ဟု နှစ်နာရီခန့် မျှသောက်လုအပေါင်းတို့
၃၅ သည်တသံတည်းနှင့်ဟစ်ကြသော်၊ မြို့စာရေးသည်လူများကိုတိတ်
စေပြီးသော်ဧဖက်လူတို့၊ ဧဖက်မြို့သည် ဇုသဘုရား မှ ကျသောရုပ်တု
တော် တည်းဟူသော ကြီးမြတ်တော်မူသော အာတေမိ ကို လုပ်ကျွေး
သောဘုရားကျွန်ဖြစ်သည်ကိုမသိသော သူကားအဘယ်သူ ရှိသနည်း။
၃၆ ဤအရာများကိုသည်ငြင်းခုံဘွယ်မရှိသည်ဖြစ်၍သင်တို့သည်တိတ်ဆိ
၃၇ တ်စွာနေသင့်၏။ သတိနှင့်မဆင်မချင်ဘဲအဘယ်အမှုကိုမျှမပြုသင့်။
ဗိမာန်တော်ကိုလုယူသူမဟုတ်။ သင်တို့၏ဘုရားသခင်ကိုမကဲ့
၃၈ ရဲ့သောဤလူတို့ကိုသင်တို့သည်ဆောင်ယူခဲ့ပြီ။ ဒေမေတြိမှစ
၍သူနှင့်အတူရှိသောပန်းတိမ်သည်များတို့သည် တစုံတယောက်သောသူ
၌အမှုရှိလျှင်ရုံးတော်ရှိ၏၊ မြို့ဝန်မင်းလည်းရှိ၏။ အမှုသည်ချင်းတရား
၃၉ တွေ့ကြပါလေစေ။ သို့မဟုတ် သင်တို့သည်အခြားအမှုကိုအစီရင်ခံလို
၄၀ လျှင်တရားသောအစည်းအဝေး၌စီရင်လိမ့်မည်။ ယနေ့ရုန်းရင်းခတ်
ခြင်းကိုပြုသောကြောင့်အမှုရောက်မည်စိုးရိမ်စရာရှိ၏။ အဘယ်ကြော
င့်နည်းဟူမူကား။ ဤမတရားသောစည်းဝေးခြင်းအကြောင်းကိုပြော
၄၁ စရာတစုံတခုမျှမရှိဟု ဆိုပြီးလျှင်အစည်းအဝေးကိုဖျက်လေ၏။

**

၁ ထိုရုန်းရင်းခတ်သောအမှုငြိမ်းသောအခါပေါလုသည်တပည့်တော်
၂ တို့ကိုခေါ်၍နှုတ်ဆက်ပြီးမှ မာကေဒေါနိပြည် သို့သွားလေ၏။ ထိုအ
ရပ်များကိုရှောက်သွား၍တပည့်တော်တို့ကိုစကားများ နှင့် ဆုံးမပြီး
၃ မှဟေလသပြည်သို့ရောက်လာ၏။ သုံးလနေပြီးလျှင်ရှုရိပြည်သို့ပင်
လယ် ကူး မည်ပြု သောအခါယုဒလူတို့သည်မကောင်းသောအကြံကို
၄ ကြံသောကြောင့်မာကေဒေါနိပြည်လမ်းဖြင့်ပြန်မည်အကြံရှိပြန်၏။ ပေါ
လုနှင့်အတူအာရှိပြည်သို့လိုက်သောသူဟူမူကား။ ဗေရိမြို့သားပုရု
၏သားဖြစ်သောသောပတရု။ သက်သာလောနိတ်မြို့သားအာရိတ္တာ
ခုနှင့်သေကုန္ဒု။ ဒေရဗေမြို့သားဂါယု။ လုတ္တရမြို့သားတိမောသေ။ အါ
၅ ရှိပြည်သားတုခိတ်နှင့်တရောဖိမ်။ ဤသူတို့သည်ငါတို့အရင်ထွက်
၆ သွား၍တရောမြို့၌ငါ့ကိုလင့်ကြ၏။ အဇုမပွဲနေ့ရက်လွန်ပြီးမှငါတို့သည်
ဖိလိပ္ပိမြို့မှသင်္ဘောနှင့်လွှင့်၍ငါးရက်အတွင်းတွင်သူတို့ရှိရာတရော

၇ မြို့သို့ရောက်၍ခုနှစ်ရက်နေကြ၏။ ။ခုနှစ်ရက်တွင်ပဌမနေ့
ရက်၌မုန့်ကိုဖဲ့ရအောင်စည်းဝေးကြသောအခါပေါလုသည်နက်ဖန်
နေ့ထွက်သွားမည်ဖြစ်၍သန်းခေါင်ယံတိုင်အောင်ဟောပြောလျက်
၈။၉ နေလေ၏။ စည်းဝေးရာအထက်ခန်း၌မီးခွက်အများရှိ၏။ ဥတုခုအ
မည်ရှိသောလုလင်တယောက်သည်ပြတင်းပေါက်နားမှာထိုင်လျက်
အိပ်ပျော်ကျူးလွန်သည်ဖြစ်၍ပေါလုသည်ကြာကြာဟောပြောသည်
တွင်ထိုသူသည်အိပ်ပျော်သဖြင့်လျော့၍အိမ်သုံးဆင့်အထက်မှအော
၁၀ က်သို့ကျ၏။သေလျက်ရှိသည်ကိုသူတို့သည်ချီကြွကြ၏။ ပေါလုသည်
အောက်သို့ဆင်းလျှင်သူ၏အပေါ်၌လဲ၍ဖက်ရမ်ပြီးမှအုတ်အုတ်သဲသဲ
၁၁ မပြုကြနှင့်။သူသည်အသက်ရှိ၏ဟုဆို၍ တက်ပြန်လေ၏။ မုန့်ကိုဖဲ့၍
စားသည်နှင့်မိုးလင်းသည်တိုင်အောင်ကြာကြာစကားပြောပြီးမှ
၁၂ ထွက်သွား၏။ အသက်ရှင်လျက်ရှိသောထိုလုလင်ကိုဆောင်ယူခဲ့၍
၁၃ အလွန်သက်သာခြင်းရှိကြ၏။ ။ငါတို့သည်ပေါလုအရင်
သင်္ဘောသို့သွား၍အဿုမြို့၌သူကိုခံယူမည်အကြံနှင့်ထိုမြို့သို့လွှင့်
ကြ၏။ပေါလုသည်ထိုမြို့သို့ကုန်းကြောင်းသွားမည်အကြံရှိ၍ထိုသို့စီ
၁၄ ရင်လေ၏။ အဿုမြို့၌သူသည်ငါတို့နှင့်တွေ့မိလျှင်သူကိုခံယူ၍မိတု
၁၅ လင်မြို့သို့သွားကြ၏။ ထိုမြို့မှလွှင့်ပြန်လျှင်နက်ဖန်နေ့ခိအုကျွန်းနား
မှာရောက်သွား၍နောက်တနေ့၌သာမုကျွန်းသို့ရောက်သဖြင့်တရော
ဂုလိအငူစွန်း၌နေကြ၏။နောက်တနေ့၌လည်းမိလက်မြို့သို့ရောက်ကြ
၁၆ ၏။ ပေါလုသည်ပင်တေကုတ္တေပွဲနေ့မလွန်မှီယေရုရှလင်မြို့သို့ရောက်
နိုင်လျှင်ရောက်ရအောင်ကျိုးစားသည်ဖြစ်၍အာရှိပြည်၌တာရှည်
စွာမနေလိုသဖြင့်ဧဖက်မြို့မှမဆိုက်ဘဲလွှင့်သွားမည်ဟုစိတ်ပြဌာန်း
လျက်ရှိနှင့်သတည်း။

❋❋

၁၇ မိလက်မြို့သို့ရောက်မှပေါလုသည်ဧဖက်မြို့သို့စေလိုက်၍သင်းအုပ်
၁၈ များကိုခေါ်လေ၏။ သူတို့သည်ရောက်ကြသောအခါပေါလုကလည်း
အာရှိပြည်သို့ငါရောက်သည်နေ့မှစ၍ယခုတိုင်အောင်သင်တို့ဆီမှာ
၁၉ အဘယ်သို့ငါကျင့်နေသည်ကိုသင်တို့သိကြ၏။ အလွန်နှိမ့်ချသော
စိတ်ရှိလျက်မျက်ရည်ကိုလျက်ယုဒလူတို့၏မကောင်းသောအကြံအား
ဖြင့်စုံစမ်းနှောင့်ရှက်ခြင်းကိုခံလျက်သခင်ဘုရား၏အမှုတော်ကိုငါ
၂၀ ဆောင်ရွက်သည်အကြောင်းအရာကိုသင်တို့သိကြ၏။ သင်တို့အ

ကျိုးပြုရသောစုံတခုကိုမျှငါမထိမ်မဝှက်။ လူများရှေ့ ၌ ၎င် အိမ်၌၎င်
၂၁ သင်တို့အားဟောပြော၍ဆုမ္မဩဝါဒပေးသဖြင့် ဘုရားသခင်ရှေ့
နောင်တရခြင်းတရားကို၎င်ငါတို့သခင်ယေရှုခရစ်ကိုရုံကြည်ခြင်း
တရားကို၎င်ယုဒလူ။ဟေလသလူတို့အားသက်သေခံသည့်အကြောင်း
၂၂ အရာကိုသင်တို့သိကြ၏။ ။ယခုမှာငါသည်ဝိညာဉ်တော်အား
ဖြင့်ချည်နှောင်လျက်ယေရုရှလင်မြို့သို့သွားရ၏။ထိုမြို့၌အဘယ်အမှု
၂၃ ရောက်မည်ကိုမသိ။ သို့သော်လည်းချည်နှောင်ခြင်း။ဘုည်းဆဲနှိပ်
စက်ခြင်းအမှုတို့သည်ငါကိုဆိုင်းလင့်သည်ကိုသန့်ရှင်းသောဝိညာဉ်
၂၄ တော်သည်မြို့တိုင်း၌ငါ့အားသက်သေခံတော်မူ၏။ ဘုရားသခင်၏
ကျေးဇူးတော်နှင့်ရှည်သောဧဝံဂေလိတရားကိုသက်သေခံစေခြင်းငှါ
သခင်ယေရှုလက်မှငါခံခဲ့ပြီးသောဆရာအရာ တည်းဟူသောငါတာ
ကိုဝမ်မြောက်စွာပြီးစီးရအောင်ထိုသူည်းဆဲခြင်းတစုံတခုကိုငါသည်
၂၅ ပမာဏမပြု။ကိုယ်အသက်ကိုလည်းနှစ်မြောခြင်းမရှိ။ ယခုမှုကားငါ
လှည့်လည် ၍ ဘုရားသခင်၏နိုင်ငံတော်အကြောင်းကိုဟောပြောရာ
သင်တို့အားလုံးသည်နောက်တဖန်ငါမျက်နှာကိုမမြင်ရဟုငါသိ၏။
၂၆ ထိုကြောင့်လူအပေါင်းတို့၏အသွေးနှင့် ငါကင်းလွတ်သည်ဟုယနေ့ ၌
၂၇ သင် တို့ အားငါ သက်သေခံ၏။ ဘုရားသခင်၏အလိုတော်ကိုသင်
တို့အားအကုန်အစင်ဟောပြောပြသခြင်းအမှုကိုငါမရှောင်ခဲ့ပြီး။
၂၈ ။ထိုကြောင့်သင်တို့သည်ကိုယ်ကိုကိုယ်သတိနှင့်ကြည့်ရှုကြ
လော့။ ဘုရားသခင်သည် မိမိအသွေးနှင့် ဝယ် ၍ ရတော်မူ သောအ
သင်းတော်ကိုလုပ်ကျွေးစေခြင်းငှါသန့်ရှင်းသောဝိညာဉ် တော် သည်
သင်တို့ကိုအအုပ်အချုပ်ခန့်ထားတော်မူသောသိုးစုအားလုံးကိုလည်း
၂၉ သတိနှင့်ကြည့်ရှုကြလော့။ အကြောင်းမူကား။ငါမရှိသည်နောက်ကြမ်
တမ်သောတောခွေးတို့သည်သိုးများကိုမသနားဘဲလျက်သင်တို့အထဲ
၃၀ ဝင်မည်ကို၎င်၊ တပည့်တော်များကိုသွေးဆောင်ခြင်းငှါမှားသောစကား
ကိုပြောတတ်သောလူတို့သည်သင်တို့အထဲ၌လည်းပေါ်လာမည်ကို၎
၃၁ င်ငါသိ၏။ ထိုကြောင့်စောင့်ရှောက်၍နေကြလော့။ ငါသည်သုံးနှစ်ပတ်
လုံးနေ့ညဉ့်မပြတ်လူအပေါင်းတို့ကို မျက်ရည် နှင့်တကွ ဆုမ္မ ၍ နေ
၃၂ ကြောင်းကိုအောင်းမေ့ကြလော့။ ။ညီအစ်ကိုတို့။ယခုငါသည်
သင်တို့ကိုဘုရားသခင်၌အပ်နှံ၏။ သင်တို့ကိုတည် ဆောက်ခြင်းငှါ
၎င်သန့်ရှင်းခဲ့ပြီးသောသူအပေါင်းတို့နှင့်အတူသင်တို့အားအမွေပေး

ခြင်းငှါ ငါ့ကိုတတ်နိုင်သောဘုရားသခင်၏ကျေးဇူးတော်တရား၌လည်း
၃၃ သင်တို့ကိုငါအပ်နှံ၏။ သူ့ရွှေ။ သူ့ငွေ။ သူ့အဝတ်တန်ဆာကိုငါမတပ်မ
၃၄ က်ခဲ့ပြီ။ ဤလက်တို့သည်ငါကိုဎင်ငါ့အပေါင်းအဖော်တို့ကိုဎ်လုပ်ကျွေး
၃၅ ခဲ့ပြီးဟုသင်တို့သည်ကိုယ်တိုင်သိကြ၏။ ထိုသို့သင်တို့သည်လည်း
အလုပ်လုပ်၍ဆင်းရဲသောသူတို့ကိုကူမရသည်ကိုဎင်အစွန့်အကြဲခံ
ခြင်းအရာထက်စွန့်ကြဲခြင်းအရာသည်သာ၍မင်္ဂလာရှိသည်ဟုသ
ခင်ယေရှုမိန့်တော်မူသောစကားတော်ကိုအောင်းမေ့ရသည်ကိုဎင်
၃၆ အရာရာ၌သင်တို့အားငါပြခဲ့ပြီးဟု ပေါလုဆိုပြီးလျှင်ဒူးထောက်၍
၃၇ ထိုသူအပေါင်းတို့နှင့်တကွဆုတောင်းလေ၏။ ထိုသူအပေါင်းတို့သည်
အလွန်ငိုကြွေးသဖြင့်ပေါလု၏လည်ဝင်းကိုဖက်ရမ်၍သူ့ကိုနမ်းကြ
၃၈ ၏။ နောက်တဖန်သူ၏မျက်နှာကိုမမြင်ရဟူသောစကားကိုအောင်း
မေ့သဖြင့်သာ၍စိတ်ကြေကွဲခြင်းသို့ရောက်သည်နှင့်သင်္ဘောသို့တိုင်
အောင်ပေါလုကိုပို့လိုက်ကြ၏။

**

၁ ထိုသူများနှင့်ငါတို့သည်ခွာသွား၍သင်္ဘောလွှင့်မှ ကောသကျွန်းသို့
တည့်တည့်သွား၍နက်ဖန်နေ့၌ ရောဒုကျွန်းသို့ဎင်ထိုကျွန်းမှ ပါတရ
၂ မြို့သို့ဎင်ရောက်ကြ၏။ ဖိနိတ်ပြည်သို့ကူးသောသင်္ဘောကိုတွေ့လျှင်
၃ ထိုသင်္ဘောကိုစီး၍လွှင့်ပြန်၏။ ကုပရုကျွန်းကိုမြင်လျှင်လက်ျာဘက်
၌ရှောက်သွားသဖြင့်ရှုရိပြည်သို့ကူး၍တုရုမြို့၌ဆိုက်လေ၏။ ထိုမြို့
၄ ၌သင်္ဘောသည်ဝန်ကိုချရ၏။ တပည့်တော်တို့ကိုတွေ့မှငါတို့သည်ခု
နှစ်ရက်နေကြ၏။ ပေါလုသည်ယေရုရှလင်မြို့သို့မတက်ရအောင်ထိုတ
၅ ပည့်တော်တို့သည်ဝိညာဉ်တော်အားဖြင့်ပြောကြ၏။ ခုနှစ်ရက်စေ့
သောအခါတပည့်တော်အပေါင်းတို့သည်သားမယားနှင့်တကွမြို့ပြင်
သို့ငါတို့ကိုလိုက်ပို့ကြသဖြင့်အားလုံးတို့သည်ထွက်သွား၍ပင်လယ်
၆ ကမ်းပေါ်၌ ဒူးထောက်လျက်ဆုတောင်းကြ၏။ အချင်းချင်းဖက်ရမ်
နှုတ်ဆက်ပြီးမှငါတို့သည်သင်္ဘောထဲသို့ဝင်၍သူတို့သည်မိမိအိမ်သို့
၇ ပြန်ကြ၏။ ။တုရုမြို့မှပတောလင်မြို့သို့သွားသဖြင့်ပင်လယ်
ကူးခြင်းနှင့်လွတ်ကြ၏။ ပတောလင်မြို့၌ညီအစ်ကိုတို့နှင့်နှုတ်ဆက်၍
၈ တရက်နေပြီးမှ နက်ဖန်နေ့ထွက်သွားပြန်၍ကဲသရိမြို့သို့ရောက်
လျှင်ဆရာခုနှစ်ပါးအဝင်။ သာသနာပြုဆရာဖိလိပ္ပု၏အိမ်သို့ဝင်၍
၉ နေကြ၏။ ထိုသူ၌ပရောဖက်ပြုသောသမီးကညာလေးယောက်ရှိ၏။

၁၀ ထိုအိမ်၌ဟာရှည်စွာနေကြပြီးမှအာဂေဗုအမည်ရှိသောပရောဖက်တ
၁၁ ယောက်သည်ယုဒပြည်မှလာ၍ ငါတို့ဆီသို့ဝင်သဖြင့် ပေါလု၏ခါး
ပန်းကိုယူ၍မိမိခြေလက်ကိုချည်နှောင်ပြီးလျှင်ဤခါးပန်းရှင်ကိုယုဒ
လူတို့သည်ယေရုရှလင်မြို့၌ချည်နှောင်၍ တပါးအမျိုးသားတို့လက်သို့
အပ်နှံလိမ့်မည်ဟုသန့်ရှင်းသောဝိညာဉ်တော်မိန့်တော်မူသည်ဟုအာ
၁၂ ဂဗုဆို၏၊ ထိုစကားကိုကြားလျှင်ငါတို့နှင့်ထိုအရပ်၌ရှိသောသူတို့
၁၃ ကယေရုရှလင်မြို့သို့မသွားပါနှင့်ဟုပေါလုကိုတောင်းပန်ကြ၏။ ပေါ
လုကလည်းအဘယ်ကြောင့်ငိုကြွေး၍ငါ၏စိတ်နှလုံးကိုကျေကွဲစေသ
နည်း၊ သခင်ယေရှုအတွက်ယေရုရှလင်မြို့၌ချည်နှောင်ခြင်းမက အ
၁၄ သေသတ်ခြင်းကိုပင်ခံခြင်းငှါငါအသင့်ရှိသည်ဟုဆို၏။ သူ့ကိုဖျောင်း
ဖျ၍မနိုင်လေသော်ငါတို့သည်တန့်နေ၍သခင်ဘုရားအလိုတော်
၁၅ အတိုင်းရှိပါစေဟုဆိုကြ၏။ ထိုနောက်မှာငါတို့သည်အသုံး
၁၆ အဆောင်များကိုပြင်ဆင်၍ယေရုရှလင်မြို့သို့သွားကြ၏။ ကဲသရိမြို့
သား၊တပည့်တော်အချို့တို့သည်ငါတို့နှင့်အတူလိုက်ကြ၍ငါတို့ကိုဧည့်
ခံမည်သူ၊ ကုပရုကျွန်းသား၊ မနာသုန်အမည်ရှိသော၊ အသက်ကြီး
၁၇ သောတပည့်တော်တယောက်ဆီသို့ပို့ဆောင်ကြ၏။ ယေရုရှလင်မြို့
သို့ရောက်သောအခါညီအစ်ကိုတို့သည်ကြည်သိုသောစိတ်နှင့်ငါတို့
၁၈ ကိုလက်ခံသိမ်းဆည်းကြ၏။ နက်ဖန်နေ့၌ပေါလုသည်ငါတို့နှင့်တကွ
ယာကုပ်ဆီသို့ဝင်လေ၏။ သင်းအုပ်အပေါင်းတို့သည်စည်းဝေးကြ
၁၉ ၏။ ပေါလုသည်ထိုသူများကိုဖက်ရမ်းနှုတ်ဆက်ခြင်းကိုပြုပြီးလျှင်
မိမိသည်ဆရာအမှုစောင့်ခြင်းအားဖြင့်ဘုရားသခင်သည်တပါးအ
မျိုးသားတို့တွင်ပြုတော်မူသမျှတို့ကိုသေချာစွာထုတ်ဖော်ပြသလေ
၂၀ ၏။ ထိုသူတို့သည်ကြားလျှင်ဘုရားသခင်ဂုဏ်တော်ကိုချီး
မွမ်းကြ၍ပေါလုအားလည်းငါတို့ညီ၊ ရုံကြည်သောယုဒလူဘယ်နှစ်
သောင်းရှိသည်ကိုသင်သည်သိမြင်၏။ ထိုသူအပေါင်းတို့သည်ပ
၂၁ ညတ်တရားဘက်စိတ်အားကြီးသောသူဖြစ်ကြ၏။ ညီကလည်းတ
ပါးအမျိုးသားတို့တွင်နေသောယုဒလူအပေါင်းကိုသင်တို့သားအား
အရေဖျားလှီးမင်္ဂလာကိုမပေးနှင့်။ ရှေးထုံးတမ်းအတိုင်းမကျင့်နှင့်ဟု
ဆို၍သူတို့သည်မောရှေတရားကိုစွန့်ရအောင်ဆုံးမသြဝါဒပေးသည်
၂၂ ကိုဤလူတို့သည်သိတင်းကြားကြပြီ။ သို့ဖြစ်လျှင်အဘယ်သို့ပြုရ
သနည်း။ လူအပေါင်းတို့သည်မစုဝေးဘဲမနေနိုင်ရာ။ သင်သည်ရော

၂၃ က်လာကြောင်းကိုကြားသိလိမ့်မည်။ ထိုကြောင့်အကျွန်ုပ်တို့ဆိုသည်
အတိုင်းပြုပါတော့။သစ္စာဂတိပြုပြီးသောလူလေးယောက်သည်အကျွ
၂၄ န်ုပ်တို့၌ရှိ၏။ ထိုသူတို့ကိုယူ၍သူတို့နှင့်တကွသန့်ရှင်းခြင်းကိုပြုသ
ဖြင့်သူတို့ခေါင်းရိပ်မင်္ဂလာစရိတ်ကိုပေးပါတော့။ထိုသို့ပြုလျှင်လူအ
ပေါင်းတို့သည် မိမိကြား သောသိတင်းစကားမမှန်သည်ကိုငင် သင်
သည်ကိုယ်တိုင်ပညတ်တရားကိုစောင့်ရှောက်၍နေသည်ကိုငင်သိရ
၂၅ ကြလိမ့်မည်။ ယုံကြည်ခြင်းသို့ရောက်သောတပါးအမျိုးသားတို့မူကား
ထိုသို့သော တရားကို မကျင့် မစောင့်ဘဲ လျက် ရုပ်တု ရှေ့မှာ ပူဇော်
သောယဇ်ကောင်ကိုငင်အသွေးကိုငင်လည်ပင်းကိုညှစ်၍သတ်သေါ
အရာကိုငင် မတရားသောမေထုန်ကိုငင်ရှောင် စေခြင်းငှါ သာငါတို့
သည်စီရင်၍ကြားလိုက်ခဲ့ပြီးဟုဆိုကြ၏။

❋❋

၂၆ ထိုအခါပေါလုသည်ထိုလူတို့ကိုယူ၍နက်ဖန်နေ့၌ သူတို့ နှင့်တကွသန့်
ရှင်းခြင်းကိုပြုပြီးမှဗိတ်မှာန် တော်သို့ ဝင် ၍ သူတို့အတွက်အသီးအ
ချား ပူ ဇော်သကာ ပြု ရသောအချိန် တည်းဟူ သော သန့်ရှင်း ခြင်း
၂၇ ကိုပြုသောနေ့ရက်စေ့မည်အချိန်ကိုကြားပြောလေ၏။ ထိုခုနှစ်ရက်
စေ့ခါနီးတွင်အာရှပြည်မှ လာ သောယုဒ လူတို့သည် ဗိတ် မှာန်တော်၌
ပေါလုကိုမြင်လျှင်ရုဝေးသောလူအပေါင်းကိုတိုက်တွန်းနှိုးဆော်၍
၂၈ ဣသရေလလူတို့။ကူမကြပါ။ဤသူကားငါတို့အမျိုး နှင့် ငင် ပညတ်တ
ရားနှင့် ငင် ဤအရပ်ဌာနနှင့် ငင် ခပ်သိမ်းသောအရပ်တို့ ၌ ဆန့်ကျင်
ဘက်ပြု၍လူအပေါင်းတို့အားဆုမ္ဘဩဝါဒပေးသောသူဖြစ်၏။ ထို့မျှ
မကဟေလသလူတို့ကိုဗိတ်မှာန်တော်ထဲသို့သွင်း၍ဤသန့်ရှင်း ရာဌာ
နကိုညစ်ညူးစေပြီးတကားဟုဟစ်ကျော်၍ပေါလုကိုဖမ်းဆီးကြ၏။
၂၉ အထက်ကမြို့ထဲ၌ပေါလုနှင့်အတူတရောဖိမ် အမည် ရှိသော ဧဖက်မြို့
သားတယောက်ကိုမြင်ကြသည်ဖြစ်၍ထိုသူကိုပေါလုသည်ဗိတ်မှာန်
၃၀ တော်ထဲသို့သွင်းသည်ဟုထင်မှတ်ကြ၏။ တမြို့လုံးရုန်းရင်းခတ်ဖြစ်
လျှင်လူများတို့သည် ပြေးလာ ၍ ရုဝေးခြင်းရှိသဖြင့်ပေါလု ကိုကိုင်
ယူ၍ဗိတ်မှာန်တော်ပြင် သို့ ဆွဲငင် ပြီးမှတခဏချင်းတံခါးများတို့ကို
၃၁ ပိတ်ထားကြ၏။ ။ပေါလုကိုသတ်မည်အားထုတ်ကြသောအ
ခါယေရုရှလင်မြို့တမြို့လုံးမညီမ်မသက်။ရုန်းရင်းခတ်ဖြစ်သည်ဟုလူ
၃၂ တထောင်ကိုအုပ်ချုပ်သောစစ်သူကြီးသည် သိတင်းကြားလျှင် စစ်

သူရဲများနှင့်တပ်မှူးတို့ကိုအသော့ခေါ်၍ထိုသူတို့ဆီသို့ ဆင်း ပြေးလေ
၏။ထိုသူတို့သည် စစ်သူကြီးနှင့်စစ်သူရဲတို့ကို မြင်လျှင် ပေါလုကိုမ
၃၃ ရိုက်ဘဲနေကြ၏။ ထိုအခါစစ်သူကြီးသည်အနီးသို့ရောက်၍ပေါလုကို
ယူလျှင်သံကြိုးနှစ်ချ နှင့် ချည်ချေ ဟု စီရင် ၍ ဤသူသည်အဘယ်သူ
၃၄ နည်း၊အဘယ်အမှုကိုပြုပြီးသနည်းဟုမေးစစ်လေ၏။ လူအစုအဝေး
ထဲ၌အသီးအသီးအချားအချားဟစ်ကျော် ၍ အသံများ သော့ကြောင့်
စစ် သူကြီး သည် အမှန် ကို မသိနိုင် သဖြင့် ပေါလုကိုရဲတိုက်ထဲသို့
၃၅ ဆောင်သွားစေခြင်း ငှါ စီရင် ပြန် လေ၏။ လူများတို့ သည် ပြင်းထံ
သော့ကြောင့်လှေကားပေါ်သို့ရောက်သောအခါစစ်သူရဲတို့သည်ပေါ
၃၆ လုကိုချီ ပို့၍ဆောင်ရကြ၏။ သူကိုထုတ်လော့ဟုလူများအပေါင်းတို့
၃၇ သည်ဟစ်ကျော်လိုက်ကြ၏။ ။ပေါလုသည်ရဲတိုက်ထဲ
သို့ဝင်လုသောအခါအကျွန်ုပ်သည်သင်နှင့်စကားပြောရပါမည်လော
ဟုစစ်သူကြီးအားမေးလျှင်စစ်သူကြီးကသင်သည်ဟေလသစကား
၃၈ ကိုနားလည်သလော။ သင်သည်အထက်ကပုန်ကန်၍ဓားမြလေးထော
င်တို့ကိုတောသို့ခေါ်သွားသောအဲဂုတ္တုလူ ဖြစ်သည် မဟုတ် လောဟု
၃၉ မေး၏။ ပေါလုကလည်းအကျွန်ုပ်သည်ကိလိကိပြည်တာရှုမြို့ ၌ မွေး
သောယုဒလူဖြစ်ပါ၏၊အကျွန်ုပ်မြို့ကားသာမညမြို့မဟုတ်။ဤလူများ
အားအကျွန်ုပ်ပြောရသောအခွင့်ကိုပေးပါ။အကျွန်ုပ်ပန်ကြားပါသည်
၄၀ ဟုဆို၏။ စစ်သူကြီးကအခွင့်ပေးသဖြင့် ပေါလုသည် လှေကားပေါ်
မှာရပ်၍မိမိလက်နှင့်လူတို့အားအမှတ်ကို ပေး၏။ အလွန်တိတ်ဆိတ်
၁ စွာနေကြသောအခါဟေဗြဲဘာသာ အားဖြင့် မြွက်ဆို လျက် ညီအစ်
ကိုအဘတို့။အကျွန်ုပ်သည်ကိုယ်အပြစ်ဖြေရာစကားကိုသင်တို့ရှေ့မှာ
၂ ယခုပြောစည်တွင်နားထောင်ကြပါဟုဆိုလေသော် ဟေဗြဲဘာသာ
အားဖြင့်ပြောသည်ကိုထိုသူတို့သည်ကြားလျှင်သာ၍တိတ်ဆိတ်ခြင်း
သို့ရောက်ကြ၏။

❋❋

၃ ပေါလုကလည်းအကျွန်ုပ်သည်ကိလိကိပြည်တာရှုမြို့ ၌မွေးသောယုဒ
လူဖြစ်ပါ၏။ဤမြို့မှာလည်းဂမလျေလအမည်ရှိသောဆရာ၏ခြေရင်း
၌ကျေးမွေးခြင်းကိုခံ၍မိစည်ဖဆက်ကျင့်သောတရားကိုသေချာစွာ
သိနားလည်ရအောင်နည်းဥပဒေသခံပါပြီး။သင်တို့အားလုံးသည်ယ
နေ့တိုင်အောင်ဘုရားသခင်ဘက် စိတ်အားကြီးသည် နည်းတူအကျွ

၄ နှိပ်လည်းစိတ်ကြီးသဖြင့် ယောကျာ်းမိန်းမတို့ကိုချည်နှောင်၍ထောင်
ထဲမှာလှောင်ထားလျက်အသေသတ်ခြင်းသို့တိုင်အောင် ထိုဘာသာ
၅ ကိုညှဉ်းဆဲပါပြီ။ ထိုသို့အတိုင်းယဇ်ပရောဟိတ်မင်းမှစ၍လွှတ်
အရာရှိအားလုံးတို့သည်အကျွန်ုပ်ဘက်သက်သေဖြစ်ကြ၏။သူတို့ထံ
မှလည်းအကျွန်ုပ်သည်ညီအစ်ကိုတို့ဆီသို့မှာစာကိုခံပြီးမှဒမာသက
မြို့၌ရှိသောထိုဘာသာဝင်သူတို့ကို ဒါဏ်ခံစေခြင်းငှါချည်နှောင်၍
ယေရုရှလင်မြို့သို့ပို့ရအောင်ဒမာသကမြို့သို့အကျွန်ုပ်သွားပါ၏။
၆ ။လမ်း၌သွား၍ဒမာသကမြို့သို့ရောက်ခါနီးတွင်မွန်းတည့်အ
ချိန်လောက်။ကောင်းကင်ထဲကကြီးသောအလင်းသည် အကျွန်ုပ်ပတ်
၇ လည်ရုတ်ခနဲထွန်းတောက်သဖြင့် အကျွန်ုပ်သည်မြေပေါ်၌လဲ၍ရှော
လု။ရှောလု။အဘယ်ကြောင့်ငါ့ကိုညှဉ်းဆဲသနည်းဟုအကျွန်ုပ်အား
၈ ပြောသောစကားသံကိုကြားလျှင် သခင်။ကိုယ်တော်သည်အဘယ်
သူနည်းဟုအကျွန်ုပ်ပြန်၍မေးလျှောက်လေသော် ငါကားသင်ညှဉ်း
၉ ဆဲသောနာဇရက်မြို့သားယေရှုဖြစ်သတည်းဟုမိန့်တော်မူ၏။ အ
ကျွန်ုပ်နှင့်ပါသောသူတို့သည် ထိုအလင်းကိုမြင်၍ကြောက်ခြင်းသို့
ရောက်သဖြင့် အကျွန်ုပ်အားပြောသောသူ၏စကားသံ ကိုမကြားမ
၁၀ သိရ။ ထိုအခါအကျွန်ုပ်ကလည်းသခင်။အကျွန်ုပ်အဘယ်သို့ပြုရပါ
မည်နည်းဟုလျှောက်လျှင်သခင်ဘုရားကထတော့။ဒမာသကမြို့သို့
သွားတော့။သင်ဆောင်ရွက်စရာဘို့ခွဲခန့်စီမံသမျှတို့ကိုထိုမြို့၌ပြော
၁၁ လိမ့်မည်ဟုမိန့်တော်မူ၏။ ထိုအလင်း၏ရောင်ခြည်အရှိန်အားဖြင့်
အကျွန်ုပ်မျက်စိကန်းသည်ဖြစ်၍အကျွန်ုပ်နှင့်ပါသောသူတို့သည်လက်
၁၂ ဆွဲသဖြင့်ဒမာသကမြို့သို့ရောက်ပါ၏။ ။ပညတ်တရားနှင့်
အညီဘုရားဝတ်၌မွေ့လျော်၍ငင်ထိုမြို့မှာနေသောယုဒလူအပေါင်း
၁၃ တို့တွင်အသရေရသော။အနနိအမည်ရှိသောလူတယောက်သည် အ
ကျွန်ုပ်ဆီသို့လာ၍အနား၌ရပ်လျက်ညီရှောလု။မျက်စိတဖန်မြင်ခြင်း
၁၄ သို့ရောက်တော့ဟုဆို၏။ထိုခဏ၌သူကိုအကျွန်ုပ်ကြည့်မြင်ရ၏။ သူ
၁၅ ကလည်းသင်သည်မြင်လေသမျှ။ကြားလေသမျှတို့ကိုလူအပေါင်းတို့
အားပြော၍ သခင်ဘုရား၏ သက်သေခံ ဖြစ်မည် အကြောင်း။ သင်
သည်ဘုရားသခင်၏အလိုတော်ကိုသိစေခြင်းငှါ၎င်း ဖြောင့်မတ်တော်
မူသောသူကိုမြင်စေခြင်းငှါ၎င်းနှုတ်တော်ထွက်ကိုကြားစေခြင်းငှါ၎
င်ငါတို့အဘများ၏ဘုရားသခင်သည်သင်ကိုရွေးချယ်ခန့်ထားတော်

၁၆ မူ၏။ ယခုတွင်လည်းသင်သည်အဘယ်ကြောင့်ဆိုင်းနေသနည်း။ထ
တော့။သခင်ဘုရားကိုပဌနာပြုလျက်ရေနှစ်မင်္ဂလာကိုခံ၍သင်၏အ
၁၇ ပြစ်များကိုဆေးကြောတော့ဟုဆိုပါ၏။ ။ထိုနောက်မှာယေ
ရုရှလင်မြို့သို့အကျွန်ုပ်ပြန်၍ဗိမာန်တော်၌ဆုတောင်းစဉ်။ဘဝင်
၁၈ ကျ၍ သခင်ဘုရားကသင်သည်ကျိုးစား၍ယေရုရှလင်မြို့မှ အလျင်
အမြန်ထွက်သွားတော့။ငါ့အကြောင်းကိုသင်သည်ပြော၍သက်သေခံ
သောစကားကိုဤလူတို့သည် မခံဘဲနေကြလိမ့်မည် ဟု မိန့်တော်မူ
၁၉ လျက်ရှိသည်ကိုအကျွန်ုပ်မြင်လေ၏။ အကျွန်ုပ်ကလည်းသခင်။ကိုယ်
တော်ကိုယုံကြည်သောသူတို့ကိုအကျွန်ုပ်သည်ထောင်ထဲ၌လှောင်ထား
သည်။တရားဇရပ်များ၌ရိုက်သည်အကြောင်းကိုသူတို့သိကြပါ၏။
၂၀ ကိုယ်တော်၏သက်သေခံဖြစ်သောသတေဖန်၏အသွေးကိုသွန်းလော
င်းသောအခါအကျွန်ုပ်သည်အနား၌နေလျက်ဝန်ခံ၍သူကို ကွပ်မျက်
၂၁ သောသူတို့၏အဝတ်ကိုစောင့်နေပါ၏ဟု လျှောက်ဆိုလျှင်သခင်ဘု
ရားက လည်းသွားတော့။ ငါသည်တပါးအမျိုးသားတို့ဆီသို့သင်ကို
ဝေးလှစွာစေလွှတ်မည် ဟု အကျွန်ုပ်အားမိန့်တော်မူသည် ဟု ပေါလု
၂၂ မြွက်ဆို၏။ ။ထိုမျှတိုင်အောင်ပေါလု၏စကားကိုနားထောင်
ပြီးလျှင်ထိုသူတို့သည်ဟစ်ကျော်၍ထိုသို့သောသူကို မြေကြီးပြင်မှ
၂၃ သုတ်သင်ပယ်ရှင်းလော့။သူသည်အသက်မရှင်သင့်ဟုဆိုကြ၏။ ထို
သို့အော်ဟစ်ခြင်း။ကိုယ်အဝတ်ကိုချွတ်ခြင်း။ဖုတ်ကိုကောင်းကင်သို့
၂၄ ပြစ်လိုက်ခြင်းကိုပြုကြစဉ်။ သူတို့သည် ပေါလုကိုအဘယ်ကြောင့်
ထိုသို့ဟစ်ကျော်ကြသည်ကိုစစ်သူကြီးသိလို၍ပေါလုကိုရဲတိုက်ထဲ
၂၅ သို့သွင်းစေ။ရိုက်၍စစ်ကြောစေဟုစီရင်လေ၏။ သားရေကြိုးနှင့်ရိုက်
မည်ပြင်ဆင်ကြသောအခါ ပေါလုက ရောမလူ ဖြစ်သောသူကို ဓမ္မ
သတ်အတိုင်းမစီရင်ဘဲလျက်သင်တို့သည် ရိုက်ရသလော ဟု အနား
၂၆ ၌ရပ်နေသောတပ်မှူးအားဆို၏။ တပ်မှူးသည်ကြားလျှင်စစ်သူကြီး
ထံသို့သွား၍အဘယ်သို့ပြုပါမည်နည်း။ဤသူသည်ရောမလူ ဖြစ်ပါ
၂၇ သည်ဟုကြားလျှောက်၏။ စစ်သူကြီးသည် လည်းပေါလုဆီသို့လာ
၍သင်သည်ရောမလူမှန်သလော။ငါ့အားပြောတော့ဟုဆိုလျှင်မှန်ပါ
၂၈ ၏ဟုပေါလုဆို၏။ စစ်သူကြီးကလည်းအကျွန်ုပ်သည်ငွေ အများကို
ပေး၍ရောမလူအရိပ်အရာကို ရသည် ဟု ဆိုလျှင်ပေါလုကအကျွန်ုပ်
၂၉ သည်ဇာတိအားဖြင့်ရပါသည်ဟုဆို၏။ ထိုအခါပေါလုကိုစစ်ကြော

မည်ပြုသောသူတို့သည်သူဆီမှချက်ချင်းသွား၍သူသည်ရောမလူ ဖြစ်
သည်ကိုငါရောမလူကိုချည်နှောင်မိသည်ကိုငါစစ်သူကြီးသိလျှင်ကြော
က်ခြင်းသို့ရောက်လေ၏။ ❋❋
၁၀ နက်ဖန်နေ့တွင်အဘယ်အပြစ်ကိုယုဒလူတို့သည်ပေါလုန္ဒတင်ကြသည်
ကိုစစ်သူကြီးသည်အမှန်သိခြင်းငှါအလိုရှိသဖြင့်ပေါလုန္ဒချည်နှော
င်သောသံကြိုးကိုချွတ်၍ယဇ်ပုရောဟိတ်အကြီးတို့နှင့်လွှတ်အရာရှိ
အားလုံးတို့ကိုစည်းဝေးစေခြင်းငှါ စီရင်ပြီးလျှင်ပေါလုကိုဆောင်
၁ သွား၍သူတို့ရှေ့၌ထားလေ၏။ ပေါလုသည်လွှတ်အရာရှိတို့ကိုစေ့စေ့
ကြည့်၍ ညီအစ်ကိုတို့။ အကျွန်ုပ်သည်ယနေ့တိုင်အောင်ဘုရားဝတ်
ကိုပြုခြင်းအမှုမှာကိုယ်စိတ်နှစ်လုံးသည်ကိုယ်၌အပြစ်တင်ခွင့်မရှိ
၂ ဘဲလျက်ပြုပါပြီးဟုဆိုလေသော် ယဇ်ပုရောဟိတ်မင်းအနနိကသူ၏
၃ နှုတ်ကိုရိုက်တော့ဟုအနားဌ်ရပ်နေသောသူတို့အားအမိန့်ရှိ၏။ ထို
အခါပေါလုက အဖြူသုတ်သောနံရိုး။ ဘုရားသခင်သည်သင့်ကို
ရိုက်တော်မူမည်။သင်သည်အကျွန်ုပ်ကိုတရားနှင့်အညီစီရင်ရအောင်
ထိုင်နေလျက်ပင်သူကိုရိုက်တော့ဟုမတရားသဖြင့်စီရင်ပါသည်တ
၄ ကားဟုဆို၏။ အနား၌ရပ်နေသောသူတို့ကလည်းသင်သည်ဘုရား
၅ သခင်၏ယဇ်ပုရောဟိတ်မင်းကိုဆဲသလောဟုမေးလျှင် ပေါလုက
ညီအစ်ကိုတို့။ သူသည်ယဇ်ပုရောဟိတ်မင်းဖြစ်မှန်းကိုအကျွန်ုပ်မ
သိ။သင်၏အမျိုးကိုအုပ်စိုးသောမင်းကိုသင်သည်မကဲ့ရဲ့ရဟုကျမ်း
၆ စာ၌လာသည်ဟုဆို၏။ ။ထိုအရာရှိအချို့တို့သည်ဇဒ္ဒုကဲလူ
ဖြစ်သည်။အချို့တို့သည်ဖာရိရှဲလူဖြစ်သည်ကိုပေါလုသိမြင်လျှင်ညီ
အစ်ကိုတို့။အကျွန်ုပ်သည်ဖာရိရှဲလူဖြစ်၏။ဖာရိရှဲလူ၏သားဖြစ်၏။
သေသောသူတို့သည်ထမြောက်မည်ဟုမြော်လင့်ခြင်းအကြောင်းနှင့်
အကျွန်ုပ်သည်စစ်ကြောစီရင်ခြင်းကိုခံရ၏ဟုလွှတ်ပေါ်မှာကျေး
၇ ကျော်လေ၏။ ထိုအခါဖာရိရှဲလူ။ဇဒ္ဒုကဲလူတို့သည်အချင်းချင်းညင်း
၈ ခုံ၍အရအဝေးသည်ကွဲပြားခြင်းသို့ရောက်လေ၏။ ကွဲပြားသည်အ
ကြောင်းကား။ဇဒ္ဒုကဲလူတို့က ထမြောက်ခြင်းမရှိ။ကောင်းကင်တမန်
မရှိ။နံဝိညာဉ်မရှိဟုယူကြ၏။ဖာရိရှဲလူတို့ကနှစ်ပါးစလုံးရှိသည်ဟု
၉ ဝန်ခံကြ၏။ အော်ဟစ်သံများ၍ဖာရိရှဲလူတို့ဘက်၌နေသောကျမ်း
ဆရာတို့သည်ထလျက်ပြင်းစွာညင်းခုံ၍ဤလူ၌အဘယ်အပြစ်ကိုမျှ
ငါတို့မတွေ့။ နံဝိညာဉ်တစုံတပါး။ ကောင်းကင်တမန် တစုံတပါး သူ

၁၀ အားပြောလျှင်အဘယ်သို့နည်းဟုဆိုကြ၏။ အချင်းချင်းညင်းခုံခြင်း
များသောအခါ ထိုသူတို့သည်ပေါလုကို ဆွဲငင် ၍ အပိုင်းပိုင်းဆုတ်ဖဲ့
မည်ဟုစစ်သူကြီးစိုးရိမ်လျှင်စစ်သူရဲများဆင်းကြ။ ပေါလုကိုအရာ
ရှိတို့အထဲမှအနိုင်အထက်ယူ၍ရဲတိုက်ထဲသို့ပို့ဆောင်ကြဟုမှာဆို၏။
၁၁ ။နက်ဖန်နေ့ညည့်တွင်သခင်ဘုရားသည်ပေါလုအနားနှ
ပေါ်လာတော်မူလျက်သင်သည်မစိုးရိမ်နှင့်ငါ့အကြောင်းကိုသင်သည်
ယေရုရှလင်မြို့၌သက်သေခံပြီး သည် နည်းတူ ရောမမြို့ ၌ လည်း သက်
၁၂ သေခံရလေဦးမည်ဟုမိန့်တော်မူ၏။ ။မိုဃ်းလင်းသောအခါ
ယုဒလူအချို့တို့သည်အချင်းချင်းတိုင်ပင် ၍ငါတို့သည် ကိုယ်တိုင် ပေါ
လု ကို မသတ်မှီ တိုင်အောင် အလျှင်း မစား မသောက် ရဟု ကိုယ် ကို
၁၃ ကိုယ်ကျိန်ဆို၍မိဋ္ဌာန်ပြုကြ၏။ ထိုသို့သဘောတူ၍မိဋ္ဌာန်ပြုသော
၁၄ သူတို့သည်ကားလေးကျိပ်မကရှိကြ၏။ ထိုသူတို့သည် ယဇ်ပုရော
ဟိတ်အကြီး။သွှတ်အရာရှိထံသို့သွား၍ကျွန်တော်တို့သည် ကိုယ်တိုင်
ပေါလုကိုမသတ်မှီတိုင်အောင်အလျှင်းမစားမသောက်ရဟုကိုယ်ကို
၁၅ ကိုယ်ကျိန်ဆို၍မိဋ္ဌာန်ပြုပါပြီ။ ထိုကြောင့်စစ်သူကြီးသည်ပေါလုကို
ကိုယ်တော်တို့၏အထံသို့ပို့ဆောင်စေခြင်းငှါ သူ ကိုသာ ၍စေ့စေ့စစ်
ကြောမည်အဟန်ပြု ၍သွှတ်အရာရှိများ နှင့် အတူကိုယ်တော် တို့စစ်
သူကြီးကိုလျှောက်ကြပါတော့။ပေါလုသည်ကိုယ်တော်တို့ ၏အထံသို့
မရောက်မှီအကြားတွင်ကျွန်တော်တို့သည်သူကိုသတ်ရအောင်အသင့်
ရှိနှင့်ပါပြီးဟုလျှောက်ကြ၏။

**

၁၆ ထိုသို့လမ်းနား ၌ ချောင်းနေ သည် အမှု ကို ပေါလု၏တူကြားလျှင် ရဲ
၁၇ တိုက်ထဲသို့ဝင်၍ပေါလုအားကြားပြောလေ၏။ ပေါလုသည် တပ်မှူး
တယောက်ကိုခေါ်၍ဤလုလင်ကိုစစ်သူကြီးထံသို့ပို့ပါ။ လျှောက်စရာ
၁၈ တစုံတခုသူ၌ရှိသည်ဟုဆိုလေသော် တပ်မှူးသည်လုလင် ကို စစ် သူ
ကြီးထံသို့ပို့ပြီးလျှင်အကျည်းခံသောသူ။ ပေါလုသည် ကျွန်တော် ကို
ခေါ်၍ ကိုယ်တော်အား လျှောက်စရာတစုံတခု ရှိသော ဤလုလင်ကို
၁၉ ကိုယ်တော်ထံသို့ ပို့ရအောင်တောင်းပါသည်ဟုလျှောက်၏။ စစ် သူ
ကြီးသည်လုလင်ကိုလက်ဆွဲ၍ဆိတ်ကွယ် ရာအရပ်သို့ သွား ပြီးလျှင်
သင်သည်အဘယ်အကြောင်းကိုငါ့အားလျှောက်ချင်သနည်း ဟု မေး
၂၀ မြန်းလေ၏။ လုလင်ကလည်းကိုယ်တော်သည်နက်ဖန်နေ့၌ပေါလုကို

လွှတ်တော်ဆီသို့ပို့ဆောင်စေခြင်းငှါယုဒလူတို့သည်သူကို သာ၍စေ့
စေ့မေးမြန်းမည်အဟန်ပြု၍ ကိုယ်တော်ကိုတောင်းလျှောက်မည်ဟု
၂၁ တိုင်ပင်ညှိ ညွှတ်ကြပြီး။ သူတို့အလိုကိုမလိုက်ပါနှင့်။ ကိုယ်တိုင်ပေါ
လုကိုမသတ်မှီတိုင်အောင်အလျှင်းမစားမသောက် ရဟုကိုယ်ကိုကို
ယ်ကျိန်ဆို၍မိ ဌာန်ပြုသောယုဒလူလေးကျိပ်မကလမ်ခုားဌ်ပေါလုကို
ချောင်းနေကြ၏။ ယခုပင်ကိုယ်တော်ဝန်ခံ သောစကား ကို ထိုသူတို့
၂၂ သည်ဆိုင်းလင့်၍အသင့်ရှိနှင့်ပါပြီးဟုလျှောက်ဆို၏။ ။စစ်
သူကြီးကလည်းသင်သည် ငါအား ဤသို့ကြား လျှောက် သည် ကို အ
ဘယ်သူအားမပြောနှင့်ဟုထိုလုလင်ကိုမှာထား၍လွှတ်လိုက်ပြီးလျှင်
၂၃ တပ်မှူးနှစ်ယောက်တို့ကိုခေါ်၍ယနေ့ညည့်သုံးချက်တီးအချိန် ဌ် ကဲ
သရိမြို့သို့သွားစေခြင်းငှါစစ်သူရဲ နှစ်ရာ။ မြင်းသူရဲခုနှစ်ကျိပ်။ လှံ
၂၄ သူရဲ နှစ်ရာတို့ကိုပြင်ဆင်ကြ။ ပေါလုစီးစရာဘို့မြင်းခွားစသည်တို့
ကိုပြင်၍ပေးကြ။သူကိုဖေလဇ်မင်းထံသို့ကြပ်မ၍ပို့ကြဟုမှာဆို၏။
၂၅ စစ်သူကြီးသည်ရေး၍ပေးလိုက်သောစာဟူမူကား။ ကလောဒိလုသိ
၂၆ ကမြတ်တော်မူသောမြို့ဝန်မင်းဖေလဇ်ကို မေတ္တာ နှင့် ကြား လျှောက်
၂၇ လိုက်ပါသည်။ ယုဒလူတို့သည်ဤလူကိုဖမ်းဆီး၍သတ်ပြစ်မည်ပြုကြ
စည်။သူသည်ရောမလူဖြစ်ကြောင်းကိုကျွန်တော်ကြားသိသဖြင့် စစ်
၂၈ သူရဲတို့နှင့်တကွသွား၍သူကိုနှုတ်ပါသည်။ ယုဒလူတို့သည်အဘယ်
ကြောင့်သူနှင့်တရားတွေ့ကြသည် ကို ကျွန် တော်သိ လို သော့ကြောင့်
၂၉ သူကိုယူ၍လွှတ် ဆီ သို့ဆောင် သွားပြီးလျှင် အသေသတ်ခြင်း။ အ
ကျည်းထားခြင်း ကို ခံထိုက် သော အပြစ်ကြောင့်တရားတွေ့ သည် မ
ဟုတ်။သူတို့တရားနှင့်စပ်ဆိုင်သောပုစ္ဆာအမေး ကို အကြောင်း ပြု ၍
၃၀ သာတရားတွေ့ကြသည်ကိုကျွန်တော်သိမြင်ပါ၏။ ယုဒလူတို့သည်
မကောင်းသောအကြံနှင့်သူကိုလုပ်ကြံမည် ဟု ကျွန် တော် ရိပ်မိ လျှင်
သူကိုကိုယ်တော်ထံ သို့ ချက်ချင်းစေလိုက် ၍ သူ၏ တရား တွေ့ ဘက်
တို့ကိုရှေ့တော်၌တရားတွေ့စေကြဟုစီရင်ပါ၏။ကိုယ်တော်ကျန်းမာ
၃၁ ပါစေသောဟုရေးပေးလိုက်သတည်း။ ။စစ်သူကြီးသည်
တပ်မှူးနှစ်ယောက်တို့ကိုမှာထားသည်အတိုင်းစစ်သူရဲတို့သည် ပေါ
၃၂ လုကိုယူ၍ညည့်အခါအန္တိပတရိမြို့သို့ပို့လိုက်ပြီးမှ နက်ဖန်နေ့၌မြင်း
သူရဲတို့ကိုပေါလုနှင့်တကွသွားစေခြင်းငှါလွှတ်လိုက်၍မိမိတို့သည်ရဲ
၃၃ တိုက်သို့ပြန်ကြ၏။ မြင်းသူရဲတို့သည်ကဲသရိမြို့သို့ရောက်လျှင်စစ်

သူကြီးစာကိုမြို့ဝန်မင်းလက်၌အပ်ပေး၍ပေါလုကိုလည်းရှေ့တော်
၃၄ သို့သွင်းထားကြ၏။ မြို့ဝန်မင်းသည်စာကိုဖတ်ပြီးမှအဘယ်မြို့နှင့်
ဆိုင်သနည်းဟုမေး၍ကိလိကိပြည်သားဖြစ်သည်ကိုကြားသိလျှင်
၃၅ သင်၏တရားတွေ့ဘက်တို့သည်ရောက်သောအခါငါနားထောင်မည်
ဟုဆို၍ပေါလုကိုဟေရုဒ်မင်း၏အိမ်တော်၌ချုပ်ထားလျက်နေစေဟု
စီရင်လေ၏။

**

၁ ထိုနောက်ငါးရက်လွန်သောအခါ ယဇ်ပုရောဟိတ်မင်း အနနိ သည်
တေရတုလုအမည်ရှိသောရှေ့နေမှစ၍သွက်အရာရှိတို့နှင့်တကွကဲသ
ရိမြို့သို့သွားကြသဖြင့်ပေါလုအကြောင်းကိုမြို့ဝန်မင်းထံ၌လျှောက်
၂ ထားကြ၏။ ပေါလုကိုခေါ်ကြပြီးမှတေရတုလုသည်အပြစ်တင်သော
စကားကိုပြောလိုလျှင်မြတ်တော်မူသောမင်းဖေလဇ်။ ကျွန်တော်တို့
သည်ဘုန်းတော်ကိုခိုလှုံ၍အလွန်ညီမ်သက်စွာနေရပါ၏။ကိုယ်တော်
သည်ကြည့်ရှုပြုပြင်တော်မူခြင်းကျေးဇူးတော်ကို၍လူမျိုးသည်ခံရ
၃ ပါ၏။ အရပ်ရပ်၌ကျွန်တော်တို့သည် အစဉ်မပြတ် ကျေးဇူးတော်
၄ ကိုအလွန်သိတတ်သောစိတ်နှင့်ကျေးဇူးတော်ကိုခံရပါ၏။ ကျွန်တော်
သည်ကိုယ်တော်ကိုကြာကြာမနှောင့်ရှက်ရအောင်အကျဉ်းအားဖြင့်
လျှောက်သောစကားကိုဖြည်းညှင်းသောစိတ်တော်နှင့် နားထောင်
၅ တော်မူမည်အကြောင်းအသနားတော်ခံပါ၏။ အရပ်ရပ်၌ယုဒလူအ
ပေါင်းတို့သည်မညီမ်သက်အောင်ပြု၍နာဇရက်ဘာသာဝင်သူတို့
၆ တွင်သူကြီးလုပ်သော၍လူဆိုးကိုကျွန်တော်တို့တွေ့ကြပါပြီ။ သူ
သည်ဗိမ္မာန်တော်ကိုရှုတ်ချခြင်းငှါပြုပါပြီ။ ကျွန်တော်တို့
သည်သူကိုဖမ်းဆီး၍ကျွန်တော်တို့တရားအတိုင်းစီရင်ခြင်းငှါအလို
၇ ရှိသည်တွင် စစ်သူကြီးလုသိလာ၍စစ်သူရဲအများနှင့်ကျွန်တော်တို့
၈ လက်မှနှုတ်ပြီးလျှင် အပြစ်တင်သောသူတို့ကိုကိုယ်တော်ထံသို့သွား
မည်အကြောင်းစီရင်ပါ၏။ကိုယ်တော်တိုင်စစ်သူကြီးကိုမေးမြန်း
တော်မူလျှင်ကျွန်တော်တို့အပြစ်တင်သောအကြောင်းအရာများကို
၉ သေချာစွာသိနိုင်တော်မူပါမည်ဟုလျှောက်ထားလေ၏။ ယုဒလူတို့
၁၀ ကလည်း၍စကားမှန်ပါသည်ဟုဝန်ခံကြ၏။ ။မြို့ဝန်မင်းသည်
အမှတ်ပေး၍ပေါလုသည်လျှောက်ရသောအခွင့်ကိုရလျှင်ကိုယ်တော်
သည်၍လူမျိုးကိုတာရှည်စွာအုပ်စိုးတော်မူသည်ကိုကျွန်တော်သိ၍

သာရာသောစိတ်နှင့်ကိုယ်အပြစ်ဖြေရာစကားကိုလျှောက်ဝံ့ပါ၏။
၁၁ ကျွန်တော်သည်ကိုးကွယ်ခြင်းငှါယေရုရှလင်မြို့သို့တက်သွား၍ ယခု
၁၂ ဆယ်နှစ်ရက်သာရှိသည်ကိုကိုယ်တော်သိနိုင်တော်မူ၏။ ဗိမ်မာန်
တော် ၌ တစုံ တယောက် သော သူနှင့် ကျွန်တော် ဆွေးနွေး ညှင်းခုံ
သည် ကို သူ တို့မတွေ့ကြ။ တရားဇရပ်တို့ ၌ ၎င် မြို့ထဲ ၌ ၎င်လူများမ
ညီမ်သက် အောင် ကျွန် တော် နှိုးဆော် သည် ကို သူ တို့ မတွေ့ ကြ။
၁၃ ယခုတွင်ကျွန်တော်ကိုအပြစ်တင်သောအမှု ၌ သက်သေမပြနိုင်ကြ။
၁၄ သို့သော်လည်း သူ တို့ သည် ဒိဋ္ဌိ အယူဟူ ၍ ခေါ်ဝေါ်သော ဘာသာအ
တိုင်းကျွန်တော်သည်ဘိုးဘေးဆက်ကိုးကွယ်သော ဘုရားသခင်ကို
ကိုးကွယ်သည်ဟုရှေ့တော်၌ ကျွန်တော်ဝန်ခံပါ၏။ပညတ်ကျမ်းစာ၌
၎င်အနာဂတ္တိကျမ်းစာ၌၎င်စီရင်ရေးထားသမျှတို့ကိုကျွန် တော်ယုံပါ
၁၅ ၏။ ဖြောင့်မတ်သောသူ၊မဖြောင့်မတ်သောသူ ရှိ သမျှတို့သည်သေ
ခြင်းမှထမြောက်လိမ့်မည်ဟူ၍သူတို့မျှော်လင့်သည်အတိုင်းပင်လျှင်
၁၆ ကျွန်တော်သည်ဘုရားသခင်ကိုအမှီပြု၍မျှော်လင့်ပါ၏။ ထိုကြောင့်
ဘုရားသခင်ကိုပြစ်မှားသည်ဟူ၍၎င်လူသူတပါးတို့ကိုပြစ်မှားသည်
ဟူ၍၎င်ကိုယ်စိတ်နှလုံးသည် ကိုယ် ၌ အပြစ်တင်ခွင့် အစည် မရှိရ
၁၇ အောင်ကျွန်တော်ကျိုးစားအားထုတ်ပါ၏။ ။နှစ်ပေါင်းများ
စွာရှိသောအခါအမျိုးသားချင်းတို့အားစွန့်ကြဲပေးကမ်းခြင်းအမှု၊ဘု
ရားသခင် အား ပူဇော် သကာ ပြု ခြင်း အမှုနှင့် ကျွန် တော်ရောက်
၁၈ လာသည်တွင် ဗိမ်မာန်တော်၌လူအစုအဝေးနှင့်ကင်း၍ရုန်းရင်းခတ်
မပြုဘဲသန့်ရှင်းခြင်းကိုပြုလျက်ရှိသည်ကိုအာရှပြည်ကလာသောယု
၁၉ ဒလူအချို့တို့သည်တွေ့ကြပါ၏။ ထိုသူတို့သည် ကျွန်တော်၌အပြစ်တင်
စရာရှိလျှင်အထံတော်သို့ကိုယ်တိုင်လာ၍အပြစ်တင်အပ်ပါ၏။
၂၀ သို့မဟုတ်။လွှတ်အရာရှိတို့ရှေ့၌ကျွန်တော်ရှိနေသောအခါသေသော
၂၁ သူတို့သည်ထမြောက်ခြင်းအကြောင်းနှင့်အကျွန်ုပ်သည်သင်တို့ရှေ့၌
ယနေ့စစ်ကြောစီရင်ခြင်းကိုခံရ၏ဟုကျွေးကြော်သောစကားသီတ
ခွန်းကိုထားလျှင်ကျွန်တော်၌အဘယ်အပြစ်ကိုတွေ့ကြသည်ကိုယခု
ရှိသော၍သူတို့သည်ပြောပါစေတော့ဟုပေါလုလျှောက်လေ၏။
၂၂ ။ဖေလစ်မင်းသည်ထိုဘာသာကိုသာ၍နားလည်သောသူ
ဖြစ်လျက်နှင့်စစ်သူကြီးလုသိရောက်လာသောအခါသင်တို့အမှုကို
၂၃ ငါစစ်ဦးမည်ဟုဆို၍မစီရင်ဘဲသူတို့ကိုလွှတ်လိုက်၏။ ပေါလုကိုအ

၁၀ ထိုအိမ်၌တာရှည်စွာနေကြပြီးမှအာဂဗုအမည်ရှိသောပရောဖက်တ
၁၁ ယောက်သည်ယုဒပြည်မှလာ၍ ငါတို့ဆီသို့ဝင်သဖြင့်ပေါလု၏ခါး
ပန်းကိုယူ၍မိမိခြေလက်ကိုချည်နှောင်ပြီးလျှင်ဤခါးပန်းရှင်ကိုယုဒ
လူတို့သည်ယေရုရှလင်မြို့၌ချည်နှောင်၍တပါးအမျိုးသားတို့လက်သို့
အပ်နှံလိမ့်မည်ဟုသန့်ရှင်းသောဝိညာဉ်တော်မိန့်တော်မူသည်ဟုအါ
၁၂ ဂဗုဆို၏။ ထိုစကားကိုကြားလျှင်ငါတို့နှင့်ထိုအရပ်၌ရှိသောသူတို့
၁၃ ကယေရုရှလင်မြို့သို့မသွားပါနှင့်ဟုပေါလုကိုတောင်းပန်ကြ၏။ ပေါ
လုကလည်းအဘယ်ကြောင့်ငိုကြွေး၍ငါစိတ်နှစ်လုံးကိုကျေကွဲစေသ
နည်း။ သခင်ယေရှုအတွက်ယေရုရှလင်မြို့၌ချည်နှောင်ခြင်းမကအ
၁၄ သေသတ်ခြင်းကိုပင်ခံခြင်းငှါငါအသင့်ရှိသည်ဟုဆို၏။ သူ့ကိုဖျား
ယောင်း၍မနိုင်လေသော်ငါတို့သည်တန့်နေ၍သခင်ဘုရားအလိုတော်
၁၅ အတိုင်းရှိပါစေဟုဆိုကြ၏။ ။ထိုနောက်မှာငါတို့သည်အသုံး
၁၆ အဆောင်များကိုပြင်ဆင်၍ယေရုရှလင်မြို့သို့သွားကြ၏။ ကဲသရိမြို့
သား။တပည့်တော်အချို့တို့သည်ငါတို့နှင့်အတူလိုက်ကြ၍ငါတို့ကိုဧည့်
ခံမည်သူ။ ကုပရုကျွန်းသား။ မနာသုန်အမည်ရှိသော။ အသက်ကြီး
၁၇ သောတပည့်တော်တယောက်ဆီသို့ပို့ဆောင်ကြ၏။ ယေရုရှလင်မြို့
သို့ရောက်သောအခါညီအစ်ကိုတို့သည်ကြည်ညိုသောစိတ်နှင့်ငါတို့
၁၈ ကိုလက်ခံသိမ်းဆည်းကြ၏။ နက်ဖန်နေ့၌ပေါလုသည်ငါတို့နှင့်တကွ
ယာကုပ်ဆီသို့ဝင်လေ၏။ သင်းအုပ်အပေါင်းတို့သည်စည်းဝေးကြ
၁၉ ၏။ ပေါလုသည်ထိုသူများကိုဖက်ရမ်းနှုတ်ဆက်ခြင်းကိုပြုပြီးလျှင်
မိမိသည်ဆရာအမှုစောင့်ခြင်းအားဖြင့်ဘုရားသခင်သည်တပါးအ
မျိုးသားတို့တွင်ပြုတော်မူသမျှတို့ကိုသေချာစွာထုတ်ဖော်ပြသလေ
၂၀ ၏။ ။ထိုသူတို့သည်ကြားလျှင်ဘုရားသခင်ဂုဏ်တော်ကိုချီး
မွမ်းကြ၍ပေါလုအားလည်းငါတို့ညီ။ ယုံကြည်သောယုဒလူဘယ်နှစ်
သောင်းရှိသည်ကိုသင်သည်သိမြင်၏။ ထိုသူအပေါင်းတို့သည်ပ
၂၁ ညတ်တရားဘက်စိတ်အားကြီးသောသူဖြစ်ကြ၏။ ညီကလည်းတ
ပါးအမျိုးသားတို့တွင်နေသောယုဒလူအပေါင်းကိုသင်တို့သားအား
အရေဖျားလှီးမင်္ဂလာကိုမပေးနှင့်။ရှေးထုံးတမ်းအတိုင်းမကျင့်နှင့်ဟု
ဆို၍သူတို့သည်မောရှေတရားကိုစွန့်ရအောင်ဆုမ္မဩဝါဒပေးသည်
၂၂ ကိုဤလူတို့သည်သိတင်းကြားကြပြီး။ သို့ဖြစ်လျှင်အဘယ်သို့ပြုရ
သနည်း။လူအပေါင်းတို့သည်မစုဝေးဘဲမနေနိုင်ရာ။ သင်သည်ရော

၂၃ က်လာကြောင်းကိုကြားသိလိမ့်မည်။ ထိုကြောင့်အကျွန်ုပ်တို့ဆိုသည်
အတိုင်းပြုပါတော့။သစ္စာဂတိပြုပြီးသောလူလေးယောက်သည်အကျွ
၂၄ န်ုပ်တို့၌ရှိ၏။ ထိုသူတို့ကိုယူ၍သူတို့နှင့်တကွသန့်ရှင်းခြင်းကိုပြုသ
ဖြင့်သူတို့ခေါင်းရိပ်မင်္ဂလာစရိတ်ကိုပေးပါတော့။ထိုသို့ပြုလျှင်လူအ
ပေါင်းတို့သည် မိမိကြား သောသိတင်းစကားမမှန်သည်ကိုငင် သင်
သည်ကိုယ်တိုင်ပညတ်တရားကိုစောင့်ရှောက်၍နေသည်ကိုငင်သိရ
၂၅ ကြလိမ့်မည်။ ရုံကြည်ခြင်းသို့ရောက်သောတပါးအမျိုးသားတို့မူကား
ထိုသို့သော တရားကို မကျင့် မစောင့်ဘဲ လျက် ရုပ်တု ရှေ့မှာ ပူဇော်
သောယဇ်ကောင်ကိုငင်အသွေးကိုငင်လည်ပင်းကိုညှစ်၍သတ်သော
အရာကိုငင် မတရားသောမေထုန်ကိုငင်ရှောင် စေခြင်းငှါ သာငါတို့
သည်စီရင်၍ကြားလိုက်ခဲ့ပြီးဟုဆိုကြ၏။

✻✻

၂၆ ထိုအခါပေါလုသည်ထိုလူတို့ကိုယူ၍ခက်ဖန်နေ့၌ သူတို့နှင့်တကွသန့်
ရှင်းခြင်းကိုပြုပြီးမှဗိတ်မှာန် တော်သို့ ဝင် ၍ သူတို့အတွက်အသီးအ
ချား ပူ ဇော်သကာ ပြု ရသောအချိန် တည်းဟူ သော သန့်ရှင်း ခြင်း
၂၇ ကိုပြုသောနေ့ရက်စေ့မည်အချိန်ကိုကြားပြောလေ၏။ ထိုခုနှစ်ရက်
စေ့ခါနီးတွင်အာရှိပြည်မှ လာ သောယုဒ လူတို့သည် ဗိတ် မှာန်တော်၌
ပေါလုကိုမြင်လျှင်ရဝေးသောလူအပေါင်းကိုတိုက်တွန်းနှိုးဆော်၍
၂၈ ဣသရေလလူတို့။ကူမကြပါ။ဤသူကားငါတို့အမျိုး နှင့် ငင် ပညတ်တ
ရားနှင့် ငင် ဤအရပ်ဌာနနှင့် ငင် ခပ်သိမ်းသောအရပ်တို့ ၌ ဆန့်ကျင်
ဘက်ပြု၍လူအပေါင်းတို့အားဆုမ္ဗြဩဝါဒပေးသောသူဖြစ်၏။ ထိုမျှ
မကယောလသလူတို့ကိုဗိတ်မှာန်တော်ထဲသို့သွင်း၍ဤသန့်ရှင်းရာဌာ
နကိုညစ်ညူးစေပြီးတကားဟုဟစ်ကျော်၍ပေါလုကိုဖမ်းဆီးကြ၏။
၂၉ အထက်ကမြို့ထဲ၌ပေါလုနှင့်အတူတရောဖိမ် အမည် ရှိသော ဧဖက်မြို့
သားတယောက်ကိုမြင်ကြသည်ဖြစ်၍ထိုသူကိုပေါလုသည် ဗိတ် မှာန်
၃၀ တော်ထဲသို့သွင်းသည်ဟုထင်မှတ်ကြ၏။ တမြို့လုံးရုန်းရင်းခတ်ဖြစ်
လျှင်လူများ တို့ သည် ပြေးလာ ၍ ရဝေးခြင်းရှိသဖြင့်ပေါလု ကို ကိုင်
ယူ၍ဗိတ်မှာန်တော် ပြင် သို့ ဆွဲငင် ပြီးမှတခဏချင်းတံခါးများတို့ကို
၃၁ ပိတ်ထားကြ၏။ ။ပေါလုကိုသတ်မည်အားထုတ်ကြသောအ
ခါယေရုရှလင်မြို့တမြို့လုံးမညီမ်မသက်။ရုန်းရင်းခတ်ဖြစ်သည်ဟုလူ
၃၂ တထောင်ကိုအုပ်ချုပ်သောစစ်သူကြီးသည် သိတင်းကြားလျှင် စစ်

သူရဲများနှင့်တပ်မှူးတို့ကိုအသော့ခေါ်၍ထိုသူတို့ဆီသို့ ဆင်း ပြေးလေ
၏။ထိုသူတို့သည်စစ်သူကြီးနှင့်စစ်သူရဲတို့ကိုမြင် လျှင် ပေါလုကိုမ
၃၃ ရိုက်ဘဲနေကြ၏။ ထိုအခါစစ်သူကြီးသည်အနီးသို့ရောက်၍ပေါလုကို
ယူလျှင်သံကြိုးနှစ်ခု နှင့် ချည်ချေ ဟု စီရင် ၍ ဤသူသည်အဘယ်သူ
၃၄ နည်း။အဘယ်အမှုကိုပြုပြီးသနည်းဟုမေးစစ်လေ၏။ လူအစုအဝေး
ထဲ၌အသီးအသီးအချို့အချို့ဟစ်ကျော် ၍ အသံများ သော ကြောင့်
စစ် သူ ကြီး သည် အမှန် ကို မသိနိုင် သဖြင့် ပေါလု ကို ရဲတိုက် ထဲသို့
၃၅ ဆောင်သွားစေခြင်း ငှါ စီရင် ပြန် လေ၏။ လူများတို့ သည် ပြင်းထံ
သော့ကြောင့်လှေကားပေါ်သို့ရောက်သောအခါစစ်သူရဲတို့သည်ပေါ
၃၆ လုကိုချီပို့၍ဆောင်ရကြ၏။ သူကိုထုတ်လော့ဟုလူများအပေါင်းတို့
၃၇ သည်ဟစ်ကျော်လျှက်လိုက်ကြ၏။ ။ပေါလုသည်ရဲတိုက်ထဲ
သို့ဝင်လုသောအခါအကျွန်ုပ်သည်သင်နှင့်စကား ပြောရပါမည်လော
ဟုစစ်သူကြီးအားမေးလျှင်စစ်သူကြီးကသင်သည်ဟေလလသ စကား
၃၈ ကိုနားလည်သလော။ သင်သည်အထက်ကပုန်ကန်၍ဓားမြလေးထော
င်တို့ကိုတောသို့ခေါ်သွားသောအဲဂုတ္တုလူ ဖြစ်သည် မဟုတ် လောဟု
၃၉ မေး၏။ ပေါလုကလည်းအကျွန်ုပ်သည်ကိလိကိပြည်တာရှုမြို့ ၌ မွေး
သောယုဒလူဖြစ်ပါ၏။အကျွန်ုပ်မြို့ကားသာမညမြို့မဟုတ်။ဤလူများ
အားအကျွန်ုပ်ပြောရသောအ ခွင့်ကိုပေးပါ။အကျွန်ုပ်ပန်ကြားပါသည်
၄၀ ဟုဆို၏။ စစ်သူကြီးကအ ခွင့်ပေးသဖြင့် ပေါလုသည် လှေကားပေါ်
မှာရပ်၍မိမိလက်နှင့်လူတို့အားအမှတ် ကို ပေး၏။ အလွန်တိတ်ဆိတ်
၁ စွာနေကြသောအခါဟေဗြဲဘာသာ အားဖြင့် မြွက်ဆို လျှက် ညီအစ်
ကိုအဖတို့။အကျွန်ုပ်သည်ကိုယ်အပြစ်ဖြေရာစကားကိုသင်တို့ရှေ့မှာ
၂ ယခုပြောစည့်တွင်နားထောင်ကြပါဟုဆိုလေသော် ဟေဗြဲဘာသာ
အားဖြင့်ပြောသည်ကိုထိုသူတို့သည်ကြားလျှင်သာ၍တိတ်ဆိတ်ခြင်း
သို့ရောက်ကြ၏။

❋❋

၃ ပေါလုကလည်းအကျွန်ုပ်သည်ကိလိကိပြည်တာရှုမြို့၌မွေးသောယုဒ
လူဖြစ်ပါ၏။ဤမြို့မှာလည်းဂမလျေလအမည်ရှိသောဆရာ၏ခြေရင်း
၌ကျွေးမွေးခြင်းကိုခံ၍မိစည်ဖဆက်ကျင့်သောတရားကိုသေချာစွာ
သိနားလည်ရအောင်နည်းဥပဒေသခံပါပြီ။ သင်တို့အားလုံးသည်ယ
နေ့ထိုင်အောင်ဘုရားသခင်ဘက် စိတ်အားကြီးသည် နည်းတူအကျွ

၄ နှိပ်လည်းစိတ်ကြီးသဖြင့် ယောကျ်ားမိန္မတို့ကိုချည်နှောင်၍ထောင်
ထဲမှာလှောင်ထားလျက်အသေသတ်ခြင်းသို့ တိုင်အောင် ထိုဘာသာ
၅ ကိုညှဉ်းဆဲပါပြီး။ ထိုသို့အတိုင်းယဇ်ပရောဟိတ်မင်း မှစ၍လွှတ်
အရာရှိအားလုံးတို့သည်အကျွန်ုပ်ဘက်သက်သေဖြစ်ကြ၏။သူတို့ထံ
မှလည်းအကျွန်ုပ်သည်ညီအစ်ကိုတို့ဆီသို့မှာစာကိုခံပြီးမှဒမာသက
မြို့၌ရှိသောထိုဘာသာဝင်သူတို့ ကို ဒါဏ်ခံစေခြင်းငှါချည်နှောင်၍
ယေရုရှလင်မြို့သို့ပို့ရအောင်ဒမာသကုမြို့သို့အကျွန်ုပ်သွားပါ၏။
၆ ။လမ်း၌သွား၍ဒမာသကုမြို့သို့ရောက်ခါနီးတွင်မွန်းတည့်အ
ချိန်လောက်။ကောင်းကင်ထဲကကြီး သောအလင်းသည် အကျွန်ုပ်ပတ်
၇ လည်ရုတ်ခနဲထွန်းတောက်သဖြင့် အကျွန်ုပ်သည်မြေပေါ်၌လဲ၍ရှော
လု။ရှောလု။အဘယ်ကြောင့်ငါကိုညှဉ်းဆဲသနည်း ဟု အကျွန်ုပ်အား
၈ ပြောသောစကားသံကိုကြားလျှင် သခင်။ကိုယ်တော်သည်အဘယ်
သူနည်းဟုအကျွန်ုပ်ပြန်၍မေးလျှောက်လေသော် ငါကားသင်ညှဉ်း
၉ ဆဲသောနာဇရက်မြို့သားယေရှုဖြစ်သတည်းဟုမိန့်တော်မူ၏။ အ
ကျွန်ုပ်နှင့်ပါသောသူတို့သည် ထိုအလင်းကိုမြင်၍ကြောက်ခြင်းသို့
ရောက်သဖြင့် အကျွန်ုပ်အားပြောသောသူ၏စကားသံ ကိုမကြားမ
၁၀ သိရ။ ထိုအခါအကျွန်ုပ်ကလည်းသခင်။အကျွန်ုပ်အဘယ် သို့ပြုရပါ
မည်နည်းဟုလျှောက်လျှင်သခင်ဘုရားကထတော့။ဒမာသကုမြို့ သို့
သွားတော့။သင်ဆောင်ရွက်စရာဘို့ခွဲခန့်စီမံသမျှတို့ကိုထိုမြို့၌ပြော
၁၁ လိမ့်မည်ဟုမိန့်တော်မူ၏။ ထိုအလင်း၏ရောင်ခြည်အရှိန်အားဖြင့်
အကျွန်ုပ်မျက်စိကန်းသည်ဖြစ်၍အကျွန်ုပ်နှင့်ပါသောသူတို့သည်လက်
၁၂ ဆွဲသဖြင့်ဒမာသကုမြို့သို့ရောက်ပါ၏။ ။ပညတ်တရားနှင့်
အညီဘုရားဝတ်၌မွေ့လျော်၍ငင်ထိုမြို့မှာနေသောယုဒလူအပေါင်း
၁၃ တို့တွင်အသရေရသော။အနနိအမည်ရှိသောလူတယောက်သည် အ
ကျွန်ုပ်ဆီသို့လာ၍အနားခွ်ရပ်လျက်ညီရှောလု။မျက်စိတဖန်မြင်ခြင်း
၁၄ သို့ရောက်တော့ဟုဆို၏။ထိုခဏ၌သူကိုအကျွန်ုပ်ကြည့်မြင်ရ၏။ သူ
၁၅ ကလည်းသင်သည်မြင်လေသမျှ။ကြားလေသမျှတို့ကိုလူအပေါင်းတို့
အားပြော၍ သခင်ဘုရား၏ သက်သေခံ ဖြစ်မည်အကြောင်း။ သင်
သည်ဘုရားသခင်၏အလိုတော်ကိုသိစေခြင်းငှါ၎င်ဖြောင့်မတ်တော်
မူသောသူကိုမြင်စေခြင်းငှါ၎င်နှုတ်တော်ထွက်ကိုကြားစေခြင်းငှါ၎
င်ငါတို့အဘများ၏ဘုရားသခင်သည်သင်ကိုရွေးချယ်ခန့်ထားတော်

၁၆ မှု၏။ ယခုတွင်လည်းသင်သည်အဘယ်ကြောင့်ဆိုင်းနေသနည်း။ထ
တော့။သခင်ဘုရားကိုပဌနာပြုလျက်ရေနှစ်မင်္ဂလာကိုခံ၍သင်၏အ
၁၇ ပြစ်များကိုဆေးကြောတော့ဟုဆိုပါ၏။ ။ထိုနောက်မှာယေ
ရုရှလင်မြို့သို့အကျွန်ုပ်ပြန်၍ဗိမာန်တော်၌ဆုတောင်းစဉ်။ဘဝင်
၁၈ ကျ၍ သခင်ဘုရားကသင်သည်ကျိုးစား၍ယေရုရှလင်မြို့မှ အလျင်
အမြန်ထွက်သွားတော့။ငါ့အကြောင်းကိုသင်သည်ပြော၍သက်သေခံ
သောစကားကိုဤလူတို့သည်မခံဘဲနေကြလိမ့်မည်ဟု မိန့်တော်မူ
၁၉ လျက်ရှိသည်ကိုအကျွန်ုပ်မြင်လေ၏။ အကျွန်ုပ်ကလည်းသခင်။ကိုယ်
တော်ကိုယုံကြည်သောသူတို့ကိုအကျွန်ုပ်သည်ထောင်ထဲ၌လှောင်ထား
သည်။တရားဇရပ်များ၌ရိုက်သည်အကြောင်းကိုသူတို့သိကြပါ၏။
၂၀ ကိုယ်တော်၏သက်သေခံဖြစ်သောသတေဖန်၏အသွေးကိုသွန်းလော
င်းသောအခါအကျွန်ုပ်သည်အနား၌နေလျက်ဝန်ခံ၍သူကို ကွပ်မျက်
၂၁ သောသူတို့၏အဝတ်ကိုစောင့်နေပါ၏ဟု လျှောက်ဆိုလျှင်သခင်ဘု
ရားက လည်းသွားတော့။ ငါသည်တပါးအမျိုးသားတို့ဆီသို့သင်ကို
ဝေးလှစွာစေလွှတ်မည် ဟု အကျွန်ုပ်အားမိန့်တော်မူသည် ဟု ပေါလု
၂၂ မြွက်ဆို၏။ ။ထိုမျှတိုင်အောင်ပေါလု၏စကားကိုနားထောင်
ပြီးလျှင်ထိုသူတို့သည်ဟစ်ကျော်၍ထိုသို့သောသူကို မြေကြီးပြင်မှ
၂၃ သုတ်သင်ပယ်ရှင်းလော့။သူသည်အသက်မရှင်သင့်ဟုဆိုကြ၏။ ထို
သို့အော်ဟစ်ခြင်း။ကိုယ်အဝတ်ကိုချွတ်ခြင်း။ဖုတ်ကိုကောင်းကင်သို့
၂၄ ပြစ်လိုက်ခြင်းကိုပြုကြစဉ်။ သူတို့သည်ပေါလုကိုအဘယ်ကြောင့်
ထိုသို့ဟစ်ကျော်ကြသည်ကိုစစ်သူကြီးသိလို၍ပေါလုကိုရဲတိုက်ထဲ
၂၅ သို့သွင်းစေ။ရိုက်၍စစ်ကြောစေဟုစီရင်လေ၏။ သားရေကြိုးနှင့်ရိုက်
မည်ပြင်ဆင်ကြသောအခါ ပေါလုက ရောမလူ ဖြစ်သောသူကို ဓမ္မ
သတ်အတိုင်းမစီရင်ဘဲလျက်သင်တို့သည် ရိုက်ရသလော ဟု အနား
၂၆ ၌ရပ်နေသောတပ်မှူးအားဆို၏။ တပ်မှူးသည်ကြားလျှင်စစ်သူကြီး
ထံသို့သွား၍အဘယ်သို့ပြုပါမည်နည်း။ဤသူသည်ရောမလူ ဖြစ်ပါ
၂၇ သည်ဟုကြားလျှောက်၏။ စစ်သူကြီးသည် လည်းပေါလုဆီသို့လာ
၍သင်သည်ရောမလူမှန်သလော။ငါ့အားပြောတော့ဟုဆိုလျှင်မှန်ပါ
၂၈ ၏ဟုပေါလုဆို၏။ စစ်သူကြီးကလည်းအကျွန်ုပ်သည်ငွေအများကို
ပေး၍ရောမလူအရိပ်အရာကို ရသည် ဟု ဆိုလျှင်ပေါလုကအကျွန်ုပ်
၂၉ သည်ဇာတိအားဖြင့်ရပါသည်ဟုဆို၏။ ထိုအခါပေါလုကိုစစ်ကြော

မည်ပြုသောသူတို့သည်သူ့ဆီမှချက်ချင်းသွား၍သူသည်ရောမလူဖြစ်
သည်ကိုငါရောမလူကိုချည်နှောင်မိသည်ကိုငါစစ်သူကြီးသိလျှင်ကြော
က်ခြင်းသို့ရောက်လေ၏။ ❋❋
၃၀ နက်ဖန်နေ့တွင်အဘယ်အပြစ်ကိုယုဒလူတို့သည်ပေါလု၌တင်ကြသည်
ကိုပ စစ်သူကြီးသည်အမှန်သိခြင်းငှါအလိုရှိသဖြင့်ပေါလု ၌ချည်နှော
င်သောသံကြိုးကိုချွတ်၍ယဇ်ပုရောဟိတ်အကြီးတို့နှင့်လွှတ်အရာရှိ
အားလုံးတို့ကို စည်းဝေးစေခြင်းငှါ စီရင်ပြီးလျှင်ပေါလုကိုဆောင်
၁ သွား၍သူတို့ရှေ့၌ထားလေ၏။ ပေါလုသည်လွှတ်အရာရှိတို့ကိုစေ့စေ့
ကြည့်၍ ညီအစ်ကိုတို့။ အကျွန်ုပ်သည်ယနေ့တိုင်အောင်ဘုရားဝတ်
ကိုပြုခြင်းအမှုမှာကိုယ်စိတ်နှစ်လုံးသည်ကိုယ် ၌ အပြစ်တင်ခွင့်မရှိ
၂ ဘဲလျှက်ပြုပါပြီးဟုဆိုလေသော် ယဇ်ပုရောဟိတ်မင်းအနနိကသူ၏
၃ နှုတ်ကိုရိုက်တော့ဟုအနားဘ၌ရပ်နေသောသူတို့အားအမိန့်ရှိ၏။ ထို
အခါပေါလုက အဖြူသုတ်သောအုတ်ရိုး။ ဘုရားသခင်သည်သင် ကို
ရိုက်တော်မူမည်။သင်သည်အကျွန်ုပ်ကိုတရားနှင့်အညီစီရင်ရအောင်
ထိုင်နေလျက်ပင်သူကိုရိုက်တော့ဟုမတရားသဖြင့်စီရင်ပါသည်တ
၄ ကားဟုဆို၏။ အနားဘ၌ရပ်နေသောသူတို့ကလည်းသင်သည်ဘုရား
၅ သခင်၏ယဇ်ပုရောဟိတ်မင်းကိုဆဲသလော ဟုမေးလျှင် ပေါလုက
ညီအစ်ကိုတို့။ သူသည်ယဇ်ပုရောဟိတ်မင်းဖြစ်မှန်းကို အကျွန်ုပ်မ
သိ၊သင်၏အမျိုးကိုအုပ်စိုးသောမင်း ကိုသင်သည်မကဲ့ရဲ့ရ ဟုကျမ်
၆ စာ၌လာသည်ဟုဆို၏။ ။ထိုအရာရှိအချို့တို့သည်ဇဒ္ဒုကဲလူ
ဖြစ်သည်။အချို့တို့သည်ဖာရိရှဲလူဖြစ်သည်ကိုပေါလုသိမြင်လျှင်ညီ
အစ်ကိုတို့။အကျွန်ုပ်သည်ဖာရိရှဲလူဖြစ်၏။ဖာရိရှဲလူ၏သားဖြစ်၏။
သေသောသူတို့သည်ထမြောက်မည်ဟု မျှော်လင့်ခြင်းအကြောင်းနှင့်
အကျွန်ုပ်သည် စစ်ကြောစီရင် ခြင်းကိုခံရ၏ ဟု လွှတ် ပေါ်မှာကျွေး
၇ ကျော်လေ၏။ ထိုအခါဖာရိရှဲလူ။ဇဒ္ဒုကဲလူတို့သည်အချင်းချင်းညင်း
၈ ခုံ၍အစုအဝေးသည်ကွဲပြားခြင်းသို့ရောက်လေ၏။ ကွဲပြားသည်အ
ကြောင်းကား။ဇဒ္ဒုကဲလူတို့က ထမြောက်ခြင်းမရှိ။ကောင်းကင်တမန်
မရှိ။နံ့ဝိညာဉ်မရှိဟုယူကြ၏။ဖာရိရှဲလူ တို့ကနှစ်ပါးစလုံးရှိသည်ဟု
၉ ဝန်ခံကြ၏။ အော်ဟစ်သံများ၍ဖာရိရှဲလူတို့ဘက် ၌ နေသောကျမ်
ဆရာတို့သည်ထလျက်ပြင်းစွာညင်းခုံ၍ဤလူ၌အဘယ်အပြစ်ကိုမျှ
ငါတို့မတွေ့။ နံ့ဝိညာဉ် တစုံတပါး။ ကောင်းကင်တမန် တစုံတပါး သူ

၁၀ အားပြောလျှင်အဘယ်သို့နည်းဟုဆိုကြ၏။ အချင်းချင်းညှင်းခုံခြင်း
များသောအခါ ထိုသူတို့သည်ပေါလုကို ဆွဲငင် ၍ အပိုင်းပိုင်းဆုတ်ဖဲ့
မည်ဟုစစ်သူကြီးစိုးရိမ်လျှင်စစ်သူရဲများဆင်းကြ။ ပေါလုကိုအရာ
ရှိတို့အထဲမှအနိုင်အထက်ယူ၍ရဲတိုက်ထဲသို့ပို့ဆောင်ကြဟုမှာဆို၏။
၁၁ ။နက်ဖန်နေ့ညည့်တွင်သခင်ဘုရားသည်ပေါလုအနားနှ
ပေါ်လာတော်မူလျက်သင်သည်မစိုးရိမ်နှင့်ငါအကြောင်းကိုသင်သည်
ယေရုရှလင်မြို့၌သက်သေခံပြီး သည် နည်းတူ ရောမမြို့ ၌ လည်း သက်
၁၂ သေခံရလေဦးမည်ဟုမိန့်တော်မူ၏။ ။မိုဃ်းလင်းသောအခါ
ယုဒလူအချို့တို့သည်အချင်းချင်းတိုင်ပင် ၍ငါတို့သည် ကိုယ်တိုင် ပေါ
လု ကို မသတ်မှီ တိုင်အောင် အလျှင်း မစား မသောက် ရဟု ကိုယ်ကို
၁၃ ကိုယ်ကျိန်ဆို၍မိဌာန်ပြုကြ၏။ ထိုသို့သဘောတူ၍မိဌာန်ပြုသော
၁၄ သူတို့သည်ကားလေးကျိပ်မကရှိကြ၏။ ထိုသူတို့သည် ယဇ်ပရော
ဟိတ်အကြီး။လွှတ်အရာရှိထံသို့သွား၍ကျွန်တော်တို့သည် ကိုယ်တိုင်
ပေါလုကိုမသတ်မှီတိုင်အောင်အလျှင်းမစားမသောက်ရဟုကိုယ်ကို
၁၅ ကိုယ်ကျိန်ဆို၍မိဌာန်ပြုပါပြီ။ ထိုကြောင့်စစ်သူကြီးသည်ပေါလုကို
ကိုယ်တော်တို့၏အထံသို့ပို့ဆောင်စေခြင်းငှါ သူ ကိုသာ ၍စေ့စေ့စစ်
ကြောမည်အဟန်ပြု ၍လွှတ်အရာရှိများ နှင့် အတူကိုယ်တော် တို့စစ်
သူကြီးကိုလျှောက်ကြပါတော့။ပေါလုသည်ကိုယ်တော်တို့ ၏အထံသို့
မရောက်မှီအကြားတွင်ကျွန်တော်တို့သည်သူကိုသတ်ရအောင်အသင့်
ရှိနှင့်ပါပြီဟုလျှောက်ကြ၏။

**

၁၆ ထိုသို့လမ်းနား ၌ ချောင်းနေ သည် အမှု ကို ပေါလု၏တူကြားလျှင် ရဲ
၁၇ တိုက်ထဲသို့ဝင်၍ပေါလုအားကြားပြောလေ၏။ ပေါလုသည် တပ်မှူး
တယောက်ကိုခေါ်၍ဤလုလင်ကိုစစ်သူကြီးထံသို့ပို့ပါ။ လျှောက်စရာ
၁၈ တစုံတခုသူ၌ရှိသည်ဟုဆိုလေသော် တပ်မှူးသည်လုလင် ကို စစ်သူ
ကြီးထံသို့ပို့ပြီးလျှင်အကျည်းခံသောသူ။ ပေါလုသည် ကျွန်တော်ကို
ခေါ်၍ ကိုယ်တော်အား လျှောက်စရာတစုံတခု ရှိသော ဤလုလင်ကို
၁၉ ကိုယ်တော်ထံသို့ ပို့ရအောင်တောင်းပါသည်ဟုလျှောက်၏။ စစ်သူ
ကြီးသည်လုလင်ကိုလက်ဆွဲ၍ဆိတ်ကွယ် ရာအရပ်သို့ သွား ပြီးလျှင်
သင်သည်အဘယ်အကြောင်းကိုငါအားလျှောက်ချင်သနည်း ဟု မေး
၂၀ မြန်းလေ၏။ လုလင်ကလည်းကိုယ်တော်သည်နက်ဖန်နေ့၌ပေါလုကို

လွှတ်တော်ဆီသို့ပို့ဆောင်စေခြင်းငှါယုဒလူတို့သည်သူ့ကိုသာ၍စေ့
စေ့မေးမြန်းမည်အဟန်ပြု၍ ကိုယ်တော်ကိုတောင်းလျှောက်မည်ဟု
၂၁ တိုင်ပင်ညှိ ညွှတ်ကြပြီ။ သူတို့အလိုကိုမလိုက်ပါနှင့်။ ကိုယ်တိုင်ပေါ
လုကိုမသတ်မှီတိုင်အောင်အလျှင်းမစားမသောက်ရဟုကိုယ်ကိုကို
ယ်ကျိန်ဆို၍မိဋ္ဌာန်ပြုသောယုဒလူလေးကျိပ်မကလမ်နား၌ပေါလုကို
ချောင်းနေကြ၏။ ယခုပင်ကိုယ်တော်ဝန်ခံသောစကား ကို ထိုသူတို့
၂၂ သည်ဆိုင်းလင့်၍အသင့်ရှိနှင့်ပါပြီဟုလျှောက်ဆို၏။ ။စစ်
သူကြီးကလည်းသင်သည် ငါအား ဤသို့ကြားလျှောက်သည် ကို အ
ဘယ်သူအားမပြောနှင့်ဟုထိုလုလင်ကိုမှာထား၍လွှတ်လိုက်ပြီးလျှင်
၂၃ တပ်မှူးနှစ်ယောက်တို့ကိုခေါ်၍ယနေ့ညည့်သုံးချက်တီးအချိန် ၌ ကဲ
သရိမြို့သို့သွားစေခြင်းငှါစစ်သူရဲနှစ်ရာ။ မြင်းသူရဲခုနှစ်ကျိပ်။ လှံ
၂၄ သူရဲနှစ်ရာတို့ကိုပြင်ဆင်ကြ။ ပေါလုစီးစရာဘို့မြင်းနွားစသည်တို့
ကိုပြင်၍ပေးကြ။သူ့ကိုဖေလဇ်မင်းထံသို့ကြပ်မ၍ပို့ကြဟုမှာဆို၏။
၂၅ စစ်သူကြီးသည်ရေး၍ပေးလိုက်သောစာဟူမူကား။ ကလောဒိလုသိ
၂၆ ကမြတ်တော်မူသောမြို့ဝန်မင်းဖေလဇ်ကို မေတ္တာ နှင့် ကြားလျှောက်
၂၇ လိုက်ပါသည်။ ယုဒလူတို့သည်ဤလူကိုဖမ်းဆီး၍သတ်ပြစ်မည်ပြုကြ
စည်။သူသည်ရောမလူဖြစ်ကြောင်းကိုကျွန်တော်ကြားသိသဖြင့်စစ်
၂၈ သူရဲတို့နှင့်တကွသွား၍သူ့ကိုနှုတ်ပါသည်။ ယုဒလူတို့သည်အဘယ်
ကြောင့်သူ့နှင့်တရားတွေ့ကြသည် ကို ကျွန် တော် သိလို သော့ကြောင့်
၂၉ သူ့ကိုယူ၍လွှတ် ဆီ သို့ ဆောင် သွားပြီးလျှင် အသေသတ်ခြင်း။ အ
ကျဉ်းထားခြင်း ကို ခံထိုက် သော အပြစ်ကြောင့် တရားတွေ့ သည် မ
ဟုတ်။သူတို့တရားနှင့်စပ်ဆိုင်သောပုစ္ဆာအမေး ကို အကြောင်း ပြု ၍
၃၀ သာတရားတွေ့ကြသည်ကိုကျွန်တော်သိမြင်ပါ၏။ ယုဒလူတို့သည်
မကောင်းသောအကြံနှင့်သူ့ကိုလုပ်ကြံမည် ဟု ကျွန် တော် ရိပ်မိ လျှင်
သူ့ကိုကိုယ်တော်ထံ သို့ ချက်ချင်းစေလိုက် ၍ သူ၏ တရား တွေ့ ဘက်
တို့ကိုရှေ့တော်၌တရားတွေ့စေကြဟုစီရင်ပါ၏။ကိုယ်တော်ကျန်းမာ
၃၁ ပါစေသောဟုရေးပေးလိုက်သတည်း။ ။စစ်သူကြီးသည်
တပ်မှူးနှစ်ယောက်တို့ကိုမှာထားသည်အတိုင်းစစ်သူရဲတို့သည် ပေါ
၃၂ လုကိုယူ၍ညည့်အခါအန္တိပတရိမြို့သို့ပို့လိုက်ပြီးမှ နက်ဖန်နေ့၌မြင်း
သူရဲတို့ကိုပေါလုနှင့်တကွသွားစေခြင်းငှါလွှတ်လိုက်၍မိမိတို့သည်ရဲ
၃၃ တိုက်သို့ပြန်ကြ၏။ မြင်းသူရဲတို့သည်ကဲသရိမြို့သို့ရောက်လျှင်စစ်

သူကြီးစာကိုမြို့ဝန်မင်းလက်၌အပ်ပေး၍ပေါလုကိုလည်းရှေ့တော်
၃၄ သို့သွင်းထားကြ၏။ မြို့ဝန်မင်းသည်စာကိုဖတ်ပြီးမှအဘယ်မြို့နှင့်
ဆိုင်သနည်းဟုမေး၍ကိလိကိပြည်သားဖြစ်သည်ကိုကြားသိလျှင်
၃၅ သင်၏တရားတွေ့ဘက်တို့သည်ရောက်သောအခါငါနားထောင်မည်
ဟုဆို၍ပေါလုကိုဟေရုဒ်မင်း၏အိမ်တော်၌ချုပ်ထားလျက်နေစေဟု
စီရင်လေ၏။

✱✱

၁ ထိုနောက်ငါးရက်လွန်သောအခါ ယဇ်ပုရောဟိတ်မင်းအာနနိသည်
တေရတုလုအမည်ရှိသောရှေ့နေမှစ၍သက်အရာရှိတို့နှင့်တကွကဲသ
ရိမြို့သို့သွားကြသဖြင့်ပေါလုအကြောင်းကိုမြို့ဝန်မင်းထံ၌လျှောက်
၂ ထားကြ၏။ ပေါလုကိုခေါ်ကြပြီးမှတေရတုလုသည်အပြစ်တင်သော
စကားကိုပြောလိုလျှင်မြတ်တော်မူသောမင်းဖေလိဇ်။ ကျွန်တော်တို့
သည်ဘုန်းတော်ကိုခိုလှုံ၍အလွန်ငြိမ်သက်စွာနေရပါ၏။ကိုယ်တော်
သည်ကြည့်ရှုပြုပြင်တော်မူခြင်းကျေးဇူးတော်ကိုဤလူမျိုးသည်ခံရ
၃ ပါ၏။ အရပ်ရပ်၌ကျွန်တော်တို့သည် အစဉ်မပြတ်ကျေးဇူးတော်
၄ ကိုအလွန်သိတတ်သောစိတ်နှင့်ကျေးဇူးတော်ကိုခံရပါ၏။ ကျွန်တော်
သည်ကိုယ်တော်ကိုကြာကြာမနှောင့်ရှက်ရအောင်အကျဉ်းအားဖြင့်
လျှောက်သောစကားကိုဖြည်းညှင်းသောစိတ်တော်နှင့် နားထောင်
၅ တော်မူမည်အကြောင်းအသနားတော်ခံပါ၏။ အရပ်ရပ်၌ယုဒလူအ
ပေါင်းတို့သည်မငြိမ်သက်အောင်ပြု၍နာဇရက်ဘာသာဝင်သူတို့
၆ တွင်သူကြီးလုပ်သောဤလူဆိုးကိုကျွန်တော်တို့တွေ့ကြပါပြီး။ သူ
သည် ဗိမာန်တော်ကိုရှုတ်ချခြင်းငှါပြုပါပြီး။ ကျွန်တော်တို့
သည်သူကိုဖမ်းဆီး၍ကျွန်တော်တို့တရားအတိုင်းစီရင်ခြင်းငှါအလို
၇ ရှိသည်တွင် စစ်သူကြီးလုသိလာ၍စစ်သူရဲအများနှင့်ကျွန်တော်တို့
၈ လက်မှနှုတ်ပြီးလျှင် အပြစ်တင်သောသူတို့ကိုကိုယ်တော်ထံသို့သွား
မည်အကြောင်းစီရင်ပါ၏။ကိုယ်တော်တိုင်စစ်သူကြီးကိုမေးမြန်း
တော်မူလျှင်ကျွန်တော်တို့အပြစ်တင်သောအကြောင်းအရာများကို
၉ သေချာစွာသိနိုင်တော်မူပါမည်ဟုလျှောက်ထားလေ၏။ ယုဒလူတို့
၁၀ ကလည်းဤစကားမှန်ပါသည်ဟုဝန်ခံကြ၏။ ။မြို့ဝန်မင်းသည်
အမှတ်ပေး၍ပေါလုသည်လျှောက်ရသောအခွင့်ကိုရလျှင်ကိုယ်တော်
သည်ဤလူမျိုးကိုတာရှည်စွာအုပ်စိုးတော်မူသည်ကိုကျွန်တော်သိ၍

သာရသောစိတ်နှင့်ကိုယ်အပြစ်ဖြေရာစကားကိုလျှောက်ဝံ့ပါ၏။
၁၁ ကျွန်တော်သည်ကိုးကွယ်ခြင်းငှါယေရုရှလင်မြို့သို့တက်သွား၍ ယခု
၁၂ ဆယ်နှစ်ရက်သာရှိသည်ကိုကိုယ်တော်သိနိုင်တော်မူ၏။ ဗိမာန်
တော်၌ တစုံ တယောက် သော သူနှင့် ကျွန်တော် ဆွေးနွေး ညှင်းခံ
သည် ကို သူ တို့မတွေ့ကြ။ တရားဇရပ်တို့ ၌ ၎င်မြို့ထဲ ၌ ၎င်လူများမ
ညီမသက် အောင် ကျွန် တော် နှိုးဆော် သည် ကို သူ တို့ မတွေ့ ကြ။
၁၃ ယခုတွင်ကျွန်တော်ကိုအပြစ်တင်သောအမှု၌သက်သေမပြနိုင်ကြ။
၁၄ သို့သော်လည်း သူ တို့ သည် ဒိဋ္ဌိအယူဟူ၍ ခေါ်ဝေါ်သော ဘာသာအ
တိုင်း ကျွန်တော်သည်ဘိုးဘေးဆက်ကိုးကွယ် သော ဘုရား သခင်ကို
ကိုးကွယ်သည်ဟုရှေ့တော်၌ ဝန်တော်ခံပါ၏။ပညတ်ကျမ်းစာ၌
၎င်အနာဂတ္တိကျမ်းစာ၌၎င်စီရင်ရေးထားသမျှတို့ကိုကျွန်တော်ရုံပါ
၁၅ ၏။ ဖြောင့်မတ်သောသူ၊မဖြောင့်မတ်သောသူရှိ သမျှတို့သည်သေ
ခြင်းမှထမြောက်လိမ့်မည်ဟူ၍သူတို့မျှော်လင့်သည်အတိုင်းပင်လျှင်
၁၆ ကျွန်တော်သည်ဘုရားသခင်ကိုအမှီပြု၍မျှော်လင့်ပါ၏။ ထိုကြောင့်
ဘုရားသခင်ကိုပြစ်မှားသည်ဟူ၍၎င်လူသူတပါးတို့ကိုပြစ်မှားသည်
ဟူ၍၎င်ကိုယ်စိတ်နှလုံးသည် ကိုယ် ၌ အပြစ်တင်ခွင့်အစည်းမရှိရ
၁၇ အောင်ကျွန်တော်ကြိုးစားအားထုတ်ပါ၏။ ။နှစ်ပေါင်းများ
စွာရှိသောအခါအမျိုးသားချင်းတို့အားစွန့်ကြဲပေးကမ်းခြင်းအမှု၊ဘု
ရားသခင် အား ပူဇော် သကာ ပြု ခြင်း အမှုနှင့် ကျွန် တော်ရောက်
၁၈ လာသည်တွင် ဗိမာန်တော်၌လူအစုအဝေးနှင့်ကင်း၍ရုန်းရင်းခတ်
မပြုဘဲသန့်ရှင်းခြင်းကိုပြုလျက်ရှိသည်ကိုအာရှပြည်ကလာသောယု
၁၉ ဒလူအချို့တို့သည်တွေ့ကြပါ၏။ ထိုသူတို့သည်ကျွန်တော်၌အပြစ်တင်
စရာရှိလျှင်အထံတော်သို့ကိုယ်တိုင်လာ၍အပြစ်တင်အပ်ပါ၏။
၂၀ သို့မဟုတ်၊ဤအရာရှိတို့ရှေ့၌ကျွန်တော်ရှိနေသောအခါသေသော
၂၁ သူတို့သည်ထမြောက်ခြင်းအကြောင်းနှင့်အကျွန်ုပ်သည်သင်တို့ရှေ့၌
ယနေ့စစ်ကြောစီရင်ခြင်းကိုခံရ၏ဟုကျွေးကျော်သောစကားသံတ
ခွန်းကိုထားလျှင်ကျွန်တော်၌အဘယ်အပြစ်ကိုတွေ့ကြသည်ကိုယခု
ရှိသော၍သူတို့သည်ပြောပါစေတော့ဟုပေါလုလျှောက်လေ၏။
၂၂ ။ဖေလစ်မင်းသည်ထိုဘာသာကိုသာ၍နားလည်သောသူ
ဖြစ်လျက်နှင့်စစ်သူကြီးလုသိရောက်လာသောအခါသင်တို့အမှုကို
၂၃ ငါစစ်ဦးမည်ဟုဆို၍မစီရင်ဘဲသူတို့ကိုလွှတ်လိုက်၏။ ပေါလုကိုအ

ကျဉ်းမထားဘဲစောင့်၍နေစေ။သူ၏အဆွေအမျိုး တို့သည် သူ့ဆီသို့
လာပါလေစေ။လုပ်ကျွေးပါလေစေဟုတပ်မှူးကို မှာထား၏။ ။
၂၄ ထိုနောက်များမကြာ ဖေလဇ်မင်းသည် ယုဒ အမျိုးဖြစ် သော မိမိခင်
ပွန်းဒြုသိလေနှင့်တကွလာပြီးလျှင်ပေါလုကို ခေါ်၍ ခရစ်တော် ကိုယုံ
၂၅ ကြည်ခြင်းနှင့်ဆိုင်သော စကားကို နားထောင်လေ၏။ ပေါလုသည်
ဖြောင့်မတ်ခြင်းတရားကိုဎင်ကာမဂုဏ်ချုပ်တည်းခြင်းတရားကိုဎင်
နောက်ဖြစ်လတံ့သောစစ်ကြောစီရင်ခြင်းကို ဎင် ဟောပြောစဉ် ဖေ
လဇ်မင်းသည်ကြောက် လန့် ခြင်း သို့ရောက် ၍ ယခု အခါ သွားတော့။
၂၆ နောက်မှာအဆင်သင့်သောအခါငါခေါ် ဦးမည်ဟုဆို၏။ ပေါလုသည်
ငွေပေးမည် ဟု ထို မင်း ထင်မှတ် သဖြင့် မကြာမကြာပေါလုကိုခေါ်
၂၇ ၍သူနှင့်စကားပြောလေ၏။ နှစ်နှစ်စေ့သောအခါဖေလဇ်မင်းသည်
အရာမှကျ၍ထိုအရာကိုပေါကိဖေတ္တုရသဖြင့်ဖေလဇ်မင်းသည်ယုဒ
လူတို့အားကျေးဇူးပြုလိုသောစိတ်နှင့်ပေါလုကိုအကျဉ်းထားရစ်စေ
၏။



၁ ဖေတ္တုမင်းသည်ထိုပြည်သို့ရောက်၍သုံးရက်ရှိသောအခါကဲသရိမြို့
၂၊၂ မှယေရုရှလင်မြို့သို့တက်သွား၏။ ထိုအခါယဇ်ပုရောဟိတ်မင်းမှစ
၍ ယုဒ လူအကြီး တို့သည်ပေါလုကိုသတ် အောင် လမ်း ခရီး ၌ ချောင်း
နေမည်အကြံရှိသည်နှင့်ပေါလု၏ အကြောင်း ကိုကြား လျှောက် တော
င်းပန်၍သူကိုယေရုရှလင်မြို့သို့စေလိုက်တော်မူမည်အကြောင်းအသ
၄ နားတော်ခံကြ၏။ ဖေတ္တုမင်းကလည်းပေါလုကိုကဲသရိမြို့၌ချုပ်ထား
၅ ၍နေစေမည်။ထိုမြို့သို့ငါကိုယ်တိုင်များမကြာ သွားမည်။ သင်တို့
တွင်တတ်နိုင်သော သူတို့သည် ငါနှင့်အတူလိုက် ၍ ထိုသူ ၌ အပြစ်ရှိ
၆ လျှင်အပြစ်တင်ကြစေဟုပြန်ဆို၏။ ထိုနောက်ဆယ်ကိုးရက်သောက်
နေပြီးမှကဲသရိမြို့သို့သွားသည်ဖြစ်၍နက်ဖန်နေ့၌တရားပလ္လင်ပေါ်
၇ မှာထိုင်လျက်ပေါလုကိုခေါ်ချေဟုအမိန့်ရှိ၏။ ။ပေါလုရောက်
လာသောအခါယေရုရှလင်မြို့ မှလာသောယုဒလူတို့သည် ဝန်းရံလျက်
သက်သေမပြနိုင်ဘဲလေးစွာသောအပြစ်အများတို့ကိုပေါလုအပေါ်၌
၈ တင်ကြ၏။ ပေါလုကလည်းကျွန်တော်သည်ယုဒတရားကိုမပြစ်မှား။
ဗိမ္မာန်တော်ကိုမပြစ်မှား။ကဲသာဘုရင်ကိုမပြစ်မှားပါဟူ၍အပြစ်
၉ ဖြေရာစကားကိုပြောလေ၏။ သို့သော်လည်း ဖေတ္တုမင်းသည်ယုဒ

လူတို့အားကျေးဇူးပြုလိုသောစိတ်ရှိ လျက်သင်သည်ယေရုရှလင်မြို့သို့
သွား၍ငါ့ရှေ့မှာ ဤအမှုစီရင်ခြင်း ကိုခံလိုသလော ဟု ပေါလုအားမေး
၁၀ ၏။ ပေါလုကလည်းကဲသာဘုရင်၏တရားပလ္လင်ရှေ့မှာကျွန် တော်
ရှိနေပါ၏။ ထိုပလ္လင် ရှေ့ မှာ ကျွန်တော်အမှုကိုစီရင်အပ်ပါ၏။ ကိုယ်
တော်သည်အမှန်သိတော်မူ သည့် အတိုင်းကျွန်တော် သည်ယုဒလူတို့
၁၁ ကိုအလျှင်းမပြစ်မှားပါ။ ကျွန်တော်ပြစ်မှား၍သေထိုက်သောအပြစ်
ကိုပြုပြီးသည်မှန်လျှင်အသက်၏ချမ်းသာ ကို ပေး ပါ ဟု ကျွန် တော်မ
တောင်းပန်ပါ။ သူတို့သည်ကျွန်တော်အပေါ်၌ တင်သော အပြစ်တစုံ
တခုမမှန်လျှင်အဘယ်သူမျှသူတို့အားကျွန်တော်ကိုမစွန့်မအပ်ရ။ကဲ
၁၂ သာဘုရင်၏အယူတော်ကိုခံပါမည်ဟုလျှောက် ဆို၏။ ထိုအခါဖေတ္တု
မင်းသည်မိမိ တိုင်ပင်ဘက်တို့နှင့်တိုင်ပင်ပြီးလျှင် သင် သည် ကဲသာ
ဘုရင်၏အယူတော်ကိုခံပါမည်ဆိုသည် ဖြစ်၍ကဲသာဘုရင်ထံတော်
၁၃ သို့သွားရမည်ဟုဆို၏။ ။ထိုနောက်များ မကြာ အဂြိပ္ပမင်း
ကြီးသည်မိမိခင်ပွန်းဗေရနိတ်နှင့် တကွ ဖေတ္တုမင်း ကို နှုတ် ဆက် ရ
၁၄ အောင် ကဲသရိ မြို့ သို့ရောက်လာ၏။ အင် တန်နေ ပြီး မှ ဖေတ္တုမင်း
သည်ပေါလု၏ အကြောင်း ကိုမင်းကြီး အားကြား လျှောက် သည်မှာ။
ဖေလဇ် မင်း သည် အကျဉ်းထားရစ်စေသောလူတယောက်ရှိ၏။
၁၅ ယေရုရှလင်မြို့၌ကျွန်ုပ်ရှိသောအခါယဇ်ပုရောဟိတ်အကြီး။ယုဒလူ့တ်
အရာရှိတို့ သည် ထို သူ၏အကြောင်း ကို ကြားလျှောက် ၍ အပြစ် အ
၁၆ လျှောက်စီရင်ပါဟုတောင်းကြလျှင် ကျွန်ုပ်က လည်းအပြစ်တင်ခြင်း
ကိုခံသော သူသည်အပြစ်တင်သော သူတို့နှင့်မျက်မှောက်တွေ့ ၍မိမိ၌
တင်သောအပြစ်ကိုဖြေရသောအ ခွင့်မရှိမှီအဘယ်သူကိုအသေခံစေ
၁၇ ခြင်းငှါမစွန့်မအပ်ရဟုရောမထုံးစံရှိသည်ဟုဆို၏။ ထိုသူတို့သည်
ဤမြို့ သို့ ရောက် လာ သော အခါ ကျွန်ုပ် မဆိုင်းလင့်ဘဲ နက်ဖန်နေ့၌တ
၁၈ ရားပလ္လင်ပေါ်မှာထိုင်၍ထိုလူကိုခေါ်စေ၏။ သူ၌အပြစ်တင်သော
သူတို့သည်လာ၍ကျွန်ုပ် အထက်က ထင်မှတ်သော အပြစ် တစုံ တခု ကို
၁၉ မျှမတင်ဘဲလျက် မိမိတို့ဘာသာနှင့်ဂုဏ်ယေရှုအမည် ရှိသော။ သေခဲ့
ပြီးသော သူတယောက်နှင့်ဂုဏ်ရှည်သောပုစ္ဆာအမေး ကိုအကြောင်းပြု
၍အပြစ်တင်ကြ၏။ထိုယေရှုသည်အသက်ရှင်လျက်ရှိ သည်ဟုပေါလု
၂၀ ဆိုတတ်၏။ ထိုပုစ္ဆာအမေးကိုကျွန်ုပ်မကျွမ်းသော့ကြောင့်ပေါလုအား
လည်းသင်သည်ယေရုရှလင်မြို့သို့သွား၍ဤအမှုစီရင်ခြင်းကိုခံလိုသ

၂၁ လောပတုမေး၏။ ပေါလုသည်ဘုန်းကြီးတော်မူသောဘုရင်၏အယူ
တော်ကိုခံရအောင်မိမိချုပ်ထားစေခြင်းငှါတောင်းပန်ပြီးလျှင်သူကို
ကဲသာဘုရင်ထံတော်သို့မစေလိုက်မှီ တိုင်အောင် ချုပ်ထားစေခြင်း
၂၂ ငှါကျွန်ုပ်စီရင်သည်ဟုဖေတ္တုမင်းဆို၏။ အဂြိပ္ပမင်းကလည်းထိုသူ
၏စကားကိုကျွန်ုပ်ကိုယ်တိုင်နားထောင်ချင်သည် ဟု ဆိုလျှင်ဖေတ္တု
မင်းကနက်ဖန်နေ့၌သူ၏စကားကိုနားထောင်ပါစေဟုဆို၏။
၂၃ ။နက်ဖန်နေ့၌အဂြိပ္ပမင်းနှင့်ဗေရနိတ်ကိုသည်များစွာသောအ
ခေါင်အရောင်။ဂုဏ်အသရေကို ဆောင်လျက် စစ်သူကြီးတို့မှစ၍
ထိုမြို့၌ထင်ရှားသောသူများတို့နှင့်တကွအိမ်တော်ဦးသို့ဝင်ကြလျှင်
၂၄ ဖေတ္တုမင်းသည်ပေါလုကိုဆောင်ခဲ့စေ၏။ ဖေတ္တုမင်းကလည်းအ
ဂြိပ္ပမင်းကြီးမှစ၍ယခုရှိသောသူအားလုံးကို၊ဤသူကိုကြည့်ပါလော့၊
ယေရုရှလင်မြို့၌၎င်ဤမြို့၌၎င်ယုဒလူများအပေါင်းတို့သည် ဤသူ၏အ
ကြောင်းကိုကျွန်ုပ်အားလျှောက်၍သူသည်ခဏမျှအသက်မရှင်ထိုက်ပါ
၂၅ ဟုဟစ်ကြ၏။ သူသည်သေထိုက်သောအပြစ်မပြုကြောင်းကိုကျွန်ုပ်
သိမြင်၍၎င်သူသည်ဘုန်းကြီးတော်မူသောဘုရင်၏အယူတော်ကိုခံ
ပါမည်ဟုဆို၍၎င်သူကိုအထံတော်သို့စေလိုက်စေခြင်းငှါကျွန်ုပ်စီရင်
၂၆ ၏။ သူ၏အကြောင်းကိုရေးထား၍ ရှင်ဘုရင်ထံတော်သို့ပေးလိုက်
စရာဘို့။သေချာစွာသောအကြောင်းကခဏမျှကျွန်ုပ်၌မရှိ။သို့ဖြစ်လျှင်
သင်တို့သည် သူ ကို စစ်ကြော ပြီးမှကျွန်ုပ်ရေး ၍ ပေး လိုက်စရာအ
ကြောင်းရှိရအောင်သင်တို့ ရှေ့ ၌ ၎င်အဂြိပ္ပမင်း ကြီး။ အထူးသဖြင့်
၂၇ ကိုယ်တော်ရှေ့၌၎င်သူကိုကျွန်ုပ်ထုတ်ပြ၏။ အဘယ်ကြောင့်နည်း
ဟူမူကား။အကျဉ်းခံသောသူကိုအပြစ်မပြဘဲစေလိုက်သော်မတော်
မလျော်တင်ပါသည်ဟုဆို၏။

**

၁ ထိုအခါအဂြိပ္ပမင်းကသင်သည်ကိုယ်အဖို့အလိုငှါပြောရသောအခွင့်
၂။၃ ရှိသည်ဟုပေါလုအားဆိုလျှင် ပေါလုသည်လက်ကိုဆန့်၍အပြစ်ဖြေ
ရာစကားကိုဤသို့ပြော၏။အဂြိပ္ပမင်းကြီး၊ယုဒလူတို့သည်ကျွန်တော်
ကိုတရားတွေ့သမျှသောအရာမှာရှေ့တော်၌အပြစ်ဖြေရာစကားကို
ယနေ့ပြောရမည်အကြောင်းကို၎င်ထိုမျှသာမကကိုယ်တော်သည်ယု
ဒထုံးတမ်း။ပုစ္ဆာအမေးများကိုလွှေကျက်တော်မူကြောင်းကို၎င်ကျွန်
တော်ထောက်၍ကိုယ်၌မင်္ဂလာရှိသည် ဟုကိုယ်ထင်မှတ် ပါ၏။ ထို

ကြောင့်သည်းခံသောစိတ်တော်နှင့်ကျွန်တော်စကားကိုနားထောင်
၄ တော်မူမည်အကြောင်းအသနားတော်ခံပါ၏။ ။ယေရုရှလင်
မြို့တွင်ကိုယ်အမျိုးသားချင်းတို့၏အထဲ၌ကျွန်တော်နေသဖြင့်ငယ်
သောအသက်အရွယ်မှစသောကျွန်တော်အနေအထိုင်အပြုအမူများ
၅ ကိုယုဒလူအားလုံးတို့သည်သိကြပါ၏။ ကျွန်တော်သည်ယုဒဘာ
သာ၌အလွန်ကြပ်တည်းစွာသောနည်းဥပဒေသခံ၍ဖာရိရှဲလူဖြစ်
သည်ကိုထိုသူတို့သည်သက်သေခံခြင်းငှါအလိုရှိလျှင်ရှေးဦးစွာမှစ
၆ ၍သိကြပါ၏။ ဘုရားသခင်သည်အဘများတို့အားပေးတော်မူသော
ဂတိတော်ကိုထောက်၍မျှော်လင့်ခြင်းတရားအကြောင်းကြောင့်ကျွန်
၇ တော်သည်ယခုတွင်စစ်ကြောစီရင်ခြင်းကိုခံရပါ၏။ ယုဒလူဆယ်နှစ်
မျိုးတို့သည်နေ့ညဥ့်မပြတ်ကျိုးစား၍ဘုရားဝတ်ကိုပြုသဖြင့်ထိုဂတိ
တော်ကိုခံရမည်ဟုမျှော်လင့်ခြင်းရှိကြ၏။အဂြိပ္ပမင်းကြီး။ထိုမျှော်လင့်
ခြင်းတရားကိုအကြောင်းပြု၍ယုဒလူတို့သည်ကျွန်တော်ကိုတရားတွေ့
၈ ကြပါ၏။ဘုရားသခင်သည်သေလွန်သောသူတို့ကိုထမြောက်စေမည်ဟူ
သောအယူကိုမယူအပ်ဟုသင်တို့သည်အဘယ်ကြောင့်ထင်ကြသ
၉ နည်း။ ။နာဇရက်မြို့သားယေရှု၏ဘာသာနှင့်ဆန့်ကျင်သော
၁၀ အမှုများကိုပြုကောင်း၏ဟုစိတ်ထင်နှင့်ကျွန်တော်သည်ယေရုရှလင်
မြို့၌ထိုအမှုကိုပြု၍ယဇ်ပုရောဟိတ်အကြီးတို့ထံ၌အခွင့်ရသဖြင့်
သန့်ရှင်းသူအများတို့ကိုထောင်ထဲမှာလှောင်ထား၍သူတို့သည်အ
၁၁ သေသတ်ခြင်းကိုခံသောအခါကျွန်တော်ဝန်ခံပါ၏။ သူတို့သည်လည်း
နှုတ်ဖြင့်ဘုရားကိုပြစ်မှားစေခြင်းငှါကျွန်တော်အနိုင်အထက်ပြု၍
ခပ်သိမ်းသောတရားဇရပ်တို့၌အကြိမ်အဖန်များစွာဒဏ်ပေးပါ
၏။ပြင်းစွာသောအမျက်ဒေါသနှင့်ရစ်မူးသဖြင့်တကျွန်းတနိုင်ငံတိုင်
၁၂ အောင်သူတို့ကိုညှဉ်းဆဲနှိပ်စက်ပါ၏။ ။ထိုသို့ပြု၍ယဇ်
ပုရောဟိတ်အကြီးတို့ပေးသောအခွင့်အရာနှင့်ကျွန်တော်သည်ဒမာ
၁၃ သကုမြို့သို့သွားစဉ်တွင် နေ၏အရောင်ထက်မကသောအလင်း
သည်ကျွန်တော်မှစ၍ကျွန်တော်နှင့်အတူသွားသောသူများပတ်
လည်ကောင်းကင်ထဲကထွန်းတောက်သည်ကိုမွန်းတည့်အချိန်တွင်
၁၄ လမ်းထဲမှာကျွန်တော်မြင်ပါသည်အရှင်မင်းကြီး။ ကျွန်တော်တို့အား
လုံးသည်မြေပေါ်၌လဲကြပြီးမှ ရှောလု။ရှောလု။ငါ့ကိုအဘယ်ကြောင့်
ညှဉ်းဆဲသနည်း။ ဒုတ်ချွန်ကိုခြေနှင့်ကျောက်လျှင်ခက်လှသည်ဟု

ဟေဗြဲဘာသာအားဖြင့်ကျွန်တော်အားပြောသောစကားသံကိုကြား
၁၅ လျှင် သခင်။ ကိုယ်တော်သည် အဘယ် သူ နည်း ဟုကျွန်တော်မေး
လျှောက်လေသော်ငါကားသင်ညှဉ်းဆဲသောနာဇရက်မြို့သားယေရှု
၁၆ ဖြစ်သတည်း။ သို့သော်လည်းထ၍မတ်တတ်နေ တော့။ ငါသည်ယုဒ
၁၇ အမျိုးသား။တပါးအမျိုးသားတို့လက်မှသင်ကိုကယ်နှုတ်၍သင်သည်
ယခုမြင်ရသမျှ။နောက်မှာငါသည်သင်အားထင်ရှားရှုံလတ္တံ့သမျှသော
အကြောင်းအရာတို့၏သက်သေခံအရာ၌ ၎င် ငါ အမှုထမ်းအရာ၌ ၎င်
၁၈ သင်ကိုခန့်ထားခြင်းငှါငါသည်သင်အားကိုယ်ကိုထင်ရှားပြ၏။ တ
ပါးအမျိုးသားတို့သည်မှောင်မိုက်မှအလင်းသို့ကူးပြောင်း၍စာတန်
မာရ်နတ်၏အာဏာထဲမှဘုရားသခင်အထံတော်သို့ပြောင်းလဲသဖြင့်
အပြစ်လွှတ်ခြင်းကိုခံစေခြင်းငှါ၎င်ငါ့ကိုယုံကြည်သောအားဖြင့်သန့်ရှင်း
ခြင်းသို့ ရောက် သောသူတို့ နှင့် ဆက်ဆံ၍အမွေခံစေခြင်းငှါ၎င်သူတို့
၏မျက်စိကိုဖွင့်ရအောင်သူတို့ဆီသို့သင်ကိုငါစေလွှတ် သည် ဟု မိန့်
၁၉ တော်မူ၏။ ။အဂြိပ္ပမင်းကြီး။ကောင်းကင်ကဖြစ်သောထိုဗျာဒိတ်
၂၀ တော်ကိုကျွန်တော်နားမထောင်ဘဲမနေပါ။ လူများတို့သည်နောင်တ
ရရမည်။နောင်တတရားနှင့်ထိုက်တန်သောအကျင့်ကိုကျင့်ရမည်။ဘု
ရားသခင်အထံတော်သို့ပြောင်းလဲရမည်ဟူ၍ဒမာသက်မြို့၌ ရှေဦး
စွာဟောပြော၍ယေရုရှလင်မြို့မှစသောယုဒပြည်အရပ်ရပ်၌နေသော
၂၁ သူတို့အား၎င်တပါးအမျိုးသားတို့အား၎င်ဟောပြောပါ၏။ ထိုအ
ကြောင်းများကြောင့်ယုဒလူတို့သည် ဗိမ္မာန်တော် ၌ ကျွန်တော် ကို
၂၂ ဖမ်းဆီး၍ကွပ်မျက်မည်အားထုတ်ကြ၏။ ဘုရားသခင် မစ တော်မူ
၂၃ သောကျေးဇူးတော်ကိုကျွန်တော်ခံ၍ယခုတိုင်အောင်ရှိနေပါ၏။ခရစ်
တော်သည်အသေသတ်ခြင်းကိုခံရမည်ဟူ၍၎င် သေခြင်းမှ အဦးဆုံး
ထမြောက်၍ယုဒအမျိုးသား။တပါးအမျိုးသားတို့အားအလင်းကိုပေး
မည် ဟူ၍၎င် မောရှေမှစသောပရောဖက် များ တို့ သည် ဟောပြော
သောစကားကိုကျွန်တော်မလွန်ဘဲ လူ ငယ် ကြီး အငယ် တို့ အားသက်
၂၄ သေခံ၍နေပါသည်ဟုပေါလုလျှောက်ဆို၏။ ။ထိုသို့ပေါလု
သည်အပြစ်ဖြေရာစကားကိုပြောသော အခါ် ဖေတ္တုမင်းက ပေါလု။
သင်သည် အရူးဖြစ်၏။ သိပ္ပံအတတ်များ ကိုသင် ၍ ရူး သော အဖြစ်
၂၅ သို့ရောက်ခဲ့ပြီဟု ကြီးသောအသံနှင့် ဆို၏။ ပေါလုကလည်း မြတ်
တော်မူသောမင်းဖေတ္တု။ကျွန်တော်သည်ရူးသောသူမဟုတ်ပါ။သမ္မာ

တရားနှင့်ဝင်ကောင်းသောစိတ်နှင့်ဝင်ရှည်သောစကားကိုကျွန်တော်
၂၆ ပြောပါ၏။ ဤအရာများကိုအဖြိပ္ပမင်းကြီးသိတော်မူ၏။ ထိုမင်း
ရှေ့တော်၌ကျွန်တော်အတည့်အလင်းလျှောက်ဝံ့ပါ၏။ဤအမှုအရာတ
ခုကိုမျှမင်းကြီးမသိဘဲနေတော်မမူသည်ကိုကျွန်တော်ထင်ပါ၏။ အ
ဘယ်ကြောင့်နည်းဟူမူကား။ ဤအမှုအရာသည်ထင်ရှားသည်ချည်း
၂၇ ဖြစ်ပါ၏။ အဖြိပ္ပမင်းကြီး။ကိုယ်တော်သည်အနာဂတ္တိကျမ်းစာကို
ရုံတော်မူသလော။ရုံတော်မူသည်ကိုကျွန်တော်သိပါသည်ဟုလျှောက်
၂၈ ၏။ အဖြိပ္ပမင်းကလည်း သင်သည်ဖျားယောင်းသွေးဆောင်သော
၂၉ အားဖြင့်ငါသည်ခရစ်ယာန်ဖြစ်လုပြီးဟုပေါလုအားဆိုလျှင် ပေါလု
ကကိုယ်တော်မှစ၍ယနေ့၌ကျွန်တော်စကားကိုကြားသောသူအား
လုံးတို့သည်ဤသံကြိုးကိုအားဖြင့်ကျွန်တော်ကဲ့သို့သောသူဖြစ်လုသည်
သာမကလုံးလုံးဖြစ်စေခြင်းငှါဘုရားသခင်ကိုကျွန်တော်ဆုတောင်း
၃၀ ပါသည်ဟုလျှောက်လေ၏။ ထိုအခါမင်းကြီးနှင့်ဗေရနိတ်သည်ထ၍
၃၁ မြို့ဝန်မင်းမှစသောအပေါင်းအဖော်များတို့နှင့်တကွ အချားသို့သွား
ပြီးလျှင်ဤလူသည်အသေသတ်ခြင်း။အကျည်းထားခြင်းခံထိုက်သော
၃၂ အပြစ်ကိုမပြုပြီးဟုအချင်းချင်းဆိုကြ၏။ အဖြိပ္ပမင်းကလည်း ဤသူ
သည်ကဲသာဘုရင်၏အယူတော်ကိုခံပါမည်ဟုမဆိုမိလျှင်လွှတ်သင့်
သည်ဟုဖေတ္တုမင်းအားဆို၏။ ❋❋
၁ ငါတို့သည်ဣတလိပြည်သို့သင်္ဘောနှင့်ကူးမည်အကြောင်းစီရင်ပြီးမှ
ယုလိအမည်ရှိသောဩဂုတ္တုတပ်နှင့်ဆိုင်သောတပ်မှူး၌ ပေါလုမှစ
၂ သောအကျဉ်းခံသောသူအချားတို့ကိုအပ်ကြ၏။ အဒြမုတ္တိမြို့သင်္ဘော
ထဲသို့ဝင်၍အာရှိပြည်နားမှာရှောက်သွားမည်အကြံနှင့်လွှင့်ကြ၏။
အာရိတ္တာခုအမည်ရှိသော။ မာကေဒေါနိပြည်သက်သာလောနိတ်မြို့
၃ သားသည်ငါတို့နှင့်ပါ၏။ နက်ဖန်နေ့တွင်ဇိဒုန်မြို့၌ဆိုက်ကြပြီးလျှင်
ပေါလုသည်မိမိအဆွေခင်ပွန်းတို့ဆီသို့သွား၍သူတို့လုပ်ကျွေးပြုရ
၄ ခြင်းကိုခံရအောင်ယုလိသည်ကျေးဇူးပြု၍အခွင့်ပေးလေ၏။ ထိုမြို့
မှထွက်၍လေအသင့်သော့ကြောင့် ကုပရုကျွန်းမြောက်ဘက်နားမှာ
၅ ရှောက်သွားသဖြင့် ကိလိကိပြည်။ပံဖုလိပြည်နှင့်စပ်သောပင်လယ်
၆ ကိုကူး၍လုကိပြည်မုရမြို့သို့ရောက်ကြ၏။ ထိုမြို့၌ဣတလိပြည်သို့
ကူးသောအာလေဇန္ဒြိသင်္ဘောကိုတပ်မှူးတွေ့၍ ထိုသင်္ဘောထဲသို့ငါ
၇ တို့ကိုသွင်းထားလေ၏။ နှေးနှေးသွား၍နေ့ရက်ကာလကြာသောအခါ

ပင်ပန်းစွာကျိုးစား၍ကနိဒ်မြို့နှင့်တည့်တည့်ရောက်ပြီးမှလေမသင့်
သောကြောင့်ကရက်ကျွန်းအရှေ့ဘက်။စလမုန်မြို့အနား၌ပင်ပန်းစွာ
၈ ရှောက်သွား၍ လာသဲမြို့နှင့် အနီး။ကာလုလိမင်းအမည်ရှိသောအ
၉ ရပ်သို့ရောက်ကြ၏။ ။ကာလကြာသည်ရှိသော်ကြီးစွာ
သောဥပုသ်နေ့လွန်၍ပင်လယ်မကူးသင့်သောလဥတုအချိန်ဖြစ်သည်
၁၀ ကိုပေါလုထောက်၍ အချင်းလူတို့။ယခုပင်လယ်ကူးလျှင်သင်္ဘောနှင့်
ကုန်များတို့သည်ဆုံးရှုံးသည် သာမက တို့အသက်ပျက်စီး သောဘေး
၁၁ အန္တရာယ်ရောက်မည်ကျွန်ုပ်ထင်သည်ဟုသတိပေး၏။ တပ်မှူးသည်
ပေါလုစကားကိုနားမထောင်ဘဲတက်မကိုင်စကား။ သင်္ဘောသူကြီး
၁၂ စကားကိုနားထောင်၏။ထိုမြို့ဆိပ်၌ဆောင်းကာလပတ်လုံးမနေသင့်
သောကြောင့်တဖန်ထွက်ပြန်၍ဖိနိတ်မြို့ ဆိပ်သို့မှီနိုင်လျှင် ထိုဆိပ်၌
ဆောင်းကာလကိုလွန်စေသော်ကောင်းမည် ဟုလူအများတို့သည်ဆို
ကြ၏။ဖိနိတ်ဆိပ်ကားကရက်ကျွန်း၌ရှိ၏။အနောက်မြောက်သို့ရင်အ
၁၃ နောက်တောင်သို့ရင်မျက်နှာပြု၏။ တောင်လေသည် ဖြည်းညှင်းစွာ
လာသောအခါယခုမှီနိုင်သည်ဟုစိတ်ထင်နှင့်ကျောက်ဆူးကိုနှုတ်၍က
၁၄ ရက်ကျွန်းနားမှာရှောက်သွားကြ၏။ ကာလများမကြာ ဒုရုကလုဒုန်
၁၅ အမည်ရှိသောလေပြင်းမုံတိုင်းသည်သင်္ဘောကိုတိုက်၍ တဟုန်တည်း
ဆောင်သွားသဖြင့်သင်္ဘောသည် ထိုလေကို မခံနိုင်သော အခါ ငါတို့
၁၆ သည်အားလျော့၍လေသွားရာပါလွင့်ကြ၏။ ကလောဒေကျွန်းနား
၁၇ မှာပြေးစည်တွင်သိမ်ပန်မပျက်အောင်ပင်ပန်းစွာကျိုးစား၍သင်္ဘော
ပေါ်မှာတင်ပြီးလျှင်သင်္ဘောခိုင်ခံ့ရအောင်ကြိုးနှင့်ရစ်ပတ်သည်ဖြစ်
၍သောင်ပေါ်မှာတင်မည်စိုးရိမ်သောကြောင့်ရွက်ကိုသိမ်းချသဖြင့်
၁၈ လေသွားရာပါလွင့်ကြ၏။ မှိုင်းတအားကြီးသောကြောင့်အလွန်တုန်
၁၉ လှုပ်၍နက်ဖန်နေ့၌ဝန်ကိုထုတ်ပြစ်ကြ၏။ သုံးရက်မြောက်သောနေ့
၌သင်္ဘောတန်ဆာများကိုကိုယ်လက်နှင့်ကိုင်ယူ၍ပြစ်လိုက်ကြ၏။
၂၀ နေလကြယ်နက္ခတ်အပေါင်း ကိုတာရှည် စွာမမြင်ရ၍ မိုဃ်းသက်မုံ
တိုင်းအားကြီးသေးသဖြင့်ကယ်လွှတ်မည်ဟုမျှော်လင့်စရာအခွင့်အ
၂၁ လျှင်းမရှိ။ ။အစားမစားဘဲကြာကြာနေပြီးမှပေါလုသည်ထို
သူတို့၏အလယ်၌ထ၍အချင်းလူတို့။ငါစကားကိုနားထောင်၍ကရက်
၂၂ ကျွန်းမှမထွက်ဘဲနေလျှင်ဤပျက်စီးဆုံးရှုံးခြင်းနှင့်ကင်းလွတ်၏။ ယခု
မူကားစိတ်လက်သာခြင်းရှိကြပါ။ အကြောင်းမူကား။ သင်္ဘောဆုံး

၂၃ ခြင်းကိုထား၍သင်တို့တွင်အဘယ်သူမျှအသက်မဆုံးရ။ အဘယ်
ကြောင့်နည်းဟူမူကား။ကျွန်ုပ်ကိုပိုင်တော်မူ၍ကျွန်ုပ်ကိုးကွယ်သော
ဘုရားသခင်၏ကောင်းကင်တမန် သည် ယနေ့ ညည့်အခါ ကျွန်ုပ်အ
၂၄ နားမှာပေါ်လာလျက် ပေါလု။သင်သည် မစိုးရိမ်နှင့်။ ကဲသာဘုရင်
ရှေ့သို့ရောက်ရမည်။သင်နှင့်အတူပင်လယ်ကူးသောသူအားလုံးတို့
၂၅ ကိုဘုရားသခင်သည်သင်အားပေးတော်မူပြီးဟုဆို၏။ ထိုကြောင့်
အချင်းလူတို့။ သက်သာခြင်းရှိကြပါ။ ကျွန်ုပ်အားမိန့်တော်မူသည် အ
တိုင်းဖြစ်လိမ့်မည်ဟုကျွန်ုပ်သည်ဘုရားသခင်ကိုအမှီပြု ၍ ရုံခြင်းရှိ
၂၆ ၏။ သို့သော်လည်း ကျွန်းတကျွန်းနားမှာသင်္ဘောတိုက်မိ ၍ ပျက်ရ
မည်ဟုပေါလုဆို၏။ ❋❋
၂၇ တဆယ်လေးရက်မြောက်သောနေ့ညည့်ရောက်သောအခါငါတို့သည်
အာဒြိပင်လယ်တွင်အရပ်လေးမျက်နှာလူးလာသွားကြစဉ်သန်းခေါင်
အချိန်၌တစုံတခုသောမြေသို့ရောက်လုသည်ကိုသင်္ဘောသားတို့သည်
၂၈ ထင်မှတ်သဖြင့် ရေကိုစမ်း၍အလံနှစ်ဆယ်ရှိသည်ကိုတွေ့ကြ၏။ ထို
မှမိုးစည်းလွန်ပြန်လျှင်တဖန်ရေ ကို စမ် ၍ တဆယ်ငါးလံရှိသည်ကို
၂၉ တွေ့ကြ၏။ ကျောက်ကိုတိုက်မိ မည်စိုး သော ကြောင့် သင်္ဘောဦးမှ
ကျောက်ဆူးလေးလက်ကိုချ၍မိုဃ်းလင်းပါစေဟုဆုတောင်းကြ၏။
၃၀ သင်္ဘောသားတို့သည်သင်္ဘောကိုစွန့်သွားမည် အကြံရှိလျှင် သင်္ဘော
ဦးရှေ့သို့သွား၍ကျောက်ဆူးချကျွန်ုပ်ပြုသည် နှင့်သံပန် ကို ဈေး့စည်
၃၁ တွင် ပေါလုကဤသူတို့သည်သင်္ဘော ပေ၊ ၌ မနေ လျှင်သင် တို့သည်
ကယ်လွှတ်ခြင်းသို့မရောက်နိုင်ဟုတပ်မှူး မှစ ၍ စစ်သူရဲ တို့အားဆို
၃၂ ၏။ ထိုအခါစစ်သူရဲတို့သည်သံပန်ကြိုးကိုခုတ်ဖြတ်၍ချလိုက်၏။
၃၃ ။မိုဃ်းလင်းလုသောအခါအစားစားစေခြင်းငှါပေါလုသည်လူ
အား လုံးတို့ကိုတိုက်တွန်းလျက်သင်တို့သည် ဆယ်လေးရက် ပတ်လုံး
မျှော်လင့်သဖြင့်ယနေ့တိုင်အောင်အစားမစားဘဲငတ်မွတ်၍နေကြ၏။
၃၄ ထိုကြောင့်အစားစားကြပါ။ထိုသို့ပြုလျှင်ကယ်ယွှက်ခြင်းအကြောင်း
၃၅ ကိုပြုလိမ့်သတည်း။သင်တို့ဆံချည်တပင်မျှမပျက်စီးရဟုဆိုပြီးလျှင်
ပေါလုသည်မုန့်ကိုယူ၍ထိုလူများရှေ့၌ဘုရားသခင်၏ကျေးဇူးတော်
၃၆ ကိုချီးမွမ်းပြီးမှမုန့်ကိုပဲ့၍စားလေ၏။ ထိုသူအားလုံးတို့သည်လည်းစိတ်
၃၇ သက်သာခြင်းရှိ၍အစားကိုစားကြ၏။ ထိုသင်္ဘော၌ပါသောသူများ
တို့သည်အရေအတွက်အားဖြင့်နှစ်ရာခုနှစ်ကျိပ်ခြောက် ယောက် ရှိ

၃၈ ၏။ ဝအောင်စားပြီးမှဆံစပါးကိုပင်လယ်ထဲသို့ပြစ်ချ၍သင်္ဘော
၃၉ ကိုပေါ့စေကြ၏။ ။မိုးလင်းသောအခါထိုမြေကိုမသိ၍
သင်္ဘောဆိပ်ရှိသောပင်လယ်ကွေ့ချောင်းကခုကိုမြင်သဖြင့်အဘယ်သို့
၄၀ သင်္ဘောကိုသွင်းနိုင်လျှင်သွင်းမည်အကြံရှိကြ၏။ ကျောက်ဆူးတို့ကို
ဖြတ်၍ပင်လယ်ထဲသို့ချလိုက်သဖြင့်တက်မကြောက်ကြိုးကိုဖြည်၍
၄၁ ရွက်ကိုလေနှင့်ဖြန့်ဖွင့်လျက်ကမ်းနားသို့ဘိုက်သွားကြ၏။ ရေဆိုင်ရာ
သို့ရောက်လျှင်သောင်တိမ်ပေါ်မှာသင်္ဘောကိုတိုက်တင်လိုက်၍ဦးမ
၄၂ လှုပ်ဘဲနေသဖြင့်ပဲ့ကိုလှိုင်းတံပိုးရိုက်၍ချိုးပဲ့လေ၏။ ထိုအခါအ
ကျဉ်းခံသောသူတို့သည်ကုန်းသို့ကူး၍ပြေးမည်စိုးသောကြောင့်စစ်
၄၃ သူရဲတို့သည်သတ်မည်အကြံရှိကြ၏။ တပ်မှူးသည်ပေါလုကိုဘေးမဲ့
လွတ်စေခြင်းငှါအလိုရှိသဖြင့်စစ်သူရဲတို့၏အကြံကိုမြစ်တား၍ကူး
နိုင်သောသူတို့သည်အရင်ဆင်း၍ကုန်းသို့သွားစေခြင်းငှါလည်းကောင်း
၄၄ ကြွင်းသောသူတို့သည်ပျဉ်ပျားမှစ၍သင်္ဘောတန်ဆာများကိုစီးစေ
ခြင်းငှါလည်းကောင်းစီရင်လေ၏။ ထိုသို့လူအားလုံးတို့သည်ဘေးနှင့်လွတ်၍
၁ ကုန်းပေါ်သို့ရောက်ကြ၏။ ။ကုန်းပေါ်သို့ရောက်သောအ
၂ ခါထိုကျွန်းကားမေလိတေကျွန်းဖြစ်သည်ကိုသိကြ၏။ မိုးသည်းရွာ၍
ချမ်းသောကြောင့်လူရိုင်းတို့သည်မီးမွှေးပြီးလျှင်ငါတို့အားလုံးကို
၃ သိမ်းဆည်း၍အထူးသဖြင့်ကျေးဇူးပြုကြ၏။ ပေါလုသည်ထင်းကို
စုသိမ်း၍မီးပေါ်မှာထည့်စဉ်တွင်မြွေဆိုးသည်မီးငွေ့ထဲကထွက်၍
၄ ပေါလုလက်ကိုပတ်ရစ်တွဲလွဲနေ၏။ ထိုလူရိုင်းတို့သည်မြင်လျှင်ဤ
သူကားလူအသက်ကိုသတ်သောသူအမှန်ဖြစ်၏။ ပင်လယ်ဘေးမှ
လွတ်သော်လည်းအသက်ရှင်ရအောင်တရားမင်းသည်အခွင့်မပေး
၅ ဟုအချင်းချင်းဆိုကြ၏။ ပေါလုသည်မြွေကိုမီးထဲသို့ခါချ၍အဘယ်
၆ ဘေးမျှမသင့်။ သူသည်တကိုယ်လုံးရောင်မည်။ တခဏချင်းလဲ၍
သေမည်ဟုထိုသူတို့သည်ကြာကြာမျှော်လင့်၍သူ၌မကောင်းသော
အပြစ်တစုံတခုကိုမမြင်လေသော်သဘောပြောင်းလဲ၍ဤသူကားနတ်
၇ ဘုရားဖြစ်သည်ဟုဆိုကြ၏။ ။ထိုအရပ်နှင့်နီးမဝေးပုပ်လိ
အမည်ရှိသောကျွန်းသူကြီး၏နေရာရှိ၏။ ထိုသူကြီးသည်ငါတို့ကို
သိမ်းဆည်း၍သုံးရက်ပတ်လုံးကောင်းမွန်စွာကျွေးမွေးပြုစုလေ၏။
၈ ပုပ်လိမင်း၏အဖသည်ဖျားနာနှင့်ဝမ်းကျသွေးသွန်နာစွဲ၍အိပ်လျက်နေ
သည်ကိုပေါလုဝင်၍ဆုတောင်းပြီးမှသူ့အပေါ်၌လက်ကိုတင်၍အနာ

၉ ကိုညီမ်းစေ၏။ သို့ပြုပြီးမှထိုကျွန်း၌အနာရောဂါစွဲသောသူအချား
၁၀ ရှိသမျှတို့သည်လာ၍ချမ်းသာခြင်းကိုရကြ၏။ ထိုသူတို့သည် လက်
ဆောင်အများကိုပေး၍ငါတို့သည်လွှင့်ပြန်သောအခါအသုံး အဆောင်
၁၁ များကိုသင်္ဘောပေါ် ၌တင်ကြ၏။ ။သုံးလလွန်လျှင်နှတ်သား
အမှာတို့၏ရုပ်ဟုပါသော။ထိုကျွန်း၌ဆောင်းကာလပတ်လုံးနေ ခဲ့ပြီး
၁၂ သောအာလေဇန္ဒြိသင်္ဘောကိုငါတို့သည်စီးပြန်၍ သုရကုတ်မြို့သို့ဆိုက်
၁၃ လျှင်သုံးရက်နေကြ၏။ ထိုမြို့မှလွှင့်ပြန်၍ရိုက်သွားသဖြင့် ရေဂိမြို့
သို့ ရောက်၍ တရက်နေပြီးမှတောင်လေလာလျှင် နှစ်ရက် တွင်ပေါတ
၁၄ ယောလိမြို့သို့ရောက်ကြ၏။ ထိုမြို့၌ညီအစ်ကိုအချို့တို့ကိုတွေ့၍ခုနှစ်
ရက်နေရအောင်သူတို့သည်တောင်းပန်သည်အတိုင်း နေပြီးမှ ရောမ
၁၅ မြို့သို့ခရီးသွားကြ၏။ ရောမမြို့သား ညီအစ် ကိုတို့ သည် ငါတို့လာ
ကြောင်းကိုကြားသိလျှင်ငါတို့ကိုကြိုဆိုအံ့သောငှါအချို့တို့သည် အပ္ပိ
ဈေးတိုင်အောင်။ အချို့တို့သည်သုံးဇရပ်တိုင်အောင်လာကြ၏။ ထိုသူ
တို့ကိုပေါလုမြင်လျှင်ဘုရားသခင်၏ကျေးဇူးတော်ကိုချီးမွမ်း ၍ စိတ်
၁၆ သာရာခြင်းသို့ရောက်လေ၏။ ရောမမြို့သို့ရောက်ကြသောအခါတပ်
မှူးသည်အကျည်းခံသောသူတို့ကိုကိုယ်ရံတော်မှူး ၌ အပ် လေသော်
ပေါလုသည်မိမိကိုစောင့်သောစစ်သူရဲတယောက်နှင့်အတူမိမိအလို
အလျောက်နေရအောင်အခွင့်ရ၏။

❋❋

၁၇ သုံးရက်လွန်သောအခါပေါလုသည်ယုဒလူအကြီးတို့ ကို ခေါ်၍စုဝေး
စေပြီးလျှင်ညီအစ်ကိုတို့။ အကျွန်ုပ်သည်ယုဒလူမျိုးကိုမပြစ်မှား။ မိ
စည်ဖဆက်ကျင့်သောထုံးတမ်းကိုမပယ်သောသူဖြစ်လျက်ပင်ယေရု
ရှလင်မြို့သားတို့သည်အကျွန်ုပ်ကိုအကျည်းထား ၍ ရောမလူတို့လက်
၁၈ သို့အပ်နှံကြ၏။ ရောမလူတို့ သည် အကျွန်ုပ် ကို စစ်ကြောပြီးမှသေ
ထိုက်သောအပြစ်တခုကိုမျှမတွေ့သဖြင့်လွှတ်ခြင်းငှါအလိုရှိကြ၏။
၁၉ ထိုအလိုကိုယုဒလူတို့သည်ဆီးတား သောအခါကဲသာဘုရင် ၏ အယူ
တော်ကိုခံပါမည်ဟုအကျွန်ုပ်ဆိုရ၏။ ထိုသို့ဆို သော် အကျွန်ုပ် အမျိုး
သားချင်းကိုအပြစ်တင်စရာတစုံတခု ရှိသောကြောင့်ဆိုသည်မဟုတ်။
၂၀ ထိုကြောင့်သင်တို့ကိုမြင်၍ နှုတ်ဆက် ရအောင် အကျွန်ုပ်ခေါ်ပါပြီး။
ဣသရေလအမျိုး၏မျှော်လင့်ရာအတွက် ဤသံကြိုး နှင့် အကျွန်ုပ် ချည်
၂၁ နှောင်လျက်ခံနေရ၏ဟုပေါလုဆိုလျှင် ထိုသူတို့ကသင်၏အကြောင်း

ကိုကြား‌လိုက်သောစာကိုယုဒပြည်မှအကျွန်ုပ်တို့မရကြ။ထိုပြည်မှလာ
သောညီအစ်ကိုတို့တွင်အဘယ်သူသည်သင်၌အပြစ်ရှိကြောင်းကိုမ
၂၂ ကြားမပြောပါ။ သို့သော်လည်း၊ဤဘာသာသည်အရပ်ရပ်ကဲ့ရဲ့အပြစ်
တင်ခြင်းကိုခံသောဘာသာဖြစ်သည်ကိုအကျွန်ုပ်တို့သိကြသည်ဖြစ်၍
သင်၏အယူဝါဒကိုသင်သည်ကိုယ်တိုင်ဖော်ပြသောစကားကိုအကျွ
၂၃ န်ုပ်တို့သည်နားထောင်သင့်သည်ထင်ပါ၏ဟုဆိုကြလျှင် နေ့ရက်ကို
ချိန်းချက်၍လူအများတို့သည်ပေါလုတည်းရာအရပ်သို့လာကြသည်
ရှိသော်ပေါလုသည်ဘုရားသခင်၏နိုင်ငံတော်အကြောင်းကိုသက်သေ
ခံသဖြင့်၎င်ထိုသူတို့သည်ယေရှု၏အကြောင်းများကိုယုံကြည်စေခြင်း
ငှါမောရှေ၏ပညတ္တိကျမ်းနှင့်အနာဂတ္တိကျမ်းတို့ကိုအမှီပြု၍ဖျားယော
င်းသွေးဆောင်သဖြင့် ငုံနံနက် အချိန်မှစ၍ညအချိန်တိုင်အောင်ထုတ်
၂၄ ဖော်ဟောပြောလေ၏။ ။အချို့တို့သည်ပေါလုစကားကိုယုံ၏။အ
၂၅ ချို့တို့သည်မယုံဘဲနေ၏။ ထိုသို့အချင်းချင်းသဘောကွဲပြား၍သွား
ကြ၏။သွားကြစဉ်ပေါလုသည်စကားတခွန်းကို ပြော လေသည်မှာ၊
သန့်ရှင်းသောဝိညာဉ်တော် သည် ပရောဖက် ဟေရှာယအားဖြင့်မိန့်
၂၆ တော်မူချက်ဟူမူကား၊သင်တို့သည်ကြားလျက်ပင်အနက်ကိုနားမလည်
ဘဲကြားလိမ့်မည်။မြင်လျက်ပင်အာရုံမပြုဘဲမြင်လိမ့်မည်ဟုထိုလူမျိုး
၂၇ ဆီသို့သွား၍ပြောတော့။ အကြောင်းမူကား။သူတို့မျက်စိမမြင်ရ၊နား
မကြားရ။စိတ်နှလုံးမသိရ။အကျင့်မပြောင်းလဲရ။သူတို့အနာရောဂါ
ကိုငါမညီမ်းစေရမည်အကြောင်း။သူတို့၏စိတ်နှလုံးသည်မိုက်လျက်၊
နားသည်ထိုင်းလျက်။မိမိမျက်စိကိုမိမိပိတ်လျက်ရှိကြ၏ ဟုငါတို့အဖ
၂၈ များအားလျှောက်ပတ်စွာမိန့်တော်မူ၏။ ထိုကြောင့်ဘုရားသခင်၏
ကယ်တင်တော်မူခြင်းကျေးဇူးတော်ကိုတပါးအမျိုးသားတို့အားပေး
လိုက်သည်ဖြစ်၍သူတို့သည်နားထောင်မည်အရာကိုသင်တို့သိမှတ်
၂၉ ကြလော့ဟု ပေါလုဆိုပြီးမှယုဒလူတို့သည်သွား၍အချင်းချင်းများစွာ
၃၀ သောဆွေးနွေးနှီးနှောခြင်းရှိကြ၏။ ။ထိုနောက်မှာပေါလုသည်
နှစ်နှစ်ပတ်လုံးမိမိငှါးသောအိမ်၌နေသဖြင့်မိမိဆီသို့လာသောသူအ
၃၁ ပေါင်းတို့ကိုကြည့်ခံ၍ အဘယ်သူမျှမမြစ်တားဘဲဘုရားသခင်၏နိုင်
ငံတော်အကြောင်း ကို အတည့်အလင်းဟောပြော ၍သခင်ယေရှုခရစ်
၏အကြောင်းများကိုသွန်သင်ပြသလျက်နေ၏။

။ရှင်လုကာ စီရင်ရေးထားသော တမန်တော်ဝတ္ထုပြီး၏။

# ။ရောမသြဝါဒစာ။

၁။၁ လူဇာတိအားဖြင့် ဒါဝိဒ်အမျိုးဖြစ်တော်မူထသော။ တန်ခိုးတော်နှင့်
သေခြင်းမှထမြောက်သည်ဖြစ်၍သန့်ရှင်းသောဝိညာဉ် အားဖြင့် ဘု
ရားသခင်၏သားတော်ထင်ရှားဖြစ်တော်မူသောငါတို့သခင်ယေရှုခ
ရစ်တည်းဟူသောသားတော်မြတ်ကို အကြောင်းပြု၍ ဘုရားသခင်
သည်မိမိပရောဖက်များအားဖြင့်သန့်ရှင်းသောကျမ်းစာ၌ဂတိထား
တော်မူသောဧဝံဂေလိတရားကို ဟောစေခြင်းငှါ ရွေးချယ် ခွဲထား၍
တမန်တော်အရာ၌ ခန့်ထား သော ယေရှုခရစ် ၏ကျွန် ငါပေါလုက ဘု
ရားသခင်ချစ်တော်မူ၍ သန့်ရှင်းသူအရာ ၌ ခန့်ထား သော ရောမမြို့
သားအပေါင်းတို့ကိုကြားလိုက်ပါ၏။သခင်ယေရှုခရစ်နှင့် ငါတို့အဖ
တည်းဟူသောဘုရား သခင် အထံ တော် က ကျေးဇူး တော် နှင့် ငြိမ်
သက် ခြင်း သင် တို့ အားဖြစ် ပါစေ သော။ သခင် ယေရှုခရစ် ၏ နာမ
တော်ကိုထောက်၍လူမျိုးအပေါင်းတို့သည်ရုံကြည်နားထောင်စေခြင်း
ငှါထိုသခင်ထံကျေးဇူးတော် နှင့် တမန် တော် အရာကိုငါတို့သည်ခံရ
ပြီး။ထိုသခင်သည်ခေါ်ထားတော်မူသောသူ။ သင်တို့သည်လည်း ထို
၈ လူမျိုးအပါအဝင်ဖြစ်ကြ၏။ ။သင်တို့၏ရုံကြည်ခြင်းအရာ
သည် မြေတပြင်လုံး အနှံ့အပြား ကျော်စော သည် ဖြစ် ၍ သင်တို့ အ
ကြောင်း ကြောင့် ယေရှု ခရစ် အားဖြင့် ငါ ၏ ဘုရားသခင် ကျေးဇူး
၉ တော်ကို ရှေဦးစွာ ငါချီးမွမ်းပါ၏။ ငါသည် သင် တို့ကို မချားမလပ်
အောင်းမေ့ ၍ အစဉ်မပြတ်ဆုတောင်းပဋ္ဌနာပြုသည် ဟု သားတော်
၏ဧဝံဂေလိတရားကိုဟော သည်တွင် အမှုတော် ကို စိတ် ဝိညာဉ်နှင့်
တကွ ငါဆောင် ရွက် ၍ ကိုးကွယ်သောဘုရားသခင်သည်ငါ၏ သက်
၁၀ သေခံဖြစ်တော်မူ၏။ မကြာမမြင့်အဆင်သင့်မည် ဖြစ်၍ဘုရားသ
ခင်အလိုတော်နှင့်လျော်စွာသင်တို့ဆီသို့ငါသွားရသောအခွင့်တစုံတ
၁၁ ခုရှိမည်အကြောင်းဆုတောင်းပဋ္ဌနာပြုပါ၏။ သင်တို့သည်မြဲမြံနိုင်
ခံမည်အကြောင်း။ငါသည်သင်တို့၌ဝိညာဉ်ဆုကျေးဇူးတစုံတခုကိုအပ်ပေး
၁၂ ခြင်းငှါသင်တို့ကိုအလွန်တွေ့ချင်ပါ၏။ သို့ဆိုသော် ငါနှင့်သင်တို့၏

ရုံကြည်သော အားဖြင့် နှစ်ပါးစလုံးတို့ သည်အချင်းချင်း အား ရဝမ်း
၁၃ မြောက်ခြင်းသို့ရောက်မည်အကြောင်းဆိုလိုသတည်း ။ညီ
အစ်ကိုတို့။ငါသည်အချားသောတပါးအမျိုးသားတို့တွင်အကျိုးကိုရ
သကဲ့သို့သင်တို့တွင်လည်းအကျိုးဘဏ္ဍာရကိုရအောင် သင် တို့ ဆီသို့
သွားမည်ဟုအဖန်ဖန်အကြံရှိကြောင်းကို သင်တို့ မသိဘဲ မနေစေလို။
ထိုသို့အကြံရှိသော်လည်းယခုတိုင် အောင် မြစ်တားသောအကြောင်း
၁၄ ရှိ၏။ ဟေလသလူဖြစ်စေ။လူရိုင်းဖြစ်စေ။ပညာရှိဖြစ်စေ။ပညာမဲ့
၁၅ ဖြစ်စေ။လူအမျိုးမျိုးတို့၏ကျေးသည်ငါ၌တင်လျက်ရှိ၏။ သို့ဖြစ်လျှင်
ငါတတ်နိုင်သမျှအတိုင်းရောမ မြို့သားသင်တို့ အား ဧဝံဂေလိတရား
၁၆ ကို ဟော ခြင်းငှါစေ တနာစိတ်ရှိပါ၏။ ငါသည်ဧဝံဂေလိ တရားကို
ရှက် ကြောက် ခြင်း မရှိ။ အဘယ်ကြောင့် နည်းဟူ မူ ကား။ ထိုတရား
သည်ရှေဦးစွာ၌ယုဒလူ။ နောက်၌ဟေလသလူ။ ယုံကြည်သမျှသော သူ
အပေါင်း တို့ကို ကယ်တင် စေသောဘုရားသခင်၏တန်ခိုးတော် ဖြစ်
၁၇ ၏။ အဘယ်သို့ဖြစ်သနည်းဟူမူကား။ယုံကြည်ခြင်းအားဖြင့် ဖြောင့်
မတ်သော သူသည်အသက်ရှင်လိမ့်မည်ဟုကျမ်းစာလာသည်နှင့်အညီ
ယုံကြည်ခြင်း၌သာတည်သောဘုရားသခင် ၏ကျေးဇူးတရားသည်ယုံ
၁၈ ကြည်ခြင်းအလိုငှါဧဝံဂေလိတရားဖြင့်ထင်ရှားရှိ၏။ ။အဓမ္မ
ဖြင့် သမ္မာတရား ကို ဆီးတား နှိပ်စက် သော သူ တို့ ၏ မှားသောကိုး
ကွယ်ခြင်း။ တရားကို လွန်ကျူး ခြင်း အမျိုးမျိုးတို့သည် ဘုရားသခင်
၏အမျက်တော် သင့် ရောက် ရာ ဖြစ် ကြောင်း ကောင်းကင် မှ ထင်ရှား
၁၉ လျက်ရှိ၏။ အဘယ်ကြောင့်နည်းဟူမူကား။သိအပ်သမျှသောဘုရား
သခင်၏အကြောင်းအရာ တို့သည် သူတို့ တွင် ထင်ရှား လျက်ရှိ ၏။ ဘု
၂၀ ရားသခင်သည် သူတို့အားပြတော်မူပြီး။ အဘယ်သို့နည်းဟူမူကား။
ဖန်ဆင်းတော်မူသောအရာများ ကို ထောက်ရှု သဖြင့် ထာဝရတန်ခိုး
တော်။ထာဝရအဖြစ်တော်တည်းဟူသော မျက်မြင် မရသောဘုရား
သခင်၏အရာ တို့သည်ကမ္ဘာတည်သည်ကာလမှစ ၍ ထင်ရှားလျက် ရှိ
၂၁ ကြ၏။ထိုကြောင့်သူတို့သည်ကိုယ်အပြစ်ကို မ ဖုံးနိုင် ရာ။ အဘယ်
ကြောင့်နည်းဟူမူကား။ ထိုသူတို့ သည် ဘုရားသခင်ကိုသိလျက် ပင်
ဘုရားသခင်ကိုချီးမွမ်းသင့်သည်အတိုင်းမချီးမွမ်း။ ကျေးဇူးတော် ကို
မသိမမှတ်။ အချည်းနှီးတွေးဆ၍ ညာဏ်မရှိသော စိတ် နှလုံးသည်
၂၂ မိုက်မဲခြင်းသို့ရောက်ကြ၏။ ပညာရှိရောင်ဆောင်လျက်နှင့်လူမိုက်

၂၃ အရာ၌တည်ကြသည်ဖြစ်၍ မဖောက်ပြန်မပျက်စီးနိုင်သောဘုရား
သခင်၏ဂုဏ်တော်ကိုပယ်လျက်ဖောက်ပြန် ပျက်စီး နိုင်သောလူရုပ်
တု။ ငှက်ရုပ်တု။ သားရုပ်တု။ တွားတတ်သော တိရိစ္ဆာန် ရုပ်တုအမျိုး
၂၄ မျိုးတို့ကိုဘုရားသခင်အရာ၌ချီးမြှောက်ကြ၏။ ။ထိုကြောင့်
သူတို့သည်မိမိကိုယ်အသရေကိုအချင်းချင်းရှုတ်ချမည် အကြောင်း။
ဘုရားသခင်သည် သူတို့ကိလေသာစိတ်ညစ်ညူးခြင်း လက်သို့ သူတို့
၂၅ ကိုအပ်လိုက်တော်မူ၏။ သူတို့သည်ဘုရားသခင်၏ သမ္မာ တရားအ
ရာ၌မုသာကိုထားလျက်ဖန်ဆင်းသောအရာကိုဖန်ဆင်းသောသခင်
ထက်သာ၍ဝတ်ပြုကိုးကွယ်ကြ၏။ ထိုသခင် သည် ထာဝရမင်္ဂလာရှိ
၂၆ တော်မူ၏။အာမင်။ ထိုသို့ပြုကြသောကြောင့်ဘုရားသခင်သည်သူ
တို့ကိုရှက်ကြောက် ဖွယ်သော ကိလေသာ လက်သို့ အပ်လိုက် တော် မူ
၏။အဘယ်သို့နည်းဟူမူကား။ မိန်းမတို့သည် ပကတိထုံးစံကို စွန့် ၍ ပ
၂၇ ကတိနှင့်ဆန့်ကျင်ဘက်ထုံးစံကိုလိုက်ကြ၏။ ထိုအတူ။ယောက်ျားတို့
သည်လည်းမိန်းမနှင့်ဆက်ဆံခြင်းပကတိထုံးစံကိုစွန့်၍အချင်းချင်းကိ
လေသာစိတ်ပူလောင်သဖြင့်ရှက်ကြောက် ဖွယ်သောအမှုကိုယောက်ျား
ချင်းပြုလျက်မိမိမှားရှင်းခြင်းနှင့်အလျောက် မိမိ အပြစ်ဒဏ် ကိုခံကြ
၂၈ ၏။ သူ တို့ သည် ဘုရား သခင်ကိုမသိမမှတ်လိုသည်ဖြစ်၍မလျော
က်ပတ်သောအမှုကိုပြုမည် အကြောင်း။ ဘုရားသခင်သည် သူတို့ကို
၂၉ မောဟလက်သို့အပ်လိုက်တော်မူသည်နှင့်အညီ သူတို့သည်အလုံးစုံ
သောအဓမ္မကျင့်ခြင်း။ဆိုးညစ်ခြင်း။ လောဘလွန်ကျူးခြင်း။ မနာလို
ခြင်း။ ညူစူခြင်း။ လူအသက်ကို သတ်ခြင်း။ ရန်တွေ့ ခြင်း။ လှည့် စား
ခြင်း။သူတပါးကိုမြင်ပြင်းခြင်းတို့နှင့်ပြည့်စုံသောသူ။ဂုံးတိုက်သော
၃၀ သူ။ ဆဲရေးသောသူ။ဘုရားသခင်ကိုမုန်းသောသူ။ကြမ်းတမ်းသော
သူ။ထောင်လွှားစော်ကားသောသူ။ဝါကြွားသောသူ။မတတ်ကောင်း
သောအတတ်ကိုကြံရင်သောသူ။မိဘစကားကိုနားမထောင်သောသူ။
၃၁ ညာဏ်မရှိသောသူ၊သစ္စာပျက်သောသူ။မိဘသားမယားစသည်တို့
ကိုမချစ်သောသူ။ရန်ငြိုးထားသောသူ။သနားခြင်းကရုဏာစိတ်မရှိ
၃၂ သောသူဖြစ်ကြ၏။ ထိုသို့ကျင့်သောသူတို့သည်သေပြစ် ကိုခံထိုက်
သည်ဟုဘုရားသခင်စီရင်တော်မူကြောင်းကိုသိလျက်ပင်သူတို့သည်
ကိုယ်တိုင် ကျင့် သည် သာမက ထိုသို့ကျင့် သော သူ တို့ ၌ အားရဝမ်း
မြောက်ကြ၏။



၁ သူတပါးကိုစစ်ကြောပြစ်တင်သောသူ။သင်သည်ကိုယ်အပြစ်ကိုမဖုံး
နိုင်ရာ။အဘယ်ကြောင့်နည်းဟူမူကား။သင်သည်စစ်ကြောပြစ်တင်
သောအမှုကိုပင်ကိုယ်တိုင်ပြုသည်ဖြစ်၍သူတပါးကိုစစ်ကြောပြစ်
၂ တင်သည်တွင်ကိုယ်အပြစ်ရှိကြောင်းကိုစီရင်ဆုံးဖြတ်လေ၏။ဘုရား
သခင်သည်ထိုသို့ပြုသောသူတို့ကိုစီရင်တော်မူခြင်းအရာသည်သမ္မာ
၃ တရားနှင့်ညီသည်ကိုငါတို့သိကြ၏။ ထိုသို့သောအမှုကိုကိုယ်တိုင်
ပြုလျက်ပင်သူတပါးပြုသည်ကိုစစ်ကြောပြစ်တင်သောသူ။သင်သည်
ဘုရားသခင်စီရင်တော်မူခြင်းနှင့်ကိုယ်လွတ်မည်ဟုကိုယ်ထင်မှတ်
၄ သလော။ ဘုရားသခင်၏ကျေးဇူးတော်သည်သင်ကိုနောင်တလမ်းသို့
သွေးဆောင်သည်ကိုမသိမမှတ်ဘဲဘုရားသခင်ကြွယ်ဝစွာကျေးဇူး
ပြုတော်မူခြင်း။သည်းခံတော်မူခြင်း။စိတ်ရှည်တော်မူခြင်းတို့ကိုမထီ
၅ မဲ့မြင်ပြုသလော။ ထိုသို့ပြုလျှင်စိတ်ခိုင်မာ၍နောင်တမရသည်နှင့်
အညီဒေါသနေ့။ဘုရားသခင်တရားထင်ရှားသောနေ့၌ကိုယ်ခံစရာ
၆ ဘို့အမျက်ဒေါသကိုဆည်းဘူးသလော။ ဘုရားသခင်သည်လူအသီး
အသီးတို့အားသူတို့အကျင့်နှင့်အလျောက်အကျိုးအပြစ်ကိုဆပ်
၇ ပေးတော်မူလတ့ံ။ ကောင်းသောအကျင့်ကိုအမြဲကျင့်၍ဘုန်းအသရေ
ကိုရင်မဖောက်ပြန်သောဓာတိကိုရှာသောသူတို့အားထာဝရအ
၈ သက်ကိုပေးတော်မူလတ့ံ။ ညင်းဆန်သောသဘောရှိ၍သမ္မာတရား
ကိုနားမထောင်ဘဲမတရားသဖြင့်ကျင့်သောသူတို့အားပြင်းစွာ
၉ သောဒေါသအမျက်ထွက်တော်မူလတ့ံ။ ရှေဦးစွာဣယုဒလူ။နောက်ဒွိ
ဟေလသလူ။ဆိုးညစ်သောအမှုကိုပြုသောသူရှိသမျှတို့သည်ကြီး
၁၀ စွာသောဆင်းရဲဒုက္ခဝေဒနာကိုခံရကြလတ့ံ။ ရှေဦးစွာဣယုဒလူ။
နောက်ဒွိဟေလသလူ။ကောင်းသောအကျင့်ကိုကျင့်သောသူရှိသမျှ
၁၁ တို့သည်ဘုန်းအသရေစည်းစိမ်ချမ်းသာကိုခံစားရကြလတ့ံ။ ဘုရား
၁၂ သခင်သည်အဘယ်သူ၏မျက်နှာကိုမှတ်တော်မမူ။ ။ပညတ်တ
ရားကိုမသိဘဲပြစ်မှားသောသူတို့သည်ပညတ်တရားမဲ့ပျက်စီးခြင်း
သို့ရောက်လိမ့်မည်။ပညတ်တရားကိုသိလျက်ပင်ပြစ်မှားသောသူ
၁၃ တို့သည်ပညတ်တရားစီရင်ခြင်းကိုခံရလိမ့်မည်။ အဘယ်ကြောင့်
နည်းဟူမူကား။တရားနာသောသူသည်ဘုရားသခင်ရှေ့၌ဖြောင့်
မတ်သည်မဟုတ်။ တရားကိုကျင့်သောသူသာလျှင်ဖြောင့်မတ်ရာ

၁၄ ရောက်လိမ့်မည်။သာသနာပလူတို့သည်ပညတ်တရားတော်ကိုမသိ
ဘဲတရားတော်ကိုအလိုလိုကျင့်သောအခါသူတို့သည်ပညတ်တရား
၁၅ တော်ကိုမသိဘဲလျက်ကိုယ်ကျင့်တရားကိုကျင့်သဖြင့်ရင် ကိုယ်ကို
ကိုယ်သိသောစိတ်နှစ်လုံးသည်သက်သေခံသဖြင့်ရင်အချင်းချင်းဆွေး
နွေးဆင်ချင်၍တယောက်ကိုတယောက်အပြစ်တင်လျက်လွှတ်လျက်
နေသဖြင့်ရင်သူတို့သည်ကိုယ်စိတ်နှစ်လုံးထဲ၌အကျင့်တရားမှတ်
၁၆ သားလျက်ရှိသည်ကိုထင်ရှားပြကြ၏။ငါဟောသောဧဝံဂေလိတရား
အတိုင်းဘုရားသခင်သည်ယေရှုခရစ်အားဖြင့်လူတို့၏မထင်ရှား
သောအမှုအရာတို့ကိုစစ်ကြောစီရင်တော်မူသောနေ့၌ထိုသို့စီရင်
၁၇ တော်မူလတ္တံ့။ ။သင်သည်ယုဒလူဟုခေါ်ဝေါ်သောသူ။ပညတ်
၁၈ တရားတော်၌မှီဝဲသောသူ။ဘုရားသခင်၌ဝါကြွားသောသူ။ အလို
တော်ကိုသိသောသူ။ပညတ်တရားတော်ကိုလေ့ကျက်သောသူဖြစ်၍
၁၉ ကောင်းမြတ်သောအရာတို့ကိုပိုင်းချားနှစ်သက်တတ်၏။ သင်သည်
လူကန်းတို့အားလမ်းပြသောသူ။ မှောင်မိုက်၌နေသောသူတို့အားအ
၂၀ လင်းကိုပေးသောသူ။လူမိုက်တို့ကိုဆုံးမတတ်သောသူ။ သူငယ်တို့ကို
နည်းပေးသောသူ။ပညတ်တရားတော်အားဖြင့်ပညာကိုရင်သမ္မာ
တရားကိုရင်ရိပ်မိသောသူဖြစ်သည်ဟူ၍ကိုယ်ကိုကိုယ်ထင်မှတ်
၂၁ တတ်၏။ သို့ဖြစ်လျှင်သင်သည်သူတပါးကိုဆုံးမလျက်ပင်ကိုယ်ကို
မဆုံးမသလော။သူ့ဥစ္စာကိုမခိုးရဟုတရားဟောလျက်ပင်သူ့ဥစ္စာကို
၂၂ ကိုယ်တိုင်ခိုးသလော။ သူ့မယားကိုမပြစ်မှားရဟုတရားဟောလျက်
ပင်သူ့မယားကိုကိုယ်တိုင်ပြစ်မှားသလော။ရုပ်တုကိုစက်ဆုပ်ရွံ့ရှာ
၂၃ လျက်ပင်ဗိတ်မှာနိတော်ကိုလုယူဖျက်ဆီးသလော။ ပညတ်တရား
တော်၌ကြွားဝါလျက်ပင်ပညတ်တရားတော်ကိုလွန်ကျူး၍ဘုရား
၂၄ ၏ဂုဏ်အသရေတော်ကိုရှုတ်ချသလော။ အဘယ်ကြောင့်နည်းဟူမူ
ကား။ကျမ်းစာ၌လာသည်နှင့်အညီတပါးအမျိုးသားတို့သည်သင်တို့
အကျင့်ကိုထောက်၍ဘုရားသခင်၏နာမတော်ကိုကဲ့ရဲ့တတ်ကြ၏။
၂၅ ။သင်သည်ပညတ်တရားကိုကျင့်လျှင်ဇာတ်သွင်းမင်္ဂလာခံ
ခြင်းအကျိုးရှိ၏။ပညတ်တရားကိုလွန်ကျူးလျှင်သင်၏ဇာတ်သွင်း
၂၆ မင်္ဂလာခံခြင်းသည်အဇာတိဖြစ်ပြန်၏။ ထိုမှတပါး။အဇာတိသူတို့
သည်တရား၌ပါသောပညတ်တို့ကိုစောင့်ရှောက်လျှင်သူတို့၏အ
ဇာတိအဖြစ်သည်ဇာတ်သွင်းမင်္ဂလာခံခြင်းအဖြစ်ကဲ့သို့မှတ်ထိုက်

၂၇ သည်မဟုတ်လော။ အဇာတိသူတို့သည်လည်းကိုယ်အလိုအလျောက်
ပညတ်တရားကိုကျင့်လျှင်ကျမ်းစာကိုငင်ဇာတ်သွင်း မင်္ဂလာ ခံခြင်း
ကို ငင် အမှီပြု သဖြင့် ပညတ်တရားကိုလွန်ကျူး သော သူ တည်းဟု
၂၈ သောသင်ကိုတရားတွေ့၍အရှုံးခံစေမည်မဟုတ်လော။ အဘယ်ကြော
င့်နည်းဟူမူကား။အပြင်အားဖြင့်သာယုဒ လူ ဖြစ် သော သူ သည်ယုဒ
လူမှန်မဟုတ်။အပြင်အားဖြင့်သာကိုယ်အသား၌ဇာတ်သွင်း မင်္ဂလာ
၂၉ ခံခြင်း သည် ဇာတ်သွင်း မင်္ဂလာခံခြင်းအမှန်မဟုတ်။ အတွင်းအား
ဖြင့်ယုဒလူဖြစ်သောသူသည်ယုဒလူမှန်၏။ဇာတ်သွင်းမင်္ဂလာခံခြင်း
လည်းပြင်အခက်အားဖြင့်မဟုတ်ဘဲအတွင်း အခက် အားဖြင့် စိတ်နှ
လုံးနှင့်စပ်ဆိုင်၏။ထိုသို့ဇာတ်သွင်းမင်္ဂလာခံသောသူ၏ အချီးအမွမ်
သည်လူအလိုနှင့်မဆိုင်။ဘုရားသခင်အလိုတော်နှင့်ဆိုင်သတည်း။

**

၁ သို့ဖြစ်လျှင်ယုဒလူသည်အဘယ်သို့သာသနည်း။ ဇာတ်သွင်းမင်္ဂလာ
၂ ခံခြင်းသည်အဘယ်အကျိုးရှိသနည်းဟူမူကား။ အထွေထွေသောအ
ကျိုးများရှိ၏။ ထူးမြတ်သောအကျိုးဟူမူကား။ ဇာတ်သွင်းမင်္ဂလာခံ
သောယုဒလူတို့သည်ဘုရားသခင်၏ဗျာဒိတ်တော်များကိုခံရကြ၏။
၃ သူတို့တွင်အချို့မယုံသော်လည်းအဘယ်သို့ဘွယ်ရှိသနည်း။ သူတို့မယုံ
ဘဲနေခြင်းအရာသည် ဘုရားသခင်၏သစ္စာတော်ကိုဖျက်နိုင်သလော။
၄ မဖျက်နိုင်ရာ။ကိုယ်တော်၏နှုတ်တော်ထွက်ဟုတ်မှန် ကြောင်း ထင်
ရှားသည်ဖြစ်၍တရားစီရင်တော်မူသည်တွင်အောင်တော်မူမည်ဟု
ကျမ်းစာ ၌ လာသည် နှင့်အညီ ခပ်သိမ်းသောလူတို့ ၌ မုသာပြစ်တင်
၅ သော်လည်းဘုရားသခင်၏ဂုဏ်တော်တည်စေသတည်း။ ငါတို့မတ
ရားသောအမှု သည် ဘုရားသခင်၏ တရား သောအမှု တော် ကိုထင်
ရှားစေလျှင်အဘယ်သို့ဆိုရသနည်း။ ဘုရားသခင် သည် ဒါဏ် ပေး
တော်မူလျှင်မတရားသောအမှု ကို ပြုတော် မူသည် မဟုတ် လော။ ထို
၆ သို့ဆိုသော်လူသဘောအတိုင်းငါဆိုသတည်း။ ဘုရားသခင်သည်
မတရားသောအမှုကိုပြုတော်မမူ နိုင်ရာ။ သို့မဟုတ်။ လောကီသား
၇ များတို့ကိုအဘယ်သို့စစ်ကြောစီရင်တော်မူဖြစ်သနည်း။ ထိုမှတ
ပါး။ဘုရားသခင်၏သစ္စာတော်သည်ငါမုသာအားဖြင့်ဂုဏ်အသရေ
တော်ကိုတိုးပွားစေလျှင်ငါကိုအပြစ်ရှိသောသူကဲ့သို့အဘယ်ကြော
၈ င့်စီရင်သေးသနည်းဟူ၍မေးလျှင် ကောင်းသောအကျိုး ရှိ အောင်မ

ကောင်းသောအကျင့်ကိုကျင့်ကြဖို့ဟုငါတို့ဆိုသည်ကိုလူအချို့တို့သည်
ငါတို့ကိုကဲ့ရဲ့လျက်ငါတို့စကားကိုပြန်ဆိုသည်အတိုင်းဆိုဦးမည်လော။
ထိုသို့ဆိုသောသူတို့သည်မိမိအပြစ်ဒါဏ်ကိုမိမိခံထိုက်ကြ၏။
၉ ။သို့ဖြစ်လျှင်ငါတို့သည်မြတ်သလောဟုမေးပြန်သော်အလျှင်းမ
မြတ်။ အဘယ်ကြောင့်နည်းဟူမူကား။ ယုဒလူ။ ဟေလသလူအားလုံး
၁၀ တို့သည် အပြစ်ရှိကြောင်း ကို အထက်ကပြခဲ့ပြီး။ ကျမ်းစာလာသည်
၁၁ ကား။ဖြောင့်မတ်သောသူမရှိ။တယောက်မျှမရှိ။ နားလည်သောသူမ
၁၂ ရှိ။ဘုရားသခင်ကိုရှာသောသူမရှိ။ အားလုံးတို့သည်လမ်းလွဲကြပြီး။
တညီတညွတ်တည်း အသုံးမရသောသူဖြစ်ကြပြီး။ ကောင်းသောအ
၁၃ ကျင့်ကိုကျင့်သောသူမရှိ။တယောက်မျှမရှိ။ သူတို့လည်ချောင်းသည်
ဖွင့်ထားသောသင်းဂြိုင်းတွင်း ဖြစ်၏။သူတို့သည်လျှာနှင့်လှည့်စား
တတ်ကြ၏။သူတို့နှုတ်ခမ်းအတွဲမှာမြွေဆိုးအဆိပ်အတောက်ရှိ၏။
၁၄ သူတို့နှုတ်သည် ကျိန်ဆဲသောစကား ကြမ်းတမ်းသောစကားနှင့်ပြည့်
၁၅ ဝ၏။ သူတို့ခြေသည်လူအသက်ကိုသတ်ခြင်းငှါလျင်မြန်၏။ သူတို့သွား
၁၆ ရာလမ်း၌ပျက်စီးခြင်း။ဒုက္ခဆင်းရဲခြင်းရှိ၏။ ချမ်းသာလမ်းကိုသူတို့မ
၁၇ သိကြ။ဘုရားသခင်ကိုကြောက်ရွံ့ရသောအကြောင်းသည်သူမျက်စိ
၁၈ ၌မထင်ဟုကျမ်းစာလာသတည်း။ ပညတ်တရား၌ပါသမျှသောစကား
တို့သည်ပညတ်တရားကိုခံသောသူတို့နှင့်စပ်ဆိုင်သည်ကိုငါတို့သိ
၏။ထိုသို့ဘမူကား လောကီသားအားလုံး တို့သည် စကား တခွန်းမျှမ
ပြောနိုင်ဘဲလျက်ဘုရားသခင်ရှေ့တော်၌အပြစ်ဒါဏ်ခံထိုက်သော
၂၀ သူဖြစ်ကြ၏။ ထိုသို့ပညတ်တရားသည် ဒုစရိုက်အပြစ်ကိုထင်ရှား
စေသည်ဖြစ်သောကြောင့် ပညတ်တရားတော်ကိုကျင့်၍အဘယ်သူ
မျှဘုရားသခင်ရှေ့တော်၌ဖြောင့်မတ်ရာသို့မရောက်နိုင်။ ။
၂၁ ယခုတွင်ကားပညတ္တိကျမ်းအနာဂတ္တိကျမ်းတို့သည်သက်သေခံသည်
နှင့်အညီပညတ်တရားနှင့်မစပ်ဆိုင်သောဘုရားသခင်၏ကုသိုလ်
၂၂ တရားတည်းဟူသောယေရှုခရစ်ကိုယုံကြည်ခြင်းအားဖြင့်အဘယ်
လူမျိုးမရွေး။ယုံကြည်သောသူအပေါင်းတို့သည်ရ၍ခံစားလတံ့သော
၂၃ ဘုရားသခင်၏ကုသိုလ်တရားသည်ထင်ရှားခဲ့ပြီး အဘယ်သို့နည်း
ဟူမူကား။လူအပေါင်းတို့သည်ဒုစရိုက်ကိုပြုသဖြင့်ဘုရားသခင်ရှေ့
၂၄ တော်၌အသရေမရှိသော်လည်း ယေရှုခရစ်ရွေးနှုတ်ကယ်ယူသော
အားဖြင့်ငါတို့သည်အဖိုးမပေးဘဲဘုရားသခင်၏ကျေးဇူးတော်

၁၉ ဘုရားသခင်သားများတို့၏ပေါ်ထွန်းခြင်းအရာကိုဝေနေယျသတ္တဝါ
၂၀ များတို့သည် အလွန်တောင့်တမျှော်လင့်လျက်နေကြ၏။ ဝေနေယျသ
၂၁ တ္တဝါတို့သည်အနိစ္စနိုင်ငံသို့အလိုလိုလိုက်ကြသည် မဟုတ်။ဘုရားသ
ခင်သားတို့၏ထူးမြတ်သောလွတ်ခြင်းချမ်းသာတည်းဟူသောဖောက်
ပြန်ပျက်စီး ခြင်းအနှောင်အဖွဲ့ မှကယ်လွှတ်ခြင်းချမ်းသာကိုဝင်စား
မည်ဟုမျှော်လင့်ရသောအခွင့်ကိုပေး၍ အနိစ္စနိုင်ငံသို့လိုက်စေတော်
မူသောသူ၏အလို တော်ကြောင့်သာဝေနေယျသတ္တဝါတို့သည် လိုက်
၂၂ ကြ၏။ ဝေနေယျသတ္တဝါအပေါင်းတို့သည် ယခု တိုင်အောင်တညီတ
ညွတ်တည်းညည်းတွား၍ဆင်းရဲဝေဒနာခံကြသည်ကိုငါတို့သိ၏။
၂၃ သူတို့သာလျှင် ခံသည် မဟုတ်။ဝိညာဉ်တော်၏ ကျေးဇူး တော်အစအ
ဦးကိုခံပြီး သောငါတို့သည် လည်း သား အရာ၌ ချီး မြှောက် ခြင်း အ
ကြောင်း တည်း ဟူသော ကိုယ်ခန္ဓာရွေး နုတ်ကယ်တင်ခြင်း ချမ်းသာ
၂၄ ကို မျှော်လင့် ၍ စိတ်နှစ်လုံးအထဲ ၌ ညည်းတွားလျက်နေကြ၏ ငါတို့
သည်မျှော်လင့်ခြင်းအားဖြင့်ကယ်တင်တော်မူခြင်းသို့ရောက် ကြ၏။
မျှော်လင့်ရာအရာကိုတွေ့မြင်လျှင်မျှော်လင့်ခြင်းမရှိ။တွေ့မြင်ရာအရာ
ကိုအဘယ်သို့မျှော်လင့်ရသနည်း။ငါတို့သည်မတွေ့မမြင်သောအရာကို
၂၅ မျှော်လင့်လျှင်မူကား။ထိုအရာကိုသည်းခံသောစိတ်နှင့်ငံ့လင့်၍နေကြ၏။
၂၆ ထိုမှတပါး။ငါတို့မတတ်နိုင်သောအရာမှာဝိညာဉ်တော်သည်မစတော်မူ
၏။ငါတို့သည်ဆုတောင်းသင့်သည်အတိုင်းအဘယ်ဆုကိုတောင်းရမည်
မှာငါတို့မသိကြ။သို့ရာတွင်ငါတို့ဆုတောင်းခြင်းအမှုကိုနှုတ်မမြွက်နိုင်
၂၇ သောညည်းတွားခြင်းအားဖြင့်ဝိညာဉ်တော်စောင့်တော်မူ၏။ စိတ်နှစ်
လုံးကိုစစ်တော်မူသောသူသည်လည်းဝိညာဉ်တော်၏အလိုကိုသိတော်မူ
၏။အဘယ်ကြောင့်နည်းဟူမူကား။ဝိညာဉ်တော်သည်သန့်ရှင်းသူတို့၏
ဆုတောင်းခြင်းအမှုကိုဘုရားသခင်၏အလိုတော်နှင့်အညီစောင့်တော်
၂၈ မူ၏။ ။ဘုရားသခင်ကိုချစ်သောသူတည်းဟူသော။ကြံ
စည်တော်မူခြင်းအတိုင်း ခေါ်တော်မူ သောသူတို့အကျိုး ကိုခပ်သိမ်း
သောအရာတို့သည်တညီတညွတ်တည်းပြုရသည် ကိုငါတို့သိကြ၏။
၂၉ ဘုရားသခင်၏ သားတော်သည် အများသောညီတို့တွင် သားဦးဖြစ်
တော်မူမည် အကြောင်း။ ဘုရားသခင် ရှေ့မဆွကသိတော်မူသောသူ
တို့သည်သားတော်၏ပုံသဏ္ဌာန်နှင့်တညီတည်းဖြစ်စေခြင်းငှါရှေ့မ
၃၀ ဆွကခွဲခန့်မှတ်သားတော်မူ၏။ ထိုသို့ခွဲခန့်မှတ်သားနှင့်သောသူတို့

ကိုခေါ်တော်မူ၏။ ခေါ်တော်မူသောသူတို့ကိုလည်း အပြစ်လွှတ်၍ကျေ
သိလ်ရှိရာ၌တည်စေတော်မူ၏။ထိုသို့တည်စေတော်မူသောသူတို့ကို
၃၁ လည်းချီးမြှောက်တော်မူ၏။ ။သို့ဖြစ်၍ဤအရာများတို့၌အ
ဘယ်ပြောစရာရှိသနည်း။ ဘုရားသခင်သည်ငါတို့ဘက်၌ရှိတော်မူ
လျှင်အဘယ်သူသည်ငါတို့ကိုဘက်ပြိုင်ခံနိုင်သနည်း။ မိမိသားတော်
၃၂ ရင်းကိုမနှမြောဘဲငါတို့အားလုံးအဖို့အလိုငှါစွန့်တော်မူသောသူ
သည်ကားသားတော်နှင့်တကွခပ်သိမ်းသောကျေးဇူးတို့ကိုငါတို့အား
၃၃ မပြုဘဲအဘယ်သို့နေတော်မူမည်နည်း။ ဘုရားသခင်ရွေးကောက်
တော်မူသောသူတို့ကိုအဘယ်သူအပြစ်တင်မည်နည်း။အပြစ်ဖြေ
လွှတ်တော်မူသောဘုရားသခင်သည်အပြစ်တင်တော်မူမည်လော။
၃၄ ဒါဏ်ခံစေဟုအဘယ်သူစီရင်မည်နည်း။အသေခံ၍ခံသည်သာမက
သေခြင်းမှထမြောက်၍ဘုရားသခင်၏လက်ျာတော်ဘက်၌နေလျက်
ငါတို့အဖို့ဆုတောင်းတော်မူသောခရစ်တော်သည်ထိုသို့စီရင်တော်
၃၅ မူမည်လော။ ခရစ်တော်၏ချစ်ခြင်းမေတ္တာနှင့်ငါတို့ကိုအဘယ်သူ
၃၆ ကွာစေမည်နည်း။အကယ်၍ကိုယ်တော်အတွက်အကျွန်ုပ်တို့သည်တ
နေ့လုံးအသေသတ်ခြင်းကိုခံရပါ၏။သတ်ဖို့ရာထားသောသိုးကဲ့သို့အ
ကျွန်ုပ်တို့ကိုသူတပါးမှတ်တတ်ပါ၏ဟုကျမ်းစာလာသည်နှင့်အညီအ
လွန်ဆင်းရဲခံရသော်လည်းဆင်းရဲခြင်း။ညှဉ်းဆဲနှိပ်စက်ခြင်း။မွတ်
သိပ်ခြင်း။အဝတ်အချည်းစည်းနေခြင်း။ဘေးနှင့်တွေ့ခြင်း။ဓါးလက်နက်
ဖြင့်ကွပ်မျက်ခြင်းအမှုသည်ခရစ်တော်၏ချစ်ခြင်းမေတ္တာတော်နှင့်
၃၇ ငါတို့ကိုကွာစေမည်လော။ မကွာစေသည်သာမက။ငါတို့ကိုချစ်တော်
မူသောသူ၏ကျေးဇူးတော်ကြောင့်ငါတို့သည်ထိုအမှုများတို့တွင်အ
၃၈ ထူးသဖြင့်အောင်မြင်ကြ၏။ အဘယ်ကြောင့်နည်းဟူမူကား။သေ
ခြင်းဖြစ်စေ။ အသက်ရှင်ခြင်းဖြစ်စေ။ ကောင်းကင်တမန်ဖြစ်စေ။အ
ထွန်အမြတ်ဖြစ်စေ။အာဏာတန်ခိုးဖြစ်စေ။မျက်မှောက်အရာဖြစ်
၃၉ စေ။နောက်လာလတံ့သောအရာဖြစ်စေ။ အမြင့်ဖြစ်စေ။ အနိမ့်ဖြစ်
စေ။ဤအရာမှစ၍အဘယ်နိမ္မိတ်အရာမျှသည်ငါတို့သခင်ယေရှုခရစ်
အားဖြင့်ခံရသောဘုရားသခင်၏မေတ္တာတော်နှင့်ငါတို့ကိုမကွာစေ
နိုင်သည်ဟုငါသဘောကျလျက်ရှိ၏။

❋❋

၁ ငါကိုယ်ကိုကိုယ်သိသောစိတ်သည်သန့်ရှင်းသောဝိညာဉ်တော်နှင့်တကွ

မှားသောအရာနှင့်ကျေးဇူးတော်အရာမတူ။ အဘယ်ကြောင့်နည်း
ဟူမူကား။ တရားစီရင်သောအရာမှာအပြစ်တခုကြောင့်ဒါဏ်ခံစေ
ဟုစီရင်၏။ ကျေးဇူးတော်အရာမှာအပြစ်များလျှက်ပင်လွှတ်စေဟုစီ
၁၇ ရင်၏။ ထိုမှတပါး။ လူတယောက်သည်ပြစ်မှားသောကြောင့်ထိုတ
ယောက်သောသူအားဖြင့်သေခြင်းတရားအစိုးရသည်မှန်လျှင်ကျေး
ဇူးတော်၏ကြွယ်ဝခြင်းကိုရှင်ကုသိုလ်ပေးသနားတော်မူခြင်းကိုရှင်
ခံသောသူတို့သည်တယောက်သောသူတည်းဟူသောယေရှုခရစ်
၁၈ အားဖြင့်အသက်ရှင်လျှက်သာ၍စိုးစံရကြလတ့ံ။ ထိုကြောင့်ပြစ်မှား
သောအပြစ်တခုအားဖြင့်လူအပေါင်းတို့သည်ဒါဏ်ခံစေဟုစီ
ရင်သည့်နည်းတူကုသိုလ်တခုအားဖြင့်လူအပေါင်းတို့သည်အ
၁၉ သက်နှင့်ရှည်သောကုသိုလ်တည်စေဟုစီရင်၏။ အဘယ်ကြောင့်
နည်းဟူမူကား။ တယောက်သောသူသည်နားမထောင်သောအား
ဖြင့်လူများတို့သည်အပြစ်ရောက်သည့်နည်းတူတယောက်သော
သူသည်နားထောင်သောအားဖြင့်လူများတို့သည်ကုသိုလ်ရှိရာ
၂၀ သို့ရောက်ကြ၏။ ပညတ်တရားဝင်သဖြင့်ပြစ်မှားသောအပြစ်
ပွားများ၏။ သို့သော်လည်းအပြစ်ပွားများသည်အရာမှာကျေးဇူး
၂၁ တော်သာ၍ကြွယ်ဝ၏။ သို့ဖြစ်လျှင်အပြစ်တရားသည်သေ
ခြင်းအားဖြင့်အစိုးရသည့်နည်းတူငါတို့သခင်ယေရှုခရစ်ပြုစုတော်
မူ၍ကျေးဇူးတရားသည်ကုသိုလ်ပေးခြင်းအားဖြင့်ထာဝရအသက်
ရှင်ခြင်းအလို့ငှါအစိုးရလေအံ့သတည်း။

❋❋

၁ ထိုသို့မှန်လျှင်အဘယ်သို့ပြောရမည်နည်း။ ကျေးဇူးတော်ပွားများစေ
၂ ခြင်းငှါအပြစ်တရားကိုကျင့်၍နေရမည်လော။ ထိုသို့မနေရ။ အပြစ်
တရားမှစုတေ့၍သေသောသူတို့သည်အပြစ်တရား၌အဘယ်သို့
၃ ရှင်ရသေးသနည်း။ ရေနှစ်မင်္ဂလာအားဖြင့်ယေရှုခရစ်ထဲသို့သွင်း
သောသူအားလုံးတို့သည်အသေခံတော်မူခြင်းထဲသို့သွင်းကြသည်
၄ ကိုသင်တို့မသိသလော။ ထိုကြောင့်ရေနှစ်မင်္ဂလာအားဖြင့်အသေခံ
တော်မူခြင်းထဲသို့သွင်းသည်ဖြစ်၍ထိုသခင်နှင့်အတူသင်းဂြိုဟ်ကြ
၏။ အကြောင်းမူကား။ ခရစ်တော်သည်ခမည်းတော်၏ဘုန်းတန်ခိုး
အားဖြင့်သေခြင်းမှထမြောက်တော်မူသကဲ့သို့ငါတို့သည်လည်းအ
၅ သစ်သောအသက်၌ကျင်လည်ရသတည်း။ တနည်းကား။ အသေခံ

တော်မူခြင်းပုံသဏ္ဌာန်ကိုဆောင်၍ထိုသခင်နှင့်အတူငါတို့သည်စိုက်
ထား လျက် ရှိသည် မှန် လျှင် ထမြောက် တော်မူခြင်း ပုံသဏ္ဌာန်ကို
၆ ဆောင်၍စိုက်ထားလျက်ရှိကြလိမ့်မည်။ ထိုမှတပါး။ငါတို့လူဟောင်း
သည် ထိုသခင် နှင့် အတူလက်ဝါးကပ် တိုင်မှာအသေသတ်ခြင်းခံပြီး
ဟုငါတို့သိကြ၏။ အကြောင်းကား။ငါတို့သည်နောက်မှာအပြစ်တရား
၏အစေမခံစေခြင်းငှါ အပြစ် တရား၏ ကိုယ်ကိုဖျက်ဆီးမည်အကြော
၇ င်းတည်း။ ထိုသို့သေသောသူသည်အပြစ်တရား၏လက်မှလွှတ်ခဲ့ပြီး။
၈။၉ ခရစ်တော်သည် သေခြင်းမှထမြောက်သောအခါသေခြင်းနှင့်အစည်
ကင်းလွတ်တော်မူ၏။သေခြင်းတရားသည်နောက်တဖန် ကိုယ်တော်
ကိုမအုပ်စိုးရသည် ကို ထောက်သော်ငါတို့သည် ခရစ်တော်နှင့် အတူ
၁၀ သေလျှင် ထိုသခင် နှင့် အတူရှင်လိမ့်မည်ဟုသဘောရှိကြ၏။ ခရစ်
တော်သည် အသေခံတော်မူရာမှာ အပြစ် တရားကြောင့် တကြိမ် သာ
ခံတော်မူ၏။အသက်ရှင်တော်မူရာမှာဘုရားသခင် နှင့် ဆိုင်လျက်ရှင်
၁၁ တော်မူ၏။ ထိုနည်း တူ။သင် တို့သည် အပြစ်တရား နှင့် ဆိုင်သောအ
ရာ၌ကားအသေဖြစ်သည်ဟူ၍ ငင်ဘုရားသခင်နှင့် ဆိုင်သောအရာ
၌ကားယေရှုခရစ်အားဖြင့် အသက်ရှင်သည် ဟူ ၍ ငင်ကိုယ်ကိုကိုယ်
၁၂ ထင်မှတ်ကြလော့။ ။ထိုကြောင့်အပြစ်တရားစကားကို
နားထောင်ရသည် တိုင်အောင်ထိုအပြစ်တရားသည်သေတတ်သော
၁၃ သင်တို့၏ကိုယ်ခန္ဓာ၌အစိုးမရစေနှင့်။ သင်တို့၏ကိုယ်အင်္ဂါများကို
ဒုစရိုက်လက်နက်ဖြစ်စေ၍အပြစ်တရားအားမဆက်ကြနှင့်။သေခြင်း
မှထမြောက် ၍ အသက်ရှင်သောသူကဲ့သို့ ဘုရားသခင်အားကိုယ်ကို
၁၄ ကိုယ်ဆက်ကြလော့။ ကိုယ်အင်္ဂါများကိုလည်းသုစရိုက်လက်နက်ဖြစ်
စေ ၍ ဘုရား သခင် အား ဆက် ကြလော့။ သင် တို့သည် ပညတ် တရား
လက်မှာမရှိ။ ကျေးဇူးတရား လက် မှာ ရှိ သောကြောင့် အပြစ် တရား
၁၅ သည် သင် တို့ကိုမအုပ် စိုး ရ။ ။သို့ပြု ၍ အဘယ်သို့နည်း။
ငါတို့သည်ပညတ်တရားလက်မှာမရှိ။ ကျေးဇူးတရားလက်မှာရှိသော
၁၆ ကြောင့်ဒုစရိုက်ကိုပြုရမည်လော။အလျှင်းမပြုရ။ အကြင်သူအထံ၌အ
စေခံကျွန်ဖြစ်ခြင်းငှါသင်တို့ဝင်၍အစေခံ၏။ထိုသူသည်သေခြင်းနှင့်
ရှည်သောအပြစ် တရားဖြစ် စေ။ကုသိုလ်နှင့် ရှည် သောနား ထောင်
ခြင်း တရား ဖြစ် စေ။သင် တို့ ၏ သခင်ဖြစ် သည် ကို သင်တို့မသိသ
၁၇ လော။ သင် တို့သည် အပြစ် တရား ၏ ကျွန်ဖြစ် ဘူး သော်လည်းသခ

တွင် ခံခဲ့ပြီး သောသူ မှုသြဝါဒနည်းဥပဒေသကိုစေတနာစိတ်နှင့်ကျင့်
၁၇ ကြသည်ဖြစ်၍ဘုရားသခင်၏ကျေးဇူးတော်ကြီးလှပေ၏။ သင်တို့
သည်အပြစ်တရား၏လက်မှလွှတ်ပြီးလျှင်ဖြောင့်မတ်ခြင်း တရား၏
၁၈ ကျွန်ဖြစ်ကြ၏။ ထိုသို့ငါဆိုသော်သင်တို့ဇာတိပကတိမောဟကြော
င့်လောကီဝေါဟာရအားဖြင့် ဆိုသ တည်း။ သင်တို့ သည် မိမိ ကိုယ်
အင်္ဂါများကိုအဓမ္မအလို၌ ညစ်ညူးခြင်းတရား။ အဓမ္မတရားနှင့်သွင်း
၍ကျွန်ခံစေဘူးသကဲ့သို့ထိုနည်းတူယခုမှာမိမိကိုယ်အင်္ဂါများကိုသန့်
ရှင်းခြင်းအလို၌ဖြောင့်မတ်ခြင်းတရားနှင့်ကျွန်ခံစေ၍သွင်းကြလော့။
၂၀ သင်တို့သည်အပြစ်တရား၏ကျွန်ဖြစ်စဉ်ကာလ ဖြောင့်မတ်ခြင်းတ
၂၁ ရား၏လက်မှလွှတ်ကြ၏။ ယခုသင်တို့ရှက်ကြောက်သောထိုအကျင့်
တို့ကိုကျင့်တုန်းခါအဘယ်အကျိုးကိုရကြသနည်း။ထိုသို့သောအကျင့်
၂၂ တို့သည်သေခြင်းနှင့်လမ်းဆုံးသတည်း။ ယခုမူကား သင်တို့သည်အပြစ်
တရား၏လက်မှလွှတ်၍ ဘုရား သခင် ၏ ကျွန် ဖြစ်ကြသည်နှင့်အညီ
သန့်ရှင်း ခြင်း အကျိုး ကိုရကြ၏။ အဆုံးနှင့်လည်းထာဝရအသက် ကိုရ
၂၃ ကြလိမ့်မည်။ အပြစ်တရား၏အခမူကား သေခြင်း ပေတည်း။ဘုရား
သခင်ပေးတော်မူသော ဆုကျေးဇူးတော်မူကား။ ငါတို့သခင်ယေရှုခ
ရစ်အားဖြင့်ထာဝရအသက်ပေတည်း။

**

၁ ပညတ် တရား ကို သိသော ညီအစ် ကို တို့။ ပညတ်တရားသည်လူအ
၂ သက်ထက်ဆုံးမျှသာလူကိုပိုင်သည်ဟုမသိကြသလော။ ဥပမာကား။
လင်ရှိသောမိန်းမသည်လင်မသေမှီတိုင်အောင် ပညတ် တရားအားဖြင့်
သူနှင့်ချည်နှောင်လျက်ရှိ၏။ လင်သေလျှင် မူကားလင်ဝတ်နှင့် လွှတ်၏။
၃ ထိုကြောင့်မိမိလင်မသေမှီအခြားသောသူ၏မယားဖြစ်လျှင်မြောက်
မထား သောမိန်းမဟုခေါ်ဝေါ်ထိုက်၏။လင် သေလျှင် မူကား ထိုတရား
နှင့် လွှတ် သည် ဖြစ် ၍ အခြား သောသူ ၏ မယား ဖြစ် သော်လည်း
၄ မြောက်မထားသောမိန်းမဟုခေါ်စရာအကြောင်းမရှိ။ ထိုနည်းတူ။ငါ
ညီအစ် ကို တို့။သင် တို့သည် အခြားသူတည်း ဟူသောသေခြင်း မှထ
မြောက်တော်မူသော သူ၏ မယားဖြစ် ၍ ဘုရား သခင်အလိုတော်အ
တိုင်းကျင့်မည် အကြောင်း။ ခရစ်တော်၏ ကိုယ်ခန္ဓာနှင့်သေ၍ပညတ်
၅ တရားနှင့်ကွာကြ၏။ငါတို့သည်ဇာတိပကတိနှင့်ကျင်လည်သောအခါအ
ပြစ်နှင့်စပ်ဆိုင်သောစိတ်တို့သည်ပညတ်တရားအားဖြင့်ပေါက်၍သေ

မြင်းနှင့်အလျောက်ကျင့်စေခြင်း ငါါတို့၏ကိုယ်အင်္ဂါများ၌ ပြုပြင်
၆ ကြ၏။ ယခုမူကားတရားစကား၏ပြင်အနက်ဟောင်းကိုမလိုက်ဘဲ
အတွင်းအနက်သစ်ကိုလိုက်၍ အမှုဆောင်ရွက်စေခြင်းငှါငါတို့သည်
သေပြီးလျှင်ချုပ်ချယ်သော်ပညတ်တရား၏လက်မှလွှတ်ခြင်းသို့ရောက်
၇ ကြပြီး။ ။သို့ဖြစ်၍အဘယ်သို့ပြောရမည်နည်း။ပညတ်
တရား၌ အပြစ်ရှိသလော။အပြစ် မရှိ။ထိုမျှမက။ပညတ်တရားအား
ဖြင့်သာအပြစ်သဘောကိုငါသိ၏။အဘယ်သို့နည်းဟူမူကား။ လော
ဘကိုတ်မရှိရဟုပညတ်တရားမဆိုလျှင်လောဘသဘောကိုငါမသိ။
၈ အပြစ်တရားသည်ပညတ်တရားအားဖြင့်အခွင့်ရ၍ငါ၌အမျိုးမျိုးသော
လောဘကိုဖြစ်စေ၏။ပညတ်တရားမရှိလျှင်အပြစ်တရားသေ၏။
၉ အထက်ကပညတ်တရားမရှိသဖြင့်ငါအသက်ရှင်၏။ပညတ်တရား
၁၀ ပေါ်သောအခါ အပြစ် တရား သည် ရှင်ပြန်၏။ငါလည်း သေ၏။ အ
သက်ရှင်ခြင်းနှင့်ဆိုင်သောပညတ်တရားသည်သေခြင်းနှင့်ဆိုင်သည်
၁၁ ကိုငါတွေ့၏။ အပြစ် တရား သည် ပညတ် တရား အား ဖြင့် အခွင့်
၁၂ ရလျှင် ငါ ကို လှည့်စား၍ သတ် လေ၏။ ထိုကြောင့် တရား တော်
သည် သန့်ရှင်း ခြင်း ရှိ၏။ ပညတ် တော် လည်း သန့်ရှင်း ခြင်း။
၁၃ ဖြောင့်မတ်ခြင်း။ ကောင်းမြတ် ခြင်း ရှိ ၏။ သို့ဖြစ်၍ ကောင်းမြတ်
သောအရာသည်ငါသေခြင်းအကြောင်းဖြစ်သလော။မဖြစ်နိုင်ရာ။
အပြစ် တရား သည် မိမိသဘောထင်ရှားရအောင်ကောင်းမြတ်သော
အရာအားဖြင့် ငါ၌ သေခြင်းအကြောင်း ကိုပြုလေ၏။ အကြောင်း မူ
ကား။ ထိုအပြစ်တရားသည်ပညတ်တော်အားဖြင့်အလွန် အပြစ် နှင့်
၁၄ ပြည့်စုံမည်အကြောင်းတည်း။ ။ထိုမှတပါး။ပညတ်တရားသည်
ဝိညာဉ်နှင့်စပ်ဆိုင်သည်ကို ငါတို့သိ ကြ၏။ ငါမူကားဇာတိပကတိရှိ
၁၅ ၏။အပြစ်တရားလက်၌ကြေးကျွန်ဖြစ်၏။ အဘယ်သို့နည်းဟူမူကား။
ငါကျင့်သောအကျင့်ကိုငါမနှစ်သက်။ငါမကျင့်ချင်သောအကျင့်ကိုငါ
၁၆ ကျင့်၏။ငါရွံရှာသောအမှုကိုငါပြု၏။ ထိုသို့မကျင့်ချင်သောအကျင့်
၁၇ ကိုငါကျင့်လျှင်ပညတ်တရားဖြောင့်သည်ဟုငါဝန်ခံ၏။ သို့ဖြစ်လျှင်
ထိုမကောင်းသောအကျင့်ကိုငါကိုယ်ကျင့်သည်မဟုတ်။ငါအထဲ၌နေ
၁၈ သော အပြစ် တရားသည် ကျင့်၏။ ငါအထဲမှာ ငါဇာတိ ပကတိ၌
ကောင်းသောအရာတစုံတခုမျှမနေသည်ကိုငါသိ၏။အဘယ်ကြောင့်
နည်း ဟူမူကား ။ကျင့် ချင် သောစိတ် ရှိသော်လည်း ကောင်း စွာကျင့်

၁၉ သောအခွင့်ကို ရှာ၍မတွေ့နိုင်။ ငါကျင့်ချင်သောအကျင့်ကောင်းကို
၂၀ ငါမကျင့်။ငါမကျင့်ချင်သောအကျင့်ဆိုးကိုငါကျင့်၏။ ထိုသို့ငါမကျင့်
ချင်သောအကျင့်ကိုငါကျင့်လျှင်ငါကိုယ်ကျင့် သည်မဟုတ်။ ငါအထဲ
၂၁ မှာနေသောအပြစ်တရားသည်ကျင့်၏။ ထိုသို့ကောင်းသောအကျင့်
ကိုငါကျင့်ချင်သောအခါမကောင်းသောအကျင့်ကိုကျင့်စေတတ်သေါ
၂၂ တရားကိုငါတွေ့၏။ ငါသည်အတွင်းလူအားဖြင့် ဘုရားသခင်၏ပ
၂၃ ညတ်တရားတော်ကို နှစ်သက်၏။ သို့သော်လည်း ငါကိုယ်အင်္ဂါများ
၌ရှိသောအချားတရားသည်စိတ်ဝိညဉ်တရားကိုဆိုင်ပြိုင်တိုက်လှံသ
ဖြင့်ငါကိုယ်အင်္ဂါများ၌ရှိသောအပြစ် ဘရားလက် သို့ငါကိုဖမ်းသွား
၂၄ အပ်နှံသည် ကိုငါမြင်၏။ ငါသည် ညိုညင်သောသူပေစွတကား။ဤ
၂၅ အသေကောင် မှငါကိုအဘယ် သူကယ် လွှတ် ပါအံ့နည်း။ ငါတို့သခင်
ယေရှုခရစ်အားဖြင့်ကယ်လွှတ်တော်မူသောဘုရားသခင်၏ကျေးဇူး
တော်ကြီးလှပေ၏။ထိုသို့စိတ်ဝိညဉ်အားဖြင့်ဘုရား သခင်၏တရား
တော်အလိုသို့ရှင်ဇာတိပကတိအား ဖြင့် အပြစ်တရားအလိုသို့ရှင်ငါ
လိုက်တတ်၏။

❋❋

၁ ဘုရားသခင်ကယ်လွှတ်တော်မူသော့ကြောင့်ယေရှုခရစ်၌ရှိသောသူ
၂ တို့သည် အပြစ်စီရင်ခြင်းကိုမခံရာ။ ယေရှုခရစ်၌တည် သောဝိညဉ်
တော်၏အသက်တရားသည် အပြစ်တရား၏လက် မှရှင်သေခြင်း တ
၃ ရား၏လက်မှရှင်ငါကိုကယ်လွှတ်ခဲ့ပြီး။ ဇာတိပကတိကြောင့်ပညတ်
တရားသည်အားနည်း၍မတတ်နိုင်သောအမှု ကိုဘုရားသခင်ပြုတော်
မူခြင်း၌ငါအပြစ်နှင့်ပြည့်စုံသောဇာတိပကတိ၏သဏ္ဍာန်ဆောင်သော
မိမိသါးတော်ကိုအပြစ်ဖြေ ဖို့ရာစေလွှတ်တော်မူသဖြင့်ဇါတိပကတိ၌
၄ အပြစ်ကိုဒါဏ်ပေးတော်မူ၏။ အကြောင်းမူကါး။ဇါတိပကတိအတိုင်း
မကျင့် ဘဲဝိညည် ပကတိအတိုင်း ကျင့် သောငါတို့ ၌ တရား တော်နှင့်
၅ ဆိုင် သောကုသိုလ်ပြည့် စုံမည် အကြောင်း တည်း။ ဇာတိပကတိအ
တိုင်း ကျင့် သော သူတို့ သည် ဇာတိပကတိ နှင့် စပ်ဆိုင် သောအရာတို့
ကိုနှစ်သက်ကြ၏။ဝိညဉ်ပကတိအဘိုင်းကျင့်သောသူတို့သည်ဝိညဉ်
၆ ပကတိနှင့်စပ်ဆိုင် သောအရာ တို့ကို နှစ် သက် ကြ၏။ ဇာတိပကတိ
နှစ်သက်ခြင်း သည် သေခြင်း အကြောင်း ဖြစ်၏။ ဝိညည် ပကတိနှစ်
သက်ခြင်းသည်အသက်ရှင်ခြင်းအကြောင်း။ညိမ်သက်ခြင်းအကြောင်း

၇ ဖြစ်၏။ အဘယ်ကြောင့်နည်းဟူမူကား။ဇာတိပကတိသဘော
သည်ဘုရားသခင်နှင့်ဆန့်ကျင်ဘက်ဖြစ်၏။ဘုရားသခင်၏တရား
၈ တော်အလိုသို့မလိုက်တတ်။ထိုမျှမကမလိုက်နိုင်။ ထိုကြောင့်ဇာတိ
ပကတိ၌ကျင်လည်သောသူတို့သည်ဘုရားသခင်စိတ်တော်နှင့်မ
၉ တွေ့နိုင်ကြ။ သို့သော်လည်းဘုရားသခင်၏ဝိညာဉ်တော်သည်သင်
တို့အထဲ၌ကျိန်းဝပ်တော်မူလျှင်သင်တို့သည်ဇာတိပကတိဘက်၌နေ
သည်မဟုတ်။ဝိညာဉ်ပကတိဘက်၌နေကြ၏။ခရစ်တော်၏ဝိညာဉ်
၁၀ ကိုမရသောသူမည်သည်ကားခရစ်တော်နှင့်မဆိုင်။ ခရစ်တော်သည်
သင်တို့အထဲ၌ ရှိတော်မူလျှင်အပြစ်ကြောင့်ကိုယ်ကာယသေသော်
၁၁ လည်းကျေးဇူးလ်တော်ကြောင့်ဝိညာဉ်အသက်ရှင်၏။ ။ထိုမျှ
မက။ယေရှုကိုသေခြင်းမှထမြောက်စေတော်မူသောသူ၏ဝိညာဉ်
တော်သည် သင်တို့အထဲ၌ကျိန်းဝပ်တော်မူလျှင်ခရစ်တော်ကိုသေ
ခြင်းမှထမြောက်စေတော်မူသောသူသည် သင်တို့အထဲ၌ကျိန်းဝပ်
သောမိမိဝိညာဉ်တော်အားဖြင့်သေတတ်သောသင်တို့၏ကိုယ်ကာ
၁၂ ယကိုပင်ရှင်စေတော်မူမည်။ သို့ဖြစ်၍ညီအစ်ကိုတို့။ငါတို့သည်ဇာ
တိပကတိအတိုင်းကျင့်ရမည်အကြောင်း။ဇာတိပကတိ၏ကျွန်ဖြစ်
၁၃ သည်မဟုတ်။ သင်တို့သည်ဇာတိပကတိအသက်ရှင်လျှင်သေရမည်။
ဝိညာဉ်တော်အားဖြင့်ကိုယ်ကာယ၏အကျင့်တို့ကိုသေစေလျှင်အ
၁၄ သက်ရှင်လိမ့်မည်။ ဘုရားသခင်၏ဝိညာဉ်တော်ဆုံးမသွန်သင်တော်မူ
၁၅ ခြင်းကိုခံသမျှသောသူတို့သည်ဘုရားသခင်၏သားဖြစ်ကြ၏။ အ
ဘယ်ကြောင့်နည်းဟူမူကား။သင်တို့သည်တဖန်ကြောက်ရွံ့တတ်
သောကျွန်သဘောကိုရကြသည်မဟုတ်။အဗ္ဗအဖဟုခေါ်ရသောအ
၁၆ ခွင့်နှင့်သားဖြစ်ခြင်း၏သဘောကိုရကြပြီ။ ငါတို့သည်ဘုရားသ
ခင်၏သားဖြစ်သည်ဟုဝိညာဉ်တော်ကိုယ်တိုင်ငါတို့ဝိညာဉ်နှင့်အတူ
၁၇ သက်သေခံတော်မူ၏။ ဘုရားသခင်၏သားမှန်လျှင်ဘုရားသခင်
၏အမွေခံလည်းဖြစ်ကြ၏။ခရစ်တော်နှင့်အတူဘုန်းဝင်စားမည်အ
ကြောင်း။ထိုသခင်နှင့်အတူဆင်းရဲဒုက္ခကိုခံလျှင်ထိုသခင်နှင့်ဆက်
ဆံသောအမွေခံလည်းဖြစ်ကြ၏။

✱✱

၁၈ ငါတို့အားပေါ်ထွန်းလတ့ံသောဘုန်းကိုထောက်သော်ယခုမျက်မှော
က်ကာလ၌ခံရသောဆင်းရဲဒုက္ခကိုပမာဏမပြုထိုက်ဟုငါထင်၏။

၁၉ ဘုရားသခင်သားများတို့၏ပေါ်ထွန်းခြင်းအရာကိုဝေနေယျသတ္တဝါ
၂၀ များတို့သည် အလွန်တောင့်တမျှော်လင့်လျက် နေကြ၏။ ဝေနေယျသ
၂၁ တ္တဝါတို့သည်အနိစ္စနိုင်ငံသို့အလိုလိုလိုက်ကြသည် မဟုတ်။ဘုရားသ
ခင်သားတို့၏ထူးမြတ်သောလွှတ်ခြင်းချမ်းသာတည်းဟူသောဖောက်
ပြန်ပျက် စီး ခြင်းအနှောင်အဖွဲ့ မှကယ်လွှတ်ခြင်းချမ်းသာကိုဝင်စား
မည်ဟုမျှော်လင့်ရသောအခွင့်ကိုပေး၍ အနိစ္စနိုင်ငံသို့လိုက်စေတော်
မူသောသူ၏ အလို တော်ကြောင့်သာဝေနေယျသတ္တဝါတို့သည် လိုက်
၂၂ ကြ၏။ ဝေနေယျသတ္တဝါအပေါင်းတို့သည် ယခု တိုင်အောင်တညီတ
ညွတ်တည်းညည်းတွား၍ဆင်းရဲဝေဒနာခံကြသည်ကိုငါတို့သိ၏။
၂၃ သူတို့သာလျှင် ခံသည် မဟုတ်။ဝိညာဉ်တော်၏ ကျေးဇူး တော်အစအ
ဦးကိုခံပြီး သောငါတို့သည် လည်း သား အရာ ၌ ချီး မြှောက် ခြင်း အ
ကြောင်း တည်း ဟူသော ကိုယ် ခန္ဓာရွေး နုတ်ကယ်တင်ခြင်း ချမ်းသာ
၂၄ ကို မျှော်လင့် ၍ စိတ်နှစ်လုံးအထဲ ၌ ညည်းတွားလျက်နေကြ၏ ငါတို့
သည်မျှော်လင့်ခြင်းအားဖြင့်ကယ်တင်တော်မူခြင်းသို့ရောက် ကြ၏။
မျှော်လင့်ရာအရာကိုတွေ့မြင်လျှင်မျှော်လင့်ခြင်းမရှိ။တွေ့မြင်ရာအရာ
ကိုအဘယ်သို့မျှော်လင့်ရသနည်း။ ငါတို့သည်မတွေ့မမြင်သေါအရာကို
၂၅ မျှော်လင့်လျှင်မူကား။ ထိုအရာကိုသည်းခံသေါစိတ်နှင့်ငံ့လင့်၍နေကြ၏။
၂၆ ထိုမှတပါး။ ငါတို့မတတ်နိုင်သေါအရာမှာဝိညာဉ်တော်သည်မစတော်မူ
၏။ငါတို့သည်ဆုတောင်းသင့်သည်အတိုင်းအဘယ်ဆုကိုတောင်းရမည်
မှာငါတို့မသိကြ။သို့ရာတွင်ငါတို့ဆုတောင်းခြင်းအမှုကိုနှုတ်မမြွက်နိုင်
၂၇ သောညည်းတွားခြင်းအားဖြင့်ဝိညာဉ်တော်စောင့်တော်မူ၏။ စိတ်နှစ်
လုံးကိုစစ်တော်မူသောသူသည်လည်းဝိညာဉ်တော်၏အလိုကိုသိတော်မူ
၏။အဘယ်ကြောင့်နည်းဟူမူကား။ဝိညာဉ်တော်သည်သန့်ရှင်းသူတို့၏
ဆုတောင်းခြင်းအမှုကိုဘုရားသခင်၏အလိုတော်နှင့်အညီစောင့်တော်
၂၈ မူ၏။ ။ဘုရားသခင်ကို ချစ်သောသူတည်းဟူသော။ကြံ
စည် တော်မူခြင်း အတိုင်း ခေါ်တော်မူ သောသူတို့အကျိုး ကိုခပ်သိမ်း
သောအရာတို့သည်တညီတညွတ် တည်းပြုရသည် ကိုငါတို့သိကြ၏။
၂၉ ဘုရားသခင်၏ သားတော်သည် အများသော ညီတို့တွင် သားဦးဖြစ်
တော်မူမည် အကြောင်း။ ဘုရားသခင် ရှေ့ မဆွကသိတော်မူသောသူ
တို့သည်သားတော်၏ပုံသဏ္ဌာန်နှင့်တညီတည်းဖြစ်စေခြင်းငှါရှေ့မ
၃၀ ဆွကခွဲခန့်မှတ်သားတော်မူ၏။ ထိုသို့ခွဲခန့်မှတ်သားနှင့်သောသူတို့

ကိုခေါ်တော်မူ၏။ ခေါ်တော်မူသောသူတို့ကိုလည်း အပြစ်လွှတ်၍ကျ
သိုလ်ရှိရာ၌တည်စေတော်မူ၏။ ထိုသို့တည်စေတော်မူသောသူတို့ကို
၃၁ လည်းချီးမြှောက်တော်မူ၏။ ။သို့ဖြစ်၍ဤအရာများတို့၌အ
ဘယ်ပြောစရာရှိသနည်း။ ဘုရားသခင်သည်ငါတို့ဘက်၌ရှိတော်မူ
လျှင်အဘယ်သူသည်ငါတို့ဘက်၌ခံနိုင်သနည်း။ မိမိသားတော်
၃၂ ရင်းကိုနှမြောဘဲငါတို့အားလုံးအဖို့အလိုငှါစွန့်တော်မူသောသူ
သည်ကားသားတော်နှင့်တကွခပ်သိမ်းသောကျေးဇူးတို့ကိုငါတို့အား
၃၃ မပြုဘဲအဘယ်သို့နေတော်မူမည်နည်း။ ဘုရားသခင်ရွေးကောက်
တော်မူသောသူတို့ကို အဘယ်သူအပြစ်တင်မည်နည်း။ အပြစ်ဖြေ
လွှတ်တော်မူသောဘုရားသခင်သည်အပြစ်တင်တော်မူမည်လော။
၃၄ ဒဏ်ခံစေဟုအဘယ်သူစီရင်မည်နည်း။ အသေခံ၍ ခံသည်သာမက
သေခြင်းမှထမြောက်၍ ဘုရားသခင်၏လက်ျာတော်ဘက်၌နေလျက်
ငါတို့အဖို့ဆုတောင်းတော်မူသောခရစ်တော်သည် ထိုသို့စီရင်တော်
၃၅ မူမည်လော။ ခရစ်တော်၏ချစ်ခြင်းမေတ္တာနှင့်ငါတို့ကိုအဘယ်သူ
၃၆ ကွာစေမည်နည်း။ အကယ်၍ကိုယ်တော်အတွက်အကျွန်ုပ်တို့သည်တ
နေ့လုံးအသေသတ်ခြင်းကိုခံရပါ၏။ သတ်ဖို့ရာထားသောသိုးကဲ့သို့အ
ကျွန်ုပ်တို့ကိုသူတပါးမှတ်တတ်ပါ၏ဟုကျမ်းစာလာသည်နှင့်အညီအ
လွန်ဆင်းရဲခံရသော်လည်းဆင်းရဲခြင်း။ ညှဉ်းဆဲနှိပ်စက်ခြင်း။ မွတ်
သိပ်ခြင်း။ အဝတ်အချည်းစည်းနေခြင်း။ ဘေးနှင့်တွေ့ခြင်း။ ဓါးလက်နက်
ဖြင့်ကွပ်မျက်ခြင်း အမှုသည် ခရစ်တော်၏ချစ်ခြင်းမေတ္တာတော်နှင့်
၃၇ ငါတို့ကိုကွာစေမည်လော။ မကွာစေသည်သာမက။ ငါတို့ကိုချစ်တော်
မူသောသူ၏ကျေးဇူးတော်ကြောင့်ငါတို့သည် ထိုအမှုများတို့တွင်အ
၃၈ ထူးသဖြင့်အောင်မြင်ကြ၏။ အဘယ်ကြောင့်နည်းဟူမူကား။ သေ
ခြင်းဖြစ်စေ။ အသက်ရှင်ခြင်းဖြစ်စေ။ ကောင်းကင်တမန်ဖြစ်စေ။ အ
ထွဋ်အမြတ်ဖြစ်စေ။ အာဏာတန်ခိုးဖြစ်စေ။ မျက်မှောက်အရာဖြစ်
၃၉ စေ။ နောက်လာလတ္တံ့သောအရာဖြစ်စေ။ အမြင့်ဖြစ်စေ။ အနိမ့်ဖြစ်
စေ။ ဤအရာမှစ၍အဘယ်နိမ္မိတ်အရာမျှသည်ငါတို့သခင်ယေရှုခရစ်
အားဖြင့်ခံရသောဘုရားသခင်၏မေတ္တာတော်နှင့်ငါတို့ကိုမကွာစေ
နိုင်သည်ဟုငါသဘောကျလျက်ရှိ၏။

❋❋

၁ ငါကိုယ်ကိုကိုယ်သိသောစိတ်သည်သန့်ရှင်းသောဝိညာဉ်တော်နှင့်တကွ

ငါဘက်၌သက်သေခံလျက်ငါသည်မုသာမပြော။ခရစ်တော်ရှေ့၌မှန်သော
၂ စကားကိုပြောသည်ကား။ ငါအလွန်ဝမ်းနည်းခြင်းရှိ၏။ စိတ်နှလုံးထဲ
၃ ၌မချမ်းမသာပူပန်ခြင်း ဝေဒနာရှိ၏။ အဘယ် ကြောင့်နည်း ဟူမူ
ကား။ဇာတိအားဖြင့်ငါအမျိုးသား ချင်းဖြစ်သောငါ ညီအစ်ကိုတို့အ
တွက်ငါသည် ကိုယ်တိုင်ခရစ်တော်နှင့်ကွာ၍ကျိန်ဆိုခြင်းကိုခံချင်
၄ လောက်အောင်စိတ်ရှိ၏။ ထိုသူတို့သည် ဣသရေလလူဖြစ်၍သားအ
ရာ၌ချီးမြှောက်ခြင်းနှင့် ၎င်ဘုန်းအာနုဘော်တော်နှင့်၎င်ဝန်ခံခြင်းတ
ရားတို့နှင့်၎င်ပညတ် တရားထားခြင်းနှင့် ၎င်ဝတ်ပြုခြင်းနှင့်၎င်ဂတိ
၅ တော်တို့နှင့်၎င်ဆိုင်ကြ၏။ အဖများတို့နှင့်ဆက် နွယ်သော သူဖြစ်ကြ
၏။ခရစ်တော်သည်လည်းဇာတိအမျိုးအားဖြင့်သူတို့အမျိုးဖြစ်တော်
မူ၏။ထိုခရစ်တော်သည် လည်းအလုံး စုံတို့ကိုအစိုးရတော်မူ၍ထာဝ
ရမင်္ဂလာရှိတော်မူသောဘုရားသခင်ဖြစ်တော်မူ၏။အာမင်။
၆ ။ဘုရားသခင်၏ဂတိတော်မတည်ဟုငါမဆိုလို။အဘယ်
ကြောင့်နည်းဟူမူကား။ဣသရေလနှင့်ဆက်နွယ်သောသူအားလုံးတို့
၇ သည်ဣသရေလလူမှန်မဟုတ်။ ထိုနည်း တူ။ အာဗြဟံအမျိုးအနွယ်
ဖြစ်သောသူအားလုံးတို့သည်အာဗြဟံသားမှန်မဟုတ်။ ဣဇာက်၌သါ
၈ သင်၏အမျိုးတည်လိမ့်မည်ဟုဗျာဒိတ်တော်ရှိ၏။ သို့ဖြစ်၍ဇာတိအ
မျိုးသားတို့သည် ဘုရားသခင်၏သားမှန် မဟုတ်။ဂတိတော်နှင့်ဆိုင်
၉ သောသားတို့သည် အမျိုးအနွယ်မှန် သည် ဟုမှတ်တော်မူ၏။ ဂတိ
တော်အချက်ဟူမူကား။ယခုမှစ၍ ကာလအချိန် စေ့သောအခါငါလာ၍
၁၀ စာရာသည်သားကိုရလိမ့်မည်ဟုလာသတည်း။ ထိုမျှမက။ ရေဗက္က
၁၁ သည်ငါတို့အဖဣဇာက် နှင့် နေ၍ ဖနိုသန္ဓေစွဲယူသောအခါ ဘုရား
သခင်ရွေးကောက်တော်မူခြင်းနှင့်ရှည်သောအကြံတော်သည်အကျင့်
အားဖြင့်မတည်။ခေါ်တော်မူသောသူ၏အလိုတော်အားဖြင့်တည်မည်
အကြောင်း။ သား မဖွားမှီထို သား တို့သည် ကောင်း သောအကျင့်မ
၁၂ ကောင်းသောအကျင့်ကိုမကျင့်မှီ သားအကြီးသည် သား အငယ်၌
၁၃ ကျွန်ခံရလိမ့်မည်ဟုထိုမိန်းမအားဗျာဒိတ်တော်ရှိ၏။ ထိုသို့နှင့်အညီငါ
သည်ယာကုပ်ကိုချစ်၏။ဧသောကိုမုန်း၏ဟုကျမ်းစာလာသတည်း။
၁၄ ။ ။သို့ဖြစ်၍အဘယ်သို့ပြောရမည်နည်း။ဘုရားသခင်သည်
၁၅ မတရားသောအမှုကို ပြုတော်မူသလော။မပြုနိုင် ရာ။ ဘုရားသခင်
ကငါကျေးဇူး ပြုလိုသောသူကိုငါကျေးဇူး ပြုမည်။ ငါသနား လို သော

၁၆ သူကိုလည်းငါသနားမည်ဟု မောရှေကို မိန့်တော်မူ၏။ ထိုကြောင့်
လိုချင်သောသူသည် တတ်နိုင်သည် မဟုတ်။ ပြေးသောသူသည်တတ်
နိုင်သည်မဟုတ်။ ကျေးဇူးပြုတော်မူသောဘုရားသခင်သာလျှင်တတ်
၁၇ နိုင်တော်မူ၏။ ဖာရောမင်းကြီးကိုကျမ်းစာဆိုသည်ကား။ ငါတန်ခိုး
ကိုသင်၌ငါပြခြင်းငှါ၎င်ငါနာမကိုမြေကြီးတပြင်လုံးတွင်ကျော်စော
၁၈ စေခြင်းငှါ၎င်သင်ကိုငါချီးမြှောက်ခဲ့ပြီးဟုဆိုသတည်း။ ထိုသို့နှင့်အ
ညီကျေးဇူးပြုလိုသောသူကိုကျေးဇူးပြုတော်မူ၏။ ခိုင်မာစေလိုသော
၁၉ သူကိုခိုင်မာစေတော်မူ၏။ ။သို့ဖြစ်လျှင်ဘုရားသခင်သည်
အဘယ်ကြောင့်အပြစ်တင် တော်မူသေးသနည်း။ အဘယ်သူသည်အ
၂၀ လိုတော်ကိုဆီးတားဘိသနည်း ဟုဆိုမည်လော။ အချင်း လူ။ ဘုရား
သခင်ကိုညင်းခုံသောသူသင်သည်အဘယ် သူနည်း။ လုပ်အပ်သော
အရာသည် လုပ်တတ်သောသူကိုခေါ်၍ အဘယ် ကြောင့်ငါကို ဤသို့
၂၁ လုပ်သနည်းဟုဆိုရမည် လော။ အိုးထိန်းသမားသည်အိုးမြေကိုပိုင်
သည် မဟုတ်လော။ အိုးမြေတပုံတည်း နှင့်အိုး မြတ်အိုးယုတ် လုပ်ပိုင်
၂၂ သည်မဟုတ်လော။ ဘုရားသခင်သည် မိမိအမျက်တော်ကိုပြ၍တန်
ခိုးတော်ကိုထင်ရှားစေခြင်း ငှါအလိုတော်ရှိလျက်ပျက်စီးခြင်းအဖို့
ပြင်ဆင် သောအမျက် ခံရာအိုး များတို့ကိုအလွန် သည်းခံခြင်းခန္တီ နှင့်
၂၃ သည်းခံတော်မူသည်မှန်လျှင်အဘယ်ပြော ဖွယ်ရှိအံ့နည်း။ ချီးမြှော
၂၄ က်ခြင်းအဖို့ပြင်ဆင်နှင့် တော်မူသောကရုဏာခံရာအိုးများ တည်း
၂၅ ဟူသောယုဒလူ အထဲမှသာ မဟုတ်။ တပါးအမျိုး သား အထဲမှ ပရော
ဖက်ဟောရှေဆိုသည်အတိုင်းခေါ်တော်မူသောငါတို့၌ဘုန်းအါနုဘော်
တော်ကြွယ်ဝခြင်းကိုထင်ရှား စေခြင်း ငါပြုတော်မူသည် မှန်လျှင်အ
ဘယ်ပြော ဖွယ်ရှိအံ့နည်း။ ဟောရှေကျမ်း စာ၌ လာသည်ကား။ ငါလူမ
ဟုတ် သောသူ ကို ငါလူဟူ၍ ငါခေါ်မည်။ မချစ် သောသတို့ သမီး ကို
၂၆ လည်းအချစ်ဟူ၍ငါခေါ်မည်။ သင်တို့သည်ငါလူမဟုတ်ဟုပြောဆိုရာ
အရပ်၌ နေသောသူတို့သည်အသက်ရှင်တော်မူသောဘုရားသခင်၏
၂၇ သားဟုခေါ်ဝေါ်ခြင်းကိုခံရကြလိမ့်မည် ဟုလာသတည်း။ ပရော
ဖက် ဟေရှာယသည် ဣသရေလအမျိုး ကို ရည် ၍ ကျွေး ကျော်သည်
ကား။ ဣသရေလအမျိုးသားတို့သည်သမုဒ္ဒရာသဲလုံးနှင့်အမျှများသော်
လည်းကြွင်းသောသူသာလျှင်ကယ်တင်တော်မူခြင်း သို့ရောက် လိမ့်
၂၈ မည်။ အမှုတော်ကိုတရားသဖြင့်ပြီးစီးအောင်ဆုံးဖြတ် တော်မူမည်။

ထာဝရဘုရားသည် မြေပေါ်မှာဆုံးဖြတ်သောအမှုကိုပြုတော်မူလိမ့်
၂၉ မည်ဟုဆိုသတည်း။ ထိုသို့နှင့်အညီဟေရှာယသည်အထက်ကဆိုပြန်
သည်ကား။ကောင်းကင်ကန္တီးများကိုအစိုးရတော်မူသောထာဝရဘု
ရားသည်ငါတို့၌မျိုးစေ့ကိုကြွင်းစေတော်မမူလျှင်ငါတို့သည်သောဒုံမြို့
၃၀ ကဲ့သို့ဖြစ်၍ဂေါမောရမြို့နှင့်တူကြပြီး၊ ။ထိုကြောင့်အဘယ်သို့
ပြောမည်နည်းဟူမူကား။ကုသိုလ်ကိုမကျိုးစားသောတပါးအမျိုး
သားတို့သည်ကုသိုလ်ကိုရ၏။ထိုသို့ရိုသော်ယုံကြည်ခြင်းအားဖြင့်ရ
၃၁ သောကုသိုလ်ကိုဆိုလိုသတည်း။ ကုသိုလ်တရားကိုကျိုးစားသော
၃၂ ဣသရေလလူတို့သည်ကုသိုလ်တရားကိုမမီကြ။ အဘယ်ကြောင့်မ
၃၃ မီသနည်းဟူမူကား။ယုံကြည်ခြင်းအားဖြင့်မကျိုးစား။ပညတ်တရား
အကျင့်အားဖြင့်သာကျိုးစားသတည်း။ကျမ်းစာ၌လာသည်ကား။ထိ
မိ၍လဲစရာကျောက်ကိုဇိအုန်တောင်ပေါ်မှာငါချထား၏။ထိုကျောက်
ကိုအမှီပြုသောသူမည်သည်ကားရှက်ကြောက်ခြင်းမရှိနိုင်ရာဟုလာ
သည်နှင့်အညီထိုကျောက်ကိုဣသရေလလူတို့သည်ထိမိ၍လဲကြ၏။



၁ ညီအစ်ကိုတို့။ဣသရေလလူတို့သည်ကယ်တင်တော်မူခြင်းသို့ရောက်
စေခြင်း ငါငါ၏စေတနာအလိုရှိ၍ဘုရားသခင်ကိုဆုတောင်းလျှောက်
၂ ၏။ သူတို့သည်မှန်သောပညာမရှိသော်လည်း ဘုရားသခင်ဘက်
၃ စိတ်အားကြီးသည်ဟုသူတို့ဘက်၌ငါသက်သေခံ၏။ သူတို့သည်ဘု
ရားသခင်၏ကုသိုလ်တော်ကိုမသိလျက်ကိုယ်ကုသိုလ်ကိုတည်စေ
ခြင်းငှါရှာကြံသောကြောင့်ဘုရားသခင်၏ကုသိုလ်တော်ကိုဝန်မခံ
၄ ကြ။ ယုံကြည်သောသူမည်သည်ကား ကုသိုလ်ရမည်အကြောင်း။
၅ ပညတ်တရားသည်ခရစ်တော်အားဖြင့်စုံလင်ခြင်းရှိ၏။ ထိုသို့
ကျင့်သောလူသည်အကျင့်အားဖြင့်အသက်ရှင်လိမ့်မည်ဟု
မောရှေသည်ပညတ်တရားနှင့်စပ်ဆိုင်သောကုသိုလ်ကိုရည်၍
၆။၇ ရေးထားသတည်း။ ယုံကြည်ခြင်းနှင့်စပ်ဆိုင်သောကုသိုလ်တရား
ဟူသည်ကား။ကောင်းကင်သို့အဘယ်သူတက်မည်နည်း။နက်နဲရာ
ထဲသို့အဘယ်သူဆင်းမည်နည်းဟုစိတ်ထဲမအောင်းမေ့နှင့်ဟုဆို၏။
ထိုသို့ဆိုသော်ခရစ်တော်ကိုဆောင်ခဲ့ခြင်းငှါကောင်းကင်သို့အဘယ်
သူတက်မည်နည်း။ခရစ်တော်ကိုသေခြင်းမှထမြောက်စေခြင်းငှါနက်
၈ နဲရာထဲသို့အဘယ်သူဆင်းမည်နည်းဟုဆိုလိုသတည်း။ တဖန်ဆို

သည်ကား။ တရားတော်သည် သင်နှင့်နီး၏။ သင်နှုတ်၌၎င်နှစ် လုံး၌
၎င်ရှိသည် ဟုဆို၏။ ထိုသို့ဆိုသော်ငါတို့ဟောသော ယုံကြည်ခြင်း တ
၉ ရားကိုဆိုလိုသတည်း။ အဘယ်သို့နည်းဟူမူကား။ သင်သည်သခင်
ယေရှုကို နှုတ်ဖြင့်ဝန်ခံ၍ဘုရားသခင်သည် သူကိုသေခြင်းမှထမြော
က်စေတော်မူသည်ဟုစိတ်နှလုံး ထဲ၌ယုံကြည်လျှင်ကယ်တင်ခြင်းသို့
၁၀ ရောက်လိမ့်မည်။ ကုသိုလ်ရခြင်း၌စိတ်နှလုံးဖြင့်ယုံကြည်ရ၏။ကယ်
၁၁ တင်ခြင်းသို့ရောက်ခြင်း၌နှုတ်ဖြင့်ဝန်ခံရ၏။ ကျမ်းစာလာသည်ကား။
ထိုကျောက်ကိုအမှီပြုသောသူမည်သည်ကားရှက်ကြောက်ခြင်းမရှိနိုင်
၁၂ ရာဟုဆိုသတည်း။ ယုဒအမျိုး၊ဟေလသအမျိုးကိုမခွဲ။လူအပေါင်း
တို့ကိုအစိုးရသောအရှင်တပါးတည်းဖြစ်၍ကိုယ်တော်ကိုပဌနာပြုသော
၁၃ သူအားလုံးတို့၌ကျေးဇူးကြွယ်ဝတော်မူ၏။ အဘယ်သို့နည်းဟူမူကား။
ထာဝရဘုရားကိုပဌနာပြုသောသူမည်သည်ကား ကယ်ကင်တော်မူ
၁၄ ခြင်းသို့ရောက်လတံ့။ ။သို့ဖြစ်၍ဘုရားသခင်ကိုမယုံကြည်လျှင်
အဘယ်သို့ပဌနာပြုနိုင်သနည်း။ဘုရားသခင်အကြောင်း ကို မကြား
လျှင်အဘယ်သို့ယုံကြည်နိုင်သနည်း။ဟောပြောသူမရှိလျှင်အဘယ်သို့
၁၅ ကြားနိုင်သနည်း။ လူကိုမစေလွှတ်လျှင်အဘယ်သို့ဟောပြောနိုင်
သနည်း။ ထိုသို့နှင့်အညီကျမ်းစာလာသည်ကား။ ငြိမ်သက်ခြင်း၏
ဝမ်းမြောက်စရာသိတင်း။ကောင်းကျိုးချမ်းသာ၏ဝမ်းမြောက်စရာသိ
တင်းကို ကြားပြောသောသူ၏ ခြေတို့သည် အဘယ် မျှလောက်တင့်
၁၆ တယ်စွတကားဟုလာသတည်း။ သို့သော်လည်းလူအားလုံးတို့သည်
ဝမ်းမြောက်စရာသိတင်းကိုနားထောင်ကြသည်မဟုတ်။ ပရောဖက်
ဟေရှာယစကား ဟူမူကား။ထာဝရဘုရား။အကျွန်ုပ်တို့ဟောပြော
၁၇ သောသိတင်းစကားကိုအဘယ်သူယုံပါသနည်းဟုဆို၏။ သို့ဖြစ်၍ဘု
ရားသခင်စကားတော်အားဖြင့် နားထောင်ခြင်းဖြစ်၏။ နားထောင်
၁၈ ခြင်းအားဖြင့်ယုံကြည်ခြင်းဖြစ်၏။ ထိုမှတပါး။လူအပေါင်းတို့သည်
မကြားရပြီးလော။အမှန်ကြားရပြီး။ ဟောပြောသောသူတို့၏စကား
သံသည်မြေတပြင်လုံးနှံ့ပြား၍ မြေကြီး စွန်းတိုင်အောင်ရောက်ခဲ့ပြီး
၁၉ ဟုငါဆို၏။ တဖန်ငါဆိုသည်ကား။ဣသရေလလူ တို့သည် မသိသ
လော။အစက မောရှေစကား ဟူမူကား။မရေရသောလူမျိုးအားဖြင့်
သင်တို့သည်ဣူရှုသောစိတ်ရှိအောင်ငါပြုမည်။ပညာမရှိသောလူမျိုး
၂၀ အားဖြင့်သင်တို့သည်စိတ်ဆိုးအောင်ငါပြုမည်ဟုဆို၏။ ဟေရှာယ

သည်သာ၍ရဲရင့်စွာဆိုသည်ကား။ငါ့ကိုမရှာသောသူတို့သည် ငါ့ကို
တွေ့ကြ၏။ငါ့အကြောင်းကိုမမေးမြန်းသောသူတို့၌ငါထင်ရှားသည်
၂၁ ဟုဆို၏။ ဣသရေလလူကိုကိုရည်စောင်း၍ကဗန့်မိန့်တော်မူသည်
ကား။ နားမထောင်။ ညင်းဆန်တတ်သောလူမျိုးဆီသို့တနေ့လုံး ငါ
၁ လက်ကိုငါဆန့်မြဲပြီးဟုဆိုသတည်း။ ။သို့ဖြစ်လျှင်ဘုရား
သခင်သည် မိမိလူမျိုးကိုပယ်တော်မူပြီးလောဟုမေး သော်ပယ်
တော်မမူဟုဆိုရ၏။ငါ့ပင်ဣသရေလလူဖြစ်၏။အာဗြဟံအမျိုးဗင်္ယာ
၂ မိန်အနွယ်ဖြစ်၏။ ဘုရားသခင်သည်အထက်က သိမှတ်တော်မူ
သောမိမိလူစုကိုပယ်တော်မမူ။ဧလိယာကျမ်းစာ၌ပါသောအကြောင်း
ကိုသင်တို့မသိလော။ ထိုပရောဖက်သည်ဘုရားသခင်ရှေ့ဣသရေလ
၃ အမျိုး၌အပြစ်တင်သောစကားကိုလျှောက်၍ ထာဝရဘုရား၊သူတို့
သည်ကိုယ်တော်၏ပရောဖက်များကိုသတ်ကြပြီး။ကိုယ်တော်၏ယဇ်
ပလ္လင်များကိုဖြိုဖျက်ကြပြီး။ အကျွန်ုပ်တယောက်တည်းကျန်ရစ်၍အ
၄ ကျွန်ုပ်အသက်ကိုပင်ရှာကြပါ၏ဟုလျှောက်သောအခါ အဘယ်သို့
ဗျာဒိတ်ထားတော်မူသနည်းဟူမူကား။ဗာလရှေ့၌ဒူး မထောက်သော
၅ လူခုနစ်ထောင်တို့ကိုငါ၌ငါကျန်ကြွင်းစေပြီးဟုမိန့်တော်မူ၏။ ထိုသို့
နှင့်အညီယခုကာလတွင် ပင်ကျေးဇူးတော်အတိုင်းရွေးကောက်တော်
၆ မူသောအကြွင်းအကျန်ရှိသေး၏။ကျေးဇူးတော်အားဖြင့်ရှိလျှင်ကိုယ်
ကျင့်သောအကျင့်အားဖြင့်မရှိ။ရှိလျှင်ကျေးဇူးသည်ကျေးဇူးမဟုတ်။
၇ သို့ဖြစ်လျှင်အဘယ်သို့နည်း။ဣသရေလလူတို့သည်လိုက်ရှာသောအရာ
ကိုမတွေ့မမှီ။ရွေးကောက်တော်မူသောသူတို့သည်တွေ့မှီကြ၏။ကြွင်း
၈ သောသူတို့သည်မှောင်မိုက်အတိဖြစ်ကြ၏။ ထိုသို့နှင့်အညီကျမ်းစာ
လာလည်ကား။ဘုရားသခင်သည်အိပ်ချင်သောသဘောကိုရင် မမြင်
နိုင်သောမျက်စိကိုရင်မကြား နိုင်သောနားကိုရင်ထိုသူတို့အားပေး
တော်မူပြီးဟုလာ၏။ ထိုကျမ်းစာချက်သည်ယနေ့တိုင်အောင်ပြည့်စုံ
၉ သတည်း။ ဒါဝိဒ်စကားဟူမူကား။ သူတို့စားပွဲသည်ကျော့ကွင်းဖြစ်
ပါစေ။ဂျမ်ဖြစ်ပါစေ။ထောင်ချောက်ဖြစ်ပါစေ။ခံထိုက်သောအပြစ်
၁၀ ဖြစ်ပါစေ။ သူတို့သည်မမြင်နိုင်အောင်မျက်စိကွယ်ပါစေ။သူတို့
ကျောသည်အစဉ်ကုန်းပါစေဟုလာသတည်း။

✻✻

၁၁ သို့ဖြစ်လျှင်ထိုသူတို့သည်လဲနေအောင်ထိမိပြီးလောဟုမေးသော်ထဲ

၍မနေရာ။ သူတို့ကိုတိုက်တွန်းနှိုးဆော်စရာအကြောင်းရှိရအောင်သူ
တို့လဲခြင်းအားဖြင့်ကယ်တင်တော်မူခြင်းကျေးဇူးသည်တပါးအမျိုး
၁၂ သားတို့၌သက်ရောက်လေ၏။ သူတို့၏လဲခြင်းအရာသည် လူပြည်
သားတို့၏ဥစ္စာပွားကိုရင်သူသို့၏ ခေါင်းပါးခြင်းအရာသည်တပါးအ
မျိုးသားတို့၏ဥစ္စာပွားကိုရင်ပြုလျှင်သူတို့၏ပြည့်စုံခြင်းအရာသည်
၁၃ သာ၍ပြုရမည်မဟုတ်လော။ ထိုသို့ဆိုသော်တပါးအမျိုးသားဖြစ်
၁၄ သောသင်တို့ အားငါဆို၏။ ငါအမျိုးသားချင်းတို့ကိုတခုခုအားဖြင့်
တိုက်တွန်းနှိုးဆော်၍အချို့တို့ကိုကယ်တင်ခြင်းငှါငါအလိုရှိသည်ဖြစ်
၍တပါးအမျိုးသားဆီသို့စေလွှတ်သောတမန်တော်ဖြစ်သည်နှင့်အညီ
၁၅ ထိုတမန်တော်အရာကိုငါချီးမွမ်း၏။ သူတို့ကိုပယ်တော်မူခြင်းအရာ
သည်လူပြည်သား တို့၏မိဿဟာယဖွဲ့ခြင်းအကြောင်း ဖြစ်လျှင်သူ
တို့ကို သိမ်းဆည်း တော်မူခြင်းအရာသည် သေခြင်းမှထမြောက် ရှင်
၁၆ ပြန်ခြင်းကဲ့သို့ဖြစ်မည်မဟုတ်လော။ အစအဦးသည်သန့်ရှင်းလျှင်
အားလုံး သန့်ရှင်း ၏။အမြစ် သန့်ရှင်း လျှင် အခက်အလက်များလည်း
၁၇ သန့်ရှင်း၏။ အချို့သောအခက်တို့သည် ချိုးပဲ့ပြီးမှရိုင်းသောသံလွင်
ပင်တည်းဟူသောသင်သည်အတက်ဝတ်၌ဆက်၍စိုက်သဖြင့် အခက်
များနှင့်အတူသံလွင်ပင်အမြစ်ကိုရင်အဆီဩဇာကိုရင်ဆက်ဆံလျှင်
၁၈ ချိုးပဲ့သောအခက် တို့ကိုကဲ့ရဲ့ကြွားဝါခြင်းမရှိနှင့်။ ကြွားဝါလျှင်ကား
၁၉ သင်သည်အမြစ်ကိုမဆောင်း။အမြစ်သည်သင်ကိုဆောင်၏။ ငါကို
ဆက်၍စိုက်ခြင်းငှါထိုအခက်တို့သည် ချိုးပဲ့ခြင်းကိုခံရပြီးဟုသင်ဆို
၂၀ ပြန်လျှင်မှန်စေတော့။ မရုံကြည်သောစိတ်ရှိသောကြောင့်သူတို့သည်
ချိုးပဲ့ခြင်းကိုခံရသည်ဖြစ်၍သင်သည်ရုံကြည်ခြင်းအားဖြင့်သာတည်
၂၁ ၏။မာနစိတ်မရှိစေနှင့်။ ကြောက်ခြင်းစိတ်ရှိစေလော့။ အကြောင်းမူ
ကား။ဘုရားသခင်သည်ပကတိအခက်များကိုနှစ်မြောတော်မမူလျှင်
၂၂ သင်တို့ကိုနှစ်မြောတော်မူမည်လော။ သို့ဖြစ်၍လဲသောသူတို့၌ပြင်း
စွာစီရင်တော်မူခြင်းကိုရင်ကျေးဇူးတော်၌သင်တည်နေလျှင်သင်၌ပြု
တော်မူသောကျေးဇူးတော်ကိုရင်၍နှစ်ပါးကိုအောင်း မေ့လော့။ကျေး
ဇူးတော်၌မတည်မနေလျှင်သင်သည်လည်း ချတ်ပြစ်ခြင်းကိုခံရမည်။
၂၃ သူတို့လည်း မရုံကြည် သောစိတ်ပျောက် လျှင်အပင် ၌ တဖန် ဆက် ၍
စိုက်သောအခွင့်ရကြသိမ့်မည်။သူတို့ကိုတဖန်ဆက်၍စိုက်ခြင်းငှါဘု
၂၄ ရားသခင်တတ်နိုင်တော်မူ၏။ အဘယ်သို့နည်းဟူမူကား။ ပကတိ

ရိုင်းသောသံလွင်ပင်မှသင်ကိုခုတ်ယူ၍ ကောင်းသောသံလွင်ပင်၌ပ
ကတိမလိုက် ဘဲဆက် ၍ စိုက် သည့် မှန်လျှင် ပကတိအခက် ဖြစ် သော
ထိုသူတို့သည်မိမိတို့သံလွင် ပင်၌ ဆက်၍စိုက် သောအ ခွင့်ကိုသာ၍
၂၅ ရမည်မဟုတ်လော။ ။ညီအစ်ကိုတို့။သင်တို့သည်ကြွားဝါ
သောစိတ်မရှိမည့်အကြောင်း။ထပါးအမျိုးသား အပေါင်း တို့သည့် မ
ဝင်မှီတိုင်အောင်ဣသရေလလူအချို့တို့သည်မှောင်မိုက်အတိဖြစ်ခြင်း
၂၆ တည်းဟူသောနက် နဲ သောအရာကိုငါသိစေချင်၏။ ထိုသို့ကျမ်းစာ
နှင့်အညီဣသရေလလူအပေါင်းတို့သည့် ကယ်ဘင်ခြင်းသို့ရောက်ကြ
လိမ့်မည်။ကျမ်းစာချက်ဟူမူကား။ကယ်လွှတ် သောသခင်သည်ဇိအုန်
တောင်ပေါ်သို့ကြွ၍မတရားသောအမှုကိုယာကုပ်အမျိုးသားတို့မှထွဲ
၂၇ တော်မူလတ့ံ။ သူတို့အပြစ်များကိုငါဖြေသောအခါ၌ သို့သောငါ၏
၂၈ ဝန်ခံခြင်းတရား သည် သူတို့၌ပြည့်စုံလတ့ံဟုလာသတည်း။ သူတို့
သည် ဧဝံဂေလိတရားအားဖြင့် မူကားသင်တို့အကြောင်း ကြောင့်ရန်
သူဖြစ် ကြ၏။ ရွေး ကောက်တော်မူခြင်းအားဖြင့် မူကား အဖများ အ
၂၉ ကြောင်းကြောင့်ချစ်သူဖြစ်ကြ၏။ အဘယ်သို့နည်းဟူမူကား။ဘုရား
သခင်ပေးသနားတော်မူခြင်း။ခေါ်ထားချီးမြှောက်တော်မူခြင်း ကျေး
၃၀ ဇူးမှာဖောက်ပြန်ခြင်းသဘောမရှိ။ သင် တို့သည် အထက် ကဘုရား
သခင်စကားတော်ကိုနား မထောင် ဘဲနေကြသည် ဖြစ် ၍ယခုတွင်သူ
တို့နားမထောင်ခြင်းအမှုအားဖြင့်သင်တို့သည်သနားတော်မူခြင်းကို
၃၁ ခံရသကဲ့သို့ ထိုနည်းတူ။သင် တို့ခံရသောသနားတော်မူခြင်း အား
ဖြင့်သူတို့လည်းသနားတော်မူခြင်းကိုခံမည့်အကြောင်း။ယခုတွင်သူ
၃၂ တို့သည်နားမထောင်ဘဲနေကြ၏။ ဘုရားသခင်သည်လူအပေါင်းတို့
ကို သနား တော်မူခြင်း အ ခွင့် ရှိစေခြင်း ငှါလူအပေါင်း တို့ကို နား မ
၃၃ ထောင်ခြင်းအဖြစ်၌ပိတ်ထားတော်မူ၏။ ဘုရားသခင် ၏ ပညာနှင့်
ဥာဏ်တော်သည်အလွန်ကျယ်ဝန်းနက်နဲ တော်မူပေစွတကား။စီရင်
တော်မူချက်တို့ကို အဘယ်သူ မျှစစ် ၍ မကုန်နိုင် သည် တကား။ ကြွ
၃၄ တော်မူရာလမ်းတို့ကိုလည်းလိုက်ရှာ၍မမှီနိုင် သည်တကား။ ထာဝရ
ဘုရား ၏ စိတ် တော်ကိုအဘယ် သူသိသနည်း။ ထာဝရဘုရားနှင့် အ
၃၅ ဘယ်သူသည်တိုင်ပင်ဖက်ပြုသနည်း။ ကျေး ဇူးဆပ်ရမည့်အကြော
၃၆ င်း။ထာဝရဘုရား၌အဘယ်သူသည်ကျေးဇူးပြုဘူးသနည်း။ ခပ်သိမ်း
သောအရာတို့သည်ကိုယ်တော်ထဲကရင်ကိုယ်တော်အားဖြင့်ရင်ကိုယ်

တော်အဖို့အလိုငှါရင်ဖြစ်ကြ၏။ ကိုယ်တော်သည်ကမ္ဘာအဆက်ဆက်
ဘုန်းကြီးတော်မူစေသတည်း။အာမင်။

**

၁ ညီအစ်ကိုတို့။အသက်ရှင်ခြင်းလက္ခဏာ။အပြစ်ကင်းခြင်းလက္ခဏာ။
ဘုရားသခင်နှစ်သက်တော်မူဖွယ်လက္ခဏာနှင့် ပြည့်စုံသောယဇ်ကို
သင်တို့သည်ပူဇော်၍မိမိကိုယ်ခန္ဓာကိုဘုရားသခင်အားဆက်ကပ်
ခြင်းတည်းဟူသောသင်တို့ပြုအပ်သောဝတ်ကိုပြုမည်အကြောင်း။ဘု
ရားသခင်၏ကရုဏာကျေးဇူးတော်ကိုထောက်ထား၍သင်တို့ကိုငါတိုက်တွန်း
၂ နှိုးဆော်ပေ၏။ သင်တို့သည်လောကီပုံသဏ္ဌာန်ကိုမဆောင်ကြနှင့်။
ကောင်းမြတ်သောအရာ။နှစ်သက်ဖွယ်အရာ။စုံလင်သောအရာတည်း
ဟူသောဘုရားသခင်အလိုတော်ရှိရာကိုလေ့ကျက်ရအောင်စိတ်နှစ်
လုံးကိုအသစ်ပြင်ဆင်၍ပုံသဏ္ဌာန်ပြောင်းလဲခြင်းသို့ရောက်ကြ
၃ လော့။ သင်တို့သည်ကိုယ်ကိုကိုယ်ထင်သင့်သည်အတိုင်းထက်လွန်
၍မထင်။ဘုရားသခင်သည်လူအသီးအသီးတို့အားယုံကြည်ခြင်းကိုဝေ
ပေးတော်မူသည်နှင့်အညီလျောက်ပတ်စွာကိုယ်ကိုကိုယ်တင်ရမည်
အကြောင်း။ငါသည်ကိုယ်ခံရသောကျေးဇူးတော်ကိုအမှီပြု၍သင်
၄ တို့တွင်ရှိသမျှသောသူတို့ကိုပညတ်ပေ၏။ ဥပမာကားကိုယ်တခု၌
အင်္ဂါအများရှိသည်ဖြစ်၍ထိုအင်္ဂါအများသည်ဆောင်ရွက်စရာအမှု
၅ တခုတည်းမရှိသကဲ့သို့ ထိုအတူ။အများဖြစ်သောငါတို့သည်ခရစ်
၆ တော်၌တကိုယ်တည်းဖြစ်၍အသီးအသီးအင်္ဂါချင်းဖြစ်ကြ၏။ ထိုသို့
ပေးတော်မူသောကျေးဇူးတော်အတိုင်း ငါတို့သည်အသီးသီးအပြား
ပြားသောဆုများကိုခံရသည်ဖြစ်၍ပရောဖက်ဉာဏ်ဖြစ်လျှင်ယုံကြည်
၇ ခြင်း၏ပမာဏရှိသည်အတိုင်းပရောဖက်ပြုစေတော့။ ဆရာအမှု
ဖြစ်လျှင်ဆရာအမှုကိုဆောင်ရွက်စေတော့။ဆုံးမသြဝါဒပေးသောသူ
၈ သည်ထိုအမှုကိုဆောင်ရွက်စေတော့။ နှိုးဆော်သွေးဆောင်သောသူ
သည်ထိုအမှုကိုဆောင်ရွက်စေတော့။အစွန့်အကြဲဝေငှသောအမှုကို
ဆောင်သောသူသည်လျှော့လျှော့သောစိတ်နှင့်ဝေငှစေတော့။အုပ်ချုပ်သော
သူသည်လုံ့လဝီရိယနှင့်အုပ်ချုပ်စေတော့။မစသနားခြင်းအမှုကိုပြု
၉ သောသူသည်စေတနာစိတ်နှင့်ပြုစေတော့။ ။မေတ္တာစိတ်
သည်လျှို့ဝှက်ခြင်းနှင့်ကင်းစေတော့။ဆိုးညစ်သောအမှုကိုစက်ဆုပ်ရွံ
၁၀ ရှာကြလော့။ကောင်းမွန်သောအမှု၌မှီဝဲဆည်းကပ်ကြလော့။ ညီအစ်

ကိုချစ်ခြင်းအရာမှာစကာတီပေါက် ဖော်ကဲ့သို့ အချင်းချင်း ကိုတသော
က်ရုံးကြ်ကြလော့၊ချီးမွမ်းခြင်းအရာမှာသူသည်ကိုထိထိုက် သာ၍မြ
၁၁ တ်သည်ဟုထင်မှတ်ကြလော့၊ အားထုတ်ခြင်းအရာမှာမပျင်းရိဘဲ
ထက်စိတ်တန်းသဖြင့်အဆင်သင့်သောကာလကိုလိုက်၍ အားထုတ်
၁၂ ကြလော့၊ မျှော်လင့်လျက်နှင့်ဝမ်းမြောက်ကြလော့၊ဆင်းရဲနှိပ်စက်
သောအခါသည်းခံကြလော့၊ဆုတောင်းပဌနာပြုခြင်းအမှုကိုအမြဲပြု
၁၃ ကြလော့၊ ဆင်းရဲသောတပည့်ချင်းတို့အားစေ့ငှပေးကမ်းကြလော့၊
၁၄ အာဂန္တုတို့အားဧည့်သည်ဝတ်ကိုကျိုးစားပြုကြလော့၊ သင်တို့ကို
ညှဉ်းဆဲသောသူတို့အဖို့မေတ္တာပို့ကြလော့၊ကျိန်ဆဲခြင်းကိုမပြု၊မေ
၁၅ တ္တာပို့ခြင်းကိုသာပြုကြလော့၊ ဝမ်းမြောက်သောသူတို့နှင့်အတူဝမ်း
မြောက်ခြင်းကိုငိုကြွေးသောသူတို့နှင့်အတူငိုကြွေးခြင်းကို ငိုပြုကြ
၁၆ လော့၊ အချင်းချင်းစိတ်သဘောတညီတညွတ်တည်းရှိကြလော့၊ဂုဏ်
စည်းစိမ်ကိုငဲ့ကွက်ခြင်းမရှိ၊နှိမ့်ချသောသူတို့နှင့်အပေါင်းအဖော်လုပ်
၁၇ ကြလော့၊ကြွားဝါသောစိတ်မရှိကြနှင့်၊ အဘယ်သူကိုမျှရန်တုံ့မပြု
ကြနှင့်၊လူအပေါင်းတို့ရှေ့တွင်ဘယ်လျောက်ပတ်သောအကျင့်ကိုကြံ
၁၈ စည်ကြလော့။ သင်တို့သည်တတ်နိုင်သမျှအတိုင်းလူအပေါင်းတို့နှင့်
၁၉ ရန်မတွေ့ဘဲအသင့်အတင့်နေကြလော့။ ချစ်သူတို့၊သူတပါးသည်သင်
တို့ကိုပြစ်မှားလျှင်ကိုယ်တိုင်အပြစ်ပြန်မတုံ့ကြနှင့်၊သူ့အမျက်ဒေါသ
ကိုမဆီးတားဘဲသည်းခံကြလော့။ကျမ်းစာလာသည်ကား၊ငါသည်အ
ပြစ်တရားစီရင်ပိုင်၏။ အပြစ်နှင့်အလျောက်ငါဆပ်ပေးမည်ဟုထာ
၂၀ ဝရဘုရားမိန့်တော်မူ၏။ ထိုကြောင့်သင်၏ရန်သူမွတ်သိပ်လျှင်
လုပ်ကျွေးလော့။ရေငတ်လျှင်သောက်ဖို့ပေးလော့။ထိုသို့ပြုသောအား
၂၁ ဖြင့်သူ့ခေါင်းပေါ်၌မီးခဲကိုပုံထားလိမ့်မည်။ အဆိုးအားဖြင့်အရှုံးမခံ
နှင့်၊အကောင်းအားဖြင့်အဆိုးကိုနိုင်လော့။

❋❋

၁ အစိုးရသောမင်းအာဏာစက်၏အုပ်စိုးခြင်းကိုလူတိုင်းဝန်ခံစေ
တော့။အကြောင်းမူကား၊ဘုရားသခင်အခွင့်မရှိဘဲမင်းအာဏာစက်
မရှိ။ရှိသမျှတို့သည်ဘုရားသခင်ခန့်ထားတော်မူရာဖြစ်သတည်း။
၂ ထိုကြောင့်မင်းအာဏာကိုဆန့်သောသူသည်ဘုရားသခင်စီရင်တော်
မူရာကိုဆန့်သောသူဖြစ်၏။ဆန့်သောသူသည်ရာဇဝတ်ခံရမည်။
၃ မင်းမူကားကောင်းသောအကျင့်ကိုကျင့်သောသူကြောက်ရာဘို့မ

ဟုတ်။မကောင်းသောအကျင့်ကိုကျင့်သောသူကြောက်ရာဘို့ဖြစ်၏။
မင်းအာဏာကိုမကြောက်ဘဲနေချင်သလော။ကောင်းသောအကျင့်ကို
ကျင့်။သို့ကျင့်လျှင်မင်းအာဏာကြောင့်ချီးမွမ်းခြင်းကိုခံလိမ့်မည်။
၄ မင်းမည်သည်ကား။သင်၏အကျိုးအလို့ငှါဘုရားသခင်အစေခံဖြစ်
၏။ မကောင်းသော အကျင့် ကို ကျင့် လျှင် ကြောက် ခြင်း ရှိ စေ
လော့။ အကြောင်းမူကား။မင်းသည် အချည်း နှီးခါး ဆောင်သည် မ
ဟုတ်။ မကောင်းသောအကျင့်ကိုကျင့်သောသူတို့ကိုအပြစ်တရားစီ
ရင်၍ရာဇဝတ်ပေးပိုင်သောသူတည်းဟူသောဘုရားသခင်အစေခံ
၅ ဖြစ်သတည်း။ထို့ကြောင့်ရာဇဝတ်ကိုကြောက်သောကြောင့်သာမင်း
အာဏာ စက်၏အုပ်စိုးခြင်းကိုဝန်ခံရသည် မဟုတ်။ ကိုယ် ကို ကိုယ်
၆ သိသောစိတ်ကိုထောက်၍ဝန်ခံရ၏။ ထိုအကြောင်းကြောင့်လည်း
အခွန် အတုတ် ကို ပေး ကြ လော့။ မင်း တို့ သည် ဘုရားသခင်အမှု
၇ စောင့်ဖြစ်၍အမှုတော်ကိုအမြဲထမ်းကြ၏။ ထို့ကြောင့်လူအသီးအသီး
ခံထိုက်သည် အတိုင်း ပေး ကြလော့။အခွန်ကို ခံထိုက်သောသူအားအ
ခွန်ကိုပေးကြ။အကောက်ကို ခံထိုက်သောသူအားအကောက်ကိုပေး
ကြ။အရိုအသေခံထိုက်သောသူကိုရိုသေကြ။ဂုဏ်ခံထိုက်သောသူအား
၈ ဂုဏ်ကိုပေးကြ။ ။အချင်းချင်းချစ်ခြင်းမှတပါးအဘယ်
ကြွေးမျှမတင်စေနှင့်။သူတပါးကိုချစ်သောသူသည်အကျင့်တရားနှင့်
၉ ပြည့်စုံပြီး။ အဘယ်ကြောင့်နည်းဟူမူကား။သူမယားကိုမပြစ်မှား
နှင့်။လူအသက်ကိုမသတ်နှင့်။သူဥစ္စာကိုမခိုးနှင့်။မမှန်သောသက်သေ
ကိုမခံနှင့်။သူဥစ္စာကိုတပ်မက်ခြင်းစိတ်မရှိနှင့်ဟူသောပညတ်မှစ၍
အချားသောပညတ်များတို့သည်ကားကိုယ်နှင့်စပ်ဆိုင်သောသူကို
ကိုယ်နှင့်အမျှချစ်လော့ဟူသောပညတ်ဘခန်းအဝင်အပါဖြစ်ကြ၏။
၁၀ ချစ်ခြင်းမေတ္တာရှိသောသူသည်ကိုယ်နှင့်စပ်ဆိုင်သောသူ၏အကျိုးကို
မဖျက်ဆီးတတ်။ထို့ကြောင့်ချစ်ခြင်းမေတ္တာသည်အကျင့်တရားပြည့်စုံ
၁၁ ရာဖြစ်သတည်း။ထိုမှတပါး။ငါတို့ကိုကယ်တင်သောကျေးဇူးတော်သည်
ငါတို့ယုံကြည်သောနေ့မှာနီးသည်ထက်ယခုမှာသာ၍နီးသောကြောင့်၎င်း
၁၂ ညည့်အချိန်ကုန်လု၍နေ့အချိန်ရောက်လုသောကြောင့်၎င်းယခုမှာအိပ်
ပျော်ရာမှနိုးရသောအချိန်ရောက်ခဲ့ပြီးဟုသိ၍ကာလအချိန်ကိုထော
က်လျက်မှောင်မိုက်၏အကျင့်ကိုပယ်ရှားကြစို့။အလင်း၏လက်နက်စုံ
၁၃ ကိုဝတ်ဆင်ဆောင်ရွက်ကြစို့။ နေ့အချိန်၌ပြုရသကဲ့သို့တင့်တယ်

သွေးကဲတတ်စွာတည့်ဆောင်ပြုမူကြစို့၊ပွဲလုပ်ခြင်း၊ရစ်မူးသောက်
ကျူးခြင်း၊မတရားသောမေထုန်ရှိမှီဝဲခြင်း၊ကိလေသာညစ်ညူးခြင်း၊
၁၄ ရန်တွေ့ခြင်း၊ငြူစူပြိုင်ခြင်းအမှုတို့ကိုကြည့်ရှောင်ကြစို့၊ သခင်ယေရှု
ခရစ်ကိုယူတင်ဝတ်ဆောင်သဖြင့်ကာမရာဂခံစားခြင်းအလို၌ဂရုကြ
၁ စည်ဘဲနေကြလော့၊ ယုံကြည်အားနည်းသောသူတို့ကိုသင်
တို့သိမ်းဆည်းလက်ခံ၍ ငုံမှား ဖွယ်သော ပြဿနာ တို့ ကို ရှောင် ကြ
၂ လော့၊ အစာအမျိုးမျိုးကိုစားအပ်သည်ဟုလူအချို့ငုံ၏၊အားနည်း
၃ သော သူ မူ ကားဟင်းသီး ဟင်းရွက် ကို သာ စား တတ် ၏၊ အ
မျိုး မျိုး စား တတ် သော သူ သည် မစား တတ် သော သူ ကို မထီ
မဲ့ မြင် မပြု စေ နှင့်၊ မစား တတ် သော သူ သည် လည်း စား တတ်
သော သူ ကို အ ပြစ် မ တင် စေ နှင့်၊ အ ကြောင်း မူ ကား၊ ဘုရား
၄ သခင်သည်သူကိုသိမ်းဆည်းလက်ခံတော်မူပြီ၊ သူတပါးပိုင်သော
လူကိုအပြစ်တင်သောသင်သည်အဘယ်သူနည်း၊ သူသည် မိမိသခင်
စီရင်သောအားဖြင့်သာအပြစ်လွှတ်ခြင်း၊အပြစ်ခံခြင်းသို့ရောက်ရ
၏၊ သူသည်အပြစ်လွှတ် ခြင်း သို့ရောက် လိမ့် မည်၊ အဘယ်ကြောင့်
နည်းဟူမူကား၊ဘုရားသခင်သည်သူ့အပြစ်ကိုလွှတ်ခြင်း၌တတ်နိုင်
၅ တော်မူ၏၊ နေ့ရက်တရက်ထက်တရက်သာ၍မြတ်သည်ဟုလူအချို့
ထင်တတ်၏၊လူအချို့ထင်၊လူတိုင်းမိမိစိတ်သဘောကျပါလေစေ။
၆ နေ့ရက်ကိုစောင့်သောသူသည်သခင်ဘုရားကိုထောက်၍စောင့်၏၊
နေ့ရက်ကိုမစောင့်သောသူသည်လည်းသခင်ဘုရားကိုထောက်၍မ
စောင့်ဘဲနေ၏။စားသောသူသည်သခင်ဘုရားကိုထောက်သောစိတ်
နှင့်စား၍ကျေးဇူးတော်ရှိသည်ဟုဝန်ခံ၏။ မစားသောသူသည်လည်း
သခင်ဘုရားကိုထောက်သောစိတ်နှင့်မစားဘဲနေ၍ကျေးဇူးတော်ရှိ
၇ သည်ဟုဝန်ခံ၏။ ငါတို့တွင်အဘယ်သူမျှကိုယ်အလိုအလျောက်အ
၈ သက်မရှင်။ကိုယ်အလိုအလျောက်လည်းမသေ။ အသက်ရှင်လျှင်သ
ခင်ဘုရားအလိုတော်အတိုင်းရှင်၏။သေလျှင်လည်းသခင်ဘုရားအ
လိုတော်အတိုင်းသေ၏။ထိုကြောင့်အသက်ရှင်သည်ဖြစ်စေ။သေသည်
၉ ဖြစ်စေ။သခင်ဘုရားဆိုင်တော်မူ၏။ အဘယ်ကြောင့်နည်းဟူမူ
ကား။ခရစ်တော်သည်သေသောသူတို့ကိုရင်ရှင်သောသူတို့ကိုရင်အ
စိုးရသောအရှင်ဖြစ်ရအောင်အသေခံ၍ခံပြီးမှအသက်ရှင်ပြန်တော်
မူ၏။

**

၁၀ သင်သည်အဘယ်ကြောင့်ညီအစ်ကိုချင်းကိုအပြစ်တင်သနည်း။ အ
ဘယ်ကြောင့်ညီအစ်ကိုချင်းကိုမထီမဲ့မြင်ပြုသနည်း။ငါတို့အားလုံး
၁၁ သည်ခရစ်တော်၏တရားပလ္လင်တော်ရှေ့သို့ရောက်ရမည်။ ကျမ်းစာ
လာသည်ကား။ငါအသက်ရှင်တော်မူသည်ဖြစ်၍ငါ့ရှေ့၌လူတိုင်းဒူး
ထောက်ရမည်။လူတိုင်းဘုရားသခင်ကိုနှုတ်ဖြင့်သစ္စာခံရမည်ဟုထာ
၁၂ ဝရဘုရားမိန့်တော်မူ၏။ သို့ဖြစ်လျှင်ငါတို့အားလုံးသည်ဘုရား
၁၃ သခင်စစ်ကြောတော်မူခြင်းကိုခံရမည်။ ။ထိုကြောင့်ငါတို့
သည်ယခုမှစ၍အချင်းချင်းအပြစ်မတင်ဘဲနေကြစို့။ ညီအစ်ကိုထိမိ
၍လဲစရာအခွင့်။ စိတ်ပျက်စရာအခွင့်မရှိစေမည်အကြောင်း။သာ၍
၁၄ စီရင်ကြစို့။ အဘယ်အစားမျှပကတိအတိုင်းမညစ်ညူးကြောင်းကိုငါ
သည်သခင်ယေရှုကိုအမှီပြု၍သဘောကျ၍အမှန်သိ၏။သို့သော်
လည်းညစ်ညူးသည်ဟုအကြင်သူထင်၏။ ထိုသူ၌ညစ်ညူး၏။
၁၅ သင်၏ညီအစ်ကိုသည်သင်စားသောအစားကြောင့်စိတ်နာရလျှင်
သင်သည်မေတ္တာတရားကိုမကျင့်။ခရစ်တော်သည်အသေခံတော်မူ
သောကျေးဇူးတော်ကိုခံရသောသူကိုသင်၏အစားအားဖြင့်အကျိုး
၁၆ မနဲစေနှင့်။ သင်တို့သည်အခွင့်ရသည်အမှုမှာကဲ့ရဲ့စရာအကြောင်း
၁၇ မရှိစေနှင့်။ ဘုရားသခင်နိုင်ငံတော်သည်အစားအသောက်၌မတည်။
ဖြောင့်မတ်ခြင်း။ ညီမသက်ခြင်း။သန့်ရှင်းသောဝိညာဉ်တော်အား
၁၈ ဖြင့်ခံရသောဝမ်းမြောက်ခြင်း၌တည်၏။ ထိုသို့ကျင့်၍ခရစ်တော်အ
မှုကိုဆောင်ရွက်သောသူသည်ဘုရားသခင်ရှေ့နှစ်သက်ဖွယ်။လူတို့
၁၉ တွင်ချီးမွမ်းဖွယ်ဖြစ်၏။ ထိုကြောင့်ညီမသက်ခြင်းနှင့်ရင်အချင်း
ချင်းတည်ဆောက်ခြင်းနှင့်ရင်ရှည်သောအကျင့်ကိုကျိုးစား၍ကျင့်
၂၀ ကြစို့။ ဘုရားသခင်၏အမှုတော်ကိုသင်အစားအလို့ငှါမဖျက်ဆီး
နှင့်။အစားအမျိုးမျိုးတို့သည်စင်ကြယ်၏။သို့သော်လည်းသူတပါး
၂၁ စိတ်ပျက်စရာအကြောင်းနှင့်စားသောသူသည်အပြစ်ရှိ၏။ အမဲ
သားစားခြင်း။စပျစ်ရည်သောက်ခြင်းကိုမှစ၍ညီအစ်ကိုထိမိ၍
လဲစရာအကြောင်း။ စိတ်ပျက်စရာအကြောင်း။ အားနည်းစရာအ
၂၂ ကြောင်းများကိုရှောင်အပ်၏။ သင်သည်ယုံခြင်းရှိလျှင်ကိုယ်အလို
အလျောက်ဘုရားသခင်ရှေ့၌ရှိစေလော့။ကိုယ်လက်ခံသောအမှုမှာ
၂၃ ကိုယ်၌အပြစ်မတင်သောသူသည်မင်္ဂလာရှိ၏။ ယုံမှားသောသူသည်

စားလျှင်ယုံသောစိတ်မရှိဘဲလျက်စားသောကြောင့်အပြစ်မလွတ်၊ယုံ
သောစိတ်မရှိဘဲလျက်ကျင့်သောအကျင့်ခည်းသည်ကားအပြစ်ရှိ၏။
၂၄ ။ရှေးကပ်ကာလပတ်လုံးဖုံးထားအပ်သော၊ယခုမှာထင်ရှား
၂၅ ရှိအပ်သော၊တပါးအမျိုးသားအပေါင်းတို့သည်ယုံကြည်နားထောင်ခြင်း
အကြောင်း။ပရောဖက်ကျမ်းစာများလာသည်နှင့်အညီထာဝရဘုရား
သခင်ပညတ်တော်အတိုင်း၊သူတို့အားဖော်ပြအပ်သောနက်နဲချက်ကို
ဖွင့်ထားခြင်းကျေးဇူးတော်နှင့်ငါ၏ဧဝံဂေလိတရားတည်းဟူ
သောယေရှုခရစ်အကြောင်းကိုဟောပြောခြင်းအားဖြင့်သင်တို့ကိုမြဲ
၂၆ မြံခိုင်ခံ့စေခြင်းငှါ တတ်နိုင်တော်မူသောအရှင်တည်းဟူသော ပ
ညာနှင့်ပြည့်စုံတော်မူသောဘုရားသခင်တဆူတည်း ယေရှုခရစ်အား
ဖြင့်ကမ္ဘာအဆက်ဆက်ဘုန်းကြီးတော်မူစေသတည်း။အာမင်။
၁ ။ငါတို့သည်အားရှိလျှင်ကိုယ်အလိုသို့သာမလိုက်။အားမရှိ
၂ သောသူတို့၏မတတ်နိုင်ခြင်းအပြစ်ကိုသည်းခံရ၏။ ထိုသို့ငါတို့အား
လုံးသည်ကိုယ်နှင့်စပ်ဆိုင်သောသူ၏ အကျိုးကိုထောက်၍ သူကိုတည်
၃ ဆောက်ခြင်းငှါသူ၏အလိုသို့လိုက်ကြစို့။အကြောင်းမူကား။ခရစ်တော်
ပင်ကိုယ်အလိုသို့သာမလိုက်။ကျမ်းစာလာသည်အတိုင်းကဲ့ရဲ့ခြင်းကို
ခံတော်မူ၏။ကိုယ်တော်ကိုကဲ့ရဲ့သောသူတို့၏ စကားသည်အကျွန်ုပ်
၄ ခေါင်းပေါ်မှာရောက်ပါ၏ဟုကျမ်းစာလာသတည်း။ ငါတို့သည်ကျမ်း
စာ၌ပါသောသည်းခံခြင်း။ သက်သာခြင်းအကြောင်းများကိုအမှီပြု၍
မျှော်လင့်ရာအခွင့်ရှိစေခြင်း ငှါကျမ်း စာ၌ အထက် ကရေး ထား သ
၅ မျှတို့သည် ငါတို့ ကို ဆုံးမသြဝါဒပေး ၍ ရေးထားသတည်း။ သင်တို့
သည်ငါတို့သခင်ယေရှုခရစ်၏ခမည်းတော်တည်းဟူသောဘုရားသ
ခင်ကိုတညီတညွတ်တည်းနှုတ်မြွက် ၍ချီးမွမ်းရအောင်ယေရှုခရစ်အ
လိုတော်အတိုင်းအချင်း ချင်းစိတ်တညီတညွတ် တည်း ဖြစ်ကြမည်အ
ကြောင်း။သည်းခံခြင်း။သက် သာခြင်း ၏အရှင်။ ဘုရားသခင်ကယ်မ
၇ သနား တော်မူပါစေသော။ ခရစ်တော်သည် ဘုရားသခင်၏ ဘုန်း
တော်ကိုထင် ရှား စေလျက် ငါတို့ကိုသိမ်း ဆည်း လက် ခံတော်မူ သကဲ့
သို့ သင် တို့ သည် တယောက် ကို တယောက် သိမ်းဆည်း လက်ခံ ကြ
လော့။

❋❋

၈ ငါဆိုသည် ကား။ ယေရှုခရစ် သည် ဘုရား သခင်၏ သစ္စာတော် ကို

ထောက် ၍ အဖတို့သည် ခံရသောဂတိတော်များ ကိုတည် စေခြင်းငှါ
၎င် တပါးအမျိုး သား တို့သည် ဘုရား သခင် ၏ ကရုဏာတော်ကိုအံ့
ဩြသာချီး မွမ်းစေခြင်းငှါ၎င်ဇာတ်သွင်းမင်္ဂလာခံခြင်းနှင့်စပ်ဆိုင်သော
အမှု ကို ဆောင် ရွက် တော်မူ၏။ ထိုသို့ နှင့် အညီကျမ်း စာလာ သည်
ကား။ ထိုကြောင့်တပါးအမျိုး သားတို့တွင်ကျေးဇူးတော်ကိုချီးမွမ်းပါ
၁၀ မည်။ နာမတော်ကိုထောမနာသီချင်းဆို ပါမည် ဟုလာသတည်း။ တ
ဖန်လာသည်ကား။တပါးအမျိုးတို့။သင်တို့သည်ဘုရားသခင်၏လူမျိုး
၁၁ နှင့်အတူဝမ်း မြောက်ခြင်း ရှိကြလော့ဟုလာ၏။ တဖန်ကား။ လူအမျိုး
အပေါင်းတို့။ထာဝရဘုရားကိုချီး မွမ်းကြလော့ ။လူအနွယ်အပေါင်းတို့။
၁၂ ကိုယ်တော်ကိုအလွန် ချီး မွမ်း ကြလော့ ဟု လာ၏။ တဖန်ဟေရှာယဆို
သည်ကား။ယေရှဲ၏အမြစ်ပေါက်၍တပါးအမျိုးသားကိုအုပ်စိုးခြင်းငှါ
ပေါ်ထွန်း သောသူဖြစ် လိမ့်မည်။ထိုသူကိုတပါးအမျိုး သား တို့သည်
၁၃ ကိုးစားကြလိမ့်မည် ဟုဆိုသတည်း။ သင်တို့သည်သန့်ရှင်းသောဝိ
ညာဉ် တော်၏ တန် ခိုး အားဖြင့် မျှော်လင့် ခြင်း ပါရမီနှင့် ကြွယ် ဝရ
အောင်ရုံကြည်သောစိတ်ရှိ၍ဝမ်းမြောက် သက်သာခြင်း အမျိုး မျိုးတို့
နှင့်ပြည့်စုံမည်အကြောင်း။မျှော်လင့်ခြင်း၏ အရှင်။ဘုရားသခင်ကယ်
၁၄ မသနားတော်မူပါစေသော။ ။ညီအစ်ကိုတို့။သင်တို့သည်
ကောင်းသော ပကတိသဘောနှင့်ပြည့်စုံ၍အရာရာ တို့ကိုသိနားလည်
သဖြင့်အချင်းချင်းဆုံးမခြင်းငှါတတ်နိုင်သည် ကိုငါသဘောကျလျက်
၁၅ ရှိ၏။ သို့သော်လည်း သန့်ရှင်း သောဝိညာဉ်တော်သည် သန့်ရှင်း စေ
၁၆ တော်မူသောနှစ်သက် ဖွယ်ရာပူဇော် သကာတည်း ဟူသောတပါးအ
မျိုးသားတို့ ကို ပူဇော် ရအောင် ငါသည်ဘုရားသခင်ဧဝံဂေလိတရား
ကိုဟောသောအမှုကို ဆောင်၍တပါး အမျိုးသား တို့တွင်ယေရှုခရစ်
၏အမှုတော်ဖြစ်စေခြင်းငှါဘုရားသခင် သည် ငါ့၌ အပ်ပေး တော်မူ
သောကျေးဇူးတော်ကိုငါအမှီ ပြု၍ ညီအစ်ကိုတို့။သင် တို့ကိုသတိပေး
၁၇ သောသူဖြစ် လျက် ခပ်ရဲရဲရေး ထား၍ကြား လိုက် ပါ၏။ ထိုကြောင့်
ဘုရားသခင်နှင့်စပ်ဆိုင်သောအရာ တို့၌ငါသည်ယေရှုခရစ်အားဖြင့်
၁၈ ကြွားဝါဝမ်းမြောက်ခြင်းအကြောင်းရှိ၏။ တပါးအမျိုးသားတို့သည်
၁၉ စကား အား ဖြင့် ၎င်အကျင့် အား ဖြင့် ၎င်နားထောင်စေခြင်းငှါခရစ်
တော်သည်နိမိတ်လက္ခဏာ။အံ့ဖွယ် သောအမှုများ၌ ပါသောတန်ခိုး။
သန့်ရှင်းသောဝိညာဉ်တော်၏တန်ခိုးကိုပြု၍ငါအားဖြင့်ပြုတော်မူသ

မှုတို့ကို သာ ငါ ပြောဝံ့၏၊ ထို ကျေးဇူးတော်ကို အမှီပြု လျက် ငါသည်
ယေရုရှလင်မြို့မှစ၍ဣလုရိကံပြည်တိုင်အောင်ပတ်ဝန်းကျင်အရပ်တို့၌
၂၀ ခရစ်တော်၏ဧဝံဂေလိတရားကိုအကုန်အစင်ဟောခဲ့ပြီ။ သို့ရှိ၍အခြား
သူတည်သောတိုက်မြစ်အပေါ်မှာငါ မတည်၍ဆောက်ရအောင်ခ
ရစ်တော်၏နာမကိုကြားဘူးသောအရပ်၌ဧဝံဂေလိတရားကိုဟော
၂၁ ခြင်းငှါငါသည်စေတနာစိတ်နှင့်ငါကြိုးစားအားထုတ်လေ၏၊ ထိုသို့နှင့်အ
ညီကျမ်းစာလာသည်ကား၊ ထိုသူ၏အကြောင်းကိုအဘယ်သူမျှမပြောဘူး
သော်လည်း သူ တို့ သည် မြင် ကြ လိမ့် မည်။ ကြား ဘူး သော သူတို့
၂၂ သည်နားလည်ကြလိမ့်မည်ဟုလာသတည်း၊ ။ထိုကြောင့်
သင်တို့ဆီသို့ငါမလာရအောင်အဖန်များစွာမြစ်တားသောအကြော
၂၃ င်းကိုငါတွေ့၏၊ ယခုမူကား ဤအရပ်တို့၌အခွင့်မရသည်ဖြစ်၍သင်
တို့ဆီသို့သွားခြင်းငှါတာရှည်စွာကာလပတ်လုံးအလိုရှိသောကြောင့်
၂၄ သပါနိပြည်သို့ငါသွား သောအခါသင် တို့ဆီသို့ ငါ မည်။ သို့ ဖြစ် ၍
ထမ်းခရီး၌သင်တို့ကိုငါတွေ့မြင်လျှင်သင်တို့နှင့်အကျပေါင်းဖေါ်လျက်
အတန်အရာစိတ်ပြေရာငွ့ခဲ့ပြီးမှ ထိုပြည် သို့သင် တို့ပို့ဆောင်ခြင်း
၂၅ ကျေးဇူးကိုခံမည်ဟုငါမျှော်လင့်၏၊ ယခုအခါသန့်ရှင်းသူတို့ကိုလုပ်
၂၆ ကျွေး၍ယေရုရှလင်မြို့သို့ငါသွားရမည်။ အဘယ်ကြောင့်နည်းဟူမူ
ကား။မာကေဒေါနိပြည်။အခါယပြည်၌နေသောတပည့်တော်တို့သည်
ယေရုရှလင် မြို့ ၌ ဆင်းရဲသောတပည့် တော်ချင်းတို့အားဥစ္စာကို မျှ၍
၂၇ စေတနာစိတ်နှင့်လှူကြပြီ။ စေတနာစိတ်ရှိသည်ဟုဆိုသော်ထိုသူတို့
သည်ကျေးဇူးတင်သောသူဖြစ်ကြ၏။အဘယ်ကြောင့်နည်းဟူမူကား။
တပါးအမျိုးသားတို့သည်မွေဥစ္စာကိုယုဒတပည့်တို့နှင့်ဆက်ဆံ၍ရသည်
၂၈ မှန်လျှင်လောကီဥစ္စာကိုလှူ၍လုပ်ကျွေးအပ်၏။ ထို ကြောင့်ဤအမှုကို
ငါဆောင်ရွက်၍ဤအလှူလက်ဆောင်ကိုယုဒမျိုးတပည့်တော်တို့၌လုံ
၂၉ ဖြံစွာအပ်ပြီးမှသင်တို့အနားမှာရှောက်၍သပါနိပြည်သို့ငါသွားမည်၊
သင်တို့ဆီသို့ငါလာသောအခါခရစ်တော်၏ဧဝံဂေလိတရား၌ပါသော
ကောင်းကြီးမင်္ဂလာပြည့်စုံခြင်းနှင့်ရောက်လာမည်ကိုငါသိ၏။
၃၀ ။ငါသည်ဘုရားသခင်အလိုတော်အတိုင်းဝမ်းမြောက်သောစိတ်
၃၁ နှင့်သင်တို့ဆီသို့လာ၍သင်တို့နှင့်အတူသက်သာခြင်းခံစားရအောင်
ယုဒပြည်၌ညင်းဆန်သောသူတို့လက်မှငါလွှတ်မည်အကြောင်း။ယေ
ရုရှလင်မြို့အားငါလုပ်ကျွေးခြင်းအမှုကိုသန့်ရှင်းသူတို့သည်နှစ်သက်

မည်အကြောင်း။ညီအစ်ကိုတို့။သင်တို့သည်ငါနှင့်အတူကျိုးစားအား
ထုတ်၍ငါ့အဖို့အလို့ငှါဘုရားသခင်ကိုဆုတောင်းပဌနာပြုကြပါဟုငါ
တို့သခင်ယေရှုခရစ်နှင့်ဝိညာဉ်တော်၏မေတ္တာကရုဏာကိုအကြောင်း
၃၂ ပြု၍သင်တို့ကိုငါတိုက်တွန်းနှိုးဆော်ပါ၏။ ငြိမ်သက်ခြင်းအရှင်။ဘု
ရားသခင်သည်သင်တို့အားလုံးဆီမှာရှိနေတော်မူပါစေသော။အာမင်။

**

၁ ကင်ခြေမြို့အသင်းတော်၌သင်းထောက်မိန်းမ။ငါတို့နှစ်မဖိဗေကိုသင်တို့
၂ ထံသို့ငါသွင်းပေး၏။ သန့်ရှင်းသူတို့သည်ပြုသင့်သည်အတိုင်းသ
ခင်ဘုရားကိုထောက်၍သူကိုလက်ခံသိမ်းဆည်းကြပါ။ သူသည်အ
ကူအမလိုသမျှသောအမှုတို့၌သူကိုကူမကြပါ။ အကြောင်းမူကား။
သူသည်များသောသူတို့ကိုငါကိုပင်ငဲမစသောသူဖြစ်၏။
၃ ။ငါနှင့်အတူယေရှုခရစ်အမှုတော်ကိုဆောင်ရွက်သောသူ။
၄ ပြစ်ကိလနှင့်အာကုလကိုနှုတ်ဆက်ကြပါ။ ထိုသူတို့သည်ငါ့အသက်
ကိုကယ်လွှတ်ရအောင်မိမိလည်ပင်းကိုချထားသောသူဖြစ်၏။သူတို့
ကျေးဇူးကိုငါတယောက်တည်းသာဝန်ခံသည်မဟုတ်။ တပါးအမျိုး
၅ သားအသင်းတော်အပေါင်းတို့သည်ဝန်ခံကြ၏။ သူတို့အိမ်၌ရှိသောအ
သင်းတော်ကိုလည်းနှုတ်ဆက်ကြပါ။အာရှပြည်တွင်ခရစ်တော်ဘက်
၆ ၌အဦးဝင်သောသူ။ငါချစ်သားဧပဲနက်ကိုနှုတ်ဆက်ကြပါ။ ငါ့အ
၇ မှုကိုကျိုးစား၍ဆောင်ရွက်သောမာရိကိုနှုတ်ဆက်ကြပါ။ ငါနှင့်အ
တူအကျဉ်းခံသောသူ။ငါ့အမျိုးသားချင်းအန္ဒြောနိတ်နှင့်ယုနိကိုနှုတ်
ဆက်ကြပါ။သူတို့သည်တမန်တော်များတွင်အသရေထင်ရှားသော
၈ သူဖြစ်၏။ငါ့အရင်ခရစ်တော်ထံခဉ်းခံသောသူလည်းဖြစ်၏။ သခင်
၉ ဘုရား၌ငါချစ်သားအမ္ပလိကိုနှုတ်ဆက်ကြပါ။ ငါတို့နှင့်အတူခရစ်
တော်အမှုကိုဆောင်ရွက်သောဥရဗန်ကိုငှင်ငါချစ်သားသတာခုကို
၁၀ ငှင်နှုတ်ဆက်ကြပါ။ တပည့်တော်စစ်ဖြစ်သောအပေလေကိုငှင်အာ
၁၁ ရိတ္တောဗုလုအိမ်သူအိမ်သားတို့ကိုငှင်နှုတ်ဆက်ကြပါ။ ငါ၏အမျိုး
သားချင်းဟေရောဒျန်ကိုငှင်သခင်ဘုရားထံခဉ်းခံသောနာကိသုအိမ်
၁၂ သူအိမ်သားတို့ကိုငှင်နှုတ်ဆက်ကြပါ။ သခင်ဘုရားအမှုတော်ကို
ကျိုးစားသောမိန်းမ။တရုဖဲနနှင့်တရုဖောသကိုငှင်သခင်ဘုရားအမှု
တော်ကိုအလွန်ကျိုးစား၍ချစ်အပ်သောမိန်းမ။ပေရသိကိုငှင်နှုတ်ဆက်
၁၃ ကြပါ။ ရွေးကောက်သောတပည့်တော်ရုဖုကိုငှင်သူ၏အမိတည်းဟူသော

၁၄ ငါ၏အမိကိုငင်နှုတ်ဆက်ကြပါ။ အသုံကြိတ်။ဖလေဂုန်။ဟေရမ။ပတ်
ရောဗ။ ဟေရမေမှစ၍ သူတို့ နှင့် အတူနေသော ညီအစ်ကိုတို့ကို နှုတ်
၁၅ ဆက်ကြပါ။ ဖိလောလုပ်။ယုလိ။နေရု။ နေရုနှမ် ဩလုမ္ပမှစ၍သူ
၁၆ တို့နှင့်အတူနေသောသန့်ရှင်းသူအားလုံးတို့ကို နှုတ်ဆက်ကြပါ။ သန့်
ရှင်း သောနမ်ခြင်း ဖြင့် အချင်း ချင်း တယောက် ကို တယောက် နှုတ်
ဆက်ကြပါ။ခရစ်တော်၏ အသင်း များ တို့သည် သင်တို့ကို နှုတ်ဆက်
၁၇ ကြ၏။ ။ညီအစ်ကိုတို့။သင်တို့ခံခဲ့ပြီးသောဆုမ္ပဩဝါဒကို
ဆန့်ကျင်ဘက်နေ ၍ သင်း ခွဲခြင်း။ ထိမိ ၍ လဲခြင်း အကြောင်း ကို ပြု
၁၈ သောသူတို့ကိုမှတ်၍ရှောင်ကြပါဟုငါသတိပေး၏။ အဘယ်ကြောင့်
နည်းဟူမူကား။ထိုသို့သောသူတို့သည် ငါတို့သခင်ခရစ်တော်၏အမှု
ကိုမဆောင်ရွက်ဘဲလျက်မိမိတို့ ဝမ်းစာအမှုကိုဆောင်ရွက်၍လောက
ဝတ်စကား။ ချော့မော့သောစကား အား ဖြင့် သတိမရှိသောသူတို့ကို
၁၉ လှည့် စားကြ၏။ သင် တို့ရိုကြည့်နား ထောင် ခြင်း အကြောင်း အရာ
သည်လူအပေါင်းတို့တွင်ကျော်စောသည်ဖြစ်၍ငါဝမ်း မြောက်ခြင်းရှိ
၏။သို့သော်လည်းသင်တို့သည်ကောင်းရာ၌ကားပညာရှိ စေခြင်းငှါ
၂၀ ငှင် ဆိုးရာ ၌ ကားအပြစ် ကင်း စေ ခြင်းငှါ ငှင် ငါအလို ရှိ ၏။ ညိမ်
သက် ခြင်း အရှင်။ဘုရားသခင် သည် စာတန်ကိုသင်တို့ခြေအောက်၌
များမကြာ နှိပ် စက်တော်မူမည်။ ငါတို့သခင် ယေရှုခရစ် ၏ ကျေးဇူး
၂၁ တော်သင်တို့၌ဖြစ်ပါစေသော။ ။ငါနှင့် အတူအမှုတော်ကို
ဆောင် သော တိမောသေမှစ၍ငါ၏အမျိုးသားချင်းလုကိ။ယာသုန်။
၂၂ သောသိပတရုတို့သည်သင် တို့ကိုနှုတ်ဆက်ကြ၏။ဤစာကိုရေးသော
ငါတေရတိသည်သခင်ဘုရားကိုထောက်၍သင်တို့ကိုနှုတ်ဆက် ပါ၏။
၂၃ ငါကိုငှ င်သင်း ဝင်သူအပေါင်း တို့ ကိုငှင် လက် ခံ၍ ကျွေးသည်ဝတ်ပြု
သောဂါယုနှင့်မြို့စာရေးဧရတ္တုနှင့်သင်တို့ညီအစ်ကိုကွာတုတို့သည်
၂၄ သင်တို့ကိုနှုတ်ဆက်ကြ၏။ ငါတို့သခင်ယေရှုခရစ်၏ကျေးဇူးတော်
သင်တို့အားလုံး၌ဖြစ်စေသတည်း။ အာမင်။

။ရောမသြဝါဒစာပြီး၏။

# ။ကောရိန္သုပြဲဩဝါဒစာပဌမစောင်။

၁ ဘုရားသခင်၏အလိုတော်အားဖြင့် ယေရှုခရစ်၏တမန်တော်အရာ
၂ ၌ခန့်ထားသောငါပေါလုနှင့်ငါညီသုသင်က ယေရှုခရစ်အားဖြင့်
အပြစ်နှင့်ကင်းစင်၍သန့်ရှင်းသူအရာ၌ ခန့်ထားသောသူကည်းဟူ
သော ကောရိန္သုမြို့၌ ရှိသော ဘုရားသခင်း အသင်းတော်မှစ၍
ခပ်သိမ်းသော အရပ်၌ငါတို့သခင် ယေရှုခရစ်ကိုပဌနာပြုသောသူ
၃ အပေါင်းတို့ကို ကြားလိုက်ပါ၏။ ထိုသခင်သည် ငါတို့သခင်သာမ
ဟုတ်၊သူတို့သခင်လည်းဖြစ်တော်မူ၏။သခင်ယေရှုခရစ်နှင့် ငါတို့အ
ဖတည်းဟူသောဘုရား သခင်အထံတော် ကကျေးဇူး တော်နှင့်ညိမ်
၄။၅ သက်ခြင်းသင်တို့အားဖြစ်ပါစေသော။ ။အထက်ကခရစ်
၆ တော်သက်သေကိုသင်တို့တွင်တည်စေသည်ရှိသော်သင် တို့သည်ထို
ခရစ်တော်အားဖြင့်အရာရာ၌နှုတ်သဘ္ဘိ။ညာဏ်သတ္တိအပေါင်းနှင့်
ကြွယ်ဝပြည့်စုံကြသည်ဖြစ်၍ယေရှုခရစ်အားဖြင့်သင်တို့အားပေး
တော်မူသောဆုကျေးဇူးတော်ကိုငါထောက်၍သင်တို့အကြောင်းကြော
၇ င့်ငါ၏ဘုရားသခင်ကျေးဇူး တော် ကို အစဉ် ငါချီးမွမ်ပါ၏။ ထို
ကြောင့်သင်တို့သည်ငါတို့သခင်ယေရှုခရစ်၏ပေါ်ထွန်းတော်မူမည်
အရာကိုမျှော်လင့်၍ဆုစည်ဆုတော်မျိုးဘစုံကပါးမျှမလျှော့ဘဲပြည့်စုံ
၈ လျှက်ရှိကြ၏။ သင်တို့သည်ငါတို့သခင်ယေရှုခရစ်၏နေ့ရက်၌အပြစ်
တင်စရာအခွင့်နှင့်ကင်းလွတ်ခည်အကြောင်း။ သင်တို့ကိုအဆုံးတိုင်
၉ အောင်ခိုင်ခံ့မြဲမြံစေတော်မူလိမ့်မည်။ ငါတို့သခင်တည်းဟူသော
သားတော်မြတ်ယေရှုခရစ်နှင့်ဆက်ဆံခြင်းကျေးဇူးတော်ကိုသင်တို့
အားပေးတော်မူသောဘုရားသခင်သည်သစ္စာနှင့်ပြည့်စုံတော်မူ၏။
၁၀ ။ညီအစ်ကိုတို့။သင်တို့အားလုံးသည်စကားတညီတညွတ်
တည်းဖြစ်၍ အချင်းချင်းမကွဲပြားဘဲ စိတ်သဘော တညီ တညွတ်
တည်းရှိသည်နှင့်စေ့စပ်ကြမည်အကြောင်း။ငါတို့သခင်ယေရှုခရစ်၏
၁၁ နာမတော်ကိုအမှီပြု၍သင်တို့ကိုငါနှိုးဆော်တောင်းပန်၏။ အဘယ်
ကြောင့်နည်းဟူမူကား။ ငါညီအစ်ကိုတို့။သင်တို့သည်အချင်းချင်းကွဲ
ပြားရန်တွေ့ခြင်းရှိသည်ကို ခလောဧ လူအချို့တို့သည် ကြားပြောကြ
၁၂ ၏။ သင်တို့ကငါသည်ပေါလုတပည့်ဖြစ်၏။ငါသည်အာပေါလုတပည့်

ကိုချစ်ခြင်းအရာမှာ စကာတီပေါက် ဖော်ကဲ့သို့တယောက် ကိုတယော
က်ရုံမက်ကြလော့။ချီး မွမ်းခြင်းအရာမှာသူသည် ကိုယ်ထက် သာ၍မြ
၁၁ တ်သည် ဟုထင်မှတ်ကြလော့။ အားထုတ် ခြင်းအရာမှာမပျင်းရိဘဲ
လျက် စိတ်တန်းသဖြင့် အဆင်သင့်သောကာလကိုလိုက်၍ အားထုတ်
၁၂ ကြလော့။ မျှော်လင့်လျက်နှင့်ဝမ်းမြောက်ကြလော့။ဆင်းရဲဒုက္ခရောက်
သောအခါသည်း ခံကြလော့။ ဆုတောင်း ပဌနာပြုခြင်း အမှုကို အမြဲပြု
၁၃ ကြလော့။ ဆင်းရဲသောတပည့် ချင်းတို့ အားဝေ၄ပေးကမ်ကြလော့။
၁၄ အာဂန္တုတို့အား ဧည့် သည် ဝတ်ကို ကျိုးစားပြုကြလော့။ သင်တို့ကို
ညှဉ်းဆဲသော သူ တို့အဖို့မင်္ဂလာပို့ကြလော့။ ကျိန်ဆဲခြင်းကိုမပြု။မင်္ဂ
၁၅ လာပို့ခြင်းကိုသာပြုကြလော့။ ဝမ်းမြောက်သောသူတို့ နှင့်အတူဝမ်း
မြောက်ခြင်းကိုငိုကြွေးသော သူတို့နှင့်အတူငိုကြွေးခြင်းကို ငိုပြုကြ
၁၆ လော့။ အချင်းချင်းစိတ်သဘောတညီတညွတ်တည်းရှိကြလော့။ဂုဏ်
စည်းစိမ်ကိုငဲ့ကွက်ခြင်းမရှိ။နှိမ့်ချသော သူတို့နှင့်အပေါင်းအဖော်လုပ်
၁၇ ကြလော့။ကြွားဝါသောစိတ်မရှိကြနှင့်။ အဘယ် သူကိုမျှရန် တုံ့မမူ
ကြနှင့်။ လူအပေါင်းတို့ရှေ့တင့်တယ် လျောက် ပတ် သောအကျင့် ကိုကြံ
၁၈ စည်ကြလော့။ သင် တို့သည်တတ်နိုင် သမျှအတိုင်းလူအပေါင်းတို့နှင့်
၁၉ ရန်မတွေ့ဘဲအသင့်အတင့် နေကြလော့။ ချစ်သူတို့။သူတပါးသည်သင်
တို့ကိုပြစ်မှားသျှင်ကိုယ် တိုင်အပြစ်ပြန် မတုံ့ကြနှင့်။ သူ အမျက်ဒေါသ
ကိုမဆီးတားဘဲသည်း ခံကြလော့။ ကျမ်းစာလာသည် ကား။ငါသည်အ
ပြစ်တရားစီရင်ပိုင်၏။ အပြစ်နှင့်အလျောက်ငါဆပ်ပေးမည် ဟုထာ
၂၀ ဝရဘုရား မိန့် တော် မူ၏။ ထိုကြောင့်သင် ၏ ရန်သူ မွတ် သိပ်သျှင်
လုပ်ကျွေးလော့။ရေငတ်သျှင်သောက်ဖို့ပေးလော့။ထိုသို့ပြုသောအား
၂၁ ဖြင့်သူ့ခေါင်းပေါ်၌မီးခဲကိုပုံထားလိမ့်မည်။ အဆိုးအားဖြင့်အရှုံးမခံ
နှင့်။အကောင်းအားဖြင့်အဆိုးကိုနိုင်လော့။



၁ အစိုးရ သော မင်း အာ ဏာ စက် ၏အုပ် စိုးခြင်း ကိုလူ တိုင်း ဝန် ခံစေ
တော့။အကြောင်းမူကား။ဘုရားသခင်အ ခွင့်မရှိဘဲမင်းအာဏာစက်
မရှိ။ရှိသမျှတို့သည်ဘုရားသခင်ခန့်ထားတော်မူရာဖြစ်သတည်း။
၂ ထိုကြောင့်မင်းအာဏာကိုဆန့်သောသူသည်ဘုရားသခင်စီရင်တော်
မူရာကိုဆန့်သောသူဖြစ်၏။ဆန့်သောသူသည်ရာဇဝတ်ခံရမည်။
၃ မင်း မူကား ကောင်း သောအကျင့် ကိုကျင့် သောသူ ကြောက် ရာဘို့မ

ဟုတ်။မကောင်းသောအကျင့်ကိုကျင့်သောသူကြောက်ရာအို့ဖြစ်၏။
မင်းအာဏာကိုမကြောက်ဘဲနေချင်သလော။ကောင်းသောအကျင့်ကို
ကျင့်။သို့ကျင့်လျှင်မင်းအာဏာကြောင့်ချီးမွှမ်းခြင်းကိုခံလိမ့်မည်။
၄ မင်းမည်သည်ကား။သင်၏အကျိုးအလို့ငှါဘုရားသခင်အစေခံဖြစ်
၏။ မကောင်း သော အကျင့် ကို ကျင့် လျှင် ကြောက် ခြင်း ရှိ စေ
လော့။ အကြောင်းမူကား။ မင်းသည် အချည်း နှီးဓား ဆောင်သည် မ
ဟုတ်။ မကောင်း သောအကျင့်ကိုကျင့် သော သူတို့ ကိုအပြစ် တရားစီ
ရင် ၍ရာဇဝတ် ပေးပိုင်သောသူတည်းဟူသောဘုရားသခင်အစေခံ
၅ ဖြစ်သတည်း။ထိုကြောင့်ရာဇဝတ်ကိုကြောက်သောကြောင့်သာမင်း
အာဏာ စက်၏အုပ်စိုးခြင်းကိုဝန်ခံရသည် မဟုတ်။ ကိုယ် ကို ကိုယ်
၆ သိသောစိတ်ကိုထောက်၍ဝန်ခံရ၏။ ထိုအကြောင်းကြောင့်လည်း
အခွန် အကောက် ကို ပေး ကြ လော့။ မင်း တို့ သည် ဘုရား သခင်အမှု
၇ စောင့်ဖြစ်၍အမှုတော်ကိုအမြဲထမ်းကြ၏။ ထိုကြောင့်လူအသီးအသီး
ခံထိုက်သည် အတိုင်း ပေး ကြလော့။အခွန်ကို ခံထိုက်သောသူအားအ
ခွန်ကိုပေးကြ။အကောက်ကို ခံထိုက်သောသူအားအကောက်ကိုပေး
ကြ။အရိုအသေခံထိုက်သောသူကိုရိုသေကြ။ဂုဏ်ခံထိုက်သောသူအား
၈ ဂုဏ်ကိုပေးကြ။ ။အချင်းချင်းချစ်ခြင်းမှတပါးအဘယ်
ကြွေးမြီမတင်စေနှင့်။သူတပါးကိုချစ်သောသူသည်အကျင့်တရားနှင့်
၉ ပြည့်စုံပြီး။ အဘယ်ကြောင့်နည်းဟူမူကား။သူမယားကိုမပြစ်မှား
နှင့်။လူအသက်ကိုမသတ်နှင့်။သူဥစ္စာကိုမခိုးနှင့်။မမှန်သောသက်သေ
ကိုမခံနှင့်။သူဥစ္စာကိုတပ်မက်ခြင်းစိတ်မရှိနှင့်ဟူသောပညတ်မှစ၍
အချားသောပညတ်များတို့သည်ကားကိုယ်နှင့်စပ်ဆိုင်သောသူကို
ကိုယ်နှင့်အမျှချစ်လော့ဟူသောပညတ်ဘခန်းအဝင်အပါဖြစ်ကြ၏။
၁၀ ချစ်ခြင်းမေတ္တာရှိသောသူသည်ကိုယ်နှင့်စပ်ဆိုင်သောသူ၏အကျိုးကို
မဖျက်ဆီးတတ်။ထိုကြောင့်ချစ်ခြင်းမေတ္တာသည်အကျင့်တရားပြည့်စုံ
၁၁ ရာဖြစ်သတည်း။ထိုမှတပါး။ငါတို့ကိုယ်တင်သောကျေးဇူးတော်သည်
ငါတို့ယုံကြည်သောနေ့မှာနီးသည်ထက်ယခုမှာသာ၍နီးသောကြောင့်ငို
၁၂ ညည့်အချိန်ကုန်လု၍နေ့အချိန်ရောက်လုသောကြောင့်ငါယခုမှာအိပ်
ပြော်ရာမှနိုးရသောအချိန်ရောက်ခဲ့ပြီးဟုသိ၍ကာလအချိန်ကိုထော
က်လျက်မှောင်မိုက်၏အကျင့်ကိုပယ်ရှားကြစို့။အလင်း၏လက်နက်စုံ
၁၃ ကိုဝတ်ဆင်ဆောင် ရွက်ကြစို့။ နေ့အချိန်၌ပြုရသကဲ့သို့တင့်တယ်

လျှောက်ပတ်စွာကျင့်ဆောင်ပြုမူကြစို့။ ပွဲလုပ်ခြင်း။ ရစ်မူးသောက်
ကျူးခြင်း။ မှတရားသောမေထုန်ဋ္ဌမှီဝဲခြင်း။ ကိလေသာညစ်ညူးခြင်း။
၁၄ ရန်တွေ့ခြင်း။ ဂုဏ်ပြိုင်ခြင်းအမှုတို့ကိုကြည်ရှောင်ကြစို့။ သခင်ယေရှု
ခရစ်ကိုယူတင်ဝတ်ဆောင်သဖြင့်ကာမဂုဏ်ခံစားခြင်းအလို၌မကြို
၁ စည်ဘဲနေကြလော့။ ။ရုံကြည်အားနည်းသောသူတို့ကိုသင်
တို့သိမ်းဆည်းလက်ခံ၍ ရုံမှား ဖွယ် သော ပြဿနာ တို့ ကို ရှောင် ကြ
၂ လော့။ အစားအမျိုးမျိုးကိုစားအပ်သည် ဟုလူအချို့ရုံ၏။ အားနည်း
၃ သော သူ မူ ကားဟင်းသီး ဟင်းရွက် ကို သာ စား တတ် ၏။ အ
မျိုး မျိုး စား တတ် သော သူ သည် မစား တတ် သော သူ ကို မထီ
မဲ့ မြင် မ ပြု စေ နှင့်။ မစား တတ် သော သူ သည် လည်း စား တတ်
သော သူ ကို အပြစ် မ တင် စေ နှင့်။ အကြောင်း မူ ကား။ ဘုရား
၄ သခင်သည်သူကိုသိမ်းဆည်းလက်ခံတော်မူပြီ။ သူတပါးပိုင်သော
လူကိုအပြစ်တင်သောသင်သည်အဘယ်သူနည်း။ သူသည် မိမိသခင်
စီရင်သောအားဖြင့်သာအပြစ်လွတ်ခြင်း။ အပြစ်ခံခြင်းသို့ရောက်ရ
၏။ သူသည်အပြစ်လွတ် ခြင်း သို့ရောက် လိမ့် မည်။ အဘယ်ကြောင့်
နည်းဟူမူကား။ ဘုရားသခင်သည်သူ့အပြစ်ကိုလွှတ်ခြင်း၌တတ်နိုင်
၅ တော်မူ၏။ နေ့ရက်တရက်ထက်တရက်သာ၍မြတ်သည်ဟုလူအချို့
ထင်တတ်၏။ လူအချို့မထင်။ လူတိုင်း မိမိစိတ်သဘောကျပါလေစေ။
၆ နေ့ရက်ကိုစောင့်သောသူသည် သခင်ဘုရားကိုထောက်၍စောင့်၏။
နေ့ရက်ကိုမစောင့်သောသူသည် လည်း သခင်ဘုရားကိုထောက်၍မ
စောင့်ဘဲနေ၏။ စားသောသူသည်သခင်ဘုရားကိုထောက်သောစိတ်
နှင့်စား၍ကျေးဇူးတော်ရှိသည်ဟုဝန်ခံ၏။ မစားသောသူသည်လည်း
သခင်ဘုရားကိုထောက်သောစိတ်နှင့်မစား ဘဲနေ၍ကျေး ဇူး တော်ရှိ
၇ သည် ဟုဝန် ခံ၏။ ငါတို့တွင်အဘယ်သူမျှကိုယ် အလိုအလျောက်အ
၈ သက်မရှင်။ ကိုယ်အလိုအလျောက်လည်း မသေ။ အသက်ရှင်လျှင်သ
ခင်ဘုရား အလိုတော်အတိုင်းရှင်၏။ သေလျှင် လည်း သခင်ဘုရားအ
လိုတော်အတိုင်းသေ၏။ ထိုကြောင့်အသက်ရှင်သည်ဖြစ်စေ။ သေသည်
၉ ဖြစ်စေ။ သခင်ဘုရား ဆိုင် တော်မူ၏။ အဘယ် ကြောင့်နည်း ဟူမူ
ကား။ ခရစ်တော်သည် သေသောသူတို့ကိုရင်ရှင် သောသူတို့ကိုရင်အ
စိုးရသောအရှင် ဖြစ်ရအောင်အသေခံ၍ ခံပြီးမှအသက်ရှင်ပြန်တော်
မူ၏။

❋❋

၁၀ သင်သည်အဘယ် ကြောင့်ညီအစ်ကိုချင်း ကိုအပြစ် တင်သနည်း။ အ
ဘယ်ကြောင့်ညီအစ် ကိုချင်း ကိုမထိမဲ့မြင်ပြုသနည်း။ ငါတို့ အားလုံး
၁၁ သည်ခရစ်တော်၏တရားပလ္လင်တော်ရှေ့သို့ရောက်ရမည်။ ကျမ်းစာ
လာသည်ကား။ ငါအသက်ရှင်တော်မူသည် ဖြစ်၍ ငါ့ရှေ့၌ လူတိုင်းဒူး
ထောက်ရမည်။ လူတိုင်းဘုရားသခင်ကို နှုတ်ဖြင့်သစ္စာခံရမည်ဟုထာ
၁၂ ဝရဘုရားမိန့်တော်မူ၏။ သို့ဖြစ်လျှင်ငါတို့အားလုံးသည် ဘုရား
၁၃ သခင်စစ်ကြောတော်မူခြင်းကိုခံရမည်။ ။ထိုကြောင့်ငါတို့
သည်ယခုမှစ၍အချင်းချင်းအပြစ် မတင် ဘဲနေကြရို။ ညီအစ်ကိုထိမိ
၍လဲစရာအခွင့်။ စိတ်ပျက်စရာအခွင့်မရှိစေမည်အကြောင်း။သာ၍
၁၄ စီရင်ကြရို။ အဘယ်အစားမျှပကတိအတိုင်းမညစ်ညူးကြောင်းကိုငါ
သည်သခင်ယေရှုကို အမှီပြု၍ သိကျွမ်း၍ အမှန် သိ၏။သို့သော်
လည်းညစ်ညူး သည် ဟု အ ကြံသူ ထင်၏။ ထိုသူ ၌ ညစ်ညူး၏။
၁၅ သင်၏ညီအစ် ကိုသည် သင် စား သောအစား ကြောင့် စိတ် နာရလျှင်
သင်သည် မေတ္တာတရား ကိုမကျင့်။ ခရစ်တော်သည် အသေခံတော်မူ
သောကျေးဇူးတော်ကိုခံရသော သူကို သင်၏ အစား အားဖြင့်အကျိုး
၁၆ မနဲ့စေနှင့်။ သင်တို့သည်အခွင့်ရသည်အမှုမှာကဲ့ရဲ့စရာအကြောင်း
၁၇ မရှိစေနှင့်။ ဘုရားသခင်နိုင်ငံတော်သည်အစားအသောက်၌မတည်။
ဖြောင့်မတ်ခြင်း။ ညီမ် သက်ခြင်း။ သန့်ရှင်း သောဝိညာဉ်တော်အား
၁၈ ဖြင့်ခံရသောဝမ်းမြောက်ခြင်း၌တည်၏။ ထိုသို့ကျင့်၍ခရစ်တော်အ
မှုကိုဆောင်ရွက်သောသူသည်ဘုရားသခင်ရှေ့နှစ်သက် ဖွယ်။ လူတို့
၁၉ တွင်ချီးမွမ်း ဖွယ်ဖြစ်၏။ ထိုကြောင့် ညီမ် သက် ခြင်းနှင့် ဝင်အချင်း
ချင်း တည် ဆောက် ခြင်းနှင့်ဝင်ရှည် သောအကျင့် ကိုကျိုးစား၍ ကျင့်
၂၀ ကြရို။ ဘုရား သခင် ၏ အမှုတော်ကို သင် အစား အလို ငှါမဖျက် ဆီး
နှင့်။ အစားအမျိုး မျိုး တို့သည် စင်ကြယ် ၏။ သို့သော်လည်း သူတ ပါး
၂၁ စိတ်ပျက် စရာအကြောင်း နှင့် စား သောသူသည် အပြစ် ရှိ၏။ အမဲ
သားစားခြင်း။ စပျစ်ရည် သောက်ခြင်း ကိုမှစ၍ ညီအစ် ကို ထိမိ၍
လဲ စရာအ ကြောင်း။ စိတ် ပျက် စရာ အကြောင်း။ အား နည်း စရာအ
၂၂ ကြောင်း များကိုရှောင်အပ်၏။ သင် သည်ရုံခြင်း ရှိလျှင် ကိုယ်အလို
အလျောက်ဘုရားသခင် ရှေ့၌ ရှိစေလော့။ ကိုယ် လက် ခံသောအမှုမှာ
၂၃ ကိုယ်၌အပြစ်မတင်သောသူသည် မင်္ဂလာရှိ၏။ ရုံမှားသောသူသည်

စားလျှင်ရုံသောစိတ်မရှိဘဲလျက် စားသော့ကြောင့်အပြစ် မလွတ်။ရုံ
သောစိတ်မရှိဘဲလျက်ကျင့်သောအကျင့်မည်သည်ကားအပြစ်ရှိ၏။
၂၅ ။ရှေးကပ်ကာလပတ်လုံး ဖွက်ထားထသော။ယခုမှာထင်ရှား
၂၆ ရှိထသော။တပါးအမျိုးသားအပေါင်း တို့သည် ရုံကြည်နာခံထောင်ခြင်
အကြောင်း။ပရောဖက်ကျမ်းစာများလာသည်နှင့် အညီထာဝရဘုရား
သခင်ပညတ်တော်အတိုင်းထိုသူတို့အား ဖော်ပြထသောနက်နဲရာကို
ဖွင့်ထားခြင်းကျေးဇူး တော်နှင့် လျော်စွာငါဇေဝံဂေလိကရားတည်းဟူ
သောယေရှုခရစ်အကြောင်းကိုဟောပြောခြင်းအားဖြင့် သင်တို့ကိုမြဲ
၂၇ မြဲခိုင်ခံ့ စေ ခြင်း ငှါ တတ် နိုင်တော်မူသောအရှင် တည်းဟူသော ပ
ညာနှင့်ပြည့်စုံတော်မူသောဘုရားသခင်တဆူတည်း ယေရှုခရစ်အား
ဖြင့်ကမ္ဘာအဆက်ဆက်ဘုန်းကြီးတော်မူစေသတည်း။အာမင်။
၁ ။ငါတို့သည်အားရှိလျှင်ကိုယ်အလိုသို့သာမလိုက်။အားမရှိ
၂ သောသူတို့၏မတတ်နိုင်ခြင်းအပြစ်ကိုသည်းခံရ၏။ ထိုသို့ငါတို့အား
လုံးသည်ကိုယ်နှင့်စပ်ဆိုင်သောသူ၏ အကျိုးကိုထောက်၍ သူကိုတည်
၃ ဆောက်ခြင်းငှါသူ၏အလိုသို့လိုက်ကြစို့။အကြောင်းမူကား။ခရစ်တော်
ပင်ကိုယ်အလိုသို့သာမလိုက်။ကျမ်းစာလာသည့်အတိုင်းကဲ့ရဲ့ခြင်းကို
ခံတော်မူ၏။ကိုယ်တော်ကိုကဲ့ရဲ့သောသူကို၏ စကားသည်အကျွန်ုပ်
၄ ခေါင်းပေါ်မှာရောက်ပါ၏ဟုကျမ်းစာလာသတည်း။ ငါတို့သည်ကျမ်း
စာ၌ပါသောသည်းခံခြင်း။ သက်သာခြင်းအကြောင်းများကိုအမှီပြု၍
မျှော် လင့် ရာအ ခွင့် ရှိစေခြင်း ငှါကျမ်း စာ ၌ အထက် ကရေး ထား သ
၅။၆ မျှတို့သည် ငါတို့ ကို ဆု မ္မဩဝါဒပေး ၍ ရေးထားသတည်း။ သင်တို့
သည်ငါတို့သခင်ယေရှုခရစ်၏ခမည်းတော်တည်းဟူသောဘုရားသ
ခင်ကိုတညီတညွတ်တည်းနှုတ်မြွက် ၍ချီးမွမ်းရအောင်ယေရှုခရစ်အ
လိုတော်အတိုင်းအချင်း ချင်းစိတ်တညီတညွတ် တည်း ဖြစ်ကြမည်အ
ကြောင်း။သည်းခံခြင်း။သက် သာခြင်း ၏အရှင်။ ဘုရားသခင်ကယ်မ
၇ သနား တော်မူပါစေသော။ ခရစ်တော်သည် ဘုရားသခင်၏ ဘုန်း
တော့်ကိုထင်ရှားစေလျက်ငါတို့ကိုသိမ်း ဆည်း လက် ခံတော်မူသကဲ့
သို့ သင်တို့ သည် တယောက် ကို တယောက် သိမ်းဆည်း လက်ခံ ကြ
လော့။

❋❋

၈။၉ ငါဆိုသည် ကား။ ယေရှုခရစ် သည် ဘုရား သခင်၏ သစ္စာတော် ကို

ထောက် ၍ အဖတို့သည် ခံရသောဂတိတော်များ ကိုတည် စေခြင်း ငှါ
၎င် တပါးအမျိုး သား တို့သည် ဘုရား သခင် ၏ ကရုဏာတော်ကိုအံ့
သြ၍ချီးမွမ်းစေခြင်းငှါ၎င်ဇာတ်သွင်းမင်္ဂလာခံခြင်းနှင့်စပ်ဆိုင်သော
အမှု ကို ဆောင် ရွက် တော်မူ၏။ ထိုသို့ နှင့် အညီကျမ်း စာလာ သည်
ကား။ ထိုကြောင့်တပါးအမျိုးသားတို့တွင်ကျေးဇူးတော်ကိုချီးမွမ်းပါ
၁၀ မည်။ နာမတော်ကိုထောမနာသီချင်းဆို ပါမည် ဟုလာသတည်း။ တ
ဖန်လာသည်ကား။တပါးအမျိုးတို့။သင်တို့သည်ဘုရားသခင်၏လူမျိုး
၁၁ နှင့်အကူဝမ်းမြောက်ခြင်း ရှိကြလော့ဟုလာ၏။ တဖန်ကား။ လူအမျိုး
အပေါင်းတို့။ထာဝရဘုရားကိုချီးမွမ်းကြလော့။လူအနွယ်အပေါင်းတို့။
၁၂ ကိုယ်တော်ကိုအလွှန် ချီးမွမ်း ကြလော့ ဟု လာ၏။ တဖန်ဟေရှာယဆို
သည်ကား။ယေရှဲ၏အမြစ်ပေါက်၍တပါးအမျိုးသားကိုအုပ်စိုးခြင်းငှါ
ပေါ်ထွန်း သောသူဖြစ် လိမ့်မည်။ထိုသူကိုတပါးအမျိုး သား တို့သည်
၁၃ ကိုးစားကြလိမ့်မည် ဟုဆိုသတည်း။ သင်တို့သည်သန့်ရှင်းသောဝိ
ညာဉ် တော်၏ တန် ခိုး အားဖြင့် မျှော်လင့် ခြင်း ပါရမီနှင့် ကြွယ် ဝရ
အောင်ရုံကြည်သောစိတ်ရှိ၍ဝမ်းမြောက် သက်သာခြင်း အမျိုး မျိုးတို့
နှင့်ပြည့်စုံမည်အကြောင်း။မျှော်လင့်ခြင်း၏ အရှင်။ဘုရားသခင်ကယ်
၁၄ မသနားတော်မူပါစေသော။ ။ညီအစ်ကိုတို့။သင်တို့သည်
ကောင်းသော ပကတိသဘောနှင့်ပြည့်စုံ၍အရာရာတို့ကိုသိနားလည်
သဖြင့်အချင်းချင်းဆုံးမခြင်းငှါတတ်နိုင်သည် ကိုငါသဘောကျလျက်
၁၅ ရှိ၏။ သို့သော်လည်း သန့်ရှင်း သောဝိညာဉ်တော်သည် သန့်ရှင်းစေ
၁၆ တော်မူသောနှစ်သက် ဖွယ်ရာပူဇော် သကာတည်း ဟူသောတပါးအ
မျိုးသားတို့ ကို ပူဇော် ရအောင် ငါသည်ဘုရားသခင်ဧဝံဂေလိတရား
ကိုဟောသောအမှုကို ဆောင်၍တပါး အမျိုးသား တို့တွင်ယေရှုခရစ်
၏အမှုတော်ဖြစ်စေခြင်းငှါဘုရားသခင် သည် ငါ့၌အပ်ပေး တော်မူ
သောကျေးဇူးတော်ကိုငါအမှီ ပြု၍ ညီအစ်ကိုတို့။သင် တို့ကိုသတိပေး
၁၇ သောသူဖြစ် လျက် ခပ်ရဲရဲရေး ထား၍ကြွား လိုက် ပါ၏။ ထိုကြောင့်
ဘုရားသခင်နှင့်စပ်ဆိုင်သောအရာ တို့၌ငါသည်ယေရှုခရစ်အားဖြင့်
၁၈ ကြွားဝါဝမ်းမြောက်ခြင်းအကြောင်းရှိ၏။ တပါးအမျိုးသားတို့သည်
၁၉ စကား အား ဖြင့် ၎င်အကျင့် အား ဖြင့် ၎င်နား ထောင်စေခြင်းငှါခရစ်
တော်သည်နိမိတ်လက္ခဏာ။အံ့ဖွယ် သောအမှုများ ၌ ပါသောတန်ခိုး။
သန့်ရှင်းသောဝိညာဉ်တော်၏တန်ခိုးကိုပြ၍ငါအားဖြင့်ပြုတော်မူသ

မျှတို့ကို သာငါပြောဝံ့၏။ ထို ကျေး ဇူး တော်ကို အမှီပြုလျက် ငါသည်
ယေရုရှလင်မြို့မှစ၍ဣလုရိတ်ပြည်တိုင်အောင်ပတ်ဝန်းကျင်အရပ်တို့၌
၂၀ ခရစ်တော်၏ဧဝံဂေလိတရားကိုအကုန်အစင်ဟောခဲ့ပြီး။ ထိုသို့အချား
သူတည်သောတိုက်မြစ်အပေါ်မှာငါထပ်၍မတည်မဆောက်ရအောင်ခ
ရစ်တော်၏နာမကိုမကြားဘူးသောအရပ်၌ဧဝံဂေလိတရားကိုဟော
၂၁ ခြင်းငှါစေတနာစိတ်နှင့်ငါကြိုးစားအားထုတ်လေ့ရှိ၏။ ထိုသို့နှင့်အ
ညီကျမ်းစာလာသည်ကား။ထိုသူ၏အကြောင်းကိုအဘယ်သူမျှမပြဘူး
သော်လည်း သူ တို့ သည် မြင် ကြ လိမ့် မည်။ မကြား ဘူး သော သူတို့
၂၂ သည်နားလည်ကြလိမ့်မည်ဟုလာသတည်း။ ။ထိုကြောင့်
သင်တို့ဆီသို့ငါမလာရအောင်အဖန်များစွာမြစ်တားသောအကြော
၂၃ င်းကိုငါတွေ့၏။ ယခုမူကား၎အရပ်တို့၌အခွင့်မရသည်ဖြစ်၍သင်
တို့ဆီသို့သွားခြင်းငှါတာရှည်စွာကာလပတ်လုံးအလိုရှိသောကြောင့်
၂၄ သပါနိပြည်သို့ငါသွား သောအခါသင် တို့ဆီသို့ဝင်မည်။ သို့ ဖြစ် ၍
လမ်းခရီး၌သင်တို့ကိုငါတွေ့မြင်လျှင်သင်တို့နှင့်အတူပေါင်းဖော်လျက်
အတန်အရာစိတ် ဖြေရောင့်ရဲပြီးမှထို ပြည် သို့သင် တို့ ပို့ဆောင် ခြင်း
၂၅ ကျေးဇူးကိုခံမည်ဟုငါမျှော်လင့်၏။ ယခုအခါသန့်ရှင်းသူတို့ကိုလုပ်
၂၆ ကျွေး၍ယေရုရှလင်မြို့သို့ငါသွားရမည်။ အဘယ်ကြောင့်နည်းဟုမူ
ကား။မာကေဒေါနိပြည်။အခါယပြည်၌နေသောတပည့်တော်တို့သည်
ယေရုရှလင် မြို့ ၌ ဆင်းရဲသောတပည့် တော်ချင်းတို့အားဥစ္စာကို မျှ၍
၂၇ စေတနာစိတ်နှင့်လှူကြပြီး။ စေတနာစိတ်ရှိသည်ဟုဆိုသော်ထိုသူတို့
သည်ကျေးဇူးတင်သောသူဖြစ်ကြ၏။အဘယ်ကြောင့်နည်းဟုမူကား။
တပါးအမျိုးသားတို့သည်မွေဥစ္စာကိုယုဒတပည့်တို့နှင့်ဆက်ဆံ၍ရသည်
၂၈ မှန်လျှင်လောကီဥစ္စာကိုလှူ၍လုပ်ကျွေးအပ်၏။ ထို ကြောင့်ဤအမှုကို
ငါဆောင်ရွက်၍ဤအလှူလက်ဆောင်ကိုယုဒမျိုးတပည့် တော်တို့၌လုံ
၂၉ ခြုံစွာအပ်ပြီးမှသင်တို့အနားမှာရှောက်၍သပါနိပြည်သို့ငါသွားမည်။
သင်တို့ဆီသို့ငါလာသောအခါခရစ်တော်၏ဧဝံဂေလိတရား၌ပါသော
ကောင်းကြီးမင်္ဂလာပြည့်စုံခြင်းနှင့်ရောက်လာမည်ကိုငါသိ၏။
၃၀ ။ငါသည်ဘုရားသခင်အလိုတော်အတိုင်းဝမ်းမြောက်သောစိတ်
၃၁ နှင့်သင်တို့ဆီသို့လာ၍သင်တို့နှင့်အတူသက်သာခြင်းခံစားရအောင်
ယုဒပြည်၌ညင်းဆန်သောသူတို့လက်မှငါလွတ်မည်အကြောင်း။ယေ
ရုရှသင် မြို့အားငါလုပ်ကျွေးခြင်းအမှုကိုသန့်ရှင်းသူတို့သည်နှစ်သက်

မည်အကြောင်း။ ညီအစ်ကိုတို့။ သင်တို့သည်ငါနှင့်အတူကျိုးစားအား
ထုတ်၍ငါအဖို့အလို ငှါဘုရားသခင်ကိုဆုတောင်းပဌနာပြုကြပါဟုငါ
တို့သခင်ယေရှုခရစ်နှင့်ဝိညာဉ်တော်၏မေတ္တာကရုဏာကိုအကြောင်း
၃၂ ပြု၍သင်တို့ကိုငါတိုက်တွန်းနှိုးဆော်ပါ၏။ ငြိမ်သက်ခြင်းအရှင်။ဘု
ရားသခင်သည်သင်တို့အားလုံးဆီမှာ ရှိနေတော်မူပါစေသော်။ အာမင်။

✻✻

၁ ကင်ခြေမြို့အသင်းတော်၌သင်းထောက်မိန်မ။ ငါတို့နှစ်မဖိဗေကိုသင်တို့
၂ ထံသို့ငါသွင်း ပေး၏။ သန့်ရှင်းသူတို့သည် ပြုသင့်သည့်အတိုင်းသ
ခင်ဘုရားကိုထောက် ၍ သူကိုလက်ခံသိမ်းဆည်း ကြပါ။ သူ သည် အ
ကူအမလိုသမျှသောအမှုတို့ ၌ သူကို ကူမကြပါ။ အကြောင်းမူကား။
သူသည်များသော သူတို့ကိုလည်း ငါကိုလည်း မစသော သူဖြစ်၏။
၃ ။ငါနှင့်အတူယေရှုခရစ်အမှုတော်ကိုဆောင် ရွက်သော သူ။
၄ ပြစ်ကိလနှင့်အာကုလကိုနှုတ်ဆက်ကြပါ။ ထို သူတို့သည် ငါ့အသက်
ကိုကယ်လွှတ်ရအောင်မိမိလည်ပင်းကိုချထားသော သူဖြစ်၏။ သူတို့
ကျေးဇူးကိုငါတယောက်တည်းသာဝန်ခံ သည် မဟုတ်။ တပါး အမျိုး
၅ သားအသင်းတော်အပေါင်းတို့သည်ဝန်ခံကြ၏။ သူတို့အိမ်၌ရှိသော်အ
သင်းတော်ကိုလည်းနှုတ်ဆက်ကြပါ။ အာရှိပြည်တွင်ခရစ်တော်ဘက်
၆ ၌အဦးဝင်သော သူ။ ငါချစ် သားဧပဲနက်ကို နှုတ် ဆက် ကြ ပါ။ ငါ အ
၇ မှုကိုကျိုးစား၍ဆောင် ရွက် သောမာရိကို နှုတ် ဆက်ကြပါ။ ငါနှင့်အ
တူအကျည်းခံသော သူ။ ငါအမျိုးသားချင်းအန္ဒြောနိတ်နှင့်ယုနိကိုနှုတ်
ဆက်ကြပါ။ သူတို့သည် တမန် တော်များ တွင် အသရေထင် ရှားသော
၈ သူဖြစ်၏။ ငါ့အရင်ခရစ်တော်ထံခိုဉ်းခံသော သူလည်းဖြစ်၏။ သခင်
၉ ဘုရား၌ငါချစ်သားအမ္ပလိကို နှုတ်ဆက်ကြပါ။ ငါတို့နှင့်အတူခရစ်
တော်အမှုကို ဆောင် ရွက်သော ဥရဗန်ကိုလည်း ငါချစ်သားသတာခုကို
၁၀ လည်းနှုတ်ဆက်ကြပါ။ တပည့်တော်စစ်ဖြစ် သော အပေလေကိုလည်းအာ
၁၁ ရိတ္တောဗုလုအိမ်သူအိမ်သားတို့ကိုလည်းနှုတ် ဆက်ကြပါ။ ငါ၏အမျိုး
သားချင်းဟေရောဒျန်ကိုလည်း၊ သခင်ဘုရားထံခိုဉ်းခံသောနာကိသုအိမ်
၁၂ သူအိမ်သားတို့ ကိုလည်းနှုတ် ဆက် ကြပါ။ သခင် ဘုရား အမှုတော်ကို
ကျိုး စား သောမိန်မ။ တရုဖဲနနှင့် တရုဖောသကိုလည်း သခင်ဘုရား အမှု
တော်ကိုအလွန်ကျိုးစား၍ ချ ာအပ်သောမိန်မ။ ပေရသိကိုလည်း နှုတ်ဆက်
၁၃ ကြပါ။ မြတ်သောတပည့် တော်ရုဖုကိုလည်း သူ၏အမိတည်းဟူသော

၁၄ ငါ၏အမိကိုငှင်နှုတ်ဆက်ကြပါ။ အသုံကြိတ်။ဖလေဂုန်။ဟေရမ။ပတ်
ရောဗ။ ဟေရမေမှစ၍ သူတို့ နှင့် အတူနေသော ညီအစ်ကိုတို့ကို နှုတ်
၁၅ ဆက်ကြပါ။ ဖိလောလုပ်။ယုလိ။နေရု။ နေရုနှစ် မနှင့်သြလုမ္ပမှစ၍သူ
၁၆ တို့နှင့်အတူနေသောသန့်ရှင်းသူအားလုံးတို့ကို နှုတ်ဆက်ကြပါ။ သန့်
ရှင်း သောနမ်ခြင်း ဖြင့် အချင်း ချင်း တယောက် ကို တယောက် နှုတ်
ဆက်ကြပါ။ခရစ်တော်၏ အသင်း များ တို့သည် သင်တို့ကို နှုတ်ဆက်
၁၇ ကြ၏။ ။ညီအစ်ကိုတို့။သင်တို့ခံခဲ့ပြီးသောဆုမ္မသြဝါဒကို
ဆန့်ကျင်ဘက်နေ ၍ သင်း ခွဲခြင်း။ ထိမိ ၍ လဲခြင်း အကြောင်း ကို ပြု
၁၈ သော သူတို့ကိုမှတ်၍ရှောင်ကြပါဟုငါသတိပေး၏။ အဘယ်ကြောင့်
နည်းဟူမူကား။ထိုသို့သော သူတို့သည် ငါတို့သခင်ခရစ်တော်၏အမှု
ကိုမဆောင်ရွက်ဘဲလျက်မိမိတို့ ဝမ်းစာအမှုကိုဆောင်ရွက်၍လောက
ဝတ် စကား။ ချော့မော့သော စကား အား ဖြင့် သတိမရှိသော သူ တို့ကို
၁၉ လှည့် စားကြ၏။ သင် တို့ရိုကြည်နာ ခံ ခြင်း အကြောင်း အရာ
သည် လူအပေါင်းတို့တွင်ကျော်စောသည်ဖြစ်၍ငါဝမ်း မြောက်ခြင်းရှိ
၏။သို့သော်လည်းသင်တို့သည်ကောင်းရာ၌ကားပညာရှိ စေခြင်း၄ါ
၂၀ ငှင် ဆိုးရာ ၌ ကားအပြစ် ကင်း စေ ခြင်း၄ါ ငှင် ငါအလို ရှိ ၏။ ညိမ်
သက် ခြင်း အရှင်။ဘုရားသခင် သည် စာတန်ကိုသင်တို့ခြေအောက်၌
များမကြာမှီ၍ နင်းစက်တော်မူမည်။ ငါတို့သခင် ယေရှုခရစ် ၏ ကျေးဇူး
၂၁ တော်သင်တို့၌ဖြစ်ပါစေသော။ ။ငါနှင့် အတူအမှုတော်ကို
ဆောင် သော တိမောသေမှစ၍ငါ၏အမျိုးသားချင်းလုကိ။ယာသုန်။
၂၂ သောသိပတရတို့သည်သင် တို့ကိုနှုတ်ဆက်ကြ၏။ဤစာကိုရေးသော
ငါတေရတိသည်သခင်ဘုရားကိုထောက်၍သင်တို့ကိုနှုတ်ဆက် ပါ၏။
၂၃ ငါကိုရင်သင်း ဝင်သူ အပေါင်း တို့ ကိုငှင် လက် ခံ၍ ကျွေးသည့်ဝတ်ပြု
သောဂါယုနှင့်မြို့စာရေးဧရတ္တုနှင့်သင်တို့ညီအစ်ကိုကွာတုတို့သည်
၂၄ သင်တို့ကိုနှုတ်ဆက်ကြ၏။ ငါတို့သခင်ယေရှုခရစ်၏ကျေးဇူးတော်
သင်တို့အားလုံး၌ဖြစ်စေသတည်း။ အာမင်။

။ရောမသြဝါဒစာပြီး၏။

## ။ကောရိန္သုပြည်ဝါဒစာပဌမစောင်။

၁ ဘုရားသခင်၏အလိုတော်အားဖြင့် ယေရှုခရစ်၏တမန်တော်အရာ
၂ ၌ခန့်ထားသောငါပေါလုနှင့်ငါညီသုသင်က ယေရှုခရစ်အားဖြင့်
အပြစ်နှင့်ကင်းစင်၍သန့်ရှင်းသူအရာ၌ ခန့်ထားသောသူကည်းဟူ
သော ကောရိန္သုမြို့၌ ရှိသော ဘုရားသခင်း အသင်း တော်မှ စ၍
ခပ်သိမ်း သော အရပ်၌ငါတို့ သခင် ယေရှုခရစ်ကိုပဌနာ ပြုသောသူ
၃ အပေါင်း တို့ကို ကြား လိုက်ပါ၏။ ထိုသခင်သည် ငါတို့သခင်သာမ
ဟုတ်၊သူတို့သခင်လည်းဖြစ်တော်မူ၏။သခင်ယေရှုခရစ်နှင့် ငါတို့အ
ဖတည်းဟူသောဘုရား သခင်အထံတော် ကကျေး ဇူး တော်နှင့်ညိမ်
၄။၅ သက်ခြင်းသင်တို့အားဖြစ်ပါစေသော။ ။အထက်ကခရစ်
၆ တော်သက်သေကိုသင်တို့တွင်တည်စေသည့်ရှိသော်သင် တို့သည်ထို
ခရစ်တော်အားဖြင့်အရာရာ၌နှုတ်သဘ္ဘို။ညာဏ်သတ္တိအပေါင်းနှင့်
ကြွယ်ဝပြည့်စုံကြသည်ဖြစ်၍ယေရှုခရစ် အားဖြင့် သင် တို့ အားပေး
တော်မူသောဆုကျေးဇူးတော်ကိုငါထောက်၍သင်တို့အကြောင်းကြော
၇ င့်ငါ၏ဘုရားသခင် ကျေးဇူး တော် ကို အစည် ငါချီးမွမ်း ပါ၏။ ထို
ကြောင့်သင်တို့သည်ငါတို့သခင်ယေရှုခရစ်၏ပေါ်ထွန်းတော်မူမည့်
အရာကိုမျှော်လင့်၍ အစည်ဆုတော်မျိုးဘစုံကပါးမျှမလျော့ဘဲပြည့်စုံ
၈ လျက်ရှိကြ၏။ သင်တို့သည်ငါတို့သခင်ယေရှုခရစ်၏နေ့ရက်၌အပြစ်
တင်စရာအခွင့်နှင့်ကင်းလွတ်မည် အကြောင်း။ သင်တို့ကို အဆုံးတိုင်
၉ အောင်ခိုင်ခံ့မြဲမြံ စေတော်မူလိမ့်မည်။ ငါတို့သခင် တည်းဟူသော
သားတော်မြတ်ယေရှုခရစ်နှင့်ဆက်ဆံခြင်းကျေးဇူးတော်ကိုသင်တို့
အားပေးတော်မူသောဘုရားသခင်သည်သစ္စာနှင့်ပြည့်စုံတော်မူ၏။
၁၀ ။ညီအစ်ကိုတို့။သင်တို့အားလုံးသည်စကားတညီတညွတ်
တည်းဖြစ်၍ အချင်းချင်း မကွဲပြားဘဲ စိတ်သဘော တညီ တညွတ်
တည်းရှိသည်နှင့်စေ့စပ်ကြမည်အကြောင်း။ငါတို့သခင်ယေရှုခရစ်၏
၁၁ နာမတော်ကိုအမှီပြု၍သင်တို့ကိုငါနှိုးဆော်တောင်းပန်၏။ အဘယ်
ကြောင့်နည်းဟူမူကား။ ငါညီအစ်ကိုတို့။သင်တို့သည်အချင်းချင်းကွဲ
ပြားရန်တွေ့ခြင်းရှိသည် ကို ခလောဲ လူအချို့တို့သည် ကြားပြောကြ
၁၂ ၏။ သင်တို့ကငါသည်ပေါလုတပည့်ဖြစ်၏။ငါသည်အာပေါလုတပည့်

ဖြစ်၏။ငါသည်အာပေါလုပည့်ဖြစ်၏။ ငါသည်ခရစ်တပည့် ဖြစ်၏ဟု
၁၃ အသီးအသီးပြောကြသည့်ကိုငါဆိုရ၏။ ခရစ်တော်သည်တွဲပြားသ
လော။ ပေါလုသည်သင် တို့အတွက်လက်ဝါးကပ် တိုင်မှာ အသေခံပြီး
လော။ သို့မဟုတ်။ သင်တို့သည်ပေါလု ၏ဘာသာသွင်းခြင်းအလို၌
၁၄ ရေနှစ်မင်္ဂလာကိုခံကြပြီးလော။ကရိပ္ပုနှင့်ဂါယုမှတပါး။ သင်တို့တွင်
အဘယ်သူအားမျှရေနှစ်မင်္ဂလာကိုငါမပေးသည်ဖြစ်၍ဘုရားသခင်
၁၅ ၏ကျေးဇူးတော်ရှိပါ၏။ သို့ဖြစ်၍ပေါလုသည် မိမိ ဘာသာသွင်း
ခြင်းအလို ၌ ရေနှစ်မင်္ဂလာ ကို ပေးသည်ဟု အဘယ်သူမျှဆိုစရာ
၁၆ အကြောင်းမရှိ။ သတေဖနိအိမ်သူအိမ်သားကိုလည်း ရေနှစ်မင်္ဂလာ
ပေးပြီး။ထိုမှတပါး။အခြားသူကိုရေနှစ်မင်္ဂလာပေးသည်ကိုငါမမှတ်
၁၇ မိ။ ။ရေနှစ်မင်္ဂလာကိုပေးခြင်း၌ခရစ်တော်သည်ငါကိုစေ
လွှတ်တော်မမူ။ ဧဝံဂေလိတရား ကို ဟောခြင်း၌စေလွှတ်တော်မူ၏။
သို့သော်လည်းခရစ်တော်၏လက်ဝါးကပ်တိုင်သည်အချည်းနှီးမဖြစ်
၁၈ ရအောင်နှုတ်ပညာကိုအခွင့်ပေးတော်မမူ။ အဘယ်ကြောင့်နည်းဟူ
မူကား။ဆုံးရှုံးခြင်းသို့ရောက်သောသူတို့၌လက်ဝါးကပ်တိုင်တော်တ
ရားသည်မိုက်သောတရားဖြစ်၏။ကယ်တင်ခြင်းသို့ ရောက်သောငါ
၁၉ တို့၌ ထိုတရားသည်ဘုရားသခင်၏တန်ခိုးတော် ဖြစ်၏။ ကျမ်းစာ
လာသည်ကား။ပညာရှိတို့၏ပညာကိုငါဖျက်ဆီးမည်။ ဉာဏ်ကော
၂၀ င်းသောသူတို့၏ဉာဏ်ကိုလည်းငါပယ်မည်ဟုလာသတည်း။ ပညာ
ရှိအဘယ်မှာရှိသနည်း။ ကျမ်းပြုဆရာအဘယ်မှာရှိသနည်း။ ပြဿ
နာ၌ငြင်းခုံလေ့ကျက်သောဆရာအဘယ်မှာ ရှိ သနည်း။ လောကီပညာကို
၂၁ ဘုရားသခင် သည် မိုက် စေ တော် မူ သည် မဟုတ် လော။ အဘယ်
သို့ နည်း ဟူ မူကား။ ဘုရား သခင် ၏ ပညာ တော် စီရင် သည် နှင့်
အညီလောကီသားတို့သည် မိမိပညာအားဖြင့် ဘုရားသခင် ကိုမသိ
ဘဲ နေသောအခါ ဘုရားသခင်သည်ယုံကြည် သော သူတို့ ကို ဒေသနာ
၂၂ တော်မိုက်မဲခြင်းအားဖြင့်ကယ်တင်ခြင်း၌စေတနာရှိတော်မူ၏။ ယု
ဒလူတို့သည်နိမိတ်လက္ခဏာကိုတောင်းတတ်၏။ ဟေလသလူတို့သည်
၂၃ ပညာကိုရှာတတ်၏။ ငါတို့မူကားလက်ဝါးကပ်တိုင်မှာအသေခံတော်
မူသောခရစ်တော်၏တရားကိုဟောကြ၏။ ထိုတရားသည်ကားယုဒ
လူထိမိ၍လဲစရာအကြောင်းဖြစ်၏။ တပါး အမျိုးသား ၌မိုက်မဲ ခြင်း
၂၄ ဖြစ်၏။ သို့သော်လည်းယုဒလူဖြစ်စေ။ ဟေလသ လူဖြစ်စေ။ ခေါ်

တော်မူသောသူတို့၌ဘုရားသခင် တန်ခိုးတော်။ ဘုရားသခင် ပညာ
၂၅ တော်တည်းဟူသောခရစ်တော်တရားဖြစ်၏။ ဘုရားသခင်၏မိုက်
မဲခြင်းအရာမှာလူပညာထက်သာ၍ပညာရှိ၏။ဘုရားသခင်၏အား
၂၆ နည်းခြင်းအရာမှာလူအစွမ်းထက်သာ၍အစွမ်းရှိ၏။ ။ညီအစ်
ကိုတို့။ သင်တို့ကို ခေါ်တော်မူခြင်းအကြောင်းအရာကို ဆင်ခြင်ကြ
လော့။ ခေါ်တော်မူသောသူတို့တွင် လောကီပညာရှိအများမပါ။ ထင်
ရှားသောလူကြီးအများမပါ။ မင်းအမျိုးအနွယ်ဖြစ်သောသူအများမ
၂၇ ပါ။ ဘုရားသခင်သည်ပညာရှိတို့ကိုရှက်ကြောက်စေခြင်းငှါလော
ကီအရာ၌မိုက်မဲသောသူတို့ကိုရွေးကောက်တော်မူ၏။ အစွမ်းသတ္တိရှိ
သောသူတို့ကိုရှက်ကြောက်စေခြင်းငှါလောကီအရာ၌အားနည်းသော
၂၈ သူတို့ကိုရွေးကောက်တော်မူ၏။ မြတ်သောသူတို့ကိုရှက်ကြောက်စေ
ခြင်းငှါလောကီအရာ၌ဆင်းရဲသောသူ။ မရေရသောသူ။ ယုတ်သော
၂၉ သူတို့ကိုရွေးကောက်တော်မူ၏။ ထိုကြောင့်ဘုရားသခင်ရှေ့၌အဘ
၃၀ ယ်လူမျှကြွားဝါစရာအကြောင်းမရှိ။ ထိုဘုရားသခင်အားဖြင့်သင်
တို့သည် ယေရှုခရစ်၌တည်နေကြ၏ ။ထိုသခင်မူကားဘုရားသခင်
ပေးတော်မူသောပညာ ၎င်ဖြောင့်မတ်ခြင်းကုသိုလ်၎်သန့်ရှင်းခြင်း
၃၁ ၎်ကယ်တင်ခြင်း၎င်ငါတို့၌ဖြစ်တော်မူ၏။ သို့ဖြစ်၍ကျမ်းစာလာသည်
နှင့်အညီကြွားဝါသောသူမည်သည်ကားထာဝရဘုရား၌ သာကြွား
ဝါပါလေစေ။ ❋❋
၁ ညီအစ်ကိုတို့။ ငါသည်သင်တို့ဆီသို့ရောက်လာသောအခါဘုရားသ
ခင်၏သက်သေချက်ကိုထူးမြတ်သောစကား။ ထူးမြတ်သောပညာ
၂ အားဖြင့်သင်တို့အားပြသ၍ရောက်လာသည်မဟုတ်။ အဘယ်ကြောင့်
နည်း ဟူမူကား။ ယေရှုခရစ်တည်းဟူသော လက်ဝါးကပ်တိုင်မှာ အ
သေခံတော်မူသောသခင်မှတပါးအဘယ်အရာကိုမျှသင်တို့တွင် ငါမ
၃ သိဘဲနေမည်ဟုငါစိတ်ပြဋ္ဌာန်းခြင်းရှိ၏။ သင်တို့ဆီမှာငါရှိနေသော
အခါအားနည်းခြင်း။အလွန်ကြောက်လန့်တုန်လှုပ်ခြင်းနှင့် တကွ ငါရှိနေ
၄။၅ ၏။ သင်တို့၏ယုံကြည်ခြင်းသည်လူပညာအားဖြင့်မတည်။ဘုရားသ
ခင်တန်ခိုးတော်အားဖြင့် တည်စေခြင်းငှါ ငါ၏စကား ငါဒေသနာသည်
ပညာနှင့်ရှည်သောဖျားယောင်းသောစကားနှင့်တကွမဟုတ်။ဝိညာဉ်
၆ တော်၏နိမိတ်လက္ခဏာတန်ခိုးတော်နှင့်တကွရှိ၏။ ။သို့သော်
လည်းစုံလင်သောသူတို့အားငါတို့သည် ပညာ စကားကိုဟောပြော

၏။ ထိုသို့ဆိုသော်လောကီပညာကိုမဆိုသို၊ ပြယ်ပျောက်တတ်သော
၇ လောကီမင်းတို့၏ပညာကိုမဆိုသို၊ ဤကမ္ဘာဘောင့်မရှိမှီငါတို့ဘုန်း
အသရေအလို့ငှါ ဘုရားသခင်စီရင်တော်မူသောပညာ၊ နက်နဲသော
၈ အရာ၌ဖွက်ထားသောဘုရားသခင်၏ပညာကိုငါတို့ပြသကြ၏။ ဤ
လောကကိုအစိုးရသောမင်းဘယောက်မျှ ထိုပညာကိုမသိ။ သိလျှင်
ဘုန်းကြီးတော်မူသောသခင်ကို လက်ဝါးကပ်တိုင်မှာမကွပ်မျက်ကြ
၉ ပြီ။ ကျမ်းစာလာသည်နှင့်အညီဘုရားသခင်ကိုချစ်သောသူတို့အဖို့
အလို့ငှါ ဘုရားသခင်ပြင်ဆင်တော်မူသောအရာတို့ကိုလူမျက်စိမ
၁၀ မြင်၊ နားမကြား၊ စိတ်နှလုံးမကြံစည်သေး။ ထိုအရာတို့ကိုဘုရားသ
ခင်သည်မိမိဝိညာဉ်တော်အားဖြင့်ငါတို့အားဖော်ပြတော်မူ၏။ ဝိညာဉ်
တော်သည် ဘုရားသခင်၏ နက်နဲသော အရာ တိုင်အောင် ခပ်သိမ်း
၁၁ သောအရာတို့ကိုစစ်တော်မူ၏။ လူ၏နက်နဲသောအရာကိုလူ၌ ရှိ
သောမိမိစိတ်ဝိညာဉ်မှတပါးအဘယ်လူသိသနည်း။ ထိုနည်းတူ၊ ဘု
ရားသခင်၏နက်နဲသောအရာကို ဘုရားသခင်၏ဝိညာဉ်တော်မှတ
၁၂ ပါးအဘယ်သူမျှမသိ။ ငါတို့သည်လောကီဝိညာဉ်ကိုမခံကြ၊ ဘုရား
သခင်ပေးတော်မူသောအရာတို့ကိုသိတတ်ရအောင်ဘုရားသခင်ထံ
၁၃ မှကြွသောဝိညာဉ်ကိုခံကြပြီ။ ဘုရားသခင်ပေးတော်မူသောအရာ
တို့ကိုငါတို့သည်လူပညာကိုအမှီပြု၍တတ်သောစကားနှင့်မဟောကြ။
ဝိညာဉ်နှင့်စပ်ဆိုင်သောအရာကိုဝိညာဉ်စကားအားဖြင့် ဖွင့်ပြသော
၁၄ ဝိညာဉ်တော်ပဲ့ပြင်တော်မူသောစကားနှင့်ငါတို့ဟောကြ၏။ ဇာတိပ
ကတိလူသည်ဘုရားသခင်ဝိညာဉ်တော်၏အရာတို့ကိုမခံမယူ။ ထိုအ
ရာတို့သည်မိုက်မဲသောအရာဖြစ်၏ဟုသူထင်တတ်၏။ ထိုအရာတို့
ကိုဝိညာဉ်အားဖြင့်သာပိုင်းခြားနားလည်နိုင်သည်ဖြစ်၍ဇာတိပက
၁၅ တိလူသည်နားမလည်နိုင်။ ဝိညာဉ်လူသည် ထိုအရာအားလုံးတို့ကို
ပိုင်းခြားနားလည်တတ်၏။ သို့သော်လည်းထိုလူကိုအဘယ်သူမျှပိုင်း
၁၆ ခြားမသိနိုင်။ ဝိညာဉ်လူကိုသွန်သင်နိုင်မည်အကြောင်း။ အဘယ်သူ
သည်ထာဝရဘုရား၏စိတ်တော်ကိုသိသနည်း။ ငါတို့မူကားခရစ်
၁ တော်၏စိတ်ကိုခံရကြ၏။ ။ညီအစ်ကိုတို့၊ အထက်ကငါသည်
ဝိညာဉ်လူတို့အားဟောပြောသကဲ့သို့ သင်တို့အား ဟောပြောသော
အခွင့်မရှိဘဲဇာတိပကတိလူတည်းဟူသောခရစ်တော်၌သူငယ်က
၂ လေးတို့အားဟောပြောသကဲ့သို့ဟောပြောရ၏။ သင်တို့သည်ခဲသွယ်

စားဘွယ်ကိုသခုတိုင်အောင်မကျေနိုင်သောကြောင့်ငါမကျွေးရ။နို့ကို
၃ သာတိုက်ရ၏။ယခုပင်လည်းသင်တို့သည်မကျေနိုင်သေး။ ယခုပင်
လည်းဇာတိပကတိလူဖြစ်ကြသေး၏။ ငြူစူခြင်း။ ရန်တွေ့ခြင်း။
အချင်းချင်းကွဲပြားခြင်းရှိသည်ဖြစ်၍သင်တို့သည်ဇာတိပကတိလူ
ဖြစ်ကြသည်မဟုတ်လော။လောကီထုံးစံအတိုင်းကျင့်ဆောင်ကြသည်
၄ မဟုတ်လော။ တယောက်ကငါသည်ပေါလုတပည့်ဖြစ်၏ဟူ၍၎င်
တယောက်ကငါသည်အာပေါလုတပည့်ဖြစ်၏ဟူ၍၎င် အသီးအသီး
ပြောကြသည်ဖြစ်၍ဇာတိပကတိလူဖြစ်ကြသည်မဟုတ်လော။
၅ ။ပေါလုကားအဘယ်သူနည်း။အာပေါလုကားအဘယ်သူနည်း။
အချားသူမဟုတ်။ထာဝရဘုရားသည်လူအသီးအသီးတို့အားပေးသ
နားတော်မူသည်နှင့်အညီ သင်တို့သည်ယုံကြည်ခြင်းသို့ရောက်ရာ
၆ တွင်အမှုပြုသောဆရာပေတည်း။ ငါသည်စိုက်ပျိုးသောသူဖြစ်၏။
အာပေါလုသည်ရေလောင်းသောသူဖြစ်၏။ အပင်ကိုကြီးပွားစေ
၇ သောသူကားဘုရားသခင်ပေတည်း။ စိုက်ပျိုးသောသူမတတ်နိုင်။
ရေလောင်းသောသူလည်းမတတ်နိုင်။ ကြီးပွားစေတော်မူသောဘု
၈ ရားသခင်သာတတ်နိုင်တော်မူ၏။ သို့သော်လည်းစိုက်ပျိုးသောသူ
နှင့်ရေလောင်းသောသူသည်စိတ်တညီတသံတည်းဖြစ်၍အသီးအသီး
၉ မိမိလုပ်သည်အတိုင်းမိမိအကျိုးကိုခံရလိမ့်မည်။ ငါတို့သည်ဘုရား
သခင်ထံအလုပ်လုပ်သောသူချင်းဖြစ်၏။သင်တို့သည်ဘုရားသခင်
ဥယျာဉ်တော်ဖြစ်ကြ၏။ ဘုရားသခင်ကျောင်းတော်တိုက်လည်းဖြစ်
၁၀ ကြ၏။ ဘုရားသခင်၏ကျေးဇူးတော်ကိုငါခံရသည်နှင့်အညီလိမ္မာ
သောဗိသုကာကဲ့သို့တိုက်မြစ်ကိုငါတည်ပြီး။အချားသောသူသည်
ထပ်ဆင့်၍တည်ဆောက်လေ၏။ သို့ရာတွင်အဘယ်သို့ထပ်ဆင့်၍
၁၁ တည်ဆောက်သည်ကိုလူတိုင်းသတိပြုပါလေစေ။ အဘယ်ကြောင့်
နည်းဟူမူကား။ ယေရှုခရစ်တည်းဟူသောတည်လျက်ရှိသောတိုက်
၁၂ မြစ်မှတပါးအချားသောတိုက်မြစ်ကိုအဘယ်သူမျှမတတ်နိုင်။ ထို
တိုက်မြစ်အပေါ်၌ ရွှေ။ ငွေ။ ကျောက်ကောင်း။ သစ်သား။ မြက်ပင်။
၁၃ ကောက်ရိုးများကိုထပ်ဆင့်၍တည်ဆောက်သောသူ။ မည်သူမဆို။
အသီးအသီးလုပ်သောအလုပ်သည်ထင်ရှားရှိလိမ့်မည်။ အဘယ်သို့
နည်းဟူမူကား။ ဖော်ပြချိန်နေ့ရက်သည်မီးအားဖြင့်ထင်ရှားစေလိမ့်
မည်။ လူတိုင်းလုပ်သောအလုပ်သည်အဘယ်သို့သောအလုပ်ဖြစ်

၁၄ သည့်ကျိုးသည်စစ်ကြောရုံစမ်းလိမ့်မည်။ ထိုတိုက်မြစ်အပေါ်၌ထပ်
ဆင့်၍တည်ဆောက်သောအကြွင်သူ၏အလုပ်သည်မြဲ၏။ ထိုသူသည်
၁၅ အကျိုးကိုခံရလိမ့်မည်။ အကြွင်သူ၏အလုပ်သည်ကျွမ်လောင်၏။ ထို
သူသည်အရှုံးခံရလိမ့်မည်။သို့သော်လည်းသူကိုယ်သည်မီးနှင့်လွတ်
သကဲ့သို့ကယ်တင်ခြင်းသို့ရောက်လိမ့်မည်။

❋❋

၁၆ သင်တို့သည်ဘုရားသခင်၏ဗိမာန်တော်ဖြစ်ကြသည်ကို၎်ဘုရား
သခင်၏ဝိညည်တော်သည်သင်တို့အထဲ၌ကျိန်းဝပ်တော်မူသည်ကို၎
၁၇ င်သင်တို့မသိလော။ အကြွင်သူသည်ဘုရားသခင်၏ဗိမာန်တော်
ကိုဖျက်ဆီး၏။ထိုသူကိုဘုရားသခင်ဖျက်ဆီးတော်မူလိမ့်မည်။ဘုရား
သခင်၏ ဗိမာန်တော်သည် သန့်ရှင်းရ၏။ သင် တို့ သည် လည်း ထို
၁၈ ဗိမာန်တော်ဖြစ်ကြ၏။ အဘယ်သူမျှကိုယ်ကိုကိုယ်မလှည့်စား
စေနှင့်။သင်တို့တွင်အကြွင်သူသည်ဤလောက၌ပညာရှိဖြစ်သည်ဟု
ကိုယ်ကိုကိုယ်ထင်၏။ထိုသူသည်ပညာရှိအဖြစ်သို့ရောက်အောင်လူ
၁၉ မိုက်ဖြစ်ပါလေစေ။ အကြောင်းမူကား။ လောကီပညာသည်ဘုရား
သခင်ရှေ့၌မိုက်မဲခြင်းဖြစ်၏။ ကျမ်စာလာသည် ကား။ ဘုရားသခင်
သည်ပညာရှိတို့ကိုသူတို့၏ပရိယာယ်အားဖြင့်ဖမ်ဆီးတော်မူ၏ဟု
၂၀ လာသတည်း။ တဖန်တုံ။ပညာရှိတို့၏အကြံအစည်တို့သည် အချည်း
၂၁ နှီးဖြစ်ကြောင်းကိုထာဝရဘုရားသိတော်မူ၏ဟုလာသတည်း။ ထို
သို့ဖြစ်လျှင်အဘယ်သူမျှလူတို့ ၌ ကြွားဝါခြင်းမရှိစေနှင့်။ ခပ်သိမ်း
၂၂ သောအရာတို့သည်သင်တို့အဖို့ဖြစ်ကြ၏။ ပေါလုဖြစ်စေ။အာပေါ
လုဖြစ်စေ။ကေဖဖြစ်စေ။ဤလောကဖြစ်စေ။ အသက်ရှင်ခြင်းဖြစ်စေ။
သေခြင်းဖြစ်စေ။မျက်မှောက်ဘဝဖြစ်စေ။တမလွန်ဘဝဖြစ်စေ။ ခပ်
၂၃ သိမ်းသောအရာတို့သည်သင်တို့အဖို့ဖြစ်ကြ၏။ သင်တို့လည်းခရစ်
တော် အဖို့ဖြစ်ကြ၏။ ခရစ်တော် သည်လည်းဘုရားသခင် အဖို့ ဖြစ်
၁ တော်မူ၏။ ။ခရစ်တော်၏အစေအပါကဲ့သို့၎င်ဘုရားသခင်
၏နက်နဲသောအရာတို့ကိုစောင့်သောဘဏ္ဍာစိုး ကဲ့သို့ ၎င် သူတပါး
၂ သည်ငါတို့ကိုမှတ်ပါလေစေ။ ထိုမှတပါး။ဘဏ္ဍာစိုးမည်သည်ကား
၃ သစ္စာရှိရမည်။ သင်တို့မှစ၍အချားသောလူများတို့သည်ငါကိုသစ္စာ
၄ မရှိဟုစီရင်သော်လည်းငါအမှုမထား။ ငါကိုယ်ကိုကိုယ်မစီရင်။ အ
ဘယ်ကြောင့်ခည်းဟူမူကား။ ကိုယ်စိတ်သည်ကိုယ်ကိုအပြစ်မတင်။

သို့သော်လည်းထိုအကြောင်းဖြင့် ငါသည် အပြစ်လွတ်သည် မဟုတ်။
၅ ငါကိုစီရင်သောသူကားထာဝရဘုရားပေတည်း။ ထိုသို့ဖြစ်လျှင်
မှောင်မိုက်၌ဖွက်ထားသောအရာတို့ကိုဖွင့်လင်း၍ စိတ်နှစ်လုံးအကြံ
အစည်များကိုထင်ရှားစေလတံ့သောသခင်ဘုရားကြွလာတော်မမူ
မှီတိုင်အောင် အဘယ်အမှုကိုမျှအဆုံးအဖြတ် မစီရင်ကြနှင့်။ ကြွလာ
တော်မူသောအခါအသီးအသီးတို့သည် ဘုရားသခင် ချီးမွမ်း တော်မူ
၆ ခြင်းကျေးဇူးကိုခံကြလတံ့။ ။ညီအစ်ကိုတို့။သင်တို့သည်ကျမ်း
စာကိုလွန်၍သူတပါးကိုမရိုသေအပ်ဟုငါတို့ကိုထောက်၍နားလည်စေ
ရအောင်ပုဂ်မာနစိတ်ထောင်လွှားသည်နှင့်တယောက်ကိုမှီဝဲ။ တယော
က်ကိုညှင်းဆဲခြင်းမရှိရအောင်ဂငါဆိုခဲ့ပြီးသောအချက် ၌ သင်တို့
အကျိုးကိုထောက်၍ငါနှင့်အာပေါလုကိုပုံဆောင်လျက်ဆိုသတည်း။
၇ ထိုမှတပါး။အဘယ်သူသည်သင်ကိုထူးပြားစေသနည်း။ သူတပါး
လက်မှမခံမယူဘဲအလိုလိုရသောအရာတစုံတခုသင်၌ရှိသလော။ သူ
တပါးလက်မှခံယူသည်မှန်လျှင်မခံမယူသကဲ့သို့အဘယ်ကြောင့်ကြွား
၈ ဝါသနည်း။ ယခုတွင်သင်တို့သည်ကြွယ်ဝကြ၏။ ငွေရတတ်ကြ၏။
ငါတို့မရှိစည်းစိမ်စံကြ၏။ ငါတို့သည်သင်တို့ နှင့် အတူစိုးစံ ရသောအ
၉ ခွင့်ရှိရအောင်သင်တို့ကိုအမှန်စိုးစံစေခြင်းငှါငါအလိုရှိ၏။ သတ်ဖို့
ထား သော သူ ကဲ့သို့ အချား သော သူ များ နောက် ၌ တမန်တော်
တည်းဟူသော ငါတို့ ကို ဘုရား သခင် ထုတ်ပြ တော် မူ သည်ဟု
ငါ ထင် ၏။ အဘယ် ကြောင့် နည်း ဟူ မူ ကား။ ငါတို့ သည် လော
ကီသားများ။ကောင်းကင်တမန်များမျက်မှောက်၌ပွဲဝင်သောသူဖြစ်
၁၀ ကြ၏။ ငါတို့ကားခရစ်တော်အကြောင်းကြောင့်လူမိုက်ဖြစ်၏။ သင်
တို့ ကား ခရစ် တော် ၌ ပညာရှိ ဖြစ်၏။ ငါတို့ကားအားနည်းသော
သူဖြစ်၏။ သင်တို့ကားအစွမ်းသတ္တိနှင့်ပြည့်စုံသောသူဖြစ်၏။ သင်
တို့ သည် အသရေရှိသောသူ ဖြစ် ၏။ ငါတို့သည် အရှက်အကြောက်ခံ
၁၁ သောသူဖြစ်၍ ယခုတိုင်အောင်အစာအသောက်ငတ်မွတ်ခြင်း။အ
ဝတ်နွမ်းပါးခြင်း။ရိုက်ပုတ်ညှဉ်းဆဲခြင်းကိုခံကြ၏။ နေရာမကျသော
၁၂ သူ။ ကိုယ်လက်နှင့်ပင်ပန်းစွာလုပ်ဆောင်သောသူဖြစ်ကြ၏။ကဲ့ရဲ့
ခြင်းကိုခံသောအခါမေတ္တာပို့ကြ၏။ညှဉ်းဆဲနှိပ်စက်ခြင်းကိုခံသော
၁၃ အခါသည်းခံကြ၏။ အသရေရှုပ်ချခြင်းကိုခံသောအခါတောင်းပန်
ကြ၏။ ဤလောက၏အပြစ်ကိုဖြေသောယဇ်ကောင် ကဲ့သို့ရင်အရပ်

ရယ်ထဲ့ကာလှဲ့ပြစ်သော တနိုမြက်ချေးအမှိုက်ကဲ့သို့ ငင်ယာခုတိုင်အောင်
ဖြစ်ကြ၏။

**

၁၄ သင်တို့သည်ရှက်ရအောင်ဤသို့ ငါရေးသည် မဟုတ်။ သင်တို့ကို ချစ်
၁၅ သားကဲ့သို့မှတ်၍သတိပေး၏။ သင်တို့တွင်ခရစ်တော်အကြောင်း
ကို သင်ပေးသော ဆရာတသောင်းရှိညားသော် လည်း အဖအများမ
ရှိ။ငါ့မှင်ဧဝံဂေလိတရားအားဖြင့်သင်တို့ ကို ယေရှုခရစ် ၌ ဖြစ်ဖွား
၁၆ စေပြီး။ သို့ဖြစ်၍သင်တို့သည်ငါနည်းတူကျင့်မည်အကြောင်း။ငါနှိုး
၁၇ ဆော်တောင်းပန်၏။ ထိုအကြောင်းကြောင့် သခင် ဘုရား၌သစ္စာရှိ
သောငါချစ်သောသားတိမောသေကိုသင်တို့ဆီသို့ငါစေလိုက်ခဲ့ပြီး။
အရပ်ရပ်ခပ်သိမ်းသောအသင်းတော်တို့၌ငါသွန်သင်သည်နှင့်အညီ
ငါသည်ခရစ်တော်၌ကျင့်သောအကျင့်ဓလေ့များကိုသင်တို့သည်မှတ်
၁၈ မိရအောင်သူသည်ပြသတိုက်တွန်း လိမ့်မည်။ ငါကိုယ်တိုင် သင်တို့
ဆီသို့မလာဟုအချို့သော သူတို့သည်ထင် သည် နှင့် မာနထောင်ဖွား
၁၉ ခြင်းရှိ၏။ သို့သော် လည်းသခင် ဘုရားသည်အလိုတော် ရှိလျှင်ငါ
မြန်မြန် လာ မည်။ လာ သော အ ခါ မာနထောင်လွှား သော သူတို့ ၏စ
၂၀ ကားကိုမသိ မမှတ်ဘဲ သူ တို့၏ တန်ခိုး ကို သာသိမှတ်လိမ့်မည်။ အ
ဘယ်ကြောင့်နည်းဟူမူကား။ဘုရားသခင်၏နိုင်ငံတော်သည်စကား
၂၁ ၌တည်သည်မဟုတ်။တန်ခိုး၌တည် ၏။ သင်တို့အလို အဘယ် သို့ရှိ
သနည်း။ ငါသည်နှင်တံနှင့် သင် တို့ ဆီသို့လာရသလော။ သို့မဟုတ်၊
မေတ္တာနှင့်ငင်သိမ်မွေ့နူးညံ့သောစိတ်ဝိညည်နှင့်ငင်လာရသလော။
၁ ။မတရားသောမေထုန်သာမညမဟုတ်။အဖ၏မယားကိုသိမ်း
ယူခြင်းတည်းဟူသော။သာသနာပလူတို့တွင်ပင်အခေါ်အဝေါ်မျှမရှိ
သောမေထုန် ၌ မှိဝဲ သော သူသင်တို့ တွင် ရှိကြောင်း အနှံ့ အပြားကျော်
၂ စော၏။ ထိုသို့ပြုသော သူကိုသင်တို့အထဲမှနှင်ထုတ်လိုသောငှါစိတ်
မသာ။ ညည်းတွားခြင်းမရှိ စေဘဲလျှက် မာနထောင် လွှားခြင်းရှိကြ
၃ ၏။ ထိုကြောင့်ငါသည်ကိုယ်ခန္ဓာအားဖြင့်သင်တို့ နှင့် ကွာလျက်ရှိ
သော်လည်း ဝိညည်အားဖြင့်မကွာသည်ဖြစ်၍ငါကိုသင်တို့ဆီ မှာရှိ
၄ သကဲ့သို့ ထိုသို့ ကျင့်သော သူကိုယခုပင် စီရင်ပြီး။ စီရင် ချက် ဟူမူ
ကား။သင်တို့သည်ငါတို့သခင်ယေရှုခရစ်၏အခွင့်နှင့်ငင်ငါ၌ရှိသော
ဝိညည်တော်၏အခွင့်နှင့်ငင်စည်းဝေးပြီးမှငါတို့သခင်ယေရှုခရစ်၏

၅ တန်ခိုးတော်ကိုအမှီပြု၍ ထိုသူ၏ဝိညာဉ်သည်ယေရှုခရစ်၏နေ့ရက်
၌ကယ်တင်ခြင်းသို့ရောက်မည်အကြောင်း။ သူ၏ကိုယ်ခန္ဓာ ပျက်စီး
၆ မှုရာသူကိုစာတန်လက်သို့အပ်နှံ ရစေဟုငါစီရင်၏။ သင်တို့၏ကြွား
ဝါခြင်းမကောင်းမသင့် ဖြစ်၏။ အနည်းငယ် သော တဆေးသည်မုန့်
၇ စိမ်းတပုံလုံးကိုကြွစေတတ်သည်ကိုသင်တို့မသိလော။ သင်တို့သည်
တဆေးမဲ့ဖြစ်သည်နှင့်အညီအသစ်သောမုန့်တပုံဖြစ်မည်အကြောင်း။
ဟောင်းသော တဆေး ကိုသုတ် သင် ပယ် ရှင်းကြလော့။ အကြောင်းမူ
ကား။ခရစ်တော်တည်းဟူသောငါတို့ပသခါသိုးသငယ်သည်ငါတို့အ
၈ မှုယဇ်ပူဇော်ရာ ဖြစ်၏။ ထိုကြောင့်ဟောင်းသောတဆေးကိုဌင်ဆိုး
ညစ်မိုက်မဲခြင်းတဆေးကိုဌင်ပယ်ပြစ်၍တဆေးမဲ့မုန့်တည်းဟူသော
၉ ကြည်ဖြူခြင်း။သစ္စာစောင့်ခြင်းနှင့်ပွဲခံကြစို့။ ။သင်တို့
သည်မတရားသောမေထုန် ၌ မှီဝဲ သော သူတို့နှင့် မပေါင်းဖော်မည်အ
၁၀ ကြောင်း။အထက်ဩဝါဒစာ၌ငါရေးထားခဲ့ပြီ။ ထိုသို့ရေးထားသော်
မတရားသောမေထုန်၌မှီဝဲခြင်း။လောဘလွန်ကျူးခြင်း။ အနိုင်အထက်
လုယူခြင်း။ ရုပ်တု ကို ကိုးကွယ်ခြင်း ပြုသောလောကီ သားတို့ နှင့် အ
လျှင်းမပေါင်းဖော်ရဟုမဆိုလို။ထိုသို့ဆိုလျှင်သင် တို့ သည် လောကီမှ
၁၁ ထွက်သွားရ၏။ ယခုမူကား ညီအစ်ကိုဟုခေါ်ဝေါ်သော သူသည်မတ
ရားသောမေထုန်၌မှီဝဲခြင်း။ လောဘလွန်ကျူးခြင်း။ ရုပ်တု ကိုးကွယ်
ခြင်း။ ဆဲ ရေး ကဲ့ရဲ့ ခြင်း။ သေရည် သေ ရက်နှင့်ရစ်မူးခြင်း။ အနိုင်အ
ထက်လုယူခြင်းမှစ၍ထိုသို့သောအမှုကိုပြုသော သူ နှင့်မပေါင်းဖော်
ရသည်သာမကထိုသူနှင့်အတူစားသောက်ခြင်းကိုစွကို မျှ မ ပြု ရဟု
၁၂ ငါရေးထား၍ပညတ်၏။ ပြင်လူတို့ကိုစီရင်ခြင်းအမှုနှင့် ငါသည်အ
ဘယ်သို့ဆိုင်သနည်း။အတွင်းလူတို့ကို သင်တို့ စီရင် ရသည် မဟုတ်
၁၃ လော။ ပြင်လူတို့ကိုဘုရားသခင်စီရင်တော်မူလိမ့်မည်။သို့ဖြစ်၍ထို
ဆိုးညစ်သော သူကိုသင်တို့အထဲမှနှင်ထုတ်ကြလော့။

**

၁ သင်တို့သည်အချင်းချင်းအမှုရှိလျှင်သန့်ရှင်းသူတို့ရှေ့ ၌ တရားစီရင်
ခြင်းကိုမခံဘဲသာသနာပလူတို့ရှေ့၌ခံဝံ့သော သူတစုံတယောက်ရှိသ
၂ လော။ သန့်ရှင်းသူတို့သည်လောကီနိုင်ငံကိုတရားစီရင်မည်ဟုသင်
တို့မသိလော။သင်တို့သည်လောကီနိုင်ငံကိုစီရင်ရသည် မှန် လျှင် အ
၃ ငယ်ဆုံးသောအမှုများကိုမစီရင်ထိုက်သလော။ ငါတို့သည်ကောင်း

ကင်တမန်တို့ကိုတရားစီရင်မည်ဟုသင်တို့မသိလော။ သို့ဖြစ်၍လော
၄ ကီအမှုကိုစီရင်ထိုက်သည် မဟုတ်လော။ ထိုကြောင့် သင် တို့ သည်
လောကီအမှုကိုစီရင်စရာရှိလျှင်အသင်းတော်၌ အသရေနည်းသော
၅ သူတို့ကိုတရားသူကြီးအရာ၌ခန့်ထားကြလော။ သင်တို့ရှက်စရာအို့
၆ ငါပြော၏။သင်တို့တွင်ပညာရှိကစုံတယောက်မျှမရှိသလော။ ညီ
အစ်ကိုချင်းတို့၏အမှုကိုစီရင်ဆုံးဖြတ်နိုင်သော သူတစုံကယောက်မျှ
မရှိသလော။ ညီအစ်ကိုချင်းတို့သည် တရားတွေ့ သည် သာမက မယုံ
၇ ကြည်သောသူတို့ရှေ့၌တရားတွေ့ပါသည်တကား။ထိုသို့သင်တို့သည်
အချင်းချင်း တရားတွေ့ သည် အမှု မှာ အပြစ် ထင်ရှား ရှိ၏။ တရားမ
တွေ့ဘဲညှဉ်းဆဲခြင်းကိုအဘယ်ကြောင့်မခံ သ နည်း။ ကိုယ်ဥစ္စာရှုံး
၈ ခြင်းကိုအဘယ်ကြောင့်မခံသနည်း။ ထိုသို့ သင် တို့သည် မခံဘဲ ညီ
အစ်ကိုချင်းပင်တယောက်ကိုတယောက်ညှဉ်းဆဲ၍ညီ အစ် ကိုချင်း
၉ ဥစ္စာကိုသိမ်းယူကြသည်တကား။ မတရားသောသူ တို့သည်ဘုရား
သခင်၏နိုင်ငံတော်ကိုအမွေမခံ ရသည် ကိုသင်တို့မသိလော။ ကိုယ်
လှည့်စားခြင်းမရှိကြနှင့်။ မတရားသောမေရန်၌မှီဝဲသောသူ။ ရုပ်တု
ကိုကိုးကွယ်သောသူ။သူမယားကိုပြစ်မှားသောသူ။ယောက်ျားချင်း
၁၀ မေရန်ပြုသောသူ။ သူဥစ္စာကိုခိုးသောသူ။ လောဘလွန်ကျူးသော
သူ။သေရည်သေရက်နှင့်ရစ်မူးသောသူ။ဆဲရေးကဲ့ရဲ့သောသူ။ အနိုင်
အထက်လုယူသောသူတို့သည်ဘုရားသခင်၏နိုင်ငံတော်ကိုအမွေမ
၁၁ ခံရ။ အထက်ကသင်တို့တွင်အချို့သောသူတို့သည်ထိုသို့သောသူဖြစ်
ကြသော်လည်း ယခု တွင် သခင် ယေရှု၏ နာမတော်အားဖြင့်၎င်ငါတို့
ဘုရားသခင်၏ဝိညာဉ်တော်အားဖြင့်၎င် ဆေးကြော သန့်ရှင်း၍ အ
၁၂ ပြစ်လွှတ်ခြင်းသို့ရောက်ကြပြီး။ ။အပြစ်မသင့်ဘဲလျှောက်
ခပ်သိမ်းသောအမှုအရာကိုပြုနိုင်သည်မှန်စေတော့။ ခပ်သိမ်းသော်အ
မှုအရာကိုပြုသင့်သည်မဟုတ်။ အပြစ်မသင့်ဘဲ လျှောက် ခပ်သိမ်း သော
အမှုအရာကိုပြုနိုင်သည်မှန်စေတော့။အဘယ်အမှုအရာ၌မျှငါကျွန်မခံ။
၁၃ အစားအသောက်တို့သည်ဝမ်းအဖို့။ ဝမ်းသည်လည်း အစားအသောက်
တို့အဖို့ဖြစ်သည်မှန် စေတော့။ ဘုရားသခင်သည် နှစ်ပါးစလုံးကိုဖျ
က်ဆီးတော်မူလိမ့်မည်။ ကိုယ်ခန္ဓာသည် မတရားသောမေရန်အဖို့မ
ဟုတ်။သခင်ဘုရားအဖို့ဖြစ်၏။သခင်ဘုရားသည်လည်း ကိုယ်ခန္ဓာ
၁၄ အဖို့ဖြစ်တော်မူ၏။ ဘုရားသခင်သည် တန်ခိုးတော်အားဖြင့်သခင်

ဘုရားကိုထမြောက်စေတော်မူသည် ဖြစ်၍ ငါတို့ကိုလည်း ထမြောက်
၁၅ စေတော်မူလတံ့။ သင်တို့ ကိုယ်ခန္ဓာသည်ခရစ်တော် ၏အင်္ဂါ ဖြစ်
ကြောင်းကိုသင်တို့မသိလော။သို့ဖြစ်လျှင်ခရစ်တော်၏အင်္ဂါကိုယူ၍
ပြည်တန်ဆာ၏အင်္ဂါဖြစ်စေအပ် သလော ။မဖြစ်စေအပ်။ အဘယ်
၁၆ သို့နည်း။ပြည်တန်ဆာနှင့်မှီဝဲသောသူသည်ထိုပြည်တန်ဆာနှင့်တသါး
တကိုယ်တည်းဖြစ်ကြောင်း ကိုသင်တို့ မသိလော။ ထိုသူနှစ်ယောက်
တို့သည် တသား တကိုယ် တည် ဖြစ် ရလိမ့်မည် ဟုကျမ် စာလာ၏။
၁၇ သခင်ဘုရားနှင့်မှီဝဲသောသူမူကားထိုသခင်နှင့်တစိတ်တဝိညာဉ်တည်း
၁၈ ဖြစ်၏။ မတရား သောမေထုန် ကိုကြဉ် ရှောင်ကြလော့။ လူပြုတတ်
သောအခြားဒုစရိုက်ရှိသမျှတို့သည်ကိုယ်ပြင်၌ရှိ၏။ မတရားသော
၁၉ မေထုန်၌မှီဝဲ သောသူသည် မိမိ ကိုယ်ကိုပင်ပြစ်မှား၏။ အဘယ်သို့
နည်း။သင် တို့ကိုယ် ခန္ဓာ သည်ကား ဘုရား သခင်ပေးသနား တော်မူ
သဖြင့်သင်တို့ အထဲ၌ကျိန်းဝပ်၍ သန့်ရှင်းသော ဝိညာဉ် တော်၏ဗိတ်
မှာန်ဖြစ်ကြောင်း ကိုငှင် မိမိတို့ ကို မိမိ မပိုင်ကြောင်း ကိုငှင်သင်တို့မ
၂၀ သိသလော။ သင်တို့သည်အဖိုးနှင့်ဝယ်အပ်သော သူဖြစ်သော့ကြော
င့်မိမိကိုယ်ခန္ဓာအားဖြင့်ဘုရားသခင် ဂုဏ်တော် ကို ထင်ရှားစေကြ
လော့။

❋❋

၁ သင်တို့သည်ငါ့ဆီသို့ပေးလိုက်သောစါ၌ပါသေါအရာမှာ။ ယောက်ျား
၂ သည် မိန်မနှင့် မဆက်ဆံဘဲနေ ကောင်း ၏။ သို့သော် လည်း မတရား
သော မေထုန်ကိုရှောင်ရအောင်ယောက်ျားတိုင်းမိမိမယား၊ မိန်မတိုင်း
၃ မိမိလင်ရှိစေတော့။ ယောက်ျားသည် မိမိမယားအား မယားဝတ်ကို
ပြုစေတော့။ ထိုနည်းတူ။ မိန်မသည်လည်း မိမိလင်အားလင်ဝတ်ကိုပြု
၄ စေတော့။ မိန်မသည် မိမိကိုယ် ကိုမပိုင်။ လင်ကပိုင်၏ ထိုနည်း တူ။
ယောက်ျားသည်မိမိကိုယ် ကို မပိုင်။ မယားကပိုင်၏။ အချင်း ချင်း
၅ ခင်ပွန်းဝတ်ကိုမပယ်ကြနှင့်။ထိုသို့ဆိုသေါ်ဆုတောင်းခြင်းဝတ်ကိုပြု
သောအခွင့်ရှိရအောင်သဘောတူ၍ခင်ပွန်းဝတ်ကိုခဏမပယ်ရဟု
မဆိုလို။ထိုသို့ပယ်လျှင်ကိုယ်ကိုကိုယ် မချုပ်တည်းနိုင်ခြင်းအားဖြင့်
စာတန်သည် အပြစ်သွေးဆောင်သောအခွင့်မရှိရအောင် နောက်တ
၆၊၇ ဖန်အတူနေကြလော့။ ။လူအားလုံးတို့သည်ငါကဲ့သို့နေစေခြင်းငှါ
ငါအလိုရှိ၏။ သို့သော်လည်းလူအသီးအသီးတို့သည်ဘုရားသခင်ပေး

သနားတော်မူသည်အတိုင်း အသီးအသီးသောဆုကျေးဇူး ကို ခံရကြ
၈ ၏။ ထိုကြောင့်မယားမရှိသောသူတို့ကိုရင်မုတ်ဆိုးမတို့ကိုငါပညတ်
အားဖြင့်မဟုတ်ဘဲအခွင့်ပေးခြင်းအားဖြင့်သာငါဆိုသည်ကား။ ထို
၉ သူတို့သည်ငါကဲ့သို့နေလျှင်ကောင်း၏။ ကာမဂုဏ်ကိုမချုပ်တည်း
နိုင်လျှင်ထိမ်းမြားအိမ်ထောင်ခြင်းကိုပြုပါလေစေ။ကိလေသာစိတ်ပူ
ပန်ခြင်းရှိသည်ထက်ထိမ်းမြားအိမ်ထောင်ခြင်းပြုသော်သာ၍ကော
၁၀ င်း၏။ ။ခင်ပွန်းရှိသောသူတို့ကိုလည်းငါပညတ်သည်သာမက
သခင်ဘုရားပညတ်တော်မူသည်ကား။မယားသည်မိမိခင်ပွန်းကိုမ
၁၁ စွန့်ပြစ်စေနှင့်။စွန့်ပြစ်လျှင်ခင်ပွန်းမရှိဘဲနေစေ။သို့မဟုတ်။ခင်ပွန်း
ဟောင်းဆီသို့ပြန်၍အသင့်အတင့်နေအောင်ပြုစေ။ ယောကျ်ားသည်
၁၂ လည်းမိမိမယားနှင့်မကွာစေနှင့်။ ။ကြွင်းသောသူတို့ကိုသခင်
ဘုရားကိုယ်တိုင် မပညတ်ဘဲငါပညတ်သည်ကား။ ညီအစ်ကို မည်
သည်ကားမယုံကြည်သောမယားရှိ၍ထိုမယားသည်သူနှင့်နေခြင်းငှါ
၁၃ အလိုရှိလျှင်မကွာစေနှင့်။ ထိုနည်းတူ။မိမ္မမည်သည်ကား မယုံကြည်
သောခင်ပွန်းရှိ၍ ထိုခင်ပွန်းသည် သူနှင့် နေခြင်းငှါအလိုရှိလျှင်မ
၁၄ ကွာစေနှင့်။ အကြောင်းမူကား။မယုံကြည်သောလင်သည်မိမိမယားအ
မှီစင်ကြယ်၏။မယုံကြည်သောမယားသည်လည်းမိမိလင်အမှီစင်ကြယ်
၏။သို့မဟုတ်၊သင်တို့၏သားသမီးသည်မစင်ကြယ်။ယခုတွင်စင်ကြယ်
၁၅ ကြ၏။ သို့သော်လည်းမယုံကြည်သောသူသည်ကွာသွားလိုလျှင်ကွာ
သွားပါလေစေ။ ထိုသို့ပြုလျှင်တပည့်တော်သည်ယောကျ်ားဖြစ်စေ။
မိမ္မဖြစ်စေ။ချည်နှောင်ခြင်းမရှိ။ငါတို့သည်အသင့်အတင့်နေစေခြင်းငှါ
၁၆ ဘုရားသခင်၏ပညတ်တော်ရှိ၏။ အချင်းမိမ္မ။သင်သည် ကိုယ်ခင်
ပွန်းကိုကယ်တင်မည် မကယ် တင်မည် ကိုအဘယ် သို့သိသနည်း။ အ
ချင်း ယောကျ်ား။ သင်သည် ကိုယ် ခင်ပွန်း ကိုကယ် တင်မည် မကယ်
၁၇ တင်မည်ကိုအဘယ်သို့သိသနည်း။ ။သခင်ဘုရားသည်လူအ
သီးအသီးတို့အားဝေငှတော်မူ၍ဘုရားသခင်သည်လူအသီးအသီး
တို့ကိုခေါ်တော်မူသည်နှင့်လျော်စွာလူတိုင်းကျင့်နေစေ။ခပ်သိမ်းသော
အသင်းတော်တို့ကိုထိုသို့ငါပညတ်၏။ ဇာတ်သွင်းမင်္ဂလာခံသောသူ
၁၈ သည်ခေါ်တော်မူခြင်းကျေးဇူးကိုခံရလျှင်ဇာတ်သွင်းမင်္ဂလာကိုမစွန့်
စေနှင့်။ဇာတ်သွင်းမင်္ဂလာမခံသောသူသည်ခေါ်တော်မူခြင်းကျေးဇူး
၁၉ ကိုခံရလျှင်ဇာတ်သွင်းမင်္ဂလာကိုမခံစေနှင့်။ ဇာတ်သွင်းမင်္ဂလာခံ

သောအားဖြင့်အကျိုးမရှိ။မခံဘဲနေသော အားဖြင့်လည်း အကျိုးမရှိ။
၁၉ ဘုရားသခင်၏ ပညတ်တော်တို့ကိုစောင့်ရှောက်သောအားဖြင့်သာ
၂၀ အကျိုးရှိ၏။ လူတိုင်းသည်ခေါ်တော်မူခြင်းကျေးဇူးကိုခံရ၍အကြင်
၂၁ သို့လုပ်နေ၏။ ထိုသို့လုပ်နေစေ။ အစေခံကျွန်ဖြစ်၍ ခေါ်တော်မူခြင်း
ကျေးဇူးကို ခံလျှင်စိုးရိမ်ခြင်းမရှိနှင့်။ သို့သော်လည်း လွတ်ခြင်းသို့
၂၂ ရောက်နိုင်လျှင်လွတ်သောအခွင့်ကိုသာ၍သုံးဆောင်လော့။ အ
ကြောင်းမူကား။ကျွန်ဖြစ်လျက်သခင်ဘုရားခေါ်တော်မူခြင်းကိုခံ
သောသူသည် သခင်ဘုရား၏ လူလွတ်ဖြစ်၏။ ထိုနည်းတူ။ လူလွတ်
ဖြစ်လျက်ခေါ်တော်မူခြင်းကိုခံသောသူသည် ခရစ်တော်၏ကျွန်ဖြစ်
၂၃ ၏။ သင်တို့သည်အဖိုးနှင့်ဝယ်အပ်သောသူဖြစ်၍လူ့ထံအလိုလိုကျွန်
၂၄ မခံနှင့်။ ညီအစ်ကိုတို့။လူတိုင်းခေါ်တော်မူခြင်းကိုခံ၍အကြင်သို့လုပ်
နေ၏။ထိုသို့ဘုရားသခင်ရှေ့၌လုပ်နေစေ။



၂၅ ခင်ပွန်းမရှိဘူးသောသူတို့မှာသခင်ဘုရား၏ ပညတ်တော်ငါ၌မရှိ။
သို့သော်လည်းငါသည်သစ္စာရှိသောသူဖြစ်ရအောင်သခင်ဘုရား၏
၂၆ ကျေးဇူးတော်ကိုခံသောသူကဲ့သို့ငါစီရင်၏။ စီရင်ချက်ဟူမူကား။ယခု
၂၇ ခုညှဉ်းဆဲခြင်းအကြောင်းကြောင့်ခင်ပွန်းမရှိဘဲနေကောင်း၏။ သင်
သည်မယားရှိလျှင်လွတ်ခြင်းငှါမကြံစည်နှင့်။မယားနှင့်လွတ်လျှင်မ
၂၈ ယားကိုမရှာနှင့်။ သို့သော်လည်းသင်သည်မယားယူလျှင်အပြစ်မ
ရှိ။လင်မယူဘူးသောမိန်းမသည်လည်းလင်ယူလျှင်အပြစ်မရှိ။သို့သော်
လည်းထိုသို့ပြုသောသူတို့သည်လောကီညှဉ်းဆဲခြင်းဒုက္ခကိုခံရမည်။
၂၉ ဤအရာ၌ကြပ်တည်းစွာသောပညတ်ကိုငါမထားလို။ ညီအစ်ကိုတို့။
ငါဆိုသည်ကား။ လောကီအချိန်ကာလသည်တခဏသာဖြစ်၏။ ထို
၃၀ ကြောင့်မယားရှိသောသူတို့သည်မယားမရှိသကဲ့သို့ဖြစ်ရ၏။ ငို
ကြွေးသောသူတို့သည်မငိုကြွေးသကဲ့သို့ဖြစ်ရ၏။ ဝမ်းမြောက်သော
သူတို့သည်ဝမ်းမမြောက်သကဲ့သို့ဖြစ်ရ၏။ဥစ္စာဝယ်သောသူတို့သည်
၃၁ အလျှင်းမရှိသကဲ့သို့ဖြစ်ရ၏။ ဤလောကကိုသုံးသောသူတို့သည်
လွန်ကျူး၍မသုံးသကဲ့သို့ဖြစ်ရ၏။ အဘယ်ကြောင့်နည်းဟူမူကား။
ဤလောက၏အဆင်းသဏ္ဌာန်သည်ရွေ့သွားကွယ်ပျောက်တတ်၏။
၃၂ သင်တို့သည်စိုးရိမ်ခြင်းနှင့်ကင်းလွတ်စေခြင်းငှါငါအလိုရှိ၏။ အိမ်မ
ထောင်သောသူသည်သခင်ဘုရားစိတ်တော်သာအောင်သခင်ဘုရား

၃၃ ၏အမှုကိုသာသတိထားတတ်၏။ အိမ်ထောင်သောသူမူကား မိမိမယား
၃၄ စိတ်သာအောင်လောကီအမှုကိုသတိထားတတ်၏။ ထိုနည်းတူ။အိမ်
ထောင်သောမိန်းမနှင့်အိမ်မထောင်သောမိန်းမသည်ချားနားခြင်းရှိ၏။အိမ်
မထောင်သောမိန်းမသည်ကိုယ်ခန္ဓာစိတ်ဝိညာဉ်နှစ်ပါးသန့်ရှင်းရအောင်
သခင်ဘုရား၏အမှုကိုသာသတိထားတတ်၏။အိမ်ထောင်သောမိန်းမမူ
ကားမိမိခင်ပွန်းစိတ်သာအောင်လောကီအမှုကိုသတိထားတတ်၏။
၃၅ ထိုသို့ငါဆိုသော်သင်တို့အကျိုးကိုသာထောက်၍ဆို၏။သင်တို့ကိုနှော
င့်ရှက်ချင်သောစိတ်နှင့်ဆိုသည်မဟုတ်။သင်တို့သည်လျောက်ပတ်စွာ
ကျင့်၍ စိတ်ရှုတ်ထွေးခြင်းမရှိဘဲသခင်ဘုရား၏ဝတ်ကို အမြဲပြုစေ
၃၆ ခြင်းငှါသာဤသို့ဆို၏။ ။အကြင်သူသည်ကိုယ်အသက်ကြီး၍
အိမ်မထောင်ဘဲနေလျှင်မလျောက်ပတ်ဟုကိုယ်ထင်၍အိမ်ထောင်စရာ
အကြောင်းလည်းရှိ၏။ထိုသူသည်အလိုအတိုင်းပြုပါလေစေ။အပြစ်မ
၃၇ ရှိ။အိမ်ထောင်ပါလေစေ။ သို့သော်လည်းမိမိစိတ်နှစ်လုံးတည်ကြည်
ခြင်းရှိ၍ပြုလိုသည်အတိုင်းပြုနိုင်သောအခွင့်။ကိုယ်စိတ်အလိုကိုချုပ်
တည်းနိုင်သောအခွင့်ရှိသည်ဖြစ်၍အိမ်မထောင်ဘဲနေမည်ဟုကိုယ်
၃၈ စိတ်နှစ်လုံးထဲမှာစီရင်ဆုံးဖြတ်သောသူသည်ကောင်းစွာပြု၏။ သို့
ဖြစ်၍အိမ်ထောင်သောသူမူကားကောင်းစွာပြု၏။အိမ်မထောင်သော
၃၉ သူမူကားသာ၍ကောင်းစွာပြု၏။ ။မိန်းမသည်မိမိခင်ပွန်းမ
သေမှီကာလပတ်လုံးချည်နှောင်လျက်ဖြစ်၏။ခင်ပွန်းသေလျှင်မူကား
မိမိအလိုအတိုင်း သခင်ဘုရား၌ သာအချင်းသောသူ၏မယားဖြစ်
၄၀ ခြင်းငှါအခွင့်ရှိ၏။ အခွင့်ရှိသော်လည်းအချင်းသောသူ၏မယားမ
ဖြစ်ဘဲနေလျှင်သာ၍ မင်္ဂလာရှိ၏ဟုငါသဘောရှိ၏။ ငါ၌လည်းဘု
ရားသခင်၏ဝိညာဉ်တော်ရှိတော်မူသည်ဟုငါစွဲလမ်းခြင်းစိတ်ရှိ၏။
၁ ။ရုပ်တုရှေ့ပူဇော်သောယဇ်ကောင်အရာမှာ။ငါတို့အားလုံး
သည်ပိုင်းချားတတ်သောဉာဏ်ရှိသည်ကို ငါတို့သိကြ၏။ ဉာဏ်
သည်ထောင်လွှားစေတတ်၏။ မေတ္တာသည်တည် ဆောက်တတ်၏။
၂ အကြင်သူသည်ငါကားပညာရှိဖြစ်သည်ဟူ၍စိတ်ထင်၏။ထိုသူသည်
၃ သိအပ်သည်အတိုင်းအလျှင်းမသိသေး။ ဘုရားသခင်ကိုချစ်သော
၄ သူမည်သည်ကားဘုရားသခင်ကိုသိ၏။ ရုပ်တုရှေ့ပူဇော်သောယဇ်
ကောင်ကို စားခြင်းအရာမှာ။ ရုပ်တုသည် ဤလောက၌ အချည်းနှီး
သက်သက်ဖြစ်သည်ကို ငါတို့သိ၏။ တဆူတည်းသောဘုရားသခင်မှတပါးအ

၅ ဘယ်ဘုရားသခင်မျှမရှိသည်ကိုငါတို့သိကြ၏။ ဘုရားများ။ အ
ရှင်များဟုဆိုသည့်အတိုင်းကောင်းကင်ပေါ်။ မြေကြီးပေါ်မှာဘုရား
၆ ဟူ၍ခေါ်ဝေါ်သမုတ်သောသူအများရှိသော်လည်း အကြင်ဘုရားသ
ခင်အထဲကခပ်သိမ်းသောအရာဖြစ်၍အကြင်ဘုရားသခင်အဖို့အလို့
ငှါငါတို့သည်ဖြစ်၏။ထိုခမည်းတော်ဘုရားသခင်တပါးတည်းငါတို့၌
ရှိတော်မူ၏။အကြင်သခင်အားဖြင့်ငါတို့မှစ၍ခပ်သိမ်းသောအရာ
၇ ဖြစ်၏။ထိုသခင်ယေရှုခရစ်တပါးတည်း ငါတို့၌ရှိတော်မူ၏။ သို့
သော်လည်းထိုညာဏ်ကိုလူတိုင်းမရ။အချို့သောသူတို့သည် ယခုတိုင်
အောင်ရုပ်တုရှေ့ပူဇော်သောယဇ်ကောင်ကို စားလေသော် ရုပ်တုကို
ထောက်သောစိတ်နှင့်စားသည်ဖြစ်၍သူတို့၌ကိုယ်ကိုကိုယ်သိသော
စိတ်သည်အားနည်းသောကြောင့်ညစ်ညူးခြင်းသို့ရောက်တတ်၏။
၈ ။အစားအသောက်အားဖြင့်ဘုရားသခင်မျက်နှာကိုရသည်မ
ဟုတ်။ အစားကို သုံးကာမျှဖြင့်မြတ်သည်မဟုတ်။ ရှောင်ကာမျှဖြင့်
၉ ယုတ်သည်မဟုတ်။ သို့သော်လည်းသင်တို့အခွင့်သည် အားနည်း
သောသူတို့စိတ်ပျက်စရာအကြောင်းမဖြစ်ရအောင်သတိပြုကြလော့။
၁၀ အကြောင်းမူကား။သင်သည်ပိုင်းချားတတ်သောညာဏ်ရှိလျက်ပင်
ရုပ်တုစင်ထဲ၌စားပွဲနားမှာ ထိုင်နေသည်ကိုသူတပါးမြင်လျှင်ကိုယ်
ကိုကိုယ်သိသောစိတ်အားနည်းသောသူသည်ရုပ်တုရှေ့ပူဇော်သော
၁၁ ယဇ်ကောင်ကိုစားခြင်းငှါရဲမည် မဟုတ်လော။ ထိုသို့ဖြစ်လျှင်အ
ကြင်ညီအစ်ကိုအဖို့အလို့ငှါခရစ်တော်သည်အသေခံတော်မူ၏။ အား
နည်းသော ထိုညီအစ်ကိုသည်သင်ညာဏ်ကြောင့်ပျက်စီး ခြင်းသို့
၁၂ ရောက်ပါသည်တကား။ သင်တို့သည်ညီအစ်ကိုတို့ကိုထိုသို့ပြစ်မှား
၍သူတို့၌ကိုယ်ကိုကိုယ်သိသော။အားနည်းသောစိတ်ကိုထိခိုက် သော်
၁၃ အခါခရစ်တော်ကိုလည်းပြစ်မှားသော်၏။ သို့ဖြစ်၍ငါအစားအသော
က်ကြောင့်ငါညီအစ်ကိုစိတ်ပျက်လျှင်ငါညီအစ်ကိုစိတ် ပျက်စရာအ
ကြောင်းမရှိရအောင်အမဲသားကိုအစဉ်မပြတ်ရှောင်မည်။

❋❋

၁ ငါပေါလုသည်ကျွန်မဟုတ်။ လူလွတ်ဖြစ်သည်မဟုတ်လော။တမန်တော်
၂ ဖြစ်သည်မဟုတ်လော။ငါတို့သခင်ယေရှုခရစ်ကိုမြင်ပြီးမဟုတ်လော။
ငါသည်သခင်ဘုရား၌လုပ်သောအလုပ်ကားသင်တို့ပင်ဖြစ်သည်မ
ဟုတ်လော။ငါသည်အခြားသောသူတို့အားတမန်တော်မဖြစ်။ ဟုတ်စေ

ဆော့၊သင်တို့အားတမန်တော်အမှုန်ဖြစ်၏။အဘယ်ကြောင့်နည်းဟူမူ
ကား၊သင်တို့သည်အဖည့်ဘော်ဖြင်သည့်အကြောင်းမှာငါသည်တမန်
၃ တော်ဖြစ်ခြင်းထံဆိပ်ခတ်ပေသတည်း။ငါ့ကိုစစ်ဆေးစေခြင်းသော်လာသူ
၄ ၅ တို့အားငါအပြစ်ဖြေရာစကားဟူမူကား၊ငါတို့သည်စားသောက်ခြင်း
အခွင့်မရှိသလော၊ကေဖနှင့်သခင်ဘုရား၏ညီများမှစ၍ကြွင်းသောတ
မန်တော်များကဲ့သို့ ငါတို့သည်ဒေသစာရီလှည့်လည်သည့်တွင်နှမဖြစ်
၆ သောမယားပါခြင်းငှါအခွင့်မရှိသလော၊ ငါနှင့်ဗာနာဗနှစ်ယောက်တည်း
၇ သာအလုပ်လုပ်ရသလော၊အဘယ်သူသည်ကိုယ်စရိတ်သုံး၍စစ်မှုကို
ထမ်းရသနည်း၊အဘယ်သူသည်ဥယျာဉ်ကိုစိုက်၍အသီးကိုမစားဘဲနေရ
သနည်း။အဘယ်သူသည်သိုးထိန်းလုပ်၍သိုးနို့ကိုမသုံးဘဲနေရသနည်း။
၈ ။လောကီဝေါဟာရအားဖြင့်သာဤသို့ငါဆိုသလော။ပညတ်တ
၉ ရားသည်လည်း ဤသို့ပင်ဆိုသည်မဟုတ်လော။ မောရှေ၏ပညတ်ကို
ကျမ်းစာ၌လာသည်ကား၊စပါးနင်းသောနွား၏နှုတ်ကို ချုပ်နှောင်
နှင့်ဟုလာ၏။ဘုရားသခင်သည်နွားကိုသာသတိပြုတော်မူသလော၊
၁၀ သို့မဟုတ်၊ငါတို့ကြောင့်သာဤသို့ပညတ်တော်မူသလော၊ လယ်ထွန်
သောသူသည်မျှော်လင့်ခြင်းနှင့်တကွထွန်ရအောင်၎င်စပါးနင်းသော
သူသည်မျှော်လင့်ခြင်းနှင့်မကင်းမလွတ်ရအောင်၎င်ငါတို့ကြောင့်သာ
၁၁ ဤသို့ကျမ်းစာလာ၏။ ငါတို့သည်သင်တို့၌မွေမျိုးစေ့ကိုစိုက်ပြီးမှသင်
၁၂ တို့၏လောကီအသီးကိုသုံးဆောင်လျှင်ကျေးဇူးကြီးမည်လော။ အ
ခြားသောသူတို့သည်သင်တို့ဆီမှာထိုအခွင့်ကိုရလျှင်ငါတို့သည်သာ
၍ရထိုက်သည်မဟုတ်လော။သို့သော်လည်းထိုအခွင့်ကိုငါတို့သည်မ
သုံးဘဲခရစ်တော်၏ဧဝံဂေလိတရားကိုဆီးတားခြင်း အကြောင်းမရှိ
၁၃ ရအောင်အရာရာ၌သည်းခံကြ၏။ မွေကိစ္စအမှုကိုဆောင်ရွက်သော
သူ တို့ သည် ဗိတ်မှာန် တော် ကို အမှီပြု၍ စားရသည် ကို၎င်ယဇ်ပူ
ဇော်ခြင်းအမှုကိုဆောင်ရွက်သောသူတို့သည်ယဇ်ပလ္လင်နှင့်ဆက်ဆံ
၁၄ ၍စားရသည်ကို၎င်သင်တို့မသိလော။ ထိုနည်းတူ။ဧဝံဂေလိတရား
ကိုဟောသောသူတို့သည်ဧဝံဂေလိတရားကို အမှီပြု၍အသက်မွေးရ
မည်အကြောင်း။သခင်ဘုရားပညတ်တော်မူချက်ရှိ၏။ ။
၁၅ သို့သော်လည်းထိုအခွင့်ကိုငါအလျှင်းမသုံး။ သင်တို့သည် ငါ့အားထို
သို့ပြုစေခြင်းငှါဤစကားကိုငါရေးထားသည်မဟုတ်။ အဘယ်ကြော
င့်နည်းဟူမူကား။ငါကြွားဝါခြင်းအကြောင်းကိုသူတပါးဖျက်ဆီးသည်

၁၆ ထက်ငါသေသေ်ာသာ၍ကောင်း၏။ ငါသည်ဝေံဂေလိတရားကိုဟော
ရုံပြုလျှင်ကြွားဝါခြင်းအကြောင်းမရှိသေး။အဘယ်ကြောင့်ခုည်းဟူမူ
၁၇ ကား။မဟောဘဲမနေနိုင်။မဟောဘဲနေလျှင်အမင်္ဂလာရှိ၏။ သို့ဖြစ်၍
အမှုတော်ကိုအလိုလိုဆောင်ရွက်လျှင်အကျိုးရှိ၏။ ကိုယ်အလိုကိုဆန့်
၁၈ ၍ဆောင်ရွက်လျှင်အရာတော်၌ခန့်ထားသောသူဖြစ်ရုံရှိ၏။ သို့ဖြစ်
၍ငါအကျိုးအဘယ်သို့ခုည်းဟူမူကား။ ဝေံဂေလိတရားကိုဟောသေါ
အခါဟောခြင်းနှင့်စပ်ဆိုင်သောအခွင့် ကို မသုံးလွန်းဘဲလျှက်ခရစ်
တော်၏ဝေံဂေလိတရားကိုနာသောသူတို့သည်အဘယ် စရိတ် ကို မျှ
၁၉ မကုန်ဘဲနာရအောင်ပြုလျှင်ငါအကျိုးရှိ၏။ ။ငါသည်အဘယ်
သူ၏ကျွန်မဖြစ်သော်လည်းသာ၍များသောသူတို့ကို ရခြင်းငှါလူတ
၂၀ ကာတို့၏ကျွန်ခံ၏။ ယုဒလူတို့ကိုရခြင်းငှါယုဒလူတို့၌ယုဒလူကဲ့သို့
ငါဖြစ်၏။ ပညတ်တရားကို ကိုယ်မဆည်းကပ်သော်လည်းပညတ်တ
ရားကိုဆည်းကပ်သောသူတို့ကိုရခြင်းငှါပညတ်တရားကိုဆည်းကပ်
၂၁ သောသူတို့၌ပညတ်တရားကိုကျင့်သောသူကဲ့သို့ငါဖြစ်၏။ ငါကိုယ်
သည် ဘုရားသခင် ရှေ့ တရား မဲ့မနေ။ ခရစ် တော် ၏တရား ကို ကျင့်
သောသူဟုတ်သော်လည်းပညတ်တရားမဲ့သောသူတို့ ကို ရခြင်း ငှါပ
ညတ်တရားမဲ့သောသူတို့၌ပညတ်တရားမဲ့သောသူကဲ့သို့ငါဖြစ်၏။
၂၂ အားနည်းသောသူတို့ကိုရခြင်းငှါအားနည်းသောသူတို့၌အားနည်း
သောသူကဲ့သို့ငါဖြစ်၏။ အချို့သောသူတို့ကိုအမျိုးမျိုးအားဖြင့်ကယ်
၂၃ တင်ခြင်းငှါလူအမျိုးမျိုးတို့၌အမျိုးမျိုးသောသူငါဖြစ်၏။ သင်တို့နှင့်
အတူဝေံဂေလိတရားကိုဆက်ဆံရအောင်ဝေံဂေလိတရား ကြောင့် ထို
၂၄ သို့ငါပြုလေ့ရှိ၏။ ။မြေတလင်း၌ပြေးသောသူအားလုံးပြိုင်
ပြေးကြသော်လည်းတယောက်သာလျှင်ဆုကိုရသည်ဟုသင် တို့ မသိ
၂၅ လော။ဆုကိုရအောင်ပြေးကြလော့။ ပွဲ၌ပြိုင်၍အချင်းချင်းတိုက်သော
သူမည်သည်ကားအရာရာ၌ကာမဂုဏ်ကို ချုပ်တည်းတတ်၏။ထိုသူ
တို့သည်ညှိုးနွမ်းပျက်စီးတတ်သောပန်းဦးရစ်ကိုရအောင်ပြုကြ၏။ ငါ
တို့မူကားမညှိုးနွမ်းမပျက်စီးနိုင်သောပန်းဦးရစ်ကိုရအောင်ပြုကြ၏။
၂၆ ထိုကြောင့် ငါပြေးသောအခါအမှတ်တမဲ့ပြေးသည် မဟုတ်။ လက်ဝှေ့
ထိုးသောအခါအာကာသကောင်းကင် ကို သာထိုး ၍လက်ဝှေ့ တိုက်
၂၇ သည်မဟုတ်။ သူတပါးကိုဆုမြွက်ပြီးမှငါကိုယ်တိုင်ရှုံးသောသူမဖြစ်
မည်အကြောင်း။ငါကိုယ်ကိုငါထိုး၍နှိပ်စက်လေ့ရှိ၏။



၁ ညီအစ်ကိုတို့၊ငါတို့အဘများအားလုံးသည် မိုဃ်းတိမ် အောက်မှာနေ
၂ ၍ပင်လယ်အလယ်၌ရှောက်သွားကြောင်းကို၎င် မောရှေ၏ဘာသာ
သွင်းခြင်းအလို့ငှါမိုဃ်းတိမ်၊ပင်လယ်၌ရေနှစ်ခံကြောင်းကို၎
၃၊၄ င် မွေ့အစားကိုအတူစားကြောင်းကို၎င် ခရစ်တော်ဟုဆိုလိုသော
သူတို့နောက် ၌ လိုက်သောမွေ့ကျောက်မှထွက်သောရေကိုသောက်၍
မွေ့ရေကိုအတူသောက်ကြောင်းကို၎င် သင်တို့သည်သိမှတ်ခြင်းငှါငါ
၅ အလိုရှိ၏၊ သို့သော်လည်း သူအများတို့ကိုဘုရားသခင်သည်အား
ရနှစ်သက်တော်မမူ၍တော၌သေသော်ပျက်စီးခြင်းသို့ရောက်ကြ၏။
၆ ။ငါတို့သည်သူတို့ကဲ့သို့ဆိုးညစ်သောတပ်မက်ခြင်းမရှိရ
၇ အောင်ထိုအကြောင်းအရာတို့သည်ငါတို့အဖို့ပုံသက်သေဖြစ်၏။ လူ
တို့သည်စားသောက်လျက်ထိုင်နေ၍နောက်ဘဝန်ကခုံမြူးထူးခြင်းငှါ
၈ ထကြသည်ဟုကျမ်းစာလာသည်အတိုင်း ထိုသူအချို့တို့သည်ရုပ်တုကို
ကိုးကွယ်သကဲ့သို့သင်တို့မကိုးကွယ်ကြနှင့်။ ထိုသူအချို့တို့သည်မတ
ရားသောမေထုန်အမှုကိုပြု၍တနေ့ချင်းတွင်လူနှစ်သောင်းသုံးထောင်
၉ ထဲသေသကဲ့သို့ငါတို့မပြုဘဲတရားသောမေထုန်ကိုရှောင်ကြစို့။ ထို
သူအချို့တို့သည်စုံစမ်းနှောင့်ရှက်ခြင်းကိုပြု၍မြွေဖြင့်ပျက်စီးသကဲ့သို့
၁၀ ငါတို့သည်မပြုဘဲ။ခရစ်တော်ကိုစုံစမ်းနှောင့်ရှက်ဘဲနေကြစို့။ ထို
သူအချို့တို့သည်ကဲ့ရဲ့ပြစ်တင်ခြင်းကိုပြု၍ဖျက်ဆီးသောသူလက်ဖြင့်
၁၁ ပျက်စီးသကဲ့သို့မပြုဘဲ။သင်တို့ကဲ့ရဲ့ပြစ်တင်ခြင်းကိုမပြုကြနှင့်။ ထို
အကြောင်းအရာအားလုံးတို့သည်ပုံသက်သေဖြစ်အံ့သောငှါထိုသူတို့
၌ရောက်ကြ၏။ ကပ်ကာလအဆုံးတွင်ဖြစ်သောငါတို့ကိုဆုံးမစရာဖို့
၁၂ ကျမ်းစာ၌ရေးထားလျက်ရှိသတည်း။ ထိုကြောင့်အဖြင့်သူသည်မိမိ
တည်ကြည်လျက်နေသည်ဟုမိမိထင်မှတ်၏။ ထိုသူသည်မလဲရအော
၁၃ င်သတိပြုပါလေစေ၊ လူ၌ဖြစ်တတ်သောစုံစမ်းနှောင့်ရှက်ခြင်းကို
သာသင်တို့သည်ခံရကြ၏။ဘုရားသခင်သည်သစ္စာနှင့်ပြည့်စုံတော်
မူသည်ဖြစ်၍သင်တို့မခံနိုင်သောစုံစမ်းနှောင့်ရှက်ခြင်းသင်တို့၌ရော
က်အောင်အခွင့်ပေးတော်မမူ။သင်တို့သည်ခံနိုင်ရအောင်စုံစမ်းနှောင့်
ရှက်ခြင်းအရာနှင့်တကွထွက်မြောက်သောလမ်းကိုလည်းစီရင်ပြုပြင်
၁၄ တော်မူလိမ့်မည်။ ။ထို့ကြောင့်ငါချစ်သူတို့၊ရုပ်တုကိုကိုးကွယ်
၁၅ ခြင်းအမှုကိုကြဉ်ရှောင်ကြလော့။ သင်တို့ကိုပညာရှိကဲ့သို့ငါမှတ်၍

၁၆ ပြောမည်။ငါစကားကိုဆင်ချင်ကြလော့။ ငါတို့သည်ကျေးဇူးတော်ကို
ချီးမွမ်းရာမင်္ဂလာ ခွက်ဖလားမူကားခရစ်တော်၏အသွေး ကိုဆက်ဆံ
ခြင်းဖြစ်သည်မဟုတ်လော။ ငါတို့သည်ဖဲ့သောမုန့်မူကားခရစ်တော်
၁၇ ၏ကိုယ်ကိုဆက်ဆံခြင်းဖြစ်သည်မဟုတ်လော။ မုန့်တလုံးရှိသည်ဖြစ်
၍ငါတို့အားလုံးသည် တလုံးတည်း ဖြစ်သောထိုမုန့်ကိုဆက်ဆံလျက်
ခံယူကြသော့ကြောင့်အများဖြစ်သောငါတို့သည်တလုံးတကိုယ်တည်း
၁၈ ဖြစ်ကြ၏။ ဇာတိအားဖြင့်ဣသရေလအမျိုးဖြစ်သောသူတို့ကိုကြည့်
ကြပါ။ ယဇ်ကောင်ကိုစားသောသူတို့သည် ယဇ်ပလ္လင်နှင့် ဆက်ဆံ
၁၉ သောသူဖြစ်သည်မဟုတ်လော။ ထိုသို့ဆိုသော်ငါအဘယ်သို့ဆိုလို
သနည်း။ ရုပ်တုကားမှတ်စရာရှိသည်။ ရုပ်တုရှေ့ပူဇော်သောယဇ်
၂၀ ကောင်ကားမှတ်စရာရှိသည်ဟုငါဆိုလိုသလော။ထိုသို့မဆိုလို။ သာ
သနာပလူတို့သည်ပူဇော်သောယဇ်ကိုဘုရားသခင်အားပူဇော်သည်
မဟုတ်။နတ်ဆိုးတို့အားပူဇော်ကြ၏။သင်တို့သည် နတ်ဆိုးတို့နှင့်ဆက်
၂၁ ဆံစေခြင်းငှါငါအလိုမရှိ။ သခင်ဘုရား၏ခွက်။နတ်ဆိုးတို့၏ခွက်နှစ်
ပါးစလုံးကိုသင်တို့မသောက်နိုင်။သခင်ဘုရား၏စားပွဲ။ နတ်ဆိုးတို့
၂၂ ၏စားပွဲနှစ်ပါးစလုံးကိုသင် တို့ဝင်၍ မစားနိုင်။ သခင်ဘုရားအ
မျက်တော်ထွက်အောင်ငါတို့ပြုကြသလော။ ငါတို့သည် သခင်ဘုရား
၂၃ ထက်သာ၍တန်ခိုးကြီးသလော။ ။အပြစ်မသင့်ဘဲခပ်သိမ်း
သောအမှုအရာကိုပြုနိုင်သည်မှန်စေတော့။ ခပ်သိမ်းသောအမှုအရာ
ကိုပြုသင့်သည်မဟုတ်။ အပြစ်မသင့်ဘဲခပ်သိမ်းသောအမှုအရာကို
ပြုနိုင်သည်မှန်စေတော့။ ခပ်သိမ်းသောအမှုအရာတို့သည် သူတပါး
၂၄ ကိုတည်ဆောက်တတ်သည်မဟုတ်။ ကိုယ်အကျိုးစီးပွားကိုအဘယ်
၂၅ သူမျှမရှာစေနှင့်။ သူအကျိုးစီးပွားကိုလူတိုင်းရှာပါလေစေ။ ရုပ်တု
သည်အချည်းနှီးသက်သက်ဖြစ်သည်ကိုသင်တို့သိသော့ကြောင့်ဈေး
၂၆ ၌ရောင်းသမျှကိုမစစ်ကြောမမေးမြန်းဘဲစားကြလော့။ အကြောင်း
မူကား။ သခင်ဘုရားသည်မြေကြီးနှင့် မြေကြီးကြွယ်ဝပြည့်စုံရာကို
၂၇ ပိုင်တော်မူ၏။ မရုံကြည်သောသူသည်သင်တို့ကိုခေါ်ဖိတ်၍သင်တို့
သည်သွားခြင်းငှါအလိုရှိလျှင်ရုပ်တုသည်အချည်းနှီးသက်သက်ဖြစ်
သည်ကိုသိသော့ကြောင့်သင်တို့ရှေ့၌ထည့်သမျှကို မစစ်ကြောမမေး
၂၈ မြန်းဘဲစားကြလော့။ သို့သော်လည်း၍မည်သောအရာသည်ရုပ်တု
ရှေ့ပူဇော်သော ယဇ်ကောင်ဖြစ်၏ဟုတစုံတယောက်ကဆိုလျှင်ထို

သို့ဆိုသောသူ၏မျက်နှာကိုငဲ့၍လည်းကောင်း၊ အကျင့်သြတ္တပ္ပစိတ်ကိုငဲ့၍လည်းကောင်း မစားကြနှင့်။
၂၉ နှင့်။ သြတ္တပ္ပစိတ်ဟုဆိုသော်ကိုယ်စိတ်ကိုမဆိုလို။သူစိတ်ကိုဆိုလို၏။
အချားသောသူ၏စိတ်သည် ငါ၏အခွင့်ကိုအဘယ်ကြောင့်စစ်ကြောစီ
၃၀ ရင်ရသနည်း။ ထိုမှတပါး။ကျေးဇူးတော်အားဖြင့် ငါသုံးဆောင်ရ
လျှင်ကျေးဇူးတော်ကိုချီးမွမ်း၍သုံးဆောင်သည်တွင် အဘယ်ကြောင့်
၃၁ ကဲ့ရဲ့ပြစ်တင်ခြင်းကိုခံရသနည်းဟုဆိုလျှင်ကား။ သင်တို့သည်စား
သည်ဖြစ်စေ။ သောက်သည်ဖြစ်စေ။ မည်သောအမှုကိုပြု သည်ဖြစ်
စေ။ ဘုရားသခင်၏ဘုန်းတော်ကိုထောက်၍အမှုကိစ္စအားလုံးကိုပြု
၃၂ ကြလော့။ လူများတို့သည်ကဃ်တင်ခြင်းသို့ရောက်စိမ့်သောငှါငါ
၃၃ သည်ကိုယ်အကျိုးကိုသာမရှာဘဲသူအကျိုးကိုရှာ ၍ ခပ်သိမ်းသော
လူတို့၏အလိုသို့အရာရာ၌လိုက်သကဲ့သို့ သင်တို့လည်း ယုဒလူ၊ ဟေ
လသလူ။ ဘုရားသခင်အသင်းတော်ဝင်သူတို့သည် တိမ်းလဲစရာအ
၁ ကြောင်းကိုမပြုကြနှင့်။ ငါသည် ခရစ်တော်နည်းတူကျင့်သကဲ့သို့
သင်တို့သည်ငါ့နည်းတူကျင့်ကြလော့။

**

၂ ညီအစ်ကိုတို့။ သင်တို့သည် အရာရာ၌ ငါ့ကိုအောက်မေ့၍ငါအပ်ပေး
သောပညတ်တို့ကို စောင့်ရှောက်ကြသည်ဖြစ်၍သင်တို့ ကို ငါချီးမွမ်း
၃ ၏။ ယောကျ်ား၏ခေါင်းကားခရစ်တော်ဖြစ်သည်ကိုငင် မိန်းမ၏ခေါ
င်းကားယောကျ်ားဖြစ်သည်ကို ငင် ခရစ်တော်၏ခေါင်းကားဘုရား
သခင်ဖြစ်တော်မူသည်ကိုငင်သင်တို့သိစေခြင်းငှါ ငါအလိုရှိ၏။
၄ ယောကျ်ားမည်သည်ကားမိမိခေါင်း ကို ဖုံးလျက် ဆုတောင်းခြင်း၊ပ
၅ ရောဖက်ဟောခြင်းကိုပြုလျှင်မိမိခေါင်းအသရေကို ရှုတ်ချ၏။ မိန်း
မည်သည်ကားမိမိခေါင်းကိုမဖုံးဘဲဆုတောင်းခြင်း။ ပရောဖက်ဟော
၆ ခြင်းကိုပြုလျှင်မိမိခေါင်းအသရေကို ရှုတ်ချ၏။ ထိုသို့ပြုလျှင်ဆံပင်
ရိတ်သည်နှင့်တူ၏။ မိန်းမသည် မိမိ ခေါင်းကိုမဖုံးလျှင်ဆံပင်ဖြတ်ပါ
လေစေ။ ဆံပင်ဖြတ် ခြင်း။ ဆံပင်ရိတ်ခြင်းအရာ၌ရှက်စရာရှိသည်မှန်
၇ လျှင်ခေါင်းကိုဖုံးပါလေစေ။ ယောကျ်ား သည် ဘုရားသခင်၏ပုံသ
ဏ္ဌာန်။ဘုန်းအသရေတော်ဖြစ်သောကြောင့်မိမိခေါင်းကိုမဖုံးရ။မိန်း
၈ မကား ယောကျ်ား၏ ဘုန်း အသရေဖြစ်၏။ ယောကျ်ားသည် မိန်းမ
ကြောင့်ဖြစ် သည် မဟုတ်။ မိန်းမသည် ယောကျ်ားကြောင့် ဖြစ်၏။
၉ ယောကျ်ားသည်မိန်းမအဘို့ဖန်ဆင်းသည်မဟုတ်။ မိန်းမသည်ယောကျ်ား

၁၀ ဘို့ဖန်ဆင်းသည်ဖြစ်၏၊၊ ထိုကြောင့် သူတပါးစေလွှတ်သောတမန်
၁၁ များကိုထောက်၍မိမ္မသည်မိမိခေါင်းကိုဖုံးရ၏၊၊ ၊၊သို့သော်
လည်းသခင်ဘုရား၌ ယောကျ်ားမပါဘဲ မိမ္မ ချည်းဖြစ်သည်မဟုတ်၊၊
၁၂ မိမ္မမပါဘဲယောကျ်ားချည်းဖြစ်သည်မဟုတ်၊၊ မိမ္မသည်ယောကျ်ား
ကြောင့်ဖြစ်သကဲ့သို့ယောကျ်ားသည်လည်းမိမ္မအားဖြင့်ဖြစ်၏၊၊အလုံး
၁၃ ရုံတို့သည်လည်းဘုရားသခင်ကြောင့်ဖြစ်ကြ၏၊၊ မိမ္မသည် ခေါင်းမ
ဖုံးဘဲလျက်ဘုရားသခင်ကိုဆုတောင်းလျှင်လျောက်ပတ်သည်မလျော
၁၄ က်ပတ်သည်ကိုသင်တို့အလိုလိုဆင်ချင်ကြလော့၊၊ ယောကျ်ားသည်
ရှည်သောဆံပင်ရှိလျှင်ရှက်ဖွယ်အကြောင်းဖြစ်သည်ကိုသင်တို့ပက
၁၅ တိတရားပင်ဆုမ္မသွန်သင်သည်မဟုတ်လော၊၊ မိမ္မမူကားရှည်သော
ဆံပင်ရှိလျှင်သူ၏ ဘုန်းအသရေဖြစ်၏၊၊ အဘယ်ကြောင့်နည်းဟူမူ
၁၆ ကား၊၊မိမ္မဆံပင်သည်မိမိခြုံစရာဘို့ဖြစ်၏၊၊ သို့သော်လည်းတစုံတ
ယောက်သောသူသည်ညင်းခုံလျှင် ငါတို့၌ ၎င်ဘုရားသခင်အသင်း
၁၇ တော်တို့၌၎င်ထိုသို့သောထုံးစံမရှိ၊၊ ၊၊တဖန်တုံ၊၊သင်တို့သည်
အကျိုး ကို ပြုရ အောင် စည်း ဝေး သည် မဟုတ်၊၊ အကျိုး ကို နည်း စေ
အောင်စည်းဝေးသည်ဖြစ်၍ သင်တို့ကို ငါမချီးမွမ်းဟု ငါ အတည့်အ
၁၈ လင်းဆိုရ၏၊၊ ပဌမအကြောင်းဟူမူကား၊၊သင်တို့သည်အသင်းတော်
၌စည်းဝေး သောအခါ အချင်းချင်းကွဲပြားခြင်းရှိသည် ကို ငါကြားရ
၁၉ ၏၊၊ ကြား ရသည် အတိုင်း ဟုတ် ကောင်း ဟုတ် လိမ့် မည်၊၊ အဘယ်
ကြောင့်နည်းဟူမူကား၊၊သင်တို့တွင်ကောင်းမွန်သောသူတို့သည် ထင်
၂၀ ရှားမည်အကြောင်း၊၊သင်းခွဲခြင်းတိုင်အောင်ဖြစ်ရတော့မည်၊၊ သင်
တို့ သည် အတူ စည်းဝေးသောအခါသခင်ဘုရား၏ ပွဲတော် ကို စား
၂၁ ခြင်းငှါစည်းဝေးသည်မဟုတ်၊၊ အဘယ်ကြောင့်နည်းဟူမူကား၊၊သင်
တို့သည်စားကြသည်တွင်ကိုယ်စီကိုယ်စီမိမိအစားကိုအရင်ယူ၍တ
၂၂ ချို့ကားဆာမွတ်လျက် တချို့ကား စား သောက်ကျူးလျက်ရှိ၏၊၊ သင်
တို့သည်စားသောက်ရာကိုယ်အိမ်မရှိလော၊၊သို့မဟုတ်၊၊ဘုရားသခင်
၏အသင်းတော်ကိုမထိမဲ့မြင်ပြု၍ဆင်းရဲသောသူတို့ကိုရှက်ကြောက်
စေ သလော၊၊ အဘယ်သို့ ငါဆိုရမည်နည်း၊၊ ဤအမှုမှာသင်တို့ ကို ချီး
၂၃ မွမ်းရမည်လော၊၊မချီးမွမ်းရ၊၊ ၊၊အဘယ်ကြောင့်နည်းဟူမူကား၊၊
သင်တို့၌ငါအပ်ပေးသောအကြောင်းအရာကိုသခင်ဘုရားထံ ငါခံရ
ပြီး၊၊ခံရသောအရာဟူမူကား၊၊သခင်ယေရှုသည် ရန်သူလက်သို့အပ်နှံ

၂၄ သောညနေ့ညမှာမုန့်ကိုယူ၍ ကျေးဇူးတော်ကိုချီးမွမ်းပြီးမှ မုန့်ကိုဖဲ့၍
ဤမုန့်ကားသင်တို့အကျိုးငှါချိုးဖဲ့သောငါ၏ကိုယ်ဖြစ်၏။ ငါကိုအော
၂၅ င်းမေ့မှိုရာဤသို့ပြုကြလော့ဟုမိန့်တော်မူ၏။ ထိုနည်းတူ။ညစာစား
ပြီးမှ ခွက်ကိုလည်း ယူ၍ ဤ ခွက်ကားငါ၏အသွေးနှိတည်သောဝန်ခံ
ခြင်းတရားသစ်ဖြစ်၏။နောက်မှာဤ ခွက်ကိုသောက်သောအခါခါငါ
၂၆ ကိုအောင်းမေ့မှိုရာသောက်ကြလော့ဟုမိန့်တော်မူ၏။ သို့ဖြစ်လျှင်
သင်တို့သည် ထိုမုန့်ကို စား၍ထို ခွက်ကို သောက်သောအခါခါသခင်
ဘုရားအသေခံတော်မူ သောအကြောင်း ကိုကြွ လာတော်မမူမှီ တိုင်
၂၇ အောင်ထင်ရှားပြကြ၏။ ထိုကြောင့်သခင်ဘုရားနှင့်ဆိုင်သောဤမုန့်
၂၈ ကိုဎင်ဤ ခွက်ကိုဎင်မထိုက်မတန်ဘဲသောက် စားသောသူမည်သည်
ကားသခင်ဘုရား၏ကိုယ်တော်ကို ဎင် အသွေးတော်ကို ဎင် ပြစ်မှား
ရာရောက်၏။လူသည်မိမိကိုမိမိစစ်ကြောပြီးမှမုန့် ကို စားပါလေစေ။
၂၉ ထိုသို့လည်းခွက်ကိုသောက်ပါလေစေ။ အကြောင်းမူကား။မထိုက်မ
တန်ဘဲစားသောက်သော သူသည်သခင်ဘုရား၏ကိုယ်တော်ကိုပိုင်း
ချားမသိသောကြောင့်မိမိအပေါ်မှာအပြစ်ရောက်မည်အကြောင်းစား
၃၀ သောက်သောသူဖြစ်၏။ ။ထိုအကြောင်းဖြင့်သင်တို့တွင်အား
နည်းသောသူ။မကျန်းမမာသောသူအများရှိကြ၏။သေလွန်သောသူ
၃၁ အများလည်းရှိကြ၏။ ငါတို့သည်ကိုယ်ကိုကိုယ်စစ်ကြောစီရင်လျှင်
၃၂ စစ်ကြောစီရင်တော်မူခြင်းနှင့်ကင်းလွတ်ကြလိမ့်မည်။ စစ်ကြောစီ
ရင်တော်မူခြင်းကိုခံကြသောအခါလောကီသားတို့ နှင့်အတူ အပြစ်စီ
၃၃ ရင်ခြင်းကိုမခံမည်အကြောင်း။ဆုမ္ဘတော်မူခြင်းကိုခံရကြ၏။ သို့ဖြစ်
လျှင်ငါညီအစ်ကိုတို့။သင်တို့သည်စားခြင်းငှါစည်းဝေးသောအခါအ
၃၄ ချင်းချင်း တယောက် ကိုတယောက်ငံ့လင့်ကြလော့။ ဆာငတ်သောသူ
ရှိလျှင်သင်တို့သည် အားလုံး အတူ အပြစ် မရောက် ရအောင်ထိုသူ
သည်မိမိအိမ်၌စားပါလေစေ။ကြွင်းသောအမှုများကို ငါလာသောအ
ခါစီရင်မည်။

❋❋

၁ ညီအစ်ကိုတို့။သင်တို့သည်ဝိညာဉ်ဆုကျေးဇူး အကြောင်းများကိုသိ
၂ စေခြင်းငှါငါအလိုရှိ၏။ သင်တို့သည်အထက်ကသာသနာပလူဖြစ်
၍သူတပါးတို့သည်သွေးဆောင်သဖြင့်စကားမပြောနိုင်သောရုပ်တု
၃ ဆီသို့ဆောင် သွား သော သူဖြစ် ကြောင်းကိုသင်တို့သိကြ၏။ ထို

ကြောင့်အဘယ်သူမျှဘုရားသခင်၏ဝိညာဉ်တော်အားဖြင့်ဟော
ပြော၍ယေရှုကိုမကျိန်ဆဲနိုင်သည်ကို၎င်ယေရှုသည်သခင်ဘုရား
ဖြစ်တော်မူ၏ဟုသန့်ရှင်းသောဝိညာဉ်တော်ကိုအမှီမပြုဘဲအဘယ်သူ
မျှမပြောနိုင်သည်ကို၎င်သင်တို့သည်သိနားလည်ရအောင်ငါသတိ
၄ ပေး၏။ ဆုကျေးဇူးကော်အထူးထူးအထွေထွေရှိညားသော်လည်း
၅ ဝိညာဉ်တော်တပါးတည်းရှိ၏။ ဆရာအမှုအထူးထူးအထွေထွေရှိ
၆ ညားသော်လည်းသခင်တပါးတည်းရှိ၏။ ပြုပြင်ခြင်းအထူးထူးအ
ထွေထွေရှိညားသော်လည်းခပ်သိမ်းသောသူတို့၌ပြုပြင်သမျှကိုပြု
၇ ပြင်တော်မူသောဘုရားသခင်တပါးတည်းရှိ၏။ ကောင်းသောအ
ကျိုးအလို၄ါသာဝိညာဉ်တော်ကိုလူအသီးအသီးတို့အားထင်ရှားပေး
၈ တော်မူလျက်ရှိ၏။ အဘယ်သို့နည်းဟူမူကား။တယောက်သောသူ
အားဝိညာဉ်တော်သည်ပညာတရားကိုပေးတော်မူ၏။တယောက်
သောသူအားထိုဝိညာဉ်တော်သည်ထိုးထွင်းခြင်းတရားကိုပေးတော်
၉ မူ၏။ တယောက်သောသူအားထိုဝိညာဉ်တော်သည်ရုံခြင်းကိုပေး
တော်မူ၏။တယောက်သောသူအားထိုဝိညာဉ်တော်သည်အနာရော
၁၀ ဂါကိုညိမ်းစေနိုင်သောအခွင့်ကိုပေးတော်မူ၏။ တယောက်သော
သူအားတန်ခိုးကိုပြနိုင်သောအခွင့်ကို၎င်တယောက်သောသူအားဖ
ရောဖက်ဟောနိုင်သောအခွင့်ကို၎င်တယောက်သောသူအားစိတ်ဝိ
ညာဉ်တို့ကိုပိုင်းချား၍သိနိုင်သောအခွင့်ကို၎င်တယောက်သောသူ
အားအမျိုးမျိုးသောဘာသာစကားတို့ကိုပြောနိုင်သောအခွင့်ကို၎င်
တယောက်သောသူအားထိုဘာသာစကား၏အနက်ကိုဖော်ပြနိုင်
၁၁ သောအခွင့်ကို၎င်ပေးတော်မူ၏။ ဤအခွင့်ရှိသမျှတို့ကိုတပါးတည်း
သောဝိညာဉ်တော်သည်ပြုပြင်၍လူအသီးအသီးတို့အားအသီးအသီး
ခံရသောအခွင့်တို့ကိုအလိုတော်ရှိသည်အတိုင်းဝေ၄ပေးတော်မူ၏။
၁၂ ။ဥပမာကား။ကိုယ်တခုတည်းမှာအင်္ဂါအများရှိသည်ဖြစ်၍
ထိုတခုတည်းသောကိုယ်၏အင်္ဂါအားလုံးတို့သည်များလျက်နှင့်ကိုယ်
၁၃ တခုတည်းဖြစ်သကဲ့သို့ထိုနည်းတူခရစ်တော်ဖြစ်၏။ အဘယ်
ကြောင့်နည်းဟူမူကား။ယုဒလူဖြစ်စေ။ဟေလသလူဖြစ်စေ။ကျွန်ဖြစ်
စေ။ လူလွတ်ဖြ၁စေ။ ငါတို့အားလုံးသည်တကိုယ်တည်းဖြစ်စေခြင်း
၄ါဝိညာဉ်တော်တပါးတည်း၌နှစ်ခြင်းမင်္ဂလာကိုခံကြ၏။အားလုံးတို့
၁၄ လည်းတစိတ်တဝိညာဉ်တည်းကိုသောက်ကြ၏။ ကိုယ်သည်အင်္ဂါတ

၃၃ ၏အမှုကိုသာသတိထားတတ်၏။ အိမ်ထောင်သောသူမူကား၊မိမိမယား
၃၄ စိတ်သာအောင်လောကီအမှုကိုသတိထားတတ်၏။ ထိုနည်းတူ၊အိမ်
ထောင်သောမိန်းမနှင့်အိမ်မထောင်သောမိန်းမသည်ခြားနားခြင်းရှိ၏။အိမ်
မထောင်သောမိန်းမသည်ကိုယ်ခန္ဓာစိတ်ဝိညာဉ်နှစ်ပါးသန့်ရှင်းရအောင်
သခင်ဘုရား၏အမှုကိုသာသတိထားတတ်၏။အိမ်ထောင်သောမိန်းမမူ
ကား၊မိမိခင်ပွန်းစိတ်သာအောင်လောကီအမှုကိုသတိထားတတ်၏။
၃၅ ထိုသို့ငါဆိုသော်သင်တို့အကျိုးကိုသာထောက်၍ဆို၏။သင်တို့ကိုနှေါ
င့်ရှက်ချင်သောစိတ်နှင့်ဆိုသည်မဟုတ်။သင်တို့သည်လျောက်ပတ်စွာ
ကျင့်၍ စိတ်ရှုတ်ထွေးခြင်းမရှိဘဲသခင်ဘုရား၏ဝတ်ကို အမြဲပြုစေ
၃၆ ခြင်းငှါသာဤသို့ဆို၏။ ။အကြင်သူသည်ကိုယ်အသက်ကြီး၍
အိမ်မထောင်ဘဲနေလျှင်မလျောက်ပတ်ဟုကိုယ်ထင်၍အိမ်ထောင်စရာ
အကြောင်းလည်းရှိ၏။ထိုသူသည်အလိုအတိုင်းပြုပါလေစေ။အပြစ်မ
၃၇ ရှိ။အိမ်ထောင်ပါလေစေ။ သို့သော်လည်းမိမိစိတ်နှစ်လုံးတည်ကြည်
ခြင်းရှိ၍ပြုလိုသည့်အတိုင်းပြုနိုင်သောအခွင့်။ကိုယ်စိတ်အလိုကိုချုပ်
တည်းနိုင်သောအခွင့်ရှိသည်ဖြစ်၍အိမ်မထောင်ဘဲနေမည်ဟုကိုယ်
၃၈ စိတ်နှစ်လုံးထဲမှာစီရင်ဆုံးဖြတ်သောသူသည်ကောင်းစွာပြု၏။ သို့
ဖြစ်၍အိမ်ထောင်သောသူမူကားကောင်းစွာပြု၏။အိမ်မထောင်သော
၃၉ သူမူကားသာ၍ကောင်းစွာပြု၏။ ။မိန်းမသည်မိမိခင်ပွန်းမ
သေမှီကာလပတ်လုံးချည်နှောင်လျက်ဖြစ်၏။ခင်ပွန်းသေလျှင်မူကား
မိမိအလိုအတိုင်း သခင်ဘုရား၌ သာအချင်းသောသူ၏မယားဖြစ်
၄၀ ခြင်းငှါအခွင့်ရှိ၏။ အခွင့်ရှိသော်လည်းအချင်းသောသူ၏မယားမ
ဖြစ်ဘဲနေလျှင်သာ၍ မင်္ဂလာရှိ၏ဟုငါသဘောရှိ၏။ ငါ၌လည်းဘု
ရားသခင်၏ဝိညာဉ်တော်ရှိတော်မူသည်ဟုငါစွဲလမ်းခြင်းစိတ်ရှိ၏။
၁ ။ရုပ်တုရှေ့ပူဇော်သောယဇ်ကောင်အရာမှာ။ငါတို့အားလုံး
သည်ပိုင်းချားတတ်သောဉာဏ်ရှိသည်ကို ငါတို့သိကြ၏။ ဉာဏ်
သည်ထောင်လွှားစေတတ်၏။ မေတ္တာသည်တည် ဆောက်တတ်၏။
၂ အကြင်သူသည်ငါကားပညာရှိဖြစ်သည်ဟူ၍စိတ်ထင်၏။ထိုသူသည်
၃ သိအပ်သည့်အတိုင်းအလျှင်းမသိသေး။ ဘုရားသခင်ကိုချစ်သော
၄ သူမည်သည်ကားဘုရားသခင်ကိုသိ၏။ ရုပ်တုရှေ့ပူဇော်သောယဇ်
ကောင် ကို စားခြင်း အရာမှာ။ ရုပ်တုသည် ဤလောက ၌ အချည်းနှီး
သက်သက်ဖြစ်သည်ကို ငါတို့ ငါတို့ဆိုတည်းသောဘုရားသခင်မှတပါးအ

၅ ဘုရားသခင်မျှမရှိသည်ကိုငါတို့သိကြ၏။ ဘုရားများ။ အ
ရှင်များဟုဆိုသည်အတိုင်းကောင်းကင်ပေါ်။ မြေကြီး ပေါ်မှာဘုရား
၆ ဟူ၍ခေါ်ဝေါ်သမုတ်သော သူအများရှိသော်လည်း အကြင်ဘုရားသ
ခင်အထဲကခပ်သိမ်းသောအရာဖြစ်၍အကြင်ဘုရားသခင် အဖို့အလို့
ငှါငါတို့သည်ဖြစ်၏။ထိုခမည်းတော်ဘုရားသခင်တပါးတည်းငါတို့၌
ရှိတော်မူ၏။အကြင်သခင်အားဖြင့်ငါတို့ မှစ၍ ခပ်သိမ်း သောအရာ
၇ ဖြစ်၏။ထိုသခင်ယေရှုခရစ်တပါးတည်း ငါတို့ ၌ ရှိ တော်မူ၏။ သို့
သော်လည်းထိုဉာဏ်ကိုလူတိုင်းမရ။အချို့သော သူတို့သည် ယခုတိုင်
အောင်ရုပ်တုရှေ့ပူဇော်သောယဇ်ကောင် ကို စားလေ သော် ရုပ်တုကို
ထေ့ခ်သောစိတ်နှင့်စားသည်ဖြစ်၍သူတို့၌ကိုယ် ကိုကိုယ်သိသော
စိတ်သည်အားနည်းသောကြောင့်ညစ်ညူးခြင်းသို့ရောက်တတ်၏။
၈ ။အစားအသောက်အားဖြင့်ဘုရားသခင်မျက်နှာကိုရသည်မ
ဟုတ်။ အစားကို သုံးကာမျှဖြင့်မြတ်သည်မဟုတ်။ ရှောင်ကာမျှဖြင့်
၉ ယုတ်သည်မဟုတ်။ သို့သော်လည်းသင်တို့ အ ခွင့် သည် အားနည်း
သော သူတို့စိတ်ပျက်စရာအကြောင်းမဖြစ်ရအောင်သတိပြုကြလော့။
၁၀ အကြောင်းမူကား။သင်သည်ပိုင်းချားတတ်သောဉာဏ်ရှိလျက်ပင်
ရုပ်တုစင်ထဲ၌စားပွဲနားမှာ ထိုင်နေသည်ကိုသူတပါးမြင်လျှင်ကိုယ်
ကိုကိုယ်သိသောစိတ်အားနည်းသော သူသည်ရုပ်တုရှေ့ပူဇော် သော
၁၁ ယဇ်ကောင်ကိုစားခြင်း ငှါရဲမည် မဟုတ်လော။ ထိုသို့ ဖြစ်လျှင်အ
ကြင်ညီအစ်ကိုအဖို့အလို့ငှါခရစ်တော်သည်အသေခံတော်မူ၏။ အား
နည်းသော ထိုညီ အစ်ကို သည်သင်ဉာဏ်ကြောင့်ပျက်စီး ခြင်းသို့
၁၂ ရောက်ပါသည်တကား။ သင်တို့သည်ညီအစ်ကိုတို့ကိုထိုသို့ပြစ်မှား
၍သူတို့၌ကိုယ်ကိုကိုယ်သိသော။အားနည်းသောစိတ်ကိုထိခိုက် သော်
၁၃ အခါခရစ်တော်ကိုလည်းပြစ်မှားသေး၏။ သို့ဖြစ်၍ငါအစားအသော
က်ကြောင့်ငါ ညီအစ်ကိုစိတ်ပျက်လျှင်ငါ ညီအစ်ကို စိတ် ပျက် စရာအ
ကြောင်းမရှိရအောင်အမဲသားကိုအစဉ်မပြတ်ရှောင်မည်။



၁ ငါပေါလုသည်ကျွန်မဟုတ်။ လူလွတ်ဖြစ်သည်မဟုတ်လော။တမန်တော်
၂ ဖြစ်သည်မဟုတ်လော။ငါတို့သခင်ယေရှုခရစ်ကိုမြင်ပြီးမဟုတ်လော။
ငါသည်သခင်ဘုရား၌လုပ်သောအလုပ်ကားသင်တို့ ပင်ဖြစ် သည်မ
ဟုတ်လော။ငါသည်အချားသောသူတို့အား တမန်တော်မဖြစ်။ ဟုတ်စေ

သော်။သင်တို့အားတမန်တော်အမှန်ဖြစ်၏။အဘယ်ကြောင့်နည်းဟူမူ
ကား။သင်တို့သည်တပည့်တော်ဖြစ်သည်အကြောင်းမှာငါသည်တမန်
၃ တော်ဖြစ်ခြင်းတံဆိပ်ခတ်ပေသတည်း။ငါ့ကိုစစ်ဆေးမေးမြန်းသောသူ
၄။၅ တို့အားငါအပြစ်ဖြေရာစကားဟူမူကား။ ငါတို့သည်စားသောက်ခြင်း
အခွင့်မရှိလော။ကေဖနှင့်သခင်ဘုရား၏ညီများမှစ၍ကြွင်းသောတ
မန်တော်များကဲ့သို့ ငါတို့သည်ဒေသစာရီလှည့်လည်သည်တွင်နှစ်မဖြစ်
၆ သောမယားပါခြင်းငှါအခွင့်မရှိလော။ ငါနှင့်ဗာနာဗနှစ်ယောက်တည်း
၇ သာအလုပ်လုပ်ရသလော။ အဘယ်သူသည်ကိုယ်စရိတ်သုံး၍စစ်မှုကို
ထမ်းရသနည်း။အဘယ်သူသည်ဥယည်ကိုစိုက်၍အသီးကိုမစားဘဲနေရ
သနည်း။အဘယ်သူသည်သိုးထိန်းလုပ်၍သိုးနို့ကိုမသုံးဘဲနေရသနည်း။
၈ ။လောကီဝေါဟာရအားဖြင့်သာဤသို့ငါဆိုသလော။ပညတ်တ
၉ ရားသည်လည်း ဤသို့ပင်ဆိုသည်မဟုတ်လော။ မောရှေ၏ပညတ်ကို
ကျမ်းစာ၌လာသည်ကား။စပါးနင်းသောနွား၏နှုတ်ကို မချည်နှောင်
နှင့်ဟုလာ၏။ဘုရားသခင်သည်နွားကိုသာသတိပြုတော်မူသလော။
၁၀ သို့မဟုတ်။ငါတို့ကြောင့်သာဤသို့ပညတ်တော်မူသလော။ လယ်ထွန်
သောသူသည်မျှော်လင့်ခြင်းနှင့်တကွထွန်ရအောင်၎င်စပါးနင်းသော
သူသည်မျှော်လင့်ခြင်းနှင့်မကင်းမလွတ်ရအောင် ၎င်ငါတို့ကြောင့်သာ
၁၁ ဤသို့ကျမ်းစာလာ၏။ ငါတို့သည်သင်တို့၌ဓမ္မမျိုးစေ့ကိုစိုက်ပြီးမှသင်
၁၂ တို့၏လောကီအသီးကိုသုံးဆောင်လျှင်ကျေးဇူးကြီးမည်လော။ အ
ခြားသောသူတို့သည်သင်တို့ဆီမှာထိုအခွင့်ကိုရလျှင်ငါတို့သည်သာ
၍ရထိုက်သည်မဟုတ်လော။သို့သော်လည်းထိုအခွင့်ကိုငါတို့သည်မ
သုံးဘဲခရစ်တော်၏ဧဝံဂေလိတရားကိုဆီးတားခြင်း အကြောင်းမရှိ
၁၃ ရအောင်အရာရာ၌သည်းခံကြ၏။ ဓမ္မကိစ္စအမှုကိုဆောင်ရွက်သော
သူတို့သည် ဗိမာန်တော် ကို အမှီပြု၍ စားရသည်ကို၎င်ယဇ်ပူ
ဇော်ခြင်းအမှုကိုဆောင်ရွက်သောသူတို့သည်ယဇ်ပလ္လင်နှင့်ဆက်ဆံ
၁၄ ၍စားရသည်ကို၎င်သင်တို့မသိလော။ ထိုနည်းတူ။ဧဝံဂေလိတရား
ကိုဟောသောသူတို့သည်ဧဝံဂေလိတရားကို အမှီပြု၍အသက်မွေးရ
မည်အကြောင်း။သခင်ဘုရားပညတ်တော်မူချက်ရှိ၏။ ။
၁၅ သို့သော်လည်းထိုအခွင့်ကိုငါအလျှင်းမသုံး။ သင်တို့သည် ငါ့အားထို
သို့ပြုစေခြင်းငှါဤစကားကိုငါရေးထားသည်မဟုတ်။ အဘယ်ကြော
င်နည်းဟူမူကား။ငါကြွားဝါခြင်းအကြောင်းကိုသူတပါးဖျက်ဆီးသည်

၁၆ ထက်ငါသေသေသာ၍ကောင်း၏။ ငါသည်ဧဝံဂေလိတရားကိုဟော
ရုံပြုလျှင်ကြွားဝါခြင်းအကြောင်းမရှိသေး။အဘယ်ကြောင့်ခုနည်းဟူမူ
၁၇ ကား။မဟောဘဲမနေနိုင်။မဟောဘဲနေလျှင်အမင်္ဂလာရှိ၏။ သို့ဖြစ်၍
အမှုတော်ကိုအလိုလိုဆောင်ရွက်လျှင်အကျိုးရှိ၏။ ကိုယ်အလိုကိုဆန့်
၁၈ ၍ဆောင်ရွက်လျှင်အရာတော်၌ခန့်ထားသောသူဖြစ်ရုံရှိ၏။ သို့ဖြစ်
၍ငါ့အကျိုးအဘယ်သို့နည်းဟူမူကား။ ဧဝံဂေလိတရားကိုဟောသောအ
ခါဟောခြင်းနှင့်စပ်ဆိုင်သောအခွင့်ကို မသုံးလွန်းဘဲလျှက်ခရစ်
တော်၏ဧဝံဂေလိတရားကိုနာသောသူတို့သည်အဘယ်စရိတ်ကို မျှ
၁၉ မကုန်ဘဲနာရအောင်ပြုလျှင်ငါ့အကျိုးရှိ၏။ ။ငါသည်အဘယ်
သူ၏ကျွန်မဖြစ်သော်လည်းသာ၍များသောသူတို့ကိုရခြင်းငှါလူတ
၂၀ ကာတို့၏ကျွန်ခံ၏။ ယုဒလူတို့ကိုရခြင်းငှါယုဒလူတို့၌ယုဒလူကဲ့သို့
ငါဖြစ်၏။ပညတ်တရားကို ကိုယ်မဆည်းကပ်သော်လည်းပညတ်တ
ရားကိုဆည်းကပ်သောသူတို့ကိုရခြင်းငှါပညတ်တရားကိုဆည်းကပ်
၂၁ သောသူတို့၌ပညတ်တရားကိုကျင့်သောသူကဲ့သို့ငါဖြစ်၏။ ငါကိုယ်
သည် ဘုရားသခင်ရှေ့ တရားမဲ့မနေ။ ခရစ်တော်၏တရား ကို ကျင့်
သောသူဖြစ်သော်လည်းပညတ်တရားမဲ့သောသူတို့ကိုရခြင်းငှါပ
ညတ်တရားမဲ့သောသူတို့၌ပညတ်တရားမဲ့သောသူကဲ့သို့ငါဖြစ်၏။
၂၂ အားနည်းသောသူတို့ကိုရခြင်းငှါအားနည်းသောသူတို့၌အားနည်း
သောသူကဲ့သို့ငါဖြစ်၏။ အချို့သောသူတို့ကိုအမျိုးမျိုးအားဖြင့်ကယ်
၂၃ တင်ခြင်းငှါလူအမျိုးမျိုးတို့၌အမျိုးမျိုးသောသူငါဖြစ်၏။ သင်တို့နှင့်
အတူဧဝံဂေလိတရားကိုဆက်ဆံရအောင်ဧဝံဂေလိတရားကြောင့်ထို
၂၄ သို့ငါပြုလေ့ရှိ၏။ ။မြေတလင်း၌ပြေးသောသူအားလုံးပြိုင်
ပြေးကြသော်လည်းတယောက်သာလျှင်ဆုကိုရသည်ဟုသင်တို့မသိ
၂၅ လော။ဆုကိုရအောင်ပြေးကြလော့။ ပွဲ၌ပြိုင်၍အချင်းချင်းတိုက်သော
သူမည်သည်ကားအရာရာ၌ကာမဂုဏ်ကို ချုပ်တည်းတတ်၏။ထိုသူ
တို့သည်ညှိုးနွမ်းပျက်စီးတတ်သောပန်းဦးရစ်ကိုရအောင်ပြုကြ၏။ ငါ
တို့မူကားမညှိုးနွမ်းမပျက်စီးနိုင်သောပန်းဦးရစ်ကိုရအောင်ပြုကြ၏။
၂၆ ထိုကြောင့် ငါပြေးသောအခါအမှတ်တမဲ့ပြေးသည် မဟုတ်။ လက်ဝှေ့
တိုက်သောအခါအာကာသကောင်းကင် ကို သာထိုး၍လက်ဝှေ့တိုက်
၂၇ သည်မဟုတ်။ သူတပါးကိုဆုမပြုပြီးမှငါကိုယ်တိုင်ရှုံးသောသူမဖြစ်
မည်အကြောင်း။ငါကိုယ်ကိုငါထိုး၍နှိပ်စက်လေ့ရှိ၏။



၁ ညီအစ်ကိုတို့။ငါတို့အဘများအားလုံးသည် မိုဃ်းတိမ် အောက်မှာနေ
၂ ၍ပင်လယ်အလယ်၌ရှောက်သွားကြောင်းကိုရင် မောရှေ၏ဘာသာ
သွင်းခြင်းအလို၌ါမိုဃ်းတိမ်။ပင်လယ်၌ရေနှစ်ခြင်းကိုခံကြောင်းကိုရ
၃။၄ င် မွေ့အစားကိုအတူစားကြောင်းကိုရင် ခရစ်တော်ဟုဆိုလိုသော
သူတို့နောက် ၌ လိုက်သောမွေ့ကျောက်မှထွက်သောရေကိုသောက်၍
မွေ့ရေကိုအတူသောက်ကြောင်းကိုရင်သင်တို့သည်သိမှတ်ခြင်း၌ါငါ
၅ အလိုရှိ၏။ သို့သော်လည်းထိုသူအများတို့ကိုဘုရားသခင်သည်အား
ရနှစ်သက်တော်မမူ၍တော၌သေကျေပျက်စီးခြင်းသို့ရောက်ကြ၏။
၆ ။ငါတို့သည်သူတို့ကဲ့သို့ဆိုးညစ်သောတပ်မက်ခြင်းမရှိရ
၇ အောင်ထိုအကြောင်းအရာတို့သည်ငါတို့အဖို့ပုံသက်သေ ဖြစ်၏။ လူ
တို့သည်စားသောက်လျက်ထိုင်နေ၍နောက်တဖန်ကခုန်မြူးထူးခြင်း၌
၈ ထကြသည်ဟုကျမ်းစာလာသည်အတိုင်း ထိုသူအချို့တို့သည်ရုပ်တုကို
ကိုးကွယ်သကဲ့သို့သင်တို့မကိုးကွယ်ကြနှင့်။ ထိုသူအချို့တို့သည်မတ
ရားသောမေထုန်အမှုကိုပြု၍တနေ့ချင်းတွင်လူနှစ်သောင်းသုံးထောင်
၉ လဲသေသကဲ့သို့ငါတို့မပြုဘဲမတရားသောမေထုန်ကိုရှောင်ကြစို့။ ထို
သူအချို့တို့သည်ရုံစမ်းနှောင့်ရှက်ခြင်းကိုပြု၍မြွေဖြင့်ပျက်စီးသကဲ့သို့
၁၀ ငါတို့သည်မဟုတ်။ခရစ်တော်ကိုမရုံစမ်းမနှောင့်ရှက်ဘဲနေကြစို့။ ထို
သူအချို့တို့သည်ကဲ့ရဲ့ပြစ်တင်ခြင်းကိုပြု၍ဖျက်ဆီးသောသူလက်ဖြင့်
၁၁ ပျက်စီးသကဲ့သို့မဟုတ်။သင်တို့ကဲ့ရဲ့ပြစ်တင်ခြင်းကိုမပြုကြနှင့်။ ထို
အကြောင်းအရာအားလုံးတို့သည်ပုံသက်သေဖြစ်အံ့သော၌ါထိုသူတို့
၌ရောက်ကြ၏။ ကပ်ကာလအဆုံးတွင်ဖြစ်သောငါတို့ ကိုဆုံးမ စရာမို့
၁၂ ကျမ်းစာ၌ရေးထားလျက်ရှိသတည်း။ ထို့ကြောင့်အကြင်သူသည်မိမိ
တည်ကြည်လျက်နေသည်ဟုမိမိထင်မှတ်၏။ ထိုသူ သည်မလဲရအော
၁၃ င်သတိပြုပါလေစေ။ လူ၌ဖြစ်တတ် သော ရုံစမ်း နှောင့်ရှက် ခြင်းကို
သာသင်တို့သည်ခံရကြ၏။ဘုရားသခင်သည်သစ္စာနှင့်ပြည့်စုံတော်
မူသည်ဖြစ်၍သင်တို့မခံနိုင်သောရုံစမ်းနှောင့်ရှက်ခြင်းသင်တို့၌ရော
က်အောင်အခွင့်ပေးတော်မမူ။သင်တို့သည်ခံနိုင်ရအောင်ရုံစမ်းနှောင့်
ရှက်ခြင်းအရာနှင့်တကွထွက်မြောက်သောလမ်းကိုလည်း စီရင်ပြုပြင်
၁၄ တော်မူလိမ့်မည်။ ။ထို့ကြောင့်ငါချစ်သူတို့။ရုပ်တုကိုကိုးကွယ်
၁၅ ခြင်းအမှုကိုကြည်ရှောင်ကြလော့။ သင်တို့ကိုပညာရှိကဲ့သို့ငါမှတ်၍

၁၆ ပြောမည်။ငါစကားကိုဆင်ချင်ကြလော့။ ငါတို့သည်ကျေးဇူးတော်ကို
ချီးမွမ်းရာမင်္ဂလာ ခွက်ဖလားမှုကားခရစ်တော်၏အသွေး ကိုဆက်ဆံ
ခြင်းဖြစ်သည်မဟုတ်လော။ ငါတို့သည်ဖဲ့သောမုန့်မှုကားခရစ်တော်
၁၇ ၏ကိုယ်ကိုဆက်ဆံခြင်းဖြစ်သည်မဟုတ်လော။ မုန့်တလုံးရှိသည်ဖြစ်
၍ငါတို့အားလုံးသည် တလုံးတည်း ဖြစ်သောထိုမုန့်ကိုဆက်ဆံလျက်
ခံယူကြသောကြောင့်အများဖြစ်သောငါတို့သည်တလုံးတကိုယ်တည်း
၁၈ ဖြစ်ကြ၏။ ဇာတိအားဖြင့်ဣသရေလအမျိုးဖြစ်သောသူတို့ကိုကြည့်
ကြပါ။ ယဇ်ကောင်ကိုစားသောသူတို့သည် ယဇ်ပလ္လင် နှင့် ဆက်ဆံ
၁၉ သောသူဖြစ်သည်မဟုတ်လော။ ထိုသို့ဆိုသော်ငါအဘယ်သို့ဆိုလို
သနည်း။ ရုပ်တုကားမှတ်စရာရှိသည်။ ရုပ်တုရှေ့ ပူဇော်သော ယဇ်
၂၀ ကောင်ကားမှတ်စရာရှိသည်ဟုငါဆိုလိုသလော။ထိုသို့မဆိုလို။ သာ
သနာပလူတို့သည်ပူဇော်သောယဇ်ကိုဘုရားသခင်အားပူဇော်သည်
မဟုတ်။နတ်ဆိုးတို့အားပူဇော်ကြ၏။သင်တို့သည်နတ်ဆိုးတို့နှင့်ဆက်
၂၁ ဆံစေခြင်းငှါငါအလိုမရှိ။ သခင်ဘုရား၏ခွက်။နတ်ဆိုးတို့၏ခွက်နှစ်
ပါးစလုံးကိုသင်တို့မသောက်နိုင်။သခင်ဘုရား၏စားပွဲ။ နတ်ဆိုးတို့
၂၂ ၏စားပွဲနှစ်ပါးစလုံးကိုသင်တို့ဝင်၍မစားနိုင်။ သခင်ဘုရားအ
မျက်တော်ထွက်အောင်ငါတို့ပြုကြသလော။ ငါတို့သည် သခင်ဘုရား
၂၃ ထက်သာ၍တန်ခိုးကြီးသလော။ ။အပြစ်မသင့်ဘဲခပ်သိမ်း
သောအမှုအရာကိုပြုနိုင်သည်မှန်စေတော့။ ခပ်သိမ်းသောအမှုအရာ
ကိုပြုသင့်သည်မဟုတ်။ အပြစ်မသင့်ဘဲခပ်သိမ်းသောအမှု အရာကို
ပြုနိုင်သည်မှန်စေတော့။ ခပ်သိမ်းသော အမှု အရာတို့သည် သူတပါး
၂၄ ကိုတည်ဆောက်တတ်သည်မဟုတ်။ ကိုယ်အကျိုးစီးပွားကိုအဘယ်
၂၅ သူမျှမရှာစေနှင့်။ သူအကျိုးစီးပွားကိုလူတိုင်းရှာပါလေစေ။ ရုပ်တု
သည်အချည်းနှီးသက်သက်ဖြစ်သည်ကိုသင်တို့သိသောကြောင့် ဈေး
၂၆ ၌ရောင်းသမျှကိုမစစ်ကြောမမေးမြန်းဘဲစားကြလော့။ အကြောင်း
မူကား။ သခင်ဘုရားသည်မြေကြီးနှင့် မြေကြီးကြွယ်ဝပြည့်စုံရာကို
၂၇ ပိုင်တော်မူ၏။ မရုံကြည်သောသူသည်သင်တို့ကိုခေါ်ဖိတ်၍သင်တို့
သည်သွားခြင်းငှါအလိုရှိလျှင်ရုပ်တုသည်အချည်းနှီးသက်သက်ဖြစ်
သည်ကိုသိသောကြောင့်သင်တို့ရှေ့၌ထည့်သမျှကို မစစ်ကြော မမေး
၂၈ မြန်းဘဲစားကြလော့။ သို့သော်လည်း၍မည်သောအရာသည်ရုပ်တု
ရှေ့ ပူဇော် သော ယဇ်ကောင်ဖြစ် ၏ဟု တစုံတယောက်ကဆိုလျှင်ထို

သို့ဆိုသောသူ၏မျက်နှာကိုငဲ့၍ဩတ္တပ္ပစိတ်ကိုငဲ့ထောက်၍မစားကြ
၂၉ နှင့်။ ဩတ္တပ္ပစိတ်ဟုဆိုသော်ကိုယ်စိတ်ကိုမဆိုလို။သူစိတ်ကိုဆိုလို၏။
အချားသောသူ၏စိတ်သည် ငါ၏အခွင့်ကိုအဘယ်ကြောင့်စစ်ကြောစီ
၃၀ ရင်ရသနည်း။ ထိုမှတပါး။ကျေးဇူးတော်အားဖြင့် ငါသုံးဆောင်ရ
လျှင်ကျေးဇူးတော်ကိုချီးမွမ်း၍သုံးဆောင်သည် တွင် အဘယ်ကြောင့်
၃၁ ကဲ့ရဲ့ပြစ်တင်ခြင်းကိုခံရသနည်းဟုဆိုလျှင်ကား။ သင်တို့သည်စား
သည်ဖြစ်စေ။ သောက်သည်ဖြစ်စေ။ မည်သောအမှုကို ပြု သည်ဖြစ်
စေ။ ဘုရားသခင်၏ဘုန်းတော်ကိုထောက်၍အမှုကိစ္စအားလုံးကိုပြု
၃၂ ကြလော့။ လူများတို့သည် ကယ်တင်ခြင်းသို့ ရောက် စိမ့် သော ငှါ ငါ
၃၃ သည်ကိုယ်အကျိုးကိုသာမရှာဘဲ သူအကျိုးကို ရှာ ၍ ခပ်သိမ်း သော
လူတို့၏အလိုသို့အရာရာ၌လိုက်သကဲ့သို့ သင်တို့လည်း ယုဒလူ။ ဟေ
လသလူ။ ဘုရားသခင်အသင်းတော်ဝင် သူတို့ သည် တိမ်းလဲစရာအ
၁ ကြောင်းကိုမပြုကြနှင့်။ ငါသည် ခရစ် တော် နည်းတူ ကျင့် သကဲ့သို့
သင်တို့သည်ငါနည်းတူကျင့်ကြလော့။

**

၂ ညီအစ်ကိုတို့။ သင်တို့ သည် အရာရာ၌ ငါကိုအောင်းမေ့၍ငါအပ်ပေး
သောပညတ်တို့ကို စောင့်ရှောက်ကြသည်ဖြစ်၍သင်တို့ ကို ငါချီးမွမ်
၃ ၏။ ယောကျာ်း၏ခေါင်းကားခရစ်တော်ဖြစ်သည်ကိုငဲ့ မိမ္မ၏ခေါ
င်းကားယောကျာ်းဖြစ်သည်ကို ငဲ့ ခရစ်တော်၏ခေါင်းကားဘုရား
သခင်ဖြစ်တော်မူသည်ကိုငဲ့သင်တို့သိစေခြင်းငှါ ငါအလို ရှိ၏။
၄ ယောကျာ်းမည်သည်ကားမိမိခေါင်း ကို ဖုံး လျက် ဆုတောင်း ခြင်း။ပ
၅ ရောဖက်ဟောခြင်းကိုပြုလျှင်မိမိခေါင်းအသရေကို ရှုတ်ချ၏။ မိမ္မ
မည်သည်ကားမိမိခေါင်းကိုမဖုံးဘဲဆုတောင်းခြင်း။ပရောဖက်ဟော
၆ ခြင်းကိုပြုလျှင်မိမိခေါင်းအသရေကို ရှုတ်ချ၏။ ထိုသို့ပြုလျှင်ဆံပင်
ရိတ်သည်နှင့်တူ၏။ မိမ္မသည် မိမိ ခေါင်း ကိုမဖုံးလျှင်ဆံပင်ဖြတ်ပါ
လေစေ။ ဆံပင်ဖြတ် ခြင်း။ ဆံပင်ရိတ်ခြင်းအရာ၌ရှက်စရာရှိသည်မှန်
၇ လျှင်ခေါင်းကိုဖုံးပါလေစေ။ ယောကျာ်း သည် ဘုရားသခင်၏ပုံသ
ဏ္ဍာန်။ဘုန်းအသရေတော်ဖြစ်သောကြောင့်မိမိခေါင်းကိုမဖုံးရ။ မိမ္မ
၈ မူကား ယောကျာ်း၏ ဘုန်း အသရေဖြစ်၏။ ယောကျာ်း သည် မိမ္မ
ကြောင့် ဖြစ် သည် မဟုတ်။ မိမ္မ သည် ယောကျာ်း ကြောင့် ဖြစ်၏။
၉ ယောကျာ်းသည်မိမ္မအဘို့ဖန်ဆင်းသည်မဟုတ်။ မိမ္မသည်ယောကျာ်း

၁၀ ဘို့ဖန်ဆင်းသည်ဖြစ်၏။ ထိုကြောင့် သူတမါးစေလွှတ်ရှသောတမန်
၁၁ များကိုထောက်၍မိမ္မသည်မိမိခေါင်းကိုဖုံးရ၏။ ။သို့သော်
လည်းသခင်ဘုရား၌ယောကျ်ားမပါဘဲမိမ္မချည်းဖြစ်သည်မဟုတ်။
၁၂ မိမ္မမပါဘဲယောကျ်ားချည်းဖြစ်သည်မဟုတ်။ မိမ္မသည်ယောကျ်ား
ကြောင့်ဖြစ်သကဲ့သို့ယောကျ်ားသည်လည်းမိမ္မအားဖြင့်ဖြစ်၏။အလုံး
၁၃ ရုံတို့သည်လည်းဘုရားသခင်ကြောင့်ဖြစ်ကြ၏။ မိမ္မသည်ခေါင်းမ
ဖုံးဘဲလျက်ဘုရားသခင်ကိုဆုတောင်းလျှင်လျှောက်ပတ်သည်မလျှော
၁၄ က်ပတ်သည်ကိုသင်တို့အလိုလိုဆင်ချင်ကြလော့။ ယောကျ်ားသည်
ရှည်သောဆံပင်ရှိလျှင်ရှက်ဘွယ်အကြောင်းဖြစ်သည်ကိုသင်တို့ပက
၁၅ တိတရားပင်ဆုံးမသွန်သင်သည်မဟုတ်လော။ မိမ္မမူကားရှည်သော
ဆံပင်ရှိလျှင်သူ၏ဘုန်းအသရေဖြစ်၏။ အဘယ်ကြောင့်နည်းဟူမူ
၁၆ ကား။မိမ္မဆံပင်သည်မိမိခြုံစရာဘို့ဖြစ်၏။ သို့သော်လည်းတစုံတ
ယောက်သောသူသည်ငြင်းခုံလျှင် ငါတို့၌ ၎င်ဘုရားသခင်အသင်း
၁၇ တော်တို့၌၎င်ထိုသို့သောထုံးစံမရှိ။ ။တဖန်ထုံး။သင်တို့သည်
အကျိုးကိုပြုရအောင်စည်းဝေးသည်မဟုတ်။ အကျိုးကိုနည်းစေ
အောင်စည်းဝေးသည်ဖြစ်၍သင်တို့ကို ငါမချီးမွမ်းဟု ငါအတည့်အ
၁၈ လင်းဆိုရ၏။ ပဌမအကြောင်းဟူမူကား။သင်တို့သည်အသင်းတော်
၌စည်းဝေးသောအခါ အချင်းချင်းကွဲပြားခြင်းရှိသည်ကို ငါကြားရ
၁၉ ၏။ ကြားရသည်အတိုင်းဟုတ်ကောင်းဟုတ်လိမ့်မည်။ အဘယ်
ကြောင့်နည်းဟူမူကား။သင်တို့တွင်ကောင်းမွန်သောသူတို့သည်ထင်
၂၀ ရှားမည်အကြောင်း။သင်းခွဲခြင်းတိုင်အောင်ဖြစ်ရတော့မည်။ သင်
တို့သည်အတူစည်းဝေးသောအခါသခင်ဘုရား၏ပွဲတော်ကိုစား
၂၁ ခြင်းငှါစည်းဝေးသည်မဟုတ်။ အဘယ်ကြောင့်နည်းဟူမူကား။သင်
တို့သည်စားကြသည်တွင်ကိုယ်စီကိုယ်စီမိမိအစားကိုအရင်ယူ၍တ
၂၂ ချို့ကားဆာမွတ်လျက်တချို့ကားစားသောက်ကျူးလျက်ရှိ၏။ သင်
တို့သည်စားသောက်ရာကိုယ်အိမ်မရှိလော။သို့မဟုတ်။ဘုရားသခင်
၏အသင်းတော်ကိုမထိမဲ့မြင်ပြု၍ဆင်းရဲသောသူတို့ကိုရှက်ကြောက်
စေသလော။ အဘယ်သို့ ငါဆိုရမည်နည်း။ ဤအမှုမှာသင်တို့ကိုချီး
၂၃ မွမ်းရမည်လော။မချီးမွမ်းရ။ ။အဘယ်ကြောင့်နည်းဟူမူကား။
သင်တို့၌ငါအပ်ပေးသောအကြောင်းအရာကိုသခင်ဘုရားထံငါခံရ
ပြီ။ခံရသောအရာဟူမူကား။သခင်ယေရှုသည်ရန်သူလက်သို့အပ်နှံ

၂၄ သောညနေညမှာမုန့်ကိုယူ၍ ကျေးဇူးတော်ကိုချီးမွမ်းပြီးမှ မုန့်ကိုဖဲ့၍
ဤမုန့်ကားသင်တို့အကျိုးငှါချိုးဖဲ့သောငါ၏ကိုယ်ဖြစ်၏။ ငါကိုအော
၂၅ င်းမေ့မှိုရာဤသို့ပြုကြလော့ဟုမိန့်တော်မူ၏။ ထိုနည်းတူ။ညစာစား
ပြီးမှ ခွက်ကိုလည်း ယူ၍ ဤ ခွက်ကားငါ၏အသွေးနှင့်တည်သောဝန်ခံ
ခြင်းတရားသစ်ဖြစ်၏။နောက်မှာဤ ခွက်ကိုသောက်သောအခါခါငါ
၂၆ ကိုအောင်းမေ့မှိုရာသောက်ကြလော့ဟုမိန့်တော်မူ၏။ သို့ဖြစ်လျှင်
သင်တို့သည် ထိုမုန့်ကို စား၍ထို ခွက်ကို သောက်သောအခါခါသခင်
ဘုရားအသေခံတော်မူ သောအကြောင်း ကို ကြွလာတော်မမူမှီ တိုင်
၂၇ အောင်ထင်ရှားပြုကြ၏။ ထိုကြောင့်သခင်ဘုရားနှင့်ဆိုင်သောဤမုန့်
၂၈ ကိုဖြင့်ဤ ခွက်ကိုဖြင့်မထိုက်မတန်ဘဲသောက် စားသော သူမည်သည်
ကားသခင်ဘုရား၏ကိုယ်တော်ကို ဖြင့် အသွေးတော်ကို ဖြင့် ပြစ်မှား
ရာရောက်၏။လူသည်မိမိကိုမိမိစစ်ကြောပြီးမှမုန့် ကို စားပါလေစေ၊
၂၉ ထိုသို့လည်းခွက်ကိုသောက်ပါလေစေ။ အကြောင်းမူကား။မထိုက်မ
တန်ဘဲစားသောက်သော သူသည်သခင်ဘုရား၏ကိုယ်တော်ကိုပိုင်း
ခြားမသိသောကြောင့်မိမိအပေါ်မှာအပြစ်ရောက်မည့်အကြောင်းစား
၃၀ သောက်သော သူဖြစ်၏။ ။ထိုအကြောင်းဖြင့်သင်တို့တွင်အား
နည်းသော သူ။မကျန်းမမာသော သူအများရှိကြ၏။သေလွန်သောသူ
၃၁ အများလည်းရှိကြ၏။ ငါတို့သည်ကိုယ်ကိုကိုယ်စစ်ကြောစီရင်လျှင်
၃၂ စစ်ကြောစီရင်တော်မူခြင်းနှင့်ကင်းလွတ်ကြလိမ့်မည်။ စစ်ကြောစီ
ရင်တော်မူခြင်းကိုခံကြသောအခါလောကီသားတို့ နှင့်အတူ အပြစ်စီ
၃၃ ရင်ခြင်းကိုမခံမည့်အကြောင်း။ဆုမ္မတော်မူခြင်းကိုခံရကြ၏။ သို့ဖြစ်
လျှင်ငါညီအစ်ကိုတို့။သင်တို့သည်စားခြင်းငှါစည်းဝေးသောအခါအ
၃၄ ချင်းချင်း တယောက် ကိုတယောက်ငံ့လင့်ကြလော့။ ဆာငတ်သောသူ
ရှိလျှင်သင်တို့ သည် အားလုံး အတူ အပြစ် မရောက် ရအောင်ထိုသူ
သည်မိမိအိမ်၌စားပါလေစေ။ကြွင်းသောအမှုများကို ငါလာသောအ
ခါစီရင်မည်။

**

၁ ညီအစ်ကိုတို့။သင်တို့သည်ဝိညာဉ်ဆုကျေးဇူး အကြောင်းများကိုသိ
၂ စေခြင်းငှါငါအလိုရှိ၏။ သင်တို့သည်အထက်ကသာသနာပလူဖြစ်
၍သူတပါးတို့သည်သွေးဆောင်သဖြင့်စကားမပြောနိုင်သောရုပ်တု
၃ ဆီသို့ဆောင် သွား သော သူဖြစ် ကြောင်း ကိုသင်တို့သိကြ၏။ ထို

ကြောင့်အဘယ်သူမျှဘုရားသခင်၏ဝိညာဉ်တော်အားဖြင့်ဟော
ပြော၍ယေရှုကိုမကျိန်ဆဲနိုင်သည်ကိုဇင်ယေရှုသည်သခင်ဘုရား
ဖြစ်တော်မူ၏ဟုသန့်ရှင်းသောဝိညာဉ်တော်ကိုအမှီမပြုဘဲအဘယ်သူ
မျှမပြောနိုင်သည်ကိုဇင်သင်တို့သည်သိနားလည်ရအောင်ငါသတိ
၄ ပေး၏။ ဆုကျေးဇူးကော်အထူးထူးအထွေထွေရှိညားသော်လည်း
၅ ဝိညာဉ်တော်တပါးတည်းရှိ၏။ ဆရာအမှုအထူးထူးအထွေထွေရှိ
၆ ညားသော်လည်းသခင်တပါးတည်းရှိ၏။ ပြုပြင်ခြင်းအထူးထူးအ
ထွေထွေရှိညားသော်လည်းခပ်သိမ်းသောသူတို့၌ပြုပြင်သမျှကိုပြု
၇ ပြင်တော်မူသောဘုရားသခင်တပါးတည်းရှိ၏။ ကောင်းသောအ
ကျိုးအလို့ငှါသာဝိညာဉ်တော်ကိုလူအသီးအသီးတို့အားထင်ရှားပေး
၈ တော်မူလျက်ရှိ၏။ အဘယ်သို့နည်းဟူမူကား။ တယောက်သောသူ
အားဝိညာဉ်တော်သည်ပညာတရားကိုပေးတော်မူ၏။ တယောက်
သောသူအားထိုဝိညာဉ်တော်သည်ထိုးထွင်းခြင်းတရားကိုပေးတော်
၉ မူ၏။ တယောက်သောသူအားထိုဝိညာဉ်တော်သည်ရုံခြင်းကိုပေး
တော်မူ၏။ တယောက်သောသူအားထိုဝိညာဉ်တော်သည်အနာရော
၁၀ ဂါကိုညိမ်းစေနိုင်သောအခွင့်ကိုပေးတော်မူ၏။ တယောက်သော
သူအားတန်ခိုးကိုပြုနိုင်သောအခွင့်ကိုဇင်တယောက်သောသူအားဖြ
ရောဖက်ဟောနိုင်သောအခွင့်ကိုဇင်တယောက်သောသူအားစိတ်ဝိ
ညာဉ်တို့ကိုပိုင်းချား၍သိနိုင်သောအခွင့်ကိုဇင်တယောက်သောသူ
အားအမျိုးမျိုးသောဘာသာစကားတို့ကိုပြောနိုင်သောအခွင့်ကိုဇင်
တယောက်သောသူအားထိုဘာသာစကား၏အနက်ကိုဖော်ပြနိုင်
၁၁ သောအခွင့်ကိုဇင်ပေးတော်မူ၏။ ဤအခွင့်ရှိသမျှတို့ကိုတပါးတည်း
သောဝိညာဉ်တော်သည်ပြုပြင်၍လူအသီးအသီးတို့အားအသီးအသီး
ခံရသောအခွင့်တို့ကိုအလိုတော်ရှိသည်အတိုင်းဝေဌပေးတော်မူ၏။
၁၂ ။ဥပမာကား။ကိုယ်တခုတည်းမှာအင်္ဂါအများရှိသည်ဖြစ်၍
ထိုတခုတည်းသောကိုယ်၏အင်္ဂါအားလုံးတို့သည်များလျက်နှင့်ကိုယ်
၁၃ တခုတည်းဖြစ်သကဲ့သို့ထိုနည်းတူခရစ်တော်ဖြစ်၏။ အဘယ်
ကြောင့်နည်းဟူမူကား။ယုဒလူဖြစ်စေ။ဟေလသလူဖြစ်စေ။ကျွန်ဖြစ်
စေ။ လူလွတ်ဖြစ်စေ။ ငါတို့အားလုံးသည်တကိုယ်တည်းဖြစ်စေခြင်း
ငှါဝိညာဉ်တော်တပါးတည်း၌နှစ်ခြင်းမင်္ဂလာကိုခံကြ၏။ အားလုံးတို့
၁၄ လည်းတစိတ်တဝိညာဉ်တည်းကိုသောက်ကြ၏။ ကိုယ်သည်အင်္ဂါတ

၁၅ ခုတည်း ရှိ သည် မဟုတ်။ အများ ရှိ သည် ဖြစ် ၍ ခြေကငါသည်
လက် မဟုတ် သောကြောင့် ကိုယ် နှင့် ငါ မစပ်ဆိုင် ဟု ဆို လျှင် ဆို
၁၆ သောကြောင့် ကိုယ် နှင့် မစပ်ဆိုင် သည် မှန် သလော။ နားကလည်း
ငါ သည် မျက်စိ မဟုတ် သောကြောင့် ကိုယ် နှင့် ငါ မစပ်ဆိုင် ဟုဆို
၁၇ လျှင်ဆိုသောကြောင့်ကိုယ်နှင့်မစပ်ဆိုင်သည် မှန် သလော။ တကိုယ်
လုံးမျက်စိဖြစ်လျှင်အဘယ်သို့ကြားနိုင်သနည်း။တကိုယ်လုံးနားဖြစ်
၁၈ လျှင်အဘယ်သို့နမ်းနိုင်သနည်း။ ယခုမူကားဘုရားသခင်သည်အလို
တော်ရှိသည်အတိုင်းအင်္ဂါများအသီးအသီးတို့ကိုကိုယ်၌ခီရင်ခန့်ထား
၁၉ တော်မူ၏။ ထိုမှတပါး။အင်္ဂါအားလုံး တို့ သည် အင်္ဂါ တခုတည်းဖြစ်
၂၀ လျှင်ကိုယ်သည်အဘယ်မှာရှိမည်နည်း။ ယခုတွင်အင်္ဂါအများရှိလျက်
၂၁ နှင့်ကိုယ်တခုတည်းရှိ၏။ မျက်စိကသင်ကိုငါအလိုမရှိ ဟု လက်ကိုမ
ဆိုရ။ထိုနည်းတူ။ခေါင်းကသင်တို့ကိုငါအလိုမရှိဟုခြေတို့ကိုမဆိုရ။
၂၂ ထိုမျှမက။အားနည်းဟန်ရှိသောအင်္ဂါတို့သည်သာ၍အသုံးဝင်၏။ အ
၂၃ သရေနည်းဟန်ရှိသောအင်္ဂါတို့ကိုလည်းသာ၍ကြီး သောအသရေကို
ပေးတတ်၏။ တင့်တယ်ခြင်းမရှိသောအင်္ဂါတို့သည်သာ၍ ကြီးသော
၂၄ တင့်တယ်ခြင်းခံရ ၏။ တင့်တယ်လျက်ရှိသောအင်္ဂါတို့သည်အချား
၂၅ သောတင့်တယ်ခြင်းကိုမလို။ကိုယ်ခန္ဓာ၌အချင်းချင်း ကွဲပြား ခြင်းမ
ရှိဘဲအင်္ဂါများတို့ သည် အချင်း ချင်းသု ကိုကိုယ်နှင့်အမျှသတိပြုစေ
ခြင်းငှါဘုရားသခင်သည်ကိုယ်ခန္ဓာကိုမျှစေ၍ယုတ်သောအင်္ဂါအား
၂၆ သာ၍များသောအသရေကိုပေးတော်မူ၏။ သို့ဖြစ်၍အင်္ဂါ တခုဆင်း
ရဲဝေဒနာကိုခံလျှင်အင်္ဂါအားလုံးတို့သည်အတူခံကြ၏။ အင်္ဂါတခုချီး
မြှောက်ခြင်းကိုခံလျှင်အင်္ဂါအားလုံးတို့သည်အတူဝမ်းမြောက်ကြ၏။
၂၇ ။သင်တို့သည်ခရစ်တော်၏ကိုယ်ဖြစ်ကြ၏။အသီးအသီး
၂၈ အင်္ဂါတော်ဖြစ်ကြ၏။ ဘုရားသခင်သည်ပဌမအရာ၌တမန်တော်တို့
ကိုၛင်ဒုတိယအရာ၌ပရောဖက်တို့ကိုၛင်တတိယအရာ၌ဆရာတို့ကို
ၛင် ထိုနောက်တန်ခိုးပြသောသူတို့ကို ၛင် ထိုနောက်အနာရောဂါကို
ညှိမ်းစေနိုင်သောအခွင့်ရှိသောသူတို့ကိုၛင်သင်းထောက်တို့ကိုၛင်
စီရင်အုပ်စိုးသောသူတို့ကိုၛင်အမျိုးမျိုးသောဘာသာစကားကိုပြော
၂၉ နိုင်သောသူတို့ကိုၛင်အသင်းတော်၌ခန့်ထားတော်မူ၏။ သင်းဝင်သူ
အားလုံးတို့သည် တမန်တော်ဖြစ် သလော။ အားလုံး တို့ သည် ပရော
ဖက်ဖြစ်သလော။ အားလုံးတို့ သည် ဆရာဖြစ်သလော။ အားလုံး တို့

၃၀ သည်တန်ခိုးကိုပြနိုင်သလော။ အားလုံးတို့သည် အနာရောဂါကို
ညီမ်းစေနိုင်သောအခွင့်ရှိသလော။အားလုံးတို့သည် အမျိုးမျိုးသော
ဘာသာစကားကိုပြောနိုင်သလော။ အားလုံးတို့သည် ထိုဘာသာစ
ကား၏အနက်ကိုဖော်ပြနိုင်သလော။

❋❋

၃၁ သင်တို့သည်အမြတ်ဆုံးသော ဆုကျေးဇူးတော်တို့ကို အလွန်အလိုရှိ
၁ သည်တွင်သာ၍မြတ်သောလမ်းကိုသင်တို့အားငါပြဦးမည်။ လူဘာ
သာစကားကိုဖင်ကောင်းကင်တမန်ဘာသာစကားကိုဖင်ငါပြောနိုင်
သော်လည်းမေတ္တာမရှိလျှင် အသံမြည်သောတံပိုးခရာကဲ့သို့ဖင်မ
၂ ညီမညွတ်မြည်တတ်သောလင်္ကွင်းကဲ့သို့ဖင်ငါဖြစ်၏။ ပရောဖက်
ညာဏ်ကိုငါရ၍နက်နဲသောအရာရှိသမျှတို့နှင့်သိပ္ပံအတတ် အမျိုး
မျိုးကိုတတ်၍တောင်များကိုရွှေ့နိုင်အောင်ရုံခြင်းအမျိုးမျိုးနှင့်ပြည့်စုံ
၃ သော်လည်းမေတ္တာမရှိလျှင်အချည်းနှီးသက်သက်ဖြစ်၏။ သူတပါး
ကိုငါကျွေးမွေး၍ ဥစ္စာရှိသမျှကိုစွန့်သည်သာမကမီး၌ရှို့ခြင်းကိုခံရ
အောင်ကိုယ်ကိုကိုယ်အပ်သော်လည်း မေတ္တာမရှိလျှင်ငါ၌အကျိုးမ
၄ ရှိ။ မေတ္တာသည်စိတ်ရှည်တတ်၏။ကျေးဇူးပြုတတ်၏။ မေတ္တာသည်
၅ ဂုဏ်ပြိုင်ခြင်းမရှိ။မေတ္တာသည်ကြွားဝါခြင်းမရှိ။ မာန်မာနမရှိ။ မ
လျောက်ပတ်စွာမကျင့်တတ်။ကိုယ်အကျိုးကိုသာမရှာတတ်။ဒေါသအ
၆ မျက်မထွက်တတ်။သူတပါးကိုအပြစ်မတင်တတ်။ မတရားသောအ
၇ မှု၌ဝမ်းမြောက်ခြင်းမရှိဘဲသမ္မာတရား၌ဝမ်းမြောက်ခြင်းရှိ၏။ ခပ်
သိမ်းသောအရာကိုဖုံးအုပ်တတ်၏။ခပ်သိမ်းသောအရာကိုယုံတတ်၏။
ခပ်သိမ်းသောအရာကိုမျှော်လင့်တတ်၏။ ခပ်သိမ်းသောအရာကို
၈ သည်းခံတတ်၏။ မေတ္တာသည်ဖောက်ပြန်ခြင်းသဘောနှင့်အစည်
ကင်းလွတ်၏။ ပရောဖက်ညာဏ်သော်ဖင်အမျိုးမျိုးသောဘာသာစ
ကားကိုပြောနိုင်သောအခွင့်သော်ဖင်သိပ္ပံအတတ်သော်ဖင်ကွယ်
၉ ပျောက်လိမ့်မည်။ ။ယခုမူကားငါတို့သည် မစုံမလင်သိ
၁၀ တက်ကြ၏။ပရောဖက်ညာဏ်နှင့်မစုံမလင်ဟောတတ်ကြ၏။ စုံလင်
ခြင်းသို့ရောက်သောအခါမူကားမစုံလင်သမျှတို့သည် ကွယ်ပျောက်
၁၁ လိမ့်မည်။ ငါသည်သူငယ်ဖြစ်စဉ်အခါ သူငယ်လိုစကားပြော၏။
သူငယ်လိုစိတ်ထင်ရှိ၏။ သူငယ်လိုကြံစည်၏။ အသက်ကြီးသောအခါ
၁၂ သူငယ်၏အရာများကိုငါပယ်ရှား၏။ ယခုမူကားငါတို့သည်မှန်အား

ဖြင့်ရိပ်မီ လျက်သာ နေကြ၏။ထိုအခါမူကား မျက်မှောက်ထင်ထင်မြင်
ကြလိမ့် မည်။ ယခုမူ ကား ငါ အသိ အမြင် မစုံမလင် ဖြစ်၏။ထို အခါ၌မူ
၁၃ ကား သူတပါးငါကိုသိသကဲ့သို့ငါသိလိမ့်မည်။ ယခုတွင် ရုံကြည် ခြင်း၊
မျှော်လင့်ခြင်း၊ချစ်ခြင်း။ ဤသုံးပါးတည် လျက်ရှိ၏။ ဤသုံးပါးတို့တွင်
၁ ချစ်ခြင်းမေတ္တာသည်အမြတ်ဆုံးဖြ^သတည်း။ ။ချစ်ခြင်း
မေတ္တာ ကိုလိုက် ရှာကြလော့။ ဝိညည် ဆုကျေးဇူးတို့ကို အလွန် အလိုရှိ
သည့်တွင်ပရောဖက်ပြုရ သောအ ခွင့်ကိုသာ၍လိုချင် သောစိတ်ရှိကြ
၂ လော့။ အကြောင်းမူကား၊အခြားသောဘာသာစကားအားဖြင့်ပြော
သော သူသည်လူတို့အားမပြော၊ ဘုရားသခင်အားပြော၏။သူစကား
ကိုအဘယ်သူမျှနားမလည်၊ ဝိညည်တော်အားဖြင့်နက်နဲ သောအရာတို့
၃ ကိုပြော၏။ ပရောဖက်ပြုသော သူမူကားတည် ဆောက် ခြင်း၊တိုက်
တွန်းသွေးဆောင်ခြင်း၊သက်သာခြင်းအလို့ငှါ လူတို့ အားဟောပြော
၄ ၏။ အခြားသောဘာသာစကားအားဖြင့် ပြောသောသူသည် ကိုယ်
ကိုသာတည် ဆောက်ပေ၏။ ပရောဖက်ပြု သောသူသည်အသင်းတော်
၅ ကိုတည်ဆောက်ပေ၏။ သင်တို့အားလုံးသည် အခြားသောဘာသာ
စကားဖြင့်ပြောစေခြင်းငှါငါအလိုရှိ၏။ပရောဖက်ပြုစေခြင်းငှါသာ
၍အလိုရှိ၏။အဘယ်ကြောင့်နည်းဟူမူကား။အခြားသောဘာသာစ
ကားဖြင့်ပြောသောသူသည်အသင်းတော်ကိုတည်ဆောက်ခြင်းငှါအ
နက်ကိုမဖော်ပြလျှင်သူထက်ပရောဖက်ပြု သောသူသည်သာ၍မြတ်
သတည်း။



၆ ညီအစ်ကိုတို့၊ငါသည်သင်တို့ဆီသို့လာ၍အခြားသောဘာသာစကား
ဖြင့်ဟောပြောသော်လည်း၊ဗျာဒိတ်တော်ကိုပြန်ခြင်း၊ပညာအတတ်ကို
သင်ခြင်း၊ပရောဖက်ပြုခြင်း၊ဆုံးမဩဝါဒပေးခြင်းတခုခုမပြုဘဲလျက်
သင်တို့အား ပြောလျှင် အဘယ်အကျိုးရှိအံ့နည်း။ ထိုနည်းတူ၊ အသံ
၇ မြည်တတ်သောအဝိညာဏက ရုပ်မူကားပလွေဖြစ်စေ၊ စောင်းဖြစ်
စေ၊ပိုင်းချားသောအသံမမြည်လျှင် စောင်းပလွေသံ များကိုအဘယ်
၈ သို့သိနိုင်သနည်း။ တံပိုးခရာသည် လည်းမမှန် သောအသံမြည် လျှင်
၉ အဘယ် သူသည် စစ်တိုက်ခြင်းငှါမိမိကိုမိမိပြင်ဆင်မည်နည်း။ ထို
နည်းတူ၊သင်တို့သည်နားလည်လွယ်သောစကားကိုလျှာဖြင့်မမြွက်
လျှင် မြွက် သော စကားကိုအ ဘ ယ် သို့ သိနိုင် သနည်း။ အာကာသ

၁၀ ကောင်းကင်ကိုပြောသောသူကဲ့သို့ဖြစ်လိမ့်မည်။ လူပြည်၌ ဘာသာ
စကားမျိုးတို့သည် ဤမျှလောက် များ၍ အနက်နှင့်ပြည့်စုံသည် ချည်း။
၁၁ ဟုတ်စေတော့။ ဘာသာစကား၏အနက်ကိုငါနားမလည်လျှင်ပြော
သောသူအားငါသည် လူရိုင်းဖြစ်လိမ့်မည်။ ပြောသောသူသည် လည်း
၁၂ ငါ့အားလူရိုင်းဖြစ်လိမ့်မည်။ သို့ဖြစ်၍သင်တို့သည် ဝိညာဉ် ဆုကျေး
ဇူးတော်တို့ကိုအလွန်အလိုရှိသည်တွင်အသင်းတော်ကိုတည် ဆောက်
၁၃ ခြင်းငှါကြွယ်ဝပြည့်စုံမည်အကြောင်းကျိုးစားကြလော့။ ထိုကြောင့်
အချားသောဘာသာစကားကိုပြန်ပြောသောသူသည်အနက်ကိုလည်း
၁၄ ဖော်ပြနိုင်မည်အကြောင်းဆုတောင်းပါလေစေ။ အကြောင်းမူကား။အ
ချားသော ဘာသာစကားဖြင့်ငါဆုတောင်းလျှင် ငါ့စိတ်နှစ် လုံးဆု
၁၅ တောင်းသော်လည်းငါ့ဉာဏ်သည်အကျိုးကိုမပေး။ သို့ဖြစ်လျှင်အ
ဘယ်သို့ပြုရမည်နည်း။စိတ်နှစ်လုံးနှင့်ရင်ဉာဏ်နှင့်ရင်ဆုတောင်းရ
၁၆ မည်။စိတ်နှစ်လုံးနှင့်ရင်ဉာဏ်နှင့်ရင်သီချင်းဆိုရမည်။ သို့မဟုတ်။
သင်သည် စိတ်နှစ်လုံးနှင့်ကျေးဇူးတော်ကို ချီးမွမ်းသော အခါ မတတ်
သောလူစုအဝင်ဖြစ်သောသူသည် သင်၏ စကားကိုနားမလည်သော
ကြောင့်ကျေးဇူးတော်ချီးမွမ်းခြင်းကိုအာမင်ဟူ၍ အဘယ်သို့ဝန်ခံနိုင်
၁၇ သနည်း။ သင်သည်ကျေးဇူးတော်ကိုကောင်းကောင်းချီးမွမ်းသည်မှန်
၁၈ စေတော့။ အချားသော သူမူကား တည်ဆောက် ခြင်းအကျိုး မရှိ။ ငါ
သည် သင် တို့ အား လုံးထက် အချားသော ဘာသာစကား ဖြင့် ပြော
ပြောသော အရာကိုထောက်၍ ဘုရားသခင်၏ ကျေးဇူးတော်ကိုငါချီး
၁၉ မွမ်း ပါ၏။ သို့ သော်လည်းအသင်းတော် ၌ အချားသောဘာသာစ
ကားဖြင့်စကားတသောင်းကိုပြောသည်ထက်သူတပါးတို့ကိုသွန်သင်ရ
အောင်စကားငါး ခွန်းကိုသာဉာဏ်နှင့်တကွပြောခြင်းငှါငါအလိုရှိ၏။
၂၀ ။ညီအစ်ကိုတို့။သင်တို့သည်ဉာဏ်အားဖြင့်သူငယ်ကဲ့သို့မ
ဖြစ်ကြနှင့်။မတရားသောအမှုအားဖြင့် နို့စို့ကလေးကဲ့သို့ရင် ဉာဏ်
၂၁ အားဖြင့်အသက်ကြီး သောသူကဲ့သို့ရင် ဖြစ်ကြလော့။ ပညတ်ကျမ်း
စာ၌လာသည်ကား။ အချားသောလျှာ။အချား သောနှုတ်အား ဖြင့် ဤ
လူမျိုးကိုငါပြောမည်။သို့သော်လည်း သူတို့သည် နားမထောင်ကြဟု
၂၂ ထာဝရဘုရားမိန့်တော်မူ၏။ သို့ဖြစ်၍အချားသောဘာသာစကား
တို့သည်ယုံကြည် သောသူတို့အား နိမိတ်လက္ခဏာဖြစ် သည် မဟုတ်။
မယုံကြည် သောသူတို့အား နိမိတ် လက္ခဏာဖြစ် သတည်း။ ပရောဖက်

ဉာဏ်နှင့် ဟောခြင်း အမှုမှကား မယုံကြည် သောသူတို့အဖို့မဟုတ်။
၂၃ ယုံကြည် သောသူတို့အဖို့ဖြစ်သတည်း။ ထို့ကြောင့်သင်းဝင်သူအား
လုံး စည်းဝေး၍ အားလုံး တို့သည် အချားဘာသာစကားဖြင့်ဟော
ပြောလျက် နေကြစဉ် တွင်မယုံကြည် သောသူ၊မတတ်သောသူဝင်လာ
၂၄ လျှင်သင်တို့ကိုအရူးဖြစ်သည်ဟုမပြောမည်မဟုတ်လော။ သို့မဟုတ်၊
အားလုံးတို့သည် ပရောဖက်ပြုနေကြစဉ်တွင်မယုံကြည် သောသူ၊မ
တတ်သောသူဝင်လာလျှင်သင်တို့အားလုံး သည်သူ့အပြစ် ကိုဖော်ပြ
၂၅ ၍ သူ ကို စစ်ကြောစီရင်ကြ၏၊ ထို သို့သူ၏စိတ် နှင့်လုံး၌မထင်ရှား
သောအရာတို့သည်ထင်ရှားဖြစ်၍ သူသည် ပျပ်ဝပ်လျက်ဘုရားသ
ခင်ကိုကိုးကွယ်လိမ့်မည်၊ ဘုရားသခင် သည်သင် တို့တွင် အမှန်ရှိ
၂၆ တော်မူသည်ဟုကြားပြောလိမ့်မည်။ ။ညီအစ်ကိုတို့။အ
ဘယ်သို့နည်း။ သင်တို့စည်း ဝေးသောအခါဆာလံသီချင်းကိုရသော
သူ။ဆုံးမဩဝါဒစကားကို ရ သော သူ။အချား သောဘာသာစကားကို
ရသောသူ။ ဗျာဒိတ် တော်ကိုရသောသူ။ အနက် ဖော် ပြရာကိုရသော
သူ။အသီးအသီး ရှိကြ၏။ခပ်သိမ်း သောအမှုတို့ကိုတည် ဆောက်ခြင်း
၂၇ အလို့ငှါစီရင်ရ၏။ တစုံတယောက် သောသူသည် အချားသောဘာ
သာစကား ဖြင့်ဟောပြောလျှင် နှစ်ယောက်စီပြောပါစေ။ အများ
ဆုံး ဆိုသော်သုံး ယောက်စီတ ယောက် နောက် တယောက် ပြောပါစေ
၂၈ စေ။တယောက် သောသူသည် လည်း အနက် ကိုဖော်ပြပါလေစေ။ စ
ကားပြန် မရှိလျှင် ဟောပြောချင်သောသူသည် အသင်းတော်၌တိတ်
၂၉ ဆိတ်စွာနေ၍ မိမိအားငှင် ဘုရားသခင်အား ငှင်ပြောပါလေစေ။ ပ
ရောဖက် တို့သည် နှစ်ယောက် စီ။သုံး ယောက် စီဟောပြော ပါလေစေ။
၃၀ အချားသောသူတို့သည် စစ် ကြောဆင်ချင်ပါလေစေ။ ထိုင်နေသော
သူအားတစုံတခုကိုဖွင့်ပြတော်မူလျှင် အရင်ဟောပြောသောသူသည်
၃၁ တိတ်ဆိတ်စွာနေစေတော့။ အကြောင်းမူကား။အားလုံး တို့သည်သင်
ခြင်းငှါ ငှင်အားလုံးတို့သည်သက်သာခြင်း ငှါငှင်သင်တို့အသီးအသီး
၃၂ တယောက် နောက် တယောက် ပရောဖက်ပြု ရ သော အခွင့် ရှိ၏။ ပ
ရောဖက်တို့သည်လည်း မိမိတို့စိတ်ဝိညာဉ်ကိုချုပ်တည်းနိုင်ကြ၏။
၃၃ ဘုရားသခင်သည်ရုန်းရင်း ခတ်သောအမှုကိုပြုစုတော်မမူ။သန့်ရှင်း
သူတို့၏ အသင်း တော်အား လုံး၌ ရှိသကဲ့သို့အသင့် အတင့် ညီမ်ဝပ်
၃၄ ခြင်းကိုပြုစုတော်မူ၏။ ။သင်တို့၏မိမ္မတို့သည်အသင်း

တော်၌တိတ်ဆိတ် စွာနေစေတော့။ သူတို့ဟောပြောသော့အခွင့်မရှိ။
ပညတ်တရားစီရင်သည် အတိုင်းသူတို့သည် ယောကျ်ားအုပ်စိုးခြင်း
၃၅ ကိုဝန်ခံရ၏။ မိမ္မတို့သည်တစုံတခုကိုသင်လိုလျှင်အိမ်၌မိမိခင်ပွန်း
တို့ကိုမေးမြန်းပါလေစေ။မိမ္မသည်အသင်းတော်၌ဟောပြောလျှင်ရှက်
၃၆ ဖွယ်အကြောင်း ဖြစ် ၏။ ဘုရားသခင်၏ နှုတ်ကပတ် တရား သည်
သင် တို့ဆီကထွက် သလော။ သို့မဟုတ်။ သင် တို့ဆီသို့သာ ရောက်သ
၃၇ လော။ ငါသည် သင် တို့အားရေး ထား၍ ကြား လိုက်သောစကားတို့
သည်သခင်ဘုရား၏ပညတ်တော်ဖြစ်ကြောင်းကိုပရောဖက်ဖြစ်သော်
သူ။ ဝိညာဉ်ဆုကျေးဇူးကိုခံသောသူမည်သည်ကားဝန်ခံပါလေစေ။
၃၈ တစုံတယောက်သောသူမသိလျှင်မသိဘဲနေပါလေစေ။ အချုပ်အချာ
၃၉ ဟူမူကား။ညီအစ်ကိုတို့။သင် တို့သည် ပရော ဖက်ပြုခြင်း၌အလွန်အ
လိုရှိကြလော့။ အချား သော ဘာ သာ စကား ဖြင့် ဟော ပြောခြင်း အမှု
၄၀ ကိုမမြစ်တားကြနှင့်။ ခပ်သိမ်းသောအမှုတို့တင့်တယ်လျောက်ပတ်
စွာအစည်အတိုင်းစီရင်ကြလော့။



၁ ညီအစ်ကိုတို့။ငါသည်သင်တို့အားဟောသဖြင့်၍သင်တို့သည်နားထော
င်သည် နှင့် ယခုတိုင်အောင် မှီ၍ဆည်းကပ်သော ဧဝံဂေလိတရား ကို
၂ သင်တို့အားတဖန်ငါကြားလိုက်၏။ အထက်ကငါဟောသည်အကြော
င်းများကိုသင်တို့သည်အချည်းနှီးမရုံဘဲစိတ်စွဲလမ်းလျှင်ထိုဧဝံဂေလိ
၃ တရားအားဖြင့်ကယ်တင်တော်မူခြင်းသို့ရောက်ကြ၏။ ငါသည်ကိုယ်
တိုင်ခံယူသကဲ့သို့သင်တို့အားရှေ့ဦးစွာအပ်ပေးသော အကြောင်း အ
၄ ရာဟူမူကား။ခရစ်တော်သည် ကျမ်းစာလာသည်အတိုင်းငါတို့အပြစ်
ကြောင့်အသေခံတော်မူ၏။ သင်းဂြိုဟ်ပြီးမှကျမ်းစာလာသည်အတိုင်း
၅ သုံးရက်မြောက်သော နေ့၌ထမြောက်တော်မူ၏။ ကေဖသည် ကိုယ်
၆ တော်ကို မြင်ပြီး မှ ထိုနောက် တကျိပ်နှစ် ပါး သော သူတို့ သည် မြင်ရ
ကြ၏။ထိုနောက်ညီအစ်ကိုငါးရာမကတပြိုင်နက်မြင်ရကြ၏။ထိုသူတို့
တွင်အများ သောသူတို့ သည် ယခုတိုင်အောင် အသက်ရှင်ကြ၏။ အ
၇ ချို့တို့သည် အိပ်ပျော်ကြပြီး။ ထိုနောက် ယာကုပ် မြင်ရ၏။ ထိုနောက်
၈ တမန်တော်အားလုံးမြင်ရကြ၏။ နောက်ဆုံး၌အချိန်မတော်မတန် ဖွား
၉ သောသူကဲ့သို့ဖြစ်သောငါပင်မြင်ရ၏။ ငါသည် အထက်ကဘုရားသ
ခင်၏ အသင်း တော် ကို ညှဉ်းဆဲသော့ကြောင့်အညံ့ဆုံး သော တမန်

၁၀ တော်ဖြစ်၏။တမန်တော်ဟုခေါ်ဝေါ်ခြင်းကိုမခံထိုက်။ သို့သော်လည်း
ဘုရားသခင်၏ကျေးဇူးတော်အားဖြင့်သာငါဖြစ်သည်အတိုင်းငါဖြစ်
၏။ငါခံရသောကျေးဇူးတော်ကိုလည်းအကျိုးမဲ့ခံသည် မဟုတ်။အချား
သောတမန်တော်အားလုံးထက်ငါသာ၍ကျိုးစားခြင်းကိုပြု၏။ထိုသို့
ဆိုသော်လည်းငါကိုယ် ကျိုး စားသည်မဟုတ်။ငါနှင့် အတူရှိသောဘု
၁၁ ရားသခင်၏ကျေးဇူးတော်သာကျိုးစားတော်မူ၏။ ထိုကြောင့်ငါဖြစ်
စေ။သူတို့ဖြစ်စေ။ဤသို့ငါတို့သည်ဟောကြ၏။ဤသို့လည်းသင်တို့သည်
၁၂ ယုံကြည်ကြ၏။ ။ယခုမှာခရစ်တော်သည်သေခြင်းမှထမြောက်တော်
မူကြောင်းကိုဟောရသည်ဖြစ်၍သေသောသူတို့သည်ထမြောက်ခြင်း
မရှိဟုသင်တို့တွင်အချို့သောသူတို့သည်အဘယ်သို့ဆိုကြသနည်း။
၁၃ သေသောသူတို့သည် ထမြောက် ခြင်း မရှိ လျှင် ခရစ် တော်သည် ထ
၁၄ မြောက်တော်မမူ။ ခရစ်တော်သည် ထမြောက် တော်မမူလျှင်ငါတို့
၁၅ ဟောခြင်း၌အကျိုး မရှိ။သင် တို့ယုံကြည်ခြင်း ၌ လည်းအကျိုးမရှိ။ ထို
မျှမက။ငါတို့သည်ဘုရား သခင်၏အမှုမှာမမှန် သောသက်သေခံဖြစ်
၁၆ ကြ၏။အဘယ်ကြောင့်နည်းဟူမူကား။ သေလွန်သောသူတို့သည်ထ
မြောက်ခြင်း မရှိလျှင်ဘုရား သခင်သည် ခရစ်တော်ကိုထမြောက်စေ
တော်မမူ။ယခုမှာခရစ်တော်ကိုထမြောက်စေတော်မူပြီးဟုငါတို့သည်
ဘုရားသခင်၏ အကြောင်း ကိုသက်သေခံကြ၏။ သေလွန် သောသူတို့
သည်ထမြောက်ခြင်းမရှိလျှင်ခရစ်တော်သည်ထမြောက်တော်မမူ။
၁၇ ခရစ်တော်သည်ထမြောက်တော်မမူလျှင် သင်တို့ယုံကြည် သော်လည်း
၁၈ အကျိုးမရှိ။သင်တို့သည်ဒုစရိုက်အပြစ်အောက်၌ရှိသေးကြ၏။ ထိုမှ
တပါး။ခရစ်တော်ကိုယုံကြည်၍ အိပ်ပျော်သောသူတို့သည် ဆုံးရှုံးခြင်း
၁၉ သို့ရောက် ကြပြီး။ ငါတို့သည်ခရစ် တော်ကိုအမှီပြု၍ယခုဘဝ၌သာ
မျှော်လင့် စရာ ရှိလျှင်အချား သောသူအား လုံး ထက် သာ ၍ ဆင်းရဲ
၂၀ သောသူဖြစ်ကြ၏။ ။ယခုတွင်ခရစ်တော်သည်သေခြင်း
မှထမြောက်သည်ဖြစ်၍အိပ်ပျော်သောသူတို့တွင်အဦးပြုတော်မူပြီး။
၂၁ လူတဦး အားဖြင့် သေခြင်းတရားတည် သည် ဖြစ်၍လူတဦး အားဖြင့်
၂၂ သေသောသူတို့၏ထမြောက် ခြင်းတရားတည်လျက် ရှိ၏။ သို့ဖြစ်၍
အားလုံးတို့သည်အာဒံအားဖြင့်သေခြင်း သို့ရောက်သကဲ့သို့ထိုနည်း
တူအားလုံး တို့သည်ခရစ်တော်အား ဖြင့်အသက်ရှင် ခြင်းသို့ရောက်
၂၃ ကြလတံ့။ သို့ရာတွင် လူတိုင်းသည် မိမိအလှည့် အတိုင်းရှင်ခြင်းသို့

ရောက်လိမ့်မည်။ခရစ်တော်သည်အဦးရှင်တော်မူ၏။ ထိုနောက်ခရစ်
တော်ကြွလာတော်မူသောအခါခရစ်လူဖြစ်သောသူတို့သည် ရှင်ခြင်း
၂၄ သို့ရောက်ကြလိမ့်မည်။ ။ထိုအခါဘုရားသခင်သည်အ
ထွဋ်အမြတ် အာဏာတန်ခိုးအမျိုးမျိုးကိုပယ်ရှား တော်မူပြီးမှကျွန်ုပ်
ကုန်လတံ့။ ခရစ်တော်သည် မိမိနိုင်ငံကို ဘုရားသခင်တည်းဟူသော
၂၅ ခမည်းတော် ၌ အပ်ပြန်တော်မူလတံ့။ ခရစ်တော်သည် ရန် သူအား
လုံး တို့ကိုခြေဖဝါး တော်အောက်၌ချထား တော်မမူမှီတိုင်အောင်အုပ်
၂၆ စိုးတော်မူရ၏။ နောက်ဆုံးသောရန်သူတည်းဟူသောသေမင်းသည်
၂၇ ဆုံးရှုံးခြင်းသို့ရောက်ရလတံ့။ ခပ်သိမ်းသောအရာတို့ကိုလူသား၏
ခြေအောက် ၌ ချထား တော်မူသည် ဟုကျမ်းစာလာ၏။ ခပ်သိမ်းသော
အရာတို့ကိုချထားလျက်ရှိသည်ဟုဆိုသော်ခပ်သိမ်းသောအရာတို့ကို
လူသားအောက်၌ချထားတော်မူသောသူသည်ကြွင်း တော်မူကြောင်း
၂၈ ထင်ရှား သည် ချည်းဖြစ် ၏။ ခပ်သိမ်း သောအရာတို့သည် လူသား
အောက် ၌ ချထား လျက် ရှိသော အခါခပ် သိမ်း သော အရာတို့ကို သူ
အောက်၌ချထားတော်မူသော သူအုပ် စိုး တော်မူခြင်း ကိုသား တော်
သည်ကိုယ်တိုင်ဝန်ခံလိမ့်မည်။ အကြောင်းမူကား ဘုရား သခင့်သည်
အလုံးစုံ၌အလုံးစုံဖြစ်တော်မူမည်အကြောင်းတည်း။ ။
၂၉ သေလွန်သော သူတို့သည် ထမြောက်ခြင်း အလျှင်း မရှိလျှင် သေလွန်
သောသူ တို့ကိုယ်စား ရေ နှစ်ဂ်လာကိုခံသောသူတို့သည် အဘယ်သို့
ပြုရမည်နည်း။သေလွန်သော သူတို့ကိုယ်စား အဘယ်ကြောင့် ရေနှစ်
၃၀ မင်္ဂလာကိုခံသနည်း။ ငါတို့သည်လည်းဘေး ရောက်အံ့သောအခြင်း
၃၁ အရာနှင့်အဘယ်ကြောင့်အစည်တွေ့ရသနည်း။ နေ့တိုင်းငါအသေခံ
သည်ဟုငါတို့သခင်ယေရှုခရစ် ၌ သင်တို့အဖို့ကြောင်းကြောင့်ငါကြွား
၃၂ ဝါဝမ် မြောက်ခြင်းကို တိုင်တည် ၍ ငါဆိုဝံ့၏။ သေလွန်သော သူတို့
သည်ထမြောက်ခြင်းမရှိလျှင် ဧဖက်မြို့၌လူများထိုး စံအတိုင်း သားရဲ
နှင့်ငါတိုက်သော်လည်း အဘယ်အကျိုး ရှိသနည်း။စား ကြစို့။သောက်
၃၃ ကြစို့။နက်ဖန်သေရတော့မည်။ လှည့်စားခြင်းကိုမခံကြနှင့်။မကောင်း
သောသူတို့နှင့်ပေါင်းဖော်ခြင်းအားဖြင့်ကောင်းသောအကျင့်ဓလေ့ရို
၃၄ ရွင်းတတ်၏။ တရားသဖြင့် နိုးကြလော့။ဒုစရိုက် ကိုမပြုကြနှင့်။ အချို့
သောသူတို့သည် ဘုရား သခင် ကိုမသိကြ။ထို သို့ငါဆို သော်သင်တို့
ရှက်ကြောက်ခြင်းရှိအောင်ဆို၏။



၃၅ သေလွန်သောသူတို့သည်အဘယ်သို့ထမြောက်သနည်း။ အဘယ်သို့
သောကိုယ်နှင့်ပေါ်လာမည်နည်းဟုတယောက်ယောက် မေးလိမ့်မည်၊
၃၆ အချင်းရူးမိုက်။သင်စိုက်သောမျိုးစေ့မပျက်လျှင် မရှင်တတ်။ ထိုမှတ
၃၇ ပါး။မျိုးစေ့ကို စိုက် သောအခါနောက် ဖြစ်လတ္တံ့သောကိုယ်ကိုမစိုက်၊
ဂျုံစပါး ဖြစ်စေ၊ အချို့သော စပါးဖြစ်စေ။ အစေ့ ကို သက်သက် စိုက်
၃၈ တတ်၏။ ဘုရားသခင်သည်အလိုတော်ရှိသည့်အတိုင်းကိုယ်ကိုပေး
တော်မူ၏။ မျိုး စေ့အသီးအသီးတို့ အားလည်းမိမိမျိုး အတိုင်းကိုယ်ကို
၃၉ ပေးတော်မူ၏။ အသားအားလုံးတို့ သည် အသားတမျိုးတည်းမဟုတ်။
လူသားတမျိုး။အမဲသားတမျိုး။ငါးသားတမျိုး။ငှက်သားတမျိုး။အသီး
၄၀ အသီး ရှိကြ၏။ ကောင်း ကင် အကောင်အထည် လည်းရှိ၏။ မြေကြီး
အကောင်အထည်လည်းရှိ၏။ ကောင်းကင်အကောင်အထည်၏ဂုဏ်
အသရေလည်းတမျိုး။မြေကြီးအကောင်အထည်၏ဂုဏ်အသရေလည်းတ
၄၁ မျိုးဖြစ်၏။ နေ၏ဂုဏ်အသရေတမျိုး။လ၏ဂုဏ်အသရေတမျိုး။ကြယ်
၏ဂုဏ်အသရေတမျိုး။ အသီး အသီး ရှိကြ၏။ကြယ်ချင်းတို့၏ဂုဏ်အ
၄၂ သရေသည်လည်းအသီးအခြားဖြစ်၏။ ထိုနည်းတူ။သေသောသူတို့
၏ထမြောက်ခြင်းအကြောင်းအရာဖြစ်၏။ ကိုယ်သည်စိုက်သောအခါ
ပုပ်တတ် သော သဘော ရှိ ၏။ ထမြောက် သောအခါ မပုပ်နိုင် သောအ
၄၃ ဖြစ်၌တည် ၏။ စိုက် သောအခါဂုဏ် အသရေ ရှုတ် ချ၏။ ထမြောက်
သောအခါဂုဏ်အသရေနှင့် တကွထမြောက်၏။ စိုက်သောအခါအစွမ်
၄၄ မရှိ။ထမြောက်သောအခါအစွမ်းနှင့်ပြည့်စုံ၏။ စိုက်သောအခါဇာတိ
ပကတိကိုယ်ဖြစ်၏။ထမြောက်သောအခါ ဝိညာဏကိုယ်ဖြစ်၏။ဇာ
၄၅ တိပကတိကိုယ်တမျိုး။ဝိညာဏကိုယ်တမျိုးရှိ၏။ ကျမ်းစာလာသည်
ကား။ရှေဦး စွာသောလူအာဒံသည် အသက် ရှင် သောသတ္တဝါဖြစ်၏
ဟုလာ၏။ ယခုတွင်နောက်ဆုံး ဖြစ်သောအာဒံမူကားအသက် ရှင်စေ
၄၆ တတ်သောဝိညာဉ်ဖြစ်၏။ ဝိညာဏကိုယ်သည် ရှေဦး စွာဖြစ်သည်
မဟုတ်။ဇာတိပကတိကိုယ်ရှေဦး စွာဖြစ်၏။နောက်မှဝိညာဏကိုယ်
၄၇ ဖြစ်၏။ ရှေဦးစွာသောလူသည်မြေကြီးကဖြစ်သောကြောင့်မြေသား
၄၈ ဖြစ်၏။ ဒုတိယလူမူကား ကောင်းကင် ဘုံကဖြစ် တော်မူသော သခင်
၄၉ ပေတည်း။ မြေသား တို့ သည်ထို မြေသား ကဲ့သို့ ဖြစ်ကြ၏။ ကောင်း
ကင်သားတို့သည်ထိုကောင်းကင်သားကဲ့သို့ဖြစ်ကြ၏။ ငါတို့သည်

မြေသား၏ပုံသဏ္ဌာန်ကိုဆောင်ဘိသကဲ့သို့ကောင်းကင်သား၏ပုံသ
၅၀ ဏ္ဌာန် တော်ကို ဆောင်ကြလိမ့်မည်။ ။ညီအစ်ကိုတို့။ငါ
ဆိုသည် ကား။ လူအသွေး အသားသည် ဘုရားသခင်၏နိုင်ငံတော်ကို
အမွေမခံနိုင်။ ပုပ်တတ် သောအရာသည် မပုတ်နိုင် သော အဖြစ်ကိုအ
၅၁ မွေမခံနိုင်။ နက်နဲ သောအရာတခုကိုငါပြဦးမည်။အားလုံးတို့သည်အိပ်
၅၂ ပျော်ရမည် မဟုတ်။ သို့သော်လည်း နောက် ဆုံး တံပိုး မှုတ်သောအ
ခါတခဏချင်းမျက်စိတမှိတ်၌အားလုံးတို့သည်ပြောင်းလဲခြင်းသို့ရော
က်ရမည်။ထိုတံပိုးမှုတ်ချိန်ရောက်ရလိမ့်မည်။သေလွန်သောသူတို့သည်
မပုပ်နိုင်သောအဖြစ်၌တည်လျက်ထမြောက်ကြလိမ့်မည်။ ငါတို့သည်
၅၃ လည်းပြောင်းလဲခြင်းသို့ရောက်ရလိမ့်မည်။ ယခုမျက်မှောက်ပုပ်တတ်
သောအရာသည်မပုပ်နိုင်သောအဖြစ်သို့ဝင်စားရမည်။ယခုမျက်မှော
က်သေတတ်သောအရာသည်မသေနိုင် သောအဖြစ်သို့ဝင်စားရမည်။
၅၄ ဤပုပ်တတ်သောအရာသည်မပုပ်နိုင် သောအဖြစ်သို့၎င် ဤသေတတ်
သောအရာသည် မသေနိုင်သောအဖြစ် သို့၎င်ဝင်စား သောအခါသေ
၅၅ ခြင်းသည်နစ်မွန်းဆုံးရှုံးပြီးဟုကျမ်းစာ၌လာချက်ပြည့်စုံလိမ့်မည်။ အို
သေမင်း။သင်၏ထက်နက်အဘယ်မှာရှိသနည်း။အိုမရဏာနိုင်ငံ။သင်
၅၆ ၏အောင်ပွဲအဘယ်မှာရှိသနည်း။ သေမင်း၏ထက်နက်ကားဒုစရိုက်
အပြစ်ပေတည်း။ဒုစရိုက်အပြစ်၏တန်ခိုးကားပညတ်တရားပေတည်း။
၅၇ ငါ တို့သခင်ယေရှုခရစ်အားဖြင့်ငါတို့အားအောင်ခြင်းအခွင့်ကိုပေး
၅၈ တော်မူသောဘုရား သခင်၏ ကျေးဇူး တော်ကြီးလှစွာတကား။ ထို
ကြောင့်ငါချစ်သော ညီအစ်ကို တို့။သင် တို့သည် သခင် ဘုရား၏ အမှု
တော်ကိုဆောင်ရွက် ၍အကျိုး ကြီးသည်ကို သိမှတ်သဖြင့် တည်ကြည်
သောစိတ်နှင့်ပြည့်စုံ၍မရွေ့လျော့မတိမ်းရိမ်းဘဲလျက်သခင်ဘုရား၏
အမှုတော်ကိုကျိုးစားအားထုတ်ကြလော့။



၁ သန့်ရှင်းသူတို့အဖို့လှူတန်း၍ရုံထားခြင်းအမှုမှာဂလာတိပြည်၌အသင်း
၂ တော်များကိုငါမှာထားသည်အတိုင်းသင်တို့ပြုကြလော့။ ငါရောက်လာ
သောအခါလှူတန်း၍ရုံထားစရာမရှိရအောင်ခုနစ်ရက်တွင်ပဌမနေ့ရ
က်၌သင်တို့အသီးအသီးကောင်းစားသည်အတိုင်းမိမိဥစ္စာတဖို့ကိုထုပ်
၃ ၍ရုံထားစေတော့။ငါရောက်လာသောအခါသင်တို့သည်အလိုရှိသော
သူတို့ကိုငါသည်လက်မှတ် စာပေး၍သင်လှူသောအလှူကိုယေရုရှလင်

၄ မြို့သို့ပို့ရအောင်စေလိုက်မည်။ သို့မဟုတ်။ငါကိုယ်တိုင်သွားဖြစ်
လျှင်သူတို့သည်ငါနှင့်အတူလိုက်ရလိမ့်မည်။ မာကေဒေါနိပြည်လမ်းကို
၅ ငါသွားမည်ဖြစ်၍ထိုပြည်မှထွက်ပြီးလျှင်သင်တို့ဆီသို့ငါလာမည်။ နော
၆ က်မှာအချားသို့ငါသွားသောအခါသင်တို့ပို့သောကျေးဇူးကိုခံရအောင်
သင် တို့ဆီမှာငါတည်း ၍ ဆောင်း ကာလပတ်လုံးနေကောင်း နေလိမ့်
၇ မည်။ ယခုငါသွားစဉ်တွင်သင်တို့ကိုတွေ့မြင်ခြင်း ငှါအလိုမရှိသေး။
နောက်မှာသခင်ဘုရားအခွင့်ပေးတော်မူလျှင်သင်တို့ဆီမှာကြာကြာ
၈ နေမည် ဟုမျှော်လင့် လျက် နေ၏။ ပဌေကုတ္တေပွဲနေ့တိုင် အောင် ဧ
၉ ဖက်မြို့၌ငါနေမည်အကြောင်းရှိ၏။ အဘယ်ကြောင့်နည်းဟူမူကား။အလွန်
ကြီး ၍အဆင်သင့်သောတံခါးသည်ငါ့အားပွင့် လျက်ရှိ၏။ ဆီးတား
၁၀ သောသူအများလည်းရှိကြ၏။ ။တိမောသေသည်သင်တို့
ဆီသို့ရောက်လျှင်သူသည်စိုးရိမ်ခြင်းအကြောင်းမရှိဘဲသင်တို့ဆီမှာ
နေရအောင်သတိပြုကြလော့။သူသည် ငါကဲ့သို့ပင် သခင်ဘုရား၏အ
၁၁ မှုတော်ကိုဆောင် ရွက် သောသူဖြစ်၏။ ထိုကြောင့်အဘယ်သူမျှသူ
ကိုမထီမဲ့မြင်မပြုစေနှင့်။သူသည် ငါဆီသို့ပြန်ရအောင် ငြိမ်ဝပ်စွာပို့
ဆောင်ခြင်း ကျေးဇူး ကို ပြုကြလော့။ သူသည် အချား သော ညီအစ်ကို
၁၂ တို့နှင့်အတူလာမည် ဟုငါမျှော်လင့် လျက် နေ၏။ ငါညီအာပေါလုအ
ကြောင်း အရာမှာ။ညီ အစ်ကိုတို့နှင့် အတူသင် တို့ဆီသို့သွား မည်အ
ကြောင်း။ငါများများချော့မော့တောင်း ပန်သော်လည်း သူသည် ယခု
တွင်သွားခြင်းငှါအလျှင်းအလိုမရှိ။နောက်မှာအဆင်သင့် လျှင် သွား
၁၃ လိမ့်မည်။ ။သင်တို့သည်သတိနှင့်စောင့်နေကြလော့။ယုံကြည်
ခြင်း၌တည်ကြလော့။ယောကျ်ားအစွမ်းသတ္တိနှင့်တကွ ခွန် အားစုံလင်
၁၄ လျက်နေကြလော့။ သင်တို့သည်အမှုအားလုံးကိုချစ်ခြင်းမေတ္တာစိတ်
၁၅ နှင့်ဆောင်ရွက်ကြလော့။ ။ညီအစ်ကိုတို့။သတေဖန်၏အိမ်သူအိမ်
သားတို့သည်အခါယပြည်တွင် အဦးယုံကြည်သောသူဖြစ်၍ သန့်ရှင်း
သူတို့၏ အမှုကို ဆောင် ရွက်ခြင်း ငှါကိုယ်ကိုကိုယ်အပ်ကြောင်းကို
၁၆ သင်တို့သိကြသည်နှင့်အညီ ထိုသို့သောသူတို့၏အုပ်စိုးခြင်းကိုရင်ငါ
တို့နှင့်အတူလုပ်ကိုင်၍အမှုဆောင်သောသူရှိသမျှတို့၏ အုပ်စိုးခြင်း
၁၇ ကိုရင် သင်တို့ဝန် ခံမည် အကြောင်း ငါတောင်း ပန် ၏။ သတေဖန်။
ဖော်တုနတ်။ အခါယကုတို့သည် ရောက် လာသည် ကို ငါဝမ် မြောက်
၁၈ ခြင်းရှိ၏။ အဘယ်ကြောင့်နည်းဟူမူကား။သင်တို့ပြု၍လိုသမျှကိုသူ

တို့သည်ဖြည့်၍ငါ့စိတ်နှင့် သင်တို့စိတ်ကိုသက် သာစေကြပြီ။ ထိုသို့
၁၉ သောသူတို့ကိုလက်ခံကြပါ။ ။အာရှိပြည်၌အသင်းတော်
များ တို့သည် သင် တို့ကို နှုတ်ဆက် ကြ၏။ အာကုလနှင့် ပြစ် ကိလတို့
သည် သူ တို့အိမ် ၌ ရှိသော အသင်း တော်နှင့် တကွသခင် ဘုရားကို
၂၀ ထောက်၍သင် တို့ကိုများများနှုတ်ဆက်ကြ၏။ ညီအစ်ကိုအား လုံး
တို့သည်သင်တို့ကိုနှုတ်ဆက်ကြ၏။သန့်ရှင်းသောနမ်းခြင်း ဖြင့်အချင်း
၂၁ ချင်းတယောက်ကိုတယောက် နှုတ်ဆက်ကြပါ။ ငါပေါလုသည် နှုတ်
၂၂ ဆက်ခြင်းအချက်ကိုကိုယ်လက်ဖြင့်ရေးထား၏။ အကြင်သူသည်သ
ခင်ယေရှုခရစ်ကိုမချစ်။ထိုသူသည် အနသေမာဖြစ် စေသတည်း။သ
သခင်ဘုရားကြွလာတော်မူ၏။ငါတို့သခင်ယေရှုခရစ်၏ကျေးဇူးတော်
၂၃ သင်တို့၌ဖြစ်စေသတည်း။ ယေရှုခရစ်၏ တပည့်တော်ဖြစ်သောသ
၂၄ င်တို့အားလုံး၌ ငါချစ်ခြင်းမေတ္တာရှိ၏။အာမင်။

။ကောရိန္သုပြဩဝါဒစာ ပဌမစောင်ပြီး၏။

---

# ။ကောရိန္သုပြဩဝါဒစာ ဒုတိယစောင်။

---

၁ ဘုရားသခင်၏ အလိုတော်အား ဖြင့် ယေရှုခရစ် ၏တမန် တော်ဖြစ်
သောငါပေါလုနှင့်ငါ့ညီတိမောသေကကောရိန္သုမြို့ ၌ ရှိသောဘုရား
သခင်၏အသင်းတော်မှစ၍အခါယပြည်အရပ်ရပ်၌ရှိသောသန့်ရှင်း
၂ သူအပေါင်းတို့ကိုကြား လိုက်ပါ၏။ သခင်ယေရှုခရစ် နှင့် ငါတို့အဖ
ဘုရား သခင် အထံတော်ကကျေး ဇူး တော်နှင့် ညီမ
၃ သက်ခြင်းသင်တို့အားဖြစ်ပါစေသော။ ။သနားခြင်းကရု
ဏာ၏အဖ။သက်သာခြင်းအမျိုး မျိုး တို့၏အရှင်တည်း ဟူသောငါတို့
သခင်ယေရှုခရစ် ၏ခမည်း တော်ဘုရား သခင်အား မင်္ဂလာဖြစ်စေ
၄ သတည်း။ ငါတို့သည်ကိုယ်တိုင်ဘုရားသခင်၏ကျေး ဇူး တော်အား
ဖြင့်သက် သာခြင်း ရှိသကဲ့သို့ဆင်း ရဲခြင်းအမျိုး မျိုး ခံရသောသူတို့
ကိုသက်သာစေနိုင်မည်အကြောင်း။ဆင်းရဲခြင်းအမျိုးမျိုးတို့၌ဘုရား
၅ သခင်သည်ငါတို့အားသက်သာခြင်းကိုပေးတော်မူ၏။ အဘယ်သို့
နည်း ဟူမူကား။ ငါတို့သည် ခရစ် တော်ကြောင့်ခံရသောဆင်းရဲခြင်း

အလွန်များပြား သကဲ့ သို့ထို နည်း တူခရစ်တော်၏ကျေးဇူးအားဖြင့်
၆ ငါတို့သည်ခံရသောသက်သာခြင်းအလွန် များပြား၏။ သို့ဖြစ်၍ငါ
တို့သည်ဆင်းရဲခြင်းကိုခံသည်ဖြစ်စေ။သက်သာခြင်းသို့ရောက်သည်
ဖြစ်စေ။သင်တို့သက်သာခြင်း။ကယ်တင်ခြင်း အကျိုးအလို့ငှါဖြစ်၏။
ထိုသက်သာခြင်း။ကယ်တင်ခြင်း မူကား ငါတို့ဆင်းရဲခြင်း ကို ခံရသ
ကဲ့သို့သင်တို့လည်းသည်းခံသောစိတ်နှင့်ခံရသောအားဖြင့်ပြည့်စုံခြင်း
၇ သို့ရောက် သတည်း။ သင်တို့သည်ဆင်းရဲခြင်းကိုဆက်ဆံသကဲ့သို့
ထိုနည်းတူသက်သာခြင်းကိုဆက်ဆံလိမ့်မည်ဟုငါတို့သိသဖြင့်သင်
၈ တို့အကြောင်းကိုအမှတ်ပြု၍မရွေ့ နိုင် သောမျှော်လင့်ခြင်းရှိ၏။ ညီ
အစ် ကိုတို့။ အာရှပြည် ၌ ငါတို့ခံရသော ဆင် းရဲခြင်း တည်းဟူသော
အသက် မလွတ် နိုင်ဟုထင်ရ ၍ မခံ နိုင် အောင် အတိုင်း ထက် အလွန်
လေး သော ဆင်း ရဲခံရကြောင်း ကိုသင် တို့သိခြင်း ငှါငါတို့အလိုရှိ၏။
၉ ငါတို့သည် ကို ယ် ကိုကို ယ် မကိုး စား ဘဲသေလွန် သော သူတို့ကိုထ
မြောက်စေတော်မူသောဘုရားသခင်ကိုကိုးစားမည်အကြောင်း။သေ
၁၀ စေဟုစီရင် ခြင်းကို ကို ယ် ၌ ခံဘိသကဲ့သို့ဖြစ် ၏။ ထိုဘုရားသခင်
သည် ငါတို့ကိုထိုမျှလောက်ကြီး သော သေဘေး မှကယ် လွှတ် တော်မူ
၁၁ ပြီ။ယခု၌လည်းကယ်လွှတ်တော်မူသေး၏။ သင်တို့သည်ပိုင်း၍ငါတို့
အတွက် ဆုတောင်း လျှင် နောက် ၌ လည်း ကယ်လွှတ်တော်မူလတံ့ဟုငါ
တို့ရုံကြည် မျှော်လင့်ခြင်းရှိ၏။ထိုသို့ဖြစ် လျှင်အများ သော သူတို့ကူမ
သောအားဖြင့်ငါတို့၌ရောက်သောဆုကျေးဇူး ကိုလူများတော်၍ငါ
၁၂ တို့အတွက်ကျေးဇူးတော်ကိုချီးမွမ်းကြလိမ့်မည်။ ၊ငါတို့
ကြွားဝါဝမ်မြောက်ခြင်း အကြောင်းဟူမူကား။လောကီပညာကိုအမှီ
မပြုဘဲဘုရားသခင် ၏ ကျေးဇူးတော်ကိုအမှီပြု၍ လျှစ်လျူ။သေ ာစိတ်
နှင့်ဖြင်ဘုရားသခင်အလိုတော်အတိုင်းကြည်ဖြူသောစိတ်နှင့်ဖြ င်ငါတို့
သည်ဤလောက၌ကျင့်ကြံပြုမူ ၍ သင်တို့ဆီမှာလည်း ထိုသို့အ စုးသ
ဖြင့်ကျင့်ကြံပြုမူသည်ဟုကိုယ်ကိုကိုယ်သိသောစိတ်ကသက်သေခံသ
၁၃ တည်း။ သင်တို့သည်ဖတ်၍ ဝန်ခံသောအရာမှတပါးအခြား သောအ
ရာတို့ကို ငါတို့ရေး ထား၍မပေး လိုက်။ ထိုအရာ တို့ကိုလည်း သင်တို့
၁၄ သည်အစည်ဝန်ခံမည်ဟုငါတို့မျှော်လင့်လျက်နေ၏။ အဘယ်ကြောင့်
နည်း ဟူမူကား။ သင် တို့သည် သခင်ယေရှု၏ နေ့၌ငါတို့ကြွား ဝါဝမ်
မြောက်ခြင်းအကြောင်းဖြစ်သကဲ့သို့ငါတို့သည် သင် တို့ကြွားဝါဝမ်

မြောက်ခြင်းအကြောင်းဖြစ်သည်ဟုသင် တို့သည်ငါတို့ကိုအနည်းငယ်
၁၅ အားဖြင့်ဝန်ခံကြပြီး။ ။အစည်ဝန်ခံမည့်ဟုငါသဘောကျ
လျက်ရှိ၍ သင် တို့သည် တဖန် ဆုကျေး ဇူး တော်ကိုခံရစေခြင်း ငှါငါ
၁၆ သည်သင်တို့ဆီသို့အရင်လာမည်အကြံရှိ၏။ သင်တို့အနားမှာရှောက်
၍မာကေဒေါနိပြည်သို့သွားပြီး လျှင်တဖန်မာကေဒေါနိပြည် မှသင်တို့
ဆီသို့လာ၍ ယုဒပြည် တိုင်အောင်သင် တို့ပို့ခြင်း ကျေးဇူးကိုခံမည်အ
၁၇ ကြံရှိ၏။ ထိုသို့အကြံရှိသောအခါလျှပ်ပေါ်သောစိတ်ရှိသလော။ သို့
မဟုတ်။ ငါစကား မှာဟုတ်ကဲ့ဟုတ် ကဲ့။ မဟုတ် ဖူး မဟုတ်ဖူး ဖြစ် ရ
အောင်ငါကြံစည်သောအရာကိုဇာတိပကတိအတိုင်းကြံစည် သလော။
၁၈ ဘုရား သခင် သည်သစ္စာနှင့်ပြည့်စုံတော်မူသကဲ့သို့သင် တို့ဆီသို့ငါ
၁၉ တို့ပေးလိုက်သောစကားသည် ဟုတ်ကဲ့မဟုတ်ဖူးဟူ၍မဆိုလို။ ငါမှ
စ၍သိလွာနုနှင့် တိမောသေတို့သည် သင်တို့အားဟောပြောသောဘု
ရားသခင်၏သား တော်ယေရှုခရစ်သည်ဟုတ် ကဲ့မဟုတ်ဖူးဟူ ၍ မ
၂၀ ဆိုလိုဘဲကိုယ်တော်မှာဟုတ်ကဲ့ဟူ၍ ဆိုလိုသတည်း။ ထိုသခင်မှာ
ဘုရားသခင်၏ ဂတိတော်အား လုံး တို့သည်ငါတို့အား ဖြင့်ဘုန်း အ
သရေတော်ကိုထင် ရှားစေခြင်းအလို ငှါဟုတ်ကဲ့ဟူ၍ ဧင်အာမင် ဟူ
၂၁ ၍ဧင် ဖြစ်သတည်း။ သင်တို့နှင့်ငါတို့ကိုခရစ်တော်၌ တည်စေ၍ဘိ
၂၂ သိတ်ပေးသောသူကားဘုရားသခင်ဖြစ် ပေသတည်း။ ထိုဘုရား
သခင်သည်ငါတို့ကိုတံဆိပ်ခတ်၍ငါတို့စိတ်နှလုံးထဲ၌ ဝိညာဉ် တော်
တည်းဟူသောစားရန်ကိုပေးတော်မူ၏။

❋❋

၂၃ ငါသည် သင် တို့ကိုသနား သောကြောင့် သာယခုတိုင်အောင် ကောရိ
န္သုမြို့ သို့မလာဟုငါစိတ်ဝိညာဉ် အားဘုရား သခင်ကိုငါတိုင် တည်
၂၄ ၏။ ထိုသို့ဆိုသော်လည်း ငါတို့သည် သင်တို့၏ ယုံကြည်ခြင်း ကိုအစိုး
ရသည်မဟုတ်။သင် တို့ဝမ်း မြောက်ခြင်း အကြောင်းကိုကူမ၍သာဖို့
ကြ၏။အဘယ်ကြောင့်နည်းဟူမူကား။ယုံကြည်ခြင်းအားဖြင့်သာသင်
၁ တို့သည်တည် နိုင်ကြ၏။ ။ထိုမှတပါး။ဝမ်းနည်းခြင်းနှင့်
၂ တကွသင် တို့ဆီသို့နောက် တဖန် ငါမလာဟုငါစိတ် ပြဋ္ဌာန် ခဲ့ပြီး။ အ
ဘယ်ကြောင့်နည်းဟူမူကား။ငါသည်သင်တို့ကိုဝမ်းနည်း စေလျှင်ထို
သို့ငါဝမ်းနည်းစေသော သူတို့မှတပါးအဘယ်သူသည် ငါကိုဝမ်းမြော
၃ က်စေမည် နည်း။ ငါဝမ်းမြောက်ခြင်းအကြောင်းသည် သင် တို့အား

လုံးဝမ်းမြောက်ခြင်းအကြောင်း ဖြစ်သည် ကိုငါသဘောကျသည်ဖြစ်
၍ငါရောက်လာသောအခါငါ့ကိုဝမ်း မြောက် စေအပ်သောသူတို့သည်
ဝမ်းနည်းခြင်း အကြောင်း ကိုမပြုရ အောင်အထက်စာကိုငါရေးထား၍
၄ ပေးလိုက်၏။ အလွန်ညှိုးငယ်ပူပန်သောစိတ် နှင့်မျက် ရည်အများကျ
လျက်သင်တို့ဆီသို့ရေးထား ၍ ပေးလိုက်၏။သင် တို့သည် စိတ် နာရ
အောင်ရေးထားသည်မဟုတ်။ငါသည်သင်တို့ကိုအလွန် ချစ် သောမေ
၅ တ္တာစိတ်ကိုသင် တို့သိရအောင်ရေး ထား၏။ တစုံတယောက်သော
သူသည်ဝမ်းနည်းခြင်းအကြောင်းကို ပြုသည် မှန်လျှင်သင် တို့တွင်အ
ချို့သောသူတို့အား ဖြင့် သာငါ့ကိုဝမ်းနည်း စေ၏။သင်တို့အား လုံးကို
၆ အပြစ်မတင်လို။ အများသော သူတို့စီရင် သောဒဏ်သည် ထိုသူ၏
၇ အပြစ် နှင့်တန် ပြီး။ သို့ဖြစ် လျှင်ထို သို့သော သူသည်ဝမ်းနည်းခြင်း
အားကြီး ၍မိန်းမောတွေဝေခြင်းမရှိရ အောင်သင်တို့သည် ချားနား
သောအားဖြင့်သူ့အပြစ်ကိုလွှတ် ၍ သူ့စိတ်သက် သာစေခြင်းကို ပြုရ
၈ ၏။ ထိုကြောင့်သင်တို့သည် သူ့ကိုအမှန်ချစ်ကြောင်းကိုထင်ရှားပြမည့်
၉ အကြောင်းငါတောင်းပန်၏။ ထိုမှတပါး။သင်တို့သည်အရာရာ၌နား
ထောင်သည်နားမထောင်သည်ကိုငါသိရအောင်သင်တို့ကိုစုံစမ်းသော
၁၀ အားဖြင့်ယမန်ငါရေးထား၏။ အကြင်သူကိုသင် တို့သည်အပြစ်လွှတ်
၏။ထိုသူကိုငါသည်လည်း အပြစ်လွှတ်၏။ အဘယ်ကြောင့်နည်းဟူမူ
ကား။ငါသည်တစုံတယောက်သော သူကို အပြစ်လွှတ် ဘူးလျှင်သင်တို့
၁၁ ကိုထောက်၍ခရစ်တော်၏အခွင့်နှင့်လွှတ်ဘူး၏။ သို့မဟုတ်။စာတန်
သည် ငါတို့ကို နိုင်မည်စိုးရိမ်စရာရှိ၏။ သူ၏ အကြံအစည်များကိုငါ
၁၂ တို့သိကြ၏။ ။ထိုမှတပါး။ခရစ်တော်၏ဧဝံဂေလိတရားကို
ဟောခြင်း ငှါတရောမြို့ သို့ငါရောက်၍သခင် ဘုရား သည် ငါ့အားတံ
၁၃ ခါးကိုဖွင့်တော်မူသောအခါ ငါ့ညီတိတုကိုငါမတွေ့သောကြောင့်စိတ်
မသက်သာသဖြင့်သူတို့ကိုအခွင့်ပန်ပြီးမှမာကေဒေါနိပြည် သို့ထွက်
၁၄ သွားလေ၏။ ။ငါတို့သည်ခရစ်တော်နှင့်အတူအောင်ပွဲကို
အစဉ်ခံစေခြင်းငှါ၎င်ထိုသခင်ကိုသိခြင်းအမွှေးအကြိုင်ကိုငါတို့အား
ဖြင့်အရပ်ရပ်၌နံ့ပြားစေခြင်း ငှါ၎င် ပြုတော်မူသောဘုရားသခင်၏
၁၅ ကျေးဇူးတော်ကိုချီးမွမ်းခြင်းဖြစ်စေသတည်း။ အဘယ်သို့နည်းဟူမူ
ကား။ငါတို့သည်ကယ်တင်သောသူတို့၌၎င်ဆုံးရှုံးသောသူတို့၌၎င်ဘု
၁၆ ရားသခင်အားဖြင့်ခရစ်တော်၏ အမွှေး အကြိုင်ဖြစ် ကြ၏။ ဆုံးရှုံး

သောသူတို့၌ကားသေခြင်းတိုင်အောင်သေခြင်း၏အမွှေးအကြိုင်ဖြစ်
ကြ၏။ ကယ်တင်သော သူ တို့ ၌ ကား အသက် ရှင် ခြင်း တိုင် အောင် အ
သက်ရှင်ခြင်း၏အမွှေး အကြိုင်ဖြစ်ကြ၏။ သို့ဖြစ်၍ဤအမှုအရာတို့နှင့်
၁၇ အဘယ် သူ ထိုက်တန် သနည်း။ ဘုရားသခင်၏နှုတ် ကပတ်တရား
တော်ကို ရောက် လှန် သော သူ အများ တို့နှင့်ငါတို့သည်မတူဘဲကြည်
ဖြူသောစိတ်ရှိ၍ ဘုရားသခင်အလိုတော်နှင့် အညီဘုရား သခင် ရှေ့
တော်၌ခရစ်တော်၏တရားကိုဟောပြောကြ၏။

✻✻

၁ ငါတို့သည် တဖန်ကိုယ် ကိုကိုယ်ချီးမွမ်းရသလော။သို့မဟုတ်။ ငါတို့အ
တွက်ချီးမွမ်းစာကိုသင်တို့ဆီသို့ပေးစေခြင်း၌၎င်း သင်တို့သည်သူတ
ပါးဆီသို့ပေးစေခြင်း၌၎င်း ငါတို့သည် အချို့သောသူကဲ့သို့အလို ရှိသ
၂ လော။ သင်တို့သည်ငါတို့စိတ်နှလုံးပေါ်၌ရေးထားလျက်လူအပေါင်း
၃ သိ၍ဖတ်တတ်သောငါတို့စာဖြစ်ကြသတည်း။ အဘယ်သို့နည်း ဟူ
မူကား။သင်တို့သည် မှင်နှင့်မရေးဘဲအသက်ရှင် တော်မူသောဘုရား
သခင် ၏ဝိညာဉ် တော်နှင့် ရေး ၍ ၎င်း ကျောက် ပြား ပေါ် ၌ မရေး ဘဲအ
သားနှင့်ပြည့်စုံသောနှလုံးပြားပေါ်၌ရေး၍၎င်းငါတို့ပြုစုသောခရစ်
၄ တော်၏ စာထင်ရှားဖြစ် ကြ ၏။ ငါတို့သည် ခရစ် တော်အား ဖြင့်ဘု
ရားသခင်ရှေ့တော်မှာထိုသို့သောယုံမှတ်စွဲလမ်းခြင်းရှိ၏။ ။
၅ သို့ရာတွင်ငါတို့သည်ကိုယ်တန်ခိုး ကိုအမှီပြု၍ ကိုယ်အလိုအလျောက်
တစုံတခုကိုကြံစည်ခြင်း၌တတ်နိုင်သည် မဟုတ်။ဘုရား သခင်ကိုအ
မှီပြု၍သာတတ်နိုင်သည် နှင့်အညီဝန်ခံခြင်းတရားသစ်ဆရာဖြစ်နိုင်
၆ သောအစွမ်းသတ္တိကိုဘုရားသခင်သည်ငါတို့အားပေးတော်မူ၏။ ထို
သို့ဆိုသော်ကျမ်းဟောင်းတရားကိုမဆို။ဝိညာဉ်တော်တရားကိုဆို၏။
ကျမ်းဟောင်းတရား မူကားအသက်ကိုသတ်တတ်၏။ဝိညာဉ် တော်တ
၇ ရားမူကားရှင် စေတတ် ၏။ ထိုမှတပါး။ ပျောက် တတ် သောရောင်
ခြည်တည်း ဟူသောမောရှေမျက်နှာရောင်ခြည် ကြောင့် ဣသရေလအ
မျိုးသားတို့သည် သူ၏မျက်နှာကိုစေ့စေ့မကြည့်ရှုနိုင်သည်တိုင်အောင်
ကျောက်ပြားပေါ်၌အက္ခရာတင်၍ရေးထားသောသေခြင်း ၏ တရား
၈ သည် ဘုန်း အာနုဘော်နှင့်ပြည့် စုံသည် မှန်လျှင် ထို မျှမကဝိညာဉ်
တော်တရား သည် ဘုန်း အာနုဘော်နှင့် အလွန်ပြည့် စုံရသည် မဟုတ်
၉ လော။ အပြစ်စီရင်တတ်သောတရားသည် ဘုန်း အာနုဘော်ရှိလျှင်

ထိုမျှမကကျေးဇူးသီလ်ကိုပေးတတ်သောတရားသည်ဘုန်းအာနုဘော်နှင့်
၁၀ သာ၍ကြွယ်ဝပြည့်စုံ၏။ နောက်ဖြစ်သောဘုန်းအလွန်မြတ်သော
၁၁ ကြောင့်အထက်ကဘုန်းရှိသောအရာပင်ဘုန်းကွယ်လျက်ရှိ၏။ ပယ်
ရှင်းသောအရာသည်ဘုန်းရှိလျှင်တည်နေသောအရာသည်ဘုန်းသာ
၁၂ ၍ရှိ၏။ ။ထိုသို့သောရုံကြည်မျှော်လင့်ခြင်းရှိသည်ဖြစ်၍
ငါတို့သည်အဘယ်မျှကိုမထိမ်ဝှက်ဘဲအတည့်အလင်းဟောပြောကြ
၁၃ ၏။ ဣသရေလအမျိုးသားတို့သည် ပယ်ရှင်းသောအရာ၏အဆုံးကို
စေ့စေ့မကြည့်ရှုရအောင်မောရှေသည် မိမိမျက်နှာကိုဖုံးအုပ်သကဲ့သို့
၁၄ ငါတို့မပြုကြ။ သူတို့စိတ်နှစ်လုံးသည်မောဟဖုံးလွှမ်းလျက်ရှိကြ၏။ယခု
တိုင်အောင်ဓမ္မဟောင်းကျမ်းစာကိုဖတ်သောအခါအနက်အဓိပ္ပါယ်
သည်ဖုံးအုပ်လျက်နေ၏။ အဘယ်ကြောင့်နည်းဟူမူကား။ခရစ်တော်
၁၅ အားဖြင့်သာထိုဖုံးအုပ်ခြင်းအကြောင်းကိုပယ်ရှင်းနိုင်၏။ ယခုတိုင်
အောင်လည်း မောရှေ၏ကျမ်းစာကိုဖတ်သောအခါသူတို့စိတ်နှစ်လုံး
၁၆ သည်ဖုံးအုပ်လျက်ရှိသေး၏။ သို့သော်လည်း သူတို့စိတ်နှစ်လုံး
သည်သခင်ဘုရားထံတော်သို့ပြောင်းသောအခါထိုဖုံးအုပ်ခြင်းအ
ကြောင်းကိုပယ်ရှင်းလိမ့်မည်။ သခင်ဘုရားဆိုသော်ဝိညာဉ်တော်
၁၇ တရားဆိုလိုသတည်း။ သခင်ဘုရား၏ဝိညာဉ်တော်တရားသည်
၁၈ လွှတ်ခြင်းချမ်းသာကိုပေးတတ်၏။ ငါတို့အားလုံးသည်မှန်ကိုကြည့်သ
ကဲ့သို့မျက်နှာဖုံးပွင့်လန့်လျက်သခင်ဘုရား၏ဘုန်းအသရေတော်ကို
ကြည့်မြင်၍ဝိညာဉ်တော်တရား၏အရှင်သည်ရောင်ခြည်တော်ကို
လွှတ်တော်မူသည်အတိုင်းငါတို့သည်ဘုန်းအသရေတိုးပွား၍ပုံသ
၁ ဏ္ဍာန်တော်နှင့်တညီတသံတည်းဖြစ်ကြ၏။ ။ထို့ကြောင့်
ငါတို့သည်ထိုသို့သောတရား၏အမှုကိုရွက်ဆောင်သောသူဖြစ်၍က
ရုဏာကျေးဇူးတော်ကိုခံရသည်နှင့်အညီအားလျော့စိတ်ပျက်ခြင်း
၂ နှင့်ကင်းလွှတ်ကြ၏။ ဆိတ်ကွယ်ရာ၌ပြုသောရှက်ဘွယ်အမှုများကို
ပယ်ကြ၏။ပရိယာယ်ကိုမသုံးဘဲဘုရားသခင်၏နှုတ်ကပတ်တရား
တော်ကိုမထိမ်ဝှက်မမှောက်လှန်ဘဲလျက်သမ္မာတရားကိုအတည့်အ
လင်းဖော်ပြသဖြင့်ဘုရားသခင်ရှေ့တော်၌လူအပေါင်းတို့၏စိတ်ထင်
၃ အတိုင်းချီးမွမ်းဖွယ်သောအကျင့်ဓလေ့ကိုကျင့်ကြ၏။ ငါတို့ဟောပြော
သောဧဝံဂေလိတရားသည်ဖုံးအုပ်လျက်ရှိလျှင်ဆုံးရှုံးခြင်းသို့ရောက်
၄ သောသူတို့အားသာဖုံးအုပ်လျက်ရှိ၏။ ထိုသို့မရုံကြည်သောသူတို့

ကား ဘုရားသခင်၏ ပုံသဏ္ဍာန် တော်တည်း ဟူသောခရစ် တော်၏
ဘုန်း အသရေ နှင့်ပြည့်စုံသောဧဝံဂေလိတရားအရောင်သည် သူတို့၌
အလင်းမပေး ရအောင် ဤလောကကိုအစိုးရသောဘုရား သည် သူတို့
၅ ဉာဏ်မျက်စိကိုကွယ် စေ၏။ ငါတို့သည် ကိုယ်အကြောင်းကိုကိုယ်
ဟောပြောသည် မဟုတ်။ ယေရှုခရစ် သည် သခင် ဖြစ် ကြောင်း ကိုရင်
ငါတို့သည်ယေရှုအတွက်သင်တို့၏ ကျွန်ဖြစ်ကြောင်းကိုရင်ဟောပြော
၆ ကြ၏။ မှောင်မိုက်ထဲကအလင်းထွန်းလင်းမည် အကြောင်း။ မိန့်တော်
မူသောဘုရားသခင်သည် ယေရှုခရစ် ၏ မျက်နှာ ၌ ထွန်း လင်း သော
ဘုရား သခင် ၏ ဘုန်း တော်ကို သိသောဉာဏ် အရောင် ကိုပေးလို
သော ငှါ ငါတို့စိတ်နှစ်လုံးထဲ၌အလင်းထွန်းစေတော်မူ၏။

**

၇ သို့သော်လည်း တန်ခိုးတော်၏ဂုဏ်အသရေကိုငါတို့မဆိုင်။ ဘုရားသ
ခင် ဆိုင် တော်မူမည်အကြောင်း။ ထိုဘဏ္ဍာသည် မြေအိုး ထဲမှာထည့်
၈ ထား လျက်ငါတို့ ၌ ရှိ၏။ ငါတို့သည်အမျိုး မျိုးသောနှောင့်ရှက်ခြင်း
ကို ခံသော်လည်း အကျိုး နည်း ခြင်း သို့မရောက်။ မကြံနိုင်အောင် ရှိ
၉ သော်လည်းစိတ်မပျက်။ ညှဉ်းဆဲခြင်းကိုခံသော်လည်းရှုံးခြင်းမရှိ။
၁၀ အောက် သို့လှဲသော်လည်း ဆုံး ရာသို့မရောက်။ ယေရှုသည်အသက်
ရှင်တော်မူကြောင်းငါတို့ကိုယ်ခန္ဓာ၌ထင်ရှားစေခြင်းငှါယေရှု၏သေ
၁၁ တော်မူခြင်းကိုအစဉ်မပြတ်ငါတို့ကိုယ်ခန္ဓာ၌ဆောင်ကြ၏။ အဘယ်
သို့နည်း ဟူမူကား။ ယေရှုသည် အသက် ရှင်တော်မူကြောင်း။ ငါတို့၏
သေတတ်သောကိုယ်ခန္ဓာ၌ထင်ရှားစေခြင်းငှါငါတို့သည်အသက်ရှင်
စဉ်တွင်ယေရှုကြောင့်သေခြင်းလက်သို့အစဉ်အပ်နှံ လျက် ရှိကြ၏။
၁၂ သို့ဖြစ်၍ သေခြင်း တရား သည်ငါတို့ ၌ ပြုပြင်တတ်၏။ သင်တို့၌ကား
၁၃ အသက်ရှင်ခြင်းတရားသည်ပြုပြင်တတ်၏။ ကျမ်းစာလာသည်ကား။
ငါယုံကြည်သည်ဖြစ်၍ငါမြွက် ဆို၏ ဟုလာသည် နှင့်အညီငါတို့သည်
ထိုသို့သောယုံကြည်ခြင်းစိတ်ရှိ၍ ယုံကြည် ခြင်းစိတ်ရှိသောကြောင့်မြွက်
၁၄ ဆိုဟောပြောကြ၏။ ။သခင်ယေရှုကိုထမြောက်စေတော်
မူသောသူသည် ယေရှုအားဖြင့် ငါတို့ကိုလည်း ထမြောက် စေ၍ သင်
၁၅ တို့နှင့်အတူအထံတော်၌သွင်းတော်မူမည် ဟုငါတို့သိကြ၏။ အများ
သော သူတို့သည် ကျေးဇူး တော်ကိုချီးမွမ်းသည် နှင့်ထိုကြွယ်ဝသော
ကျေးဇူး တော်သည် ဘုရား သခင် ၏ ဘုန်း အသရေတော်ကိုထင်ရှား

စေမည်အကြောင်း။ခဏသိမ်းသောအရာတို့သည်သင်တို့အဖို့အလို႑ါ
၁၆ ဖြစ်သတည်း။ ထိုကြောင့်ငါတို့သည် အားလျော့စိတ် ပျက်ခြင်းမရှိ။
ပြင်လူမူကားဖောက်ပြန် ပျက်စီး ခြင်းသို့ရောက် သော်လည်းအတွင်း
၁၇ လူမူကား။တနေ့ထက်တနေ့ပြုပြင် လျက်ရှိ၏။ အဘယ်ကြောင့်နည်း
၁၈ ဟူမူကား။ မျက်မှောက်ထင် ရှားသောအရာတို့သည် ခဏသာတည်
၍ မထင် ရှားသောအရာတို့သည် အစည် အမြဲတည် ကြောင်း ကိုငါတို့
ထောက် လျက် ထင်ရှား သောအရာတို့ကိုမကြည့် မမှတ် ဘဲမထင်ရှား
သောအရာတို့ကို ကြည့် မှတ် သောအား ဖြင့် ယခုခဏခံရ ၍ ပေါ့ပါး
သောဆင်းရဲဒုက္ခသည် အတိုင်း ထက် အလွန် ကြီး မြတ် လေး လံသော
နိစ္စထာဝရဘုန်းအသရေကိုငါတို့အဖို့ဖြစ်စေတတ်၏။ ။
၁ ယာယီတဲဖြစ်သောငါတို့မြေအိမ်သည်ပျက်လျှင်ကောင်းကင်ဘုံ၌လူ
လက်ဖြင့်မလုပ်ဘဲဘုရားသခင်ဖန်ဆင်းတော်မူသောနိစ္စထာဝရအိမ်
၂ ရှိကြောင်းကိုငါတို့သိကြ၏။မြေအိမ်၌ရှိစဉ်တွင်ငါတို့သည်ကောင်းကင်
အိမ်ထဲသို့ဝင်စားခြင်းငှါအလွန်တောင့်တလိုချင်သောစိတ်ရှိ၍ညည်း
၃ တွားမြည်တမ်လျက်နေကြ၏။ ထိုသို့ဝင်စားလျှင်နေရာမဲ့ဖြစ်မည်မ
၄ ဟုတ်။ ဤတဲ၌နေသောငါတို့သည်လေးသောဝန်ကိုထမ်း၍ညည်းတွား
မြည်တမ်ကြ၏။နေရာထဲကထွက်ချင်သော့ကြောင့်ညည်းတွားသည်
မဟုတ်။သေတတ်သောအရာသည်အသက်ရှင်ခြင်း၌ဆုံး ရှုံးရအောင်
၅ မြဲသောနေရာထဲသို့ဝင်စားချင်သော့ကြောင့်ညည်းတွားကြ၏။ ထို
သို့သောသဘောကိုဖန်ဆင်း၍ပေးသွင်းသောသူကားဘုရားသခင်
ပေတည်း။ထိုဘုရားသခင်သည်ဝိညာဉ်တော်တည်းဟူသောစားရန်
၆ ကိုငါတို့အားပေးတော်မူ၏။ ထိုကြောင့်ငါတို့သည်နေမြဲကိုယ်ခန္ဓာ၌
နေစဉ်ကာလသခင်ဘုရားနှင့်ကွာဝေးရာတကျွန်းတနိုင်ငံ၌နေသည်
၇ ကိုငါတို့သိလျက်အစဉ်ရဲရင့်သောစိတ်ရှိကြ၏။ မျက် မှောက်မမြင်
ဘဲရုံကြည်မျှော်လင့်ခြင်း ရှိသည်အတိုင်း ငါတို့သည်ကျင့်ဆောင်ပြုမူ
၈ သည်ဖြစ်၍ ကိုယ် ခန္ဓာနှင့် ကွာဝေး ရာတကျွန်း တနိုင်ငံသို့သွား
ခြင်းငှါ ုင်နေမြဲပြည်။သခင်ဘုရား ထံတော် ၌ နေခြင်း ငှါရင်အလို ရှိ
၉ လျက်ရဲရင့်သောစိတ်နှင့်ပြည့် ရုံကြ၏။ ထိုကြောင့် ငါတို့သည် နေမြဲ
ပြည် ၌နေသည်ဖြစ်စေ။တကျွန်းတနိုင်ငံ ၌ နေသည်ဖြစ် စေ။သခင်ဘု
ရားနှစ်သက်တော်မူသောသူဖြစ် ရအောင်စေတနာစိတ် ရှိ၍ကျိုးစား
၁၀ အား ထုတ် ကြ၏။ အဘယ်ကြောင့်နည်း ဟူမူကား။ ငါတို့အားလုံး

သည့် ကိုယ်ခန္ဓာ ၌ ကျင့်သောအကျင့်။ ကောင်း မကောင်း ရှိသည့် အ
တိုင်း အသီးအသီး အကျိုး အပြစ်ကိုခံရအောင် ခရစ်တော်၏ တရားပ
လ္လင်ရှေ့၌ထင်ရှားရောက်ရကြမည်။

❋❋

၁၁ သို့ဖြစ်၍သခင်ဘုရားနှင့်ဆိုင်သောကြောက်မက်ဖွယ်အကြောင်းအ
ရာတို့ကိုသိလျှင်ငါတို့သည်လူများကိုနှိုးဆော်သွေးဆောင်သည် ဖြစ်
၍ဘုရား သခင်ရှေ့၌ထင်ရှားရှိကြ၏။သင်တို့စိတ်ရှေ့၌လည်းထင်ရှား
၁၂ ရှိကြသည်ဟုငါထင်မှတ်၏။ ငါတို့သည်သင်တို့ရှေ့၌ တဖန်ကိုယ်ကို
ကိုယ်ချီးမွမ်းသည်မဟုတ်။စိတ်နှလုံးကိုမထောက်။ မျက်နှာကိုထော
က်၍ကြွားဝါသောသူတို့၏စကားကိုသင်တို့သည်ချေနိုင်အောင်ငါတို့
၁၃ ကြောင့် ကြွားဝါခြင်းအခွင့်ကိုသာပေးကြ၏။ ငါတို့သည်အရူး ဖြစ်
လျှင်ဘုရားသခင်အဖို့ဖြစ်၏။စိတ်ကောင်းသောသူဖြစ်လျှင်သင်တို့
၁၄ အဖို့ဖြစ်၏။ အဘယ်ကြောင့်နည်းဟူမူကား။တယောက်သောသူသည်
၁၅ လူအပေါင်းတို့အတွက်အသေခံသည် မှန်လျှင်လူအပေါင်း တို့သည်သေ
နေသည်ဟူ၍၎င်အသက်ရှင်သောသူတို့သည်တဖန်ကိုယ်အကျိုးကိုရှာ၍
မရှင်။သူတို့အတွက်အသေခံ၍ထမြောက်တော်မူသောသူ၏အကျိုးကို
ရှာ၍ရှင်မည်အကြောင်း။လူအပေါင်းတို့အတွက်အသေခံတော်မူသည်ဟူ
၍၎င်ငါတို့သည်သဘောထား၍ခရစ်တော်၏ချစ်ခြင်းမေတ္တာတော်သ
၁၆ သည်ငါတို့ကိုအနိုင်အထက်သွေးဆောင်၏။သို့ဖြစ်လျှင်ယခုမှစ၍ငါတို့
သည်ဇါတိအမျိုးကိုထောက်၍အဘယ်သူကိုမသိမမှတ်။ဇါတိအမျိုးကို
ထောက်၍ခရစ်တော်ကိုအထက်ကသိမှတ်သော်လည်းယခုမှစ၍ထိုသို့
၁၇ သောသိမှတ်ခြင်းမရှိ။ ။လူမည်သည်ကားခရစ်တော်၌ရှိလျှင်အ
သစ်ဖန်ဆင်းသောသတ္တဝါဖြစ်၏။ ဟောင်းသောအရာများပြောင်း
၁၈ လဲ၍ခပ်သိမ်းသောအရာတို့သည်အသစ်ဖြစ်ကြပြီ။ ထိုသို့ဖြစ်သော်
ဘုရားသခင်တန်ခိုးတော်အားဖြင့်ဖြစ်၏။ဘုရားသခင်သည်ယေရှုခရ
စ်အားဖြင့်ငါတို့ရန်ကိုငြိမ်းစေ၍ကိုယ်တော်နှင့်မိဿဟာယဖွဲ့စေ
တော်မူ၏။ထိုမိဿဟာယတရားကိုဟောရသောအခွင့်အရာကိုငါ
၁၉ တို့၌အပ်ပေးတော်မူ၏။ ထိုတရားဟူမူကား။ဘုရားသခင်သည်ခရစ်
တော်အထဲ၌ရှိနေ၍လောကီသားတို့၏အပြစ်များကို မှတ်တော်မမူ
သဖြင့်ရန်ကိုငြိမ်းစေ၍ကိုယ်တော်နှင့်မိဿဟာယဖွဲ့စေတော်မူ
၂၀ ၏။ထိုမိဿဟာယတရားကိုလည်းငါတို့၌အပ်ပေးတော်မူ၏။ ထိုကြော

ငွ်ငါတို့သည်ခရစ်တော်၏သံတမန်ဖြစ်ကြ၏။သင်တို့သည်ရန်ငြိမ်း
၍ဘုရားသခင်နှင့်မိဿဟာယဖွဲ့ကြလော့ဟုဘုရားသခင်သည်ငါတို့
အားဖြင့်နှိုးဆော်သွေးဆောင်တော်မူသကဲ့သို့ငါတို့သည်ခရစ်တော်
၂၁ ကိုယ်စား၌သင်တို့ကိုတောင်းပန်သွေးဆောင်ကြ၏။ အဘယ်
ကြောင့်နည်းဟူမူကား။ဘုရားသခင်သည် အပြစ်ကင်းသောသူကိုငါ
တို့အတွက်အပြစ်ဖြေသောယဇ်ဖြစ်စေတော်မူ၏။အကြောင်းကား။
ငါတို့သည်ထိုသူအားဖြင့်ဘုရားသခင်အလိုတော်နှင့်အညီကျသိုလ်
၁ ရှိသောသူဖြစ်မည်အကြောင်းတည်း။ ။သင်တို့သည်ဘု
ရားသခင်၏ကျေးဇူးတော်ကိုအချည်းနှီးမခံကြနှင့်ဟုငါတို့သည်အမှု
တော်ကိုဆောင်ရွက်သောသူချင်းဖြစ်၍သင်တို့ကိုနှိုးဆော်သွေး
၂ ဆောင်ကြ၏။ ဗျာဒိတ်တော်အချက်ဟူမူကား။နှစ်သက်ဖွယ်သော
အချိန်၌သင်၏စကားကိုငါနားထောင်ပြီး။ကယ်တင်ရာနေ့ရက်ကာ
လ၌သင်ကိုငါမစပြီးဟုလာသည်နှင့်အညီယခုပင်နှစ်သက်ဖွယ်သော
၃ အချိန်ဖြစ်၏။ယခုပင်ကယ်တင်ရာနေ့ရက်ကာလဖြစ်၏။ တရား
ဟောခြင်းအခွင့်အရာသည်အပြစ်တင်ခြင်းနှင့်ကင်းလွတ်ရအောင်
၄ စိတ်ပျက်စရာအကြောင်းတစုံတခုကိုမျှမပြု။ များစွာသောသည်းခံ
ခြင်း။ညှဉ်းဆဲခံခြင်း။ဒုက္ခဆင်းရဲခြင်း။မလွတ်နိုင်သောဘေးဥပါဒ်
၅ နှင့်တွေ့ခြင်း။ အရိုက်အပုတ်ခံခြင်း။ထောင်ထဲ၌နေခြင်း။ သူတပါး
ရုန်းရင်းခတ်ပြုခြင်း။အမှုလုပ်ဆောင်ခြင်း။မအိပ်ဘဲစောင့်နေခြင်း။
၆ မွတ်သိပ်ခြင်း။ စိတ်နှလုံးစင်ကြယ်ခြင်း။ပညာရှိခြင်း။စိတ်ရှည်
ခြင်း။ကျေးဇူးပြုခြင်း။စိတ်သဘောသန့်ရှင်းခြင်း။ချစ်ရောင်မဆောင်
၇ အမှန်ချစ်ခြင်း။ သမ္မာတရားကိုဟောခြင်း။ ဘုရားသခင်တန်ခိုး
တော်ကိုပြခြင်း။ ဖြောင့်မတ်သောအကျင့်တည်းဟူသောလက်နက်
၈ များကိုလက်ျာဘက်လက်ဝဲဘက်၌ဝတ်ဆောင်ခြင်းအားဖြင့်၎င် အ
သရေထင်ရှားခြင်းနှင့်ရှုတ်ချခြင်း။ ချီးမွမ်းခြင်းနှင့်ကဲ့ရဲ့ခြင်းကိုခံ၍
၉ ၎င်လှည့်စားသောသူကဲ့သို့ဖြစ်သော်လည်းဟုတ်မှန်သောသူ။ အဘ
ယ်သူမျှမသိသောသူကဲ့သို့ဖြစ်သော်လည်းကျော်စောသောသူ။အ
သေခံသောသူကဲ့သို့ဖြစ်သော်လည်းအသက်ရှင်သောသူ။ဆုံးမခြင်း
ကိုခံသောသူကဲ့သို့ဖြစ်သော်လည်းအသေသတ်ခြင်းနှင့်ကင်းလွတ်
၁၀ သောသူ။ ဝမ်းနည်းသောသူကဲ့သို့ဖြစ်သော်လည်းအစဉ်ဝမ်းမြောက်
သောသူ။ ဆင်းရဲသောသူကဲ့သို့ဖြစ်သော်လည်းလူများ ရတတ်ရ

အောင်ပြုသောသူ။ဥစ္စာတစုံတခုကို မျှမပိုင်သောသူကဲ့သို့ဖြစ်သော်
လည်း အလုံး စုံတို့ကိုပိုင်သောသူဖြစ်လျက်ငင်ဘုရားသခင်ခန့်ထား
တော်မူသောမင်္ဂလာဆရာမှန် ကြောင်း ကို အရာရာ၌ထင်ရှား စွာဖော်ပြ
၁၁ ကြစို့။ ။အချင်းကောရိန္သုလူတို့။ငါတို့နှုတ်သည်သင်
၁၂ တို့အားဖွင့်လျက်ရှိ၏။စိတ်နှလုံးသည်လည်းကျယ်ဝန်း၏။ ငါတို့၌
သင် တို့သည် ကျဉ်း မြောင်း သည် မဟုတ်။ကိုယ် မေတ္တာကရုဏာ၌
၁၃ ကျဉ်းမြောင်းကြ၏။ ငါတို့ကျေးဇူးကိုဆပ်ရအောင်ကျယ်ဝန်းသော
စိတ်ရှိကြလော့။ထိုသို့ဆိုသော်ကိုယ်သားတို့ကိုဆိုသကဲ့သို့ငါဆို၏။

❋❋

၁၄ မရုံကြည်သောသူတို့နှင့်အပေါင်းအသင်းမဖွဲ့ကြနှင့်။တရားသောအမှု
သည် မတရား သောအမှုကို အဘယ် သို့လက် ခံနိုင်သနည်း။ အလင်း
၁၅ သည်မှောင်မိုက်နှင့်အဘယ်ဆက်ဆံခြင်းရှိသနည်း။ ခရစ်တော်သည်
ဗေလျာလနှင့်အဘယ်သင့်တင့်ခြင်းရှိသနည်း။ ရုံကြည် သောသူသည်
၁၆ မရုံကြည်သောသူ နှင့် အတူအဘယ် အကျိုးအပြစ်ကို ခံသနည်း။ ဘု
ရားသခင်၏ဗိမာန်တော်သည်ရုပ်တုတို့နှင့်အဘယ်သို့စပ်ဆိုင်သ
နည်း။ဘုရားသခင်မိန့်တော်မူသည်ကား။သူတို့တွင်ငါကျိန်းဝပ်မည်။
သူတို့တွင်ငါလှည့်လည်၍သူတို့၏ဘုရားသခင်ဖြစ်မည်။ သူတို့သည်
လည်းငါ့လူဖြစ်ကြလိမ့်မည်ဟုမိန့် တော်မူသည်နှင့် အညီသင်တို့သည်
အသက်ရှင်တော်မူသောဘုရား သခင်၏ဗိမာန်တော်ဖြစ်ကြ၏။
၁၇ ထိုကြောင့်ထာဝရဘုရားမိန့်တော်မူပြန်သည် ကား။သင်တို့သည်ထို
သူတို့အထဲမှထွက်၍အသီးအခြားနေကြလော့။မစင်ကြယ် သောအရာ
၁၈ ကိုလက်နှင့်မျှမထိကြနှင့်။ထိုသို့ပြုလျှင်သင်တို့ကိုငါလက်ခံမည်။ သင်
တို့၏အဖငါဖြစ်မည်။သင်တို့သည်လည်းငါ့သားသမီးဖြစ်ကြလိမ့်မည်
၁ ဟုအနန္တတန်ခိုး နှင့် ပြည့်စုံသောထာဝရဘုရားမိန့် တော်မူ၏။ ထို
ကြောင့်ချစ် သူတို့။ထိုဂတိတော်များနှင့်ငါတို့သည် ဆိုင်ကြသည်ဖြစ်
၍ကိုယ်ခန္ဓာ၏အညစ်အကြေး။စိတ်ဝိညာဉ်၏အညစ်အကြေးအား လုံး
တို့ကိုဆေးကြော၍ကိုယ်ကိုကိုယ်သန့်ရှင်းစေလျက်ဘုရားသခင်ကို
၂ ကြောက်ရွံ့သဖြင့်သန့်ရှင်းခြင်းပါရမီနှင့်ပြည့်စုံကြစို့။ ။ငါတို့
ကိုလက်ခံကြလော့။ငါတို့သည်အဘယ်သူကို မျှမပြစ်မှား။အဘယ်သူ
၃ ၏စိတ် ကို မျှမမှောက်လှန်။အဘယ်သူကို မျှမလှည့်စား။ သင်တို့ကို
အပြစ်တင်၍ဤ သို့ငါဆိုသည် မဟုတ်။သင်တို့နှင့် အတူ အသက် ရှင်

ခြင်း ၌ရှင်သေခြင်း ၌ရှင်အလိုရှိသည် တိုင်အောင်ငါတို့သည်သင်
၄ တို့ကိုချစ်ကြ၏ဟုအထက်ကငါပြောခဲ့ပြီ။ လိမ်ဖျက်ခြင်းအလျှင်းမရှိ
ဘဲသင်တို့ကိုငါပြောဝံ့၏။ သင်တို့ကြောင့်အလွန်ကြွားဝါခြင်းရှိ၏။
သက်သာခြင်းနှင့်ပြည့်စုံ၏။ညှဉ်းဆဲခြင်းခံလေရာရာ၌အတိုင်းထက်
၅ အလွန်ဝမ်းမြောက်ခြင်းရှိ၏။ ငါတို့သည်မာကေဒေါနိပြည်သို့ရောက်
သောအခါညီမ်ဝပ်ခြင်းအလျှင်းမရှိ။အရာရာ၌ညှဉ်းဆဲခြင်းကိုခံရ
၏။ပြင်၌ကားထိတ်လန့်ခြင်းရှိ၏။အတွင်း၌ကားစိုးရိမ်ခြင်းရှိ၏။
၆ သို့သော်လည်းအောက်လျို့နှိမ့်ချသော သူတို့ကိုသက် သာစေတော်မူ
တတ်သောဘုရားသခင်သည် တိတုရောက် လာသောအားဖြင့်ငါတို့
၇ ကိုသက် သာစေတော်မူ၏။ တိတုရောက် လာခြင်း အား ဖြင့် သာ
သက်သာစေတော်မူသည် မဟုတ်။ တိတုသည် သင် တို့ဆီမှာရသော
သက် သာခြင်း အားဖြင့် လည်း သက် သာစေ တော်မူ၏။ အဘယ်သို့
နည်း ဟူမူကား။သင်တို့၏တောင့်တခြင်း။ညည်းတွားခြင်း။ငါအကျိုး
အလို၌ါစေတနာစိတ်အားကြီးခြင်းအကြောင်း အရာများကိုသူသည်
၈ ငါတို့အားကြားပြော၏။ ထိုကြောင့်ငါသည်သာ၍ဝမ်းမြောက်ခြင်းရှိ
၏။အထက်ကပေးလိုက်သောစာအားဖြင့်သင်တို့ကိုဝမ်းနည်းစေသည်
ကိုငါသည်အရင်တခါနောင်တရှိသော်လည်း ယခု၌ နောင်တမရှိ။အ
ဘယ်ကြောင့်နည်းဟူမူကား။ထိုစာသည်သင်တို့ကိုခဏဝမ်းနည်းစေ
၉ သည်ကိုငါမြင်၏။ ။သင်တို့ကိုဝမ်းနည်းစေသောကြောင့်ငါ
ဝမ်းမြောက် သည် မဟုတ်။ဝမ်းနည်း စေ၍ နောင် တရသောကြောင့်ငါ
ဝမ် မြောက် ခြင်း ရှိ၏။ငါတို့စီရင်သောဒဏ် နှင့်သင် တို့သည် ကင်း
လွတ် မည် အကြောင်း။ ဘုရား သခင် အလိုတော်အတိုင်းဝမ်းနည်း စေ
၁၀ ကြ၏။ အဘယ်သို့နည်း ဟူမူကား။ဘုရားသခင် အလိုတော်နှင့်ညီ
သောဝမ်းနည်းခြင်းသည် ကယ် တင်တော်မူခြင်း သို့ပို့တတ်သည်ဖြစ်
၍ မပြောင်း လဲနိုင် သောနောင် တစိတ် ကို ပြုပြင် တတ် ၏ လောကီဝမ်
၁၁ နည်း ခြင်း မူကား သေခြင်းကို ပြုပြင် တတ်၏။ ဘုရား သခင် အလို
တော်အတိုင်းသင်တို့ကိုဝမ်းနည်းစေခြင်းအရာသည်သင်တို့၌အဘယ်
သို့ သောသတိပြုခြင်း။ ကိုယ် အပြစ် ကိုဖြေ ခြင်း။ အမျက် ထွက် ခြင်း။
ကြောက် ရွံ့ခြင်း။ အလွန် တောင့် တ ခြင်း။ ငါအ ကျိုး အလို ၌ါစိတ် အား
ကြီး ခြင်း။ တရား သဖြင့် ဒဏ် စီရင်ခြင်း တို့ကို ဖြစ် စေပြီး တကား။
သင်တို့သည်ဤအမှု၌အပြစ် ကင်းသည်ကိုအရာရာအားဖြင့် ထင်ရှား

၁၂ ပြကြပြီး။ ထိုသို့နှင့်အညီငါသည်သင်တို့အားရေးထား၍မေးလိုက်
သောအခါပြစ်မှားသောသူ၊ ပြစ်မှားခြင်းကိုခံသောသူကိုသာ
ထောက်၍ရေးထားသည်မဟုတ်။ သင်တို့အကျိုးကိုငါတို့သည်ဘုရား
သခင်ရှေ့ပြုရချင်သောစေတနာစိတ်ရှိကြောင်းကိုသင်တို့အားထင်
၁၃ ရှားစေခြင်းငှါရေးထားသတည်း။ ထိုကြောင့်သင်တို့၏သက်သာ
ခြင်းအကြောင်းအားဖြင့်ငါတို့သည်လည်းသက်သာခြင်းသို့ရောက်
သည်သာမကတိတု၏ဝမ်းမြောက်ခြင်းအကြောင်းအားဖြင့်သာ၍အ
လွန်ဝမ်းမြောက်ကြ၏။ သင်တို့အားလုံးသည်သူ့စိတ်နှစ်လုံးကိုသက်
၁၄ သာဝမ်းမြောက်စေသည်ဖြစ်၍ အထက်ကငါသည်သင်တို့ကိုအ
ကြောင်းပြု၍ကြွားဝါသောစကားကိုတိတုအားပြောပြီးလျှင်ယခု
ရှက်ကြောက်ခြင်းမရှိ။ ငါတို့သည်အရာရာ၌သင်တို့အားဟုတ်မှန်
စွာပြောသကဲ့သို့သို့ခဲ့သည်းတိတုရှေ့၌ငါကြွားဝါသောစကားသည်
၁၅ မှန်သောစကားထင်ရှားဖြစ်၏။ သင်တို့သည်ကြောက်ရွံ့တုန်လှုပ်
ခြင်းနှင့်သူကိုလက်ခံ၍ခရီးဆောင်ကြသည်ကိုသူသည်အောက်မေ့
သဖြင့်သင်တို့ကိုချစ်သနားခြင်းမေတ္တာကရုဏာစိတ်နှင့်အလွန်ပြည့်
၁၆ စုံ၏။ ထိုကြောင့်အရာရာ၌သင်တို့ကိုငါရုံနိုင်သည်ကိုငါထောက်၍
ဝမ်းမြောက်ခြင်းရှိ၏။

❋❋

၁ ညီအစ်ကိုတို့၊ ဘုရားသခင်သည်မာကေဒေါနိပြည်၌ရှိသောအသင်း
တော်များတို့အားပြုတော်မူသောကျေးဇူးတော်အကြောင်းကိုငါတို့
၂ သည်သင်တို့အားကြားပြောကြ၏။ ထိုအသင်းတော်များတို့သည်အ
လွန်ဆင်းရဲသည့်တိုင်အောင်စုံစမ်းခြင်းကိုခံရသော်လည်းသူတို့မှာ
အလွန်ကြီးသောဝမ်းမြောက်ခြင်း၊ ဥစ္စာပြုန်းတီးသောဆင်းရဲခြင်းအ
ကြောင်းတို့သည်စွန့်ကြဲပေးကမ်းခြင်းစည်းစိမ်ကိုဖြစ်စေ၍ကြွယ်ဝ
၃ ပြည့်စုံ၏။ အဘယ်ကြောင့်ခဲ့သည်းပဲမူကား၊ သူတို့သည်တတ်နိုင်သမျှ
ထက်မကအလိုလိုစွန့်ကြဲချင်သောစေတနာစိတ်ရှိသည်ဟုငါသက်
၄ သေခံ၏။ သူတို့အလှူဒါနကိုငါတို့သည်ယူ၍သူတို့နှင့်ဗိုင်းသဖြင့်သန့်
ရှင်းသူတို့အားလုပ်ကျွေးခြင်းအမှုကိုဆောင်ရွက်မည်အကြောင်း၊ သူ
တို့သည်တိုက်တွန်းသွေးဆောင်သောစကားများအားဖြင့်ငါတို့ကို
၅ တောင်းပန်ကြ၏။ ထိုသို့ပြုကြသော်ငါတို့မျှော်လင့်သည်အတိုင်းမ
ကပြု၍ဘုရားသခင်အလိုတော်နှင့်အညီရှေးဦးစွာသခင်ဘုရား၌ငင်

ငါတို့၌၎င်းမိမိတို့ကိုမိမိတို့လှူကြ၏။ ထိုကြောင့်တိတုသည်သင်တို့ဆီမှာ
၆ အစပြုနှင့်သကဲ့သို့ထိုအလှူကိုပြီးစီးစေမည်အကြောင်း။ငါတို့သည်သူကို
၇ တောင်းပန်ကြပြီး။ ထိုသို့နှင့်အညီသင်တို့သည်ယုံကြည်ခြင်း။တရား
ဟောခြင်း။ညာဏ်ရှိခြင်း။အမျိုးမျိုးသောသတိနှင့်ပြည့်စုံခြင်း။ငါတို့
ကိုချစ်ခြင်းမှစသောအလုံးစုံတို့နှင့်ကြွယ်ဝပြည့်စုံသည်ဖြစ်၍ ထို
၈ ကျေးဇူးနှင့်လည်းကြွယ်ဝပြည့်စုံခြင်းဖြစ်စေသတည်း။ ထိုသို့ငါဆို
သော်ပညတ်အားဖြင့်ဆိုသည်မဟုတ်။အချားသောသူတို့၏ကျိုးစား
အားထုတ်ခြင်းကိုအစွဲပြု၍သင်တို့၏မေတ္တာသည်မှန်သည်မမှန်
၉ သည်ကိုစုံစမ်းသောအားဖြင့်ဆိုသတည်း။ အဘယ်ကြောင့်နည်းဟူ
မူကား။ငါတို့သခင်ယေရှုခရစ်သည်အလွန်ရတတ်သော်လည်းကိုယ်
တော်ဆင်းရဲခြင်းအားဖြင့် သင်တို့သည် ရတတ်ခြင်းသို့ရောက်ရ
အောင်သင်တို့အဖို့အလို ငှါဆင်းရဲခံတော်မူသောကျေးဇူးတော်ကို
၁၀ သင်တို့သိကြ၏။ ။ဤအမှု၌ငါသဘောကိုငါပြ၏။မနှစ်ကပင်
စေတနာစိတ်နှင့်အဦးပြုသောသင်တို့သည်ဤအမှုကိုပြီးစီးစေချင်
၁၁ သာ၍ကောင်းလိမ့်မည်။ သို့ဖြစ်၍အထက်ကစေတနာစိတ်ရှိသည်
နှင့်အညီယခုတွင်သင်တို့သည် တတ်နိုင်သည့်အတိုင်းပြု၍ဤအမှုကို
၁၂ ပြီးစီးစေကြလော့။ အကြောင်းမူကား။စေတနာစိတ်အရင်ရှိလျှင်မ
တတ်နိုင်သောအမှုကိုမထောက်ဘဲတတ်နိုင်သောအမှုကိုသာထောက်
၁၃ ၍နှစ်သက်တော်မူဘွယ်ဖြစ်၏။ ဤအမှုအရာ၌အချားသောသူတို့
သည်ချမ်းသာရ၍သင်တို့သည်ဆင်းရဲစေခြင်းငှါငါအကြံရှိသည်မ
၁၄ ဟုတ်။ များများရသောသူမပို။နည်းနည်းရသောသူမလိုဟူသောကျမ်း
၁၅ စကားနှင့်အညီမျှခြင်းတရားကိုထောက်၍ယခု၌သင်တို့၏စည်းစိမ်
သည်သူတို့၏ဆင်းရဲကိုမစသဖြင့်၎င်နောင်၌သူတို့၏စည်းစိမ်သည်
သင်တို့၏ဆင်းရဲကိုမစသဖြင့်၎င်အညီအမျှဖြစ်စေခြင်းငှါငါအကြံ
၁၆ ရှိ၏။ ။ထိုသို့သင်တို့အကျိုးကိုပြုချင်သောစေတနာစိတ်
ကိုဘုရားသခင်သည်တိတုအားလည်းပေးတော်မူသောကျေးဇူးတော်
၁၇ ကြီးလှပေ၏။ ထိုသူသည်ငါတိုက်တွန်းသောစကားကိုခံ၍ထောင်
သည်သာမကအလွန်စေတနာစိတ်အားကြီး၍သင်တို့ဆီသို့အလိုလို
၁၈ သွား၏။ ခရစ်ဝင်ကျမ်းစာကိုစီရင်ရေးထား၍အသင်းတော်အား
လုံးတို့၌ချီးမွမ်းလျက်ရှိသောညီကိုတိတုနှင့်အတူငါတို့စေလွှတ်ကြ
၁၉ ၏။ ထိုညီမူကားသခင်ဘုရား၏ဂုဏ်အသရေတော်ကို၎င်ကိုယ်စေ

တနာ စိတ်ကို ငင်ငါတို့သည် ထင်ရှားစေ၍ အသင်း တော်များ၏ အလှူ
ကျေးဇူးကို ပြုရသည် အမှုမှာငါတို့နှင့်အတူသွားစေခြင်း ငှါအသင်း
၂၀ တော်များရွေးကောက် ခန့်ထား သော သူဖြစ်သတည်း။ ငါတို့သည်
ထို များ စွာသော အလှူ ကျေးဇူး ကို ပြုရာတွင် အပြစ် တင် စရာအ
၂၁ ကြောင်းအလျှင်းမရှိရအောင်သတိပြုကြ၏။ သခင်ဘုရားရှေ့တော်
၌ မကလူတို့ရှေ့၌ တင့်တယ်လျောက်ပတ်သောအကျင့် ကို ကြံစည်ကြ
၂၂ ၏။ ထိုသူနှစ်ယောက်နှင့်အတူအချားသော ညီကိုစေလွှတ်ကြ၏။ထို
ညီမူကား ငါတို့သည်အရာရာ၌အဖန်ဖန် စုံစမ်း၍ သိသည် အတိုင်းလု
လ္လပြုသောသူဖြစ်၏။ယခု၌သင်တို့ကိုအလွန်ယုံသောကြောင့်သာ၍လု
၂၃ လ္လပြု၏။ တိတုသည်အဘယ်သူနည်းဟုတစုံတယောက်သောသူမေး
လျှင်ငါ၏အပေါင်းအဖေါ် ဖြစ် ၏။ သင် တို့အမှုကိုငါ နှင့် အတူဆောင်
ရွက်သော သူဖြစ် ၏။အချားသော ညီအစ်ကိုတို့သည်အဘယ်သူနည်း
ဟုမေးလျှင်အသင်းတော်များ၏တမန်ဖြစ်ကြ၏။ခရစ်တော်၏ဘုန်း
၂၄ အသရေ ဖြစ်ကြ၏။ ထိုကြောင့် သင်တို့ချစ်ခြင်း မေတ္တာကို ငင်ငါတို့
သည်သင်တို့ကြောင့်ကြွားဝါခြင်းအကြောင်းကိုငင်အသင်းတော်များ
မျက်မှောက်၌ထိုသူတို့အားထင်ရှားစွာပြကြလော့။

**

၁ သန့်ရှင်းသူတို့ကိုလုပ်ကျွေးခြင်းအမှု၏အကြောင်းများကိုသင်တို့အား
၂ ငါရေး၍ ကြွား လိုက် သော်အကျိုး မရှိ။ အဘယ် ကြောင့်နည်းဟူမူ
ကား။သင်တို့၏စေတနာစိတ်ကိုငါသိ၏။သင်တို့၌ရှိသောထိုစေတနာ
စိတ်ကိုငါကြွား ဝါ၍အခါယပြည် သူပြည်သား တို့သည် မနှစ်မှစ၍အ
သင့်ရှိပြီး ဟုမာကေဒေါနိလူ တို့အား ငါဆိုတတ် ၏။ ထိုသို့သင် တို့စေ
တနာစိတ်အားကြီးခြင်းအကြောင်းအရာသည်များ သောသူတို့ကိုနှိုး
၃ ဆော်တိုက်တွန်းလေပြီ။ သို့သော်လည်းငါတို့သည်သင်တို့ကိုကြွား
ဝါသောစကား သည် ဤအမှု၌ အချည်း နှီးမဖြစ် စေဘဲထို စကားနှင့်
အညီသင် တို့သည် အသင့် ရှိစေခြင်း ငှါ ညီ အစ် ကို အချို့တို့ကိုငါစေ
၄ လွှတ်၏။ သို့မဟုတ်။ မာကေဒေါနိလူတို့သည် ငါနှင့် အတူလာ၍ သင်
တို့သည် အသင့် မရှိသည် ကိုတွေ့လျှင် သင် တို့ရှက် မည် မဆို ဘဲငါတို့
၅ သည်ရဲရင့်စွာကြွားဝါခဲ့ပြီးသည်ကိုအရှက်ခံတော့မည်။ ထိုကြောင့်
အထက်ကကြွားပြောသောသင်တို့၏အလှူကျေးဇူးသည်အနိုင်အထက်
လှူရ သောဥစ္စာကဲ့သို့မဟုတ်။အလှူကျေးဇူး ကဲ့သို့အသင့်ရှိစေခြင်းငှါ

❋❋

၁ သင်တို့မျက်မှောက်၌နှိမ့်ချခြင်း။မျက်ကွယ်၌သင်တို့အမှုကိုစီရင်၍ရဲ
ရင့်ခြင်းရှိသောငါပေါလုသည် ခရစ်တော်၏နူးညံ့သိမ်မွေ့ဖြည်း
၂ ညင်းတော်မူခြင်းကိုအကြောင်းပြု၍သင်တို့ကိုတောင်းပန်ပါ၏။ ငါ
တို့သည်ဇာတိပကတိအလိုသို့လိုက်၍ကျင့်သောသူဖြစ်ကြသည်ဟု
ထင်မှတ်သောသူတို့အားငါကြံစည်သောရဲရင့်ခြင်းအတိုင်းသင်တို့ဆီ
သို့ငါရောက်လာသောအခါထိုဖျလောက်မရဲရင့်ရမည်အကြောင်းငါ
၃ တောင်းပန်ပါ၏။ အဘယ်ကြောင့်နည်းဟူမူကား။ငါတို့သည်လူဇာ
တိ၌ကျင်လည်သော်လည်းဇာတိပကတိအလိုသို့လိုက်၍စစ်တိုက်ကြ
သည်မဟုတ်။ငါတို့စစ်တိုက်၍သုံးစွဲသောလက်နက်သည်ဇာတိပကတိ
၄ လက်နက်မဟုတ်။ ဘုရားသခင်တန်ခိုးတော်အားဖြင့်မြို့ရိုးမြို့ပြတို့ကို
၅ ဖြိုဖျက်နိုင်သောလက်နက်ဖြစ်၏။ ထိုလက်နက်အားဖြင့်လူအကြံအ
စည်တို့ကိုဇင်ဘုရားသခင်ကိုသိသောပညာကိုဆီးတားသောမာန်
မာနရှိသမျှကိုဇင်နှိမ့်ချမှောက်လှန်၍စိတ်ရှိသမျှတို့ကိုဖမ်းသွားချုပ်
၆ ထား၍ခရစ်တော်၏စကားကိုနားထောင်စေကြ၏။ သင်တို့၏နား
ထောင်ခြင်းအရာသည်ပြည့်စုံပြီးမှနားမထောင်ဘဲနေသောသူအား
၇ လုံးကိုဒါဏ်ပေးခြင်းငှါငါတို့သည်အသင့်ရှိကြ၏။ ။မျက်
နှာကိုသာကြည့်မှတ်ကြသလော။အကြင်သူကငါသည်ခရစ်တော်လူ
ဖြစ်၏ဟုမိမိကိုကိုးစား၍ထင်၏။ထိုသူသည်ခရစ်တော်လူဖြစ်သကဲ့
သို့ငါတို့လည်းခရစ်တော်လူဖြစ်ကြောင်းကိုတဖန်အလိုလိုဆင်ချင်
၈ သိမှတ်ပါလေစေ။ သခင်ဘုရားသည်သင်တို့ကိုပယ်ရှင်းဖျက်ဆီး
ခြင်းအလို့ငှါမဟုတ်ဘဲတည်ဆောက်ခြင်းအလို့ငှါသာငါတို့၌အပ်ပေး
တော်မူသောတန်ခိုးကိုငါသာ၍ကြွားဝါသော်လည်းငါရှက်ကြောက်စ
၉ ရာအကြောင်းမရှိ။ ရေး၍ပေးလိုက်သောစာအားဖြင့်သာသင်တို့
၁၀ ကိုချိန်းချောက်သကဲ့သို့ငါမပြုလို။ အဘယ်ကြောင့်နည်းဟူမူကား။
သူ့စာသည်လေးလံသောစာ။တန်ခိုးနှင့်ပြည့်စုံသောစာဖြစ်၏။ ကိုယ်
တိုင်ရှိလျှင်မူကားသတိမရှိသောသူ။အချည်းနှီးစကားကိုပြောသော
၁၁ သူဖြစ်၏ဟုဆိုတတ်သောသူရှိ၏။ ငါတို့သည်ကိုယ်တိုင်မရှိ၍စာ၌
ပါသောစကားအားဖြင့်ဖြစ်သကဲ့သို့ကိုယ်တိုင်မျက်မှောက်ရှိသော
အခါအမှုအားဖြင့်ဖြစ်လိမ့်မည်ဟုထိုသူသည်ဆင်ချင်သိမှတ်ပါလေ
၁၂ စေ။ ။ကိုယ်ကိုကိုယ်ချီးမွမ်းသောသူတို့နှင့်ရေတွက်ဝင်

ခြင်းကိုရင်ပြိုင်နှိုင်းခြင်းကိုရင်ငါတို့မပြုဝံ့။ထိုသူတို့သည်အချင်းချင်း
တယောက်နှင့်တယောက် ခိုင်းနှိုင်းခြင်း။ပြိုင်နှိုင်းခြင်းကိုပြု၍ပညာ
၁၃ မဲ့ဖြစ်ကြ၏။ ထိုမှတပါး။ကိုယ်ငန်းကိုယ်တာကိုလွှန်ကျူး၍ပြုသော
အမှုအရာကိုငါတို့ကြွားဝါခြင်းမရှိဝံ့။ဘုရားသခင်ဝေဌတော်မူသော
အငန်းအတာ၏အကိုင်းအရှည်အတွင်းတွင်ပြုသောအရာကိုသာကြွား
ဝါခြင်း ရှိဝံ့၏။ထို အတိုင်း အရှည်သည် သင်တို့တိုင် အောင်ပင်မှီသ
၁၄ တည်း။ သင်တို့တိုင် အောင်မမှီဘဲငါတို့သည် လွှန်ကျူး၍ပြုသည်မ
ဟုတ်။အဘယ်ကြောင့်နည်း ဟူမူကား။ခရစ်တော်၏ဧဝံဂေလိတရား
၁၅ ကိုဟော၍သင်တို့ဆီသို့တိုင်အောင်ရောက်ကြပြီ။ ငါတို့သည်ကိုယ်
၁၆ ငန်းကိုယ်တာကိုလွှန်ကျူး သဖြင့်သူတပါး အလုပ်ထဲသို့ဝင်၍ ကြွား
ဝါလေ့မရှိ။ထိုသို့သူငန်း သူတာအတွင်းတွင်ပြင်ဆင်ပြီးသောအမှုအ
ရာကို ကြွားဝါခြင်းမရှိဘဲသင် တို့ပြည် တဖက်သို့ကူး၍ဧဝံဂေလိတ
ရားကိုဟောသောအ ခွင့်ရှိရအောင်သင်တို့ရုံကြည်ခြင်းပါရမီရင့်ပြီး
၁၇ မှငါတို့အငန်းအတာအလွှန်ကျယ်ဝန်းမည်ဟုမျှော်လင့်ခြင်းရှိ၏။ သို့
ဖြစ်၍ကြွားဝါသောသူမည် သည်ကား သခင်ဘုရားကိုအမှီပြု၍သာ
၁၈ ကြွားဝါပါလေစေ။ အကြောင်း မူကား။ ကိုယ်ကိုကိုယ်ချီးမွမ်းသော
သူသည်ဝန်ခံတော်မူသော သူဖြစ်သည်မဟုတ်။သခင်ဘုရား ချီးမွမ်း
သောသူသာလျှင်ဝန်ခံတော်မူသော သူဖြစ်သတည်း။

❋❋

၁ ငါမိုက်မဲသောအဖြစ်ကိုသင်တို့သည်ခဏသည်းခံခြင်းငါ့ငါအလိုရှိ၏။
၂ ခဏသည်းခံကြပါလော့။ အကြောင်းမူကား။သင်တို့ကိုသီလနှင့်ပြည့်စုံ
သောသတို့သမီးကညာကဲ့သို့ခရစ်တော်အားငါဆက်မည်အကြံရှိ၍သင်
တို့ကိုလင်တဦးနှင့်ထိမ်းမြားဆောင်နှင်းပြီးသော့ကြောင့်ဘုရားသခင်
အလိုတော်အတိုင်းစိုးရိမ်သောစိတ်နှင့် သင် တို့ကိုစောင့် ရှောက်လျက်
၃ နေ၏။ မြွေသည်မိမိပရိယာယ်အားဖြင့်ဧဝကိုလှည့်စားသကဲ့သို့သင်
တို့သည်စိတ်ဖောက်ပြန်ရှုပ်ရှက်၍ခရစ် တော်ကို အကြွင်း မဲ့ချစ်သောစိတ်
၄ ပျောက်မည်ဟုစိုး ရိမ်ခြင်း ရှိ၏။ သင် တို့ဆီသို့ရောက်လာသောသူ
သည်ငါတို့မဟောပြောသေးသောယေရှုတပါးကိုဟောပြောလျှင်၎င်
သင်တို့သည်မခံရသေးသောဝိညည်တော်တပါးကိုခံရလျှင်၎င်နားမ
ထောင်သေးသောဧဝံဂေလိတရားစကားကိုနားထောင်လျှင်၎င်ထိုသူ
၅ ကိုသည်းခံကောင်း၏။ ။ငါသည်အကြီးဆုံးသေါတမန်တော်အောက်

၆ အလျှင်းမယုတ်သည်ကိုငါသဘောရှိ၏။ စကားအါးဖြင့်လူရိုင်းဖြစ်
သော်လည်းပညာအားဖြင့် လူရိုင်းမဟုတ်။ သင်တို့တွင်အရာရာ၌ငါ
၇ တို့သည်ကိုယ်ကိုကိုယ်အစဥ်ထင်ရှားပြကြပြီ။ သင်တို့ကိုချီးမြှောက်
ခြင်း၄ါကိုယ်ကိုကိုယ်နှိမ့်ချလျက်ကျေးဇူးဆပ်ခြင်းကိုမခံဘဲဘုရား
သခင်၏ဧဝံဂေလိတရားကိုသင်တို့အားဟောသည်အရာမှာငါ့အပြစ်
၈ ရှိသလော။ သင်တို့အမှုကိုဆောင်ရွက်မည်အကြောင်း။အခြားသော
အသင်းတော်များပေးသောစရိတ်ကိုငါခံ၍သူတို့ကိုလုယူရာရောက်
၉ လေပြီ တကား။ သင်တို့ဆီမှာရှိနေ၍တစုံတခုလိုသောအခါအဘယ်
သူကိုမျှငါမနှောင့်ရှက်။အဘယ်သို့နည်းဟူမူကား။ မာကေဒေါနိပြည်
ကလာသောညီအစ်ကိုတို့သည် ငါလိုသမျှကိုပေးကြ၏။ သင်တို့ကိုအ
လျှင်း မနှောင့်ရှက်ရအောင်သတိပြုခဲ့ပြီး။ နောက်၌လည်းသတိပြုဦး
၁၀ မည်။ ခရစ်တော်၏သမ္မာတရားသည်ငါ၌ရှိသည်ဖြစ်၍အခါယပြည်
များတို့၌ဤသို့ငါကြွားဝါခြင်းအကြောင်းကိုအဘယ်သူမျှမဆီးတား
၁၁ ရ။ အဘယ်ကြောင့်နည်း။သင်တို့ကိုငါမချစ်သလော။ဘုရားသခင်
၁၂ သိတော်မူ၏။ ။အခွင့်ရလိုသောသူတို့သည်အခွင့်မရ
အောင် ငါကြွား ဝါခြင်းအရာ ၌ သူတို့သည် ငါကဲ့သို့ထင်ရှား ဖြစ်ရ
၁၃ အောင်ငါပြုခဲ့ပြီးသည်အတိုင်းအစဉ်ပြုဦးမည်။ အဘယ်ကြောင့်
နည်းဟူမူကား။ထိုသူတို့သည်မမှန်သောတမန်တော်ဖြစ်ကြ၏။လှည့်
စားတတ်သောအမှုစောင့်ဖြစ်ကြ၏။ ခရစ်တော်၏ တမန် ဖြစ်ရောင်
၁၄ ဆောင်ကြ၏။ ဤအမှုသည် အံ့သြဖွယ်မဟုတ်။ မာရ်နတ် စာတန်
ပင်လျှင်လင်းသောကောင်းကင်တမန်ဖြစ်ရောင်ဆောင်တတ်၏။
၁၅ သို့ဖြစ်၍သူ့ဆရာတို့သည်လည်းဖြောင့်မတ်ခြင်းတရားဟောဆရာ
ဖြစ် ရောင် ဆောင် လျှင် အဘယ် သို့ထူး ဆန်း သနည်း။ သူတို့သည်
ကိုယ်ကျင့်သောအကျင့်အတိုင်း နောက်ဆုံး၌ အကျိုးအပြစ်ကို ခံရကြ
၁၆ လတ္တံ့။ တဖန်ငါဆိုသည်ကား။ငါသည်အရူးဖြစ်သည် ဟုအဘယ်သူ
မျှမထင်စေနှင့်။ သို့မဟုတ်။ ငါကြွား ဝါစရာအခွင့် အနည်းငယ် ရှိရ
၁၇ အောင်အရူးကဲ့သို့ငါကိုမှတ်၍သည်းခံကြလော့။ ဤသို့ငါပြောသောစ
ကားမှာသခင်ဘုရားနည်းတူငါပြောသည်မဟုတ်။အရူးဖြစ်သကဲ့သို့
၁၈ ရဲရင့်စွာကြွားဝါလျက်ငါပြော၏။ ။လူအများတို့သည်လော
ကီအခြင်းအရာ၌ကြွား ဝါသောကြောင့်ငါသည် လည်းကြွား ဝါရ၏။
၁၉ သင်တို့သည်လူလိမ္မာဖြစ်သောကြောင့်အရူးတို့ကိုစေတနာစိတ်နှင့်

၂၀ သည်းခံကြ၏။ သူတပါးသည်သင်တို့ကိုကျွန်ခံစေခြင်း။ရောင်းစား
ခြင်း။ ဥစ္စာလုယူခြင်း။ ရန် တွေ့ခြင်း။ပါးပုတ်ခြင်း ကိုပြုလျှင် သင်တို့
၂၁ သည်းခံကြ၏။ ငါတို့သည်အစွမ်းသတ္တိမရှိဟုကဲ့ရဲ့ခြင်းကိုအမှတ်ပြု
၍ငါပြော၏။ အကြင်အရာကိုသူတပါး မိဝံ၍ရဲရင့်၏။ထိုအရာကိုငါမိ
၂၂ ဝံ၍ရဲရင့်ခြင်းရှိ၏ဟုအရူးဖြစ်သကဲ့သို့ငါဆို၏။ သူတို့သည် ဟေဗြဲ
လူဖြစ်သလော။ငါသည်လည်း ဖြစ်၏။ သူတို့သည် ဣသရေလလူဖြစ်
သလော။ ငါသည် လည်း ဖြစ်၏။ သူတို့ သည် အာဗြဟံအမျိုး ဖြစ် သ
၂၃ လော။ငါသည်လည်းဖြစ်၏။ သူတို့သည်ခရစ်တော်ထံဆရာဖြစ်သ
လော။ငါသည် အထူး သဖြင့်ဖြစ် ၏ဟုအရူး လိုငါဆိုရ၏။ပင်ပန်းစွာ
အမှုကိုအထူးသဖြင့် ရွက် ဆောင် လျက် ရိုက် ပုတ် ခြင်း ထောင်ထဲမှာ
လှောင် ထား ခြင်းကိုအထူး သဖြင့် ခံလျက်သေဘေးနှင့် အကြိမ် ကြိမ်
၂၄ တွေ့ကြုံလျက်ဖြစ်၏။ ငါးကြိမ် မြောက် အောင် ယုဒလူစီရင်၍ ဒါဏ်
ချက် လေးဆယ်တချက်ယုတ် ငါခံပြီး။သုံး ကြိမ်မြောက် အောင် ကြိမ်လုံး
၂၅ နှင့်ရိုက် ခြင်း ကိုရင် တကြိမ်ခဲနှင့်ပြစ်ခြင်း ကိုရင် ငါခံပြီး။ သုံးကြိမ်
မြောက် အောင် သင်္ဘောပျက် ခြင်း ကို ခံပြီး။ တနေ့တညည့် ပတ်လုံး
၂၆ ပင် လယ် ထဲမှာနေပြီး။ အကြိမ် ကြိမ်ဒေသစာရီလှည့် လည်ပြီ ။မြစ်
ကို ကူး သေဘေး။ ခါးမြတိုက်သေဘေး။အမျိုးသားချင်း ပြုသေ
ဘေး။ တပါး အမျိုး သား ပြု သေဘေး။ မြို့ရွာ၌ ရောက် သေဘေး။
တော၌ ရောက်သေဘေး။ ပင်လယ် ဘေး။ ညီအစ်ကို ရောင်ဆောင်
၂၇ သောသူပြု သေဘေး။ ဤ ဘေးများ ကို ငါတွေ့ရပြီး။ ပင်ပန်း စွာ
အမှုကိုဆောင် ရွက် ခြင်း။ အကြိမ် များ စွာမအိပ် ဘဲစောင့် နေခြင်း။
မွတ်သိပ်ခြင်း။ရေငတ်ခြင်း။အကြိမ် ကြိမ်အစာရှောင်ခြင် ။အချမ်း
အေးခံခြင်း။အဝတ်အချည်း စည်း ရှိခြင်း။ဤဆင်း ရဲများ ကိုငါခံရပြီး။
၂၈ ။ထိုပြင်မှုမှတပါး။အသင်းတော်အားလုံးတို့ကိုစိုးရိမ်သော
၂၉ စိတ်နှင့်ကြည့်ရှုပြုစု၍နေ့တိုင်းအစည်နှောင့်ရှက်ခြင်းကိုငါခံရ၏။ သူ
တပါးနွမ်းရိခြင်း ရှိ လျှင် ငါမနွမ်း ရိဘဲနေသလော။ သူတပါး စိတ်ပျက်
၃၀ လျှင်ငါပူပန် သောစိတ်မရှိလော။ ငါသည်မကြွားဝါဘဲမနေရသည်
မှန်လျှင်ကိုယ်နွမ်းရိသောအဖြစ်ကိုသာအကြောင်းပြု၍ကြွားဝါမည်။
၃၁ မုသာ စကား ငါမပြော သည် ကို ထာဝရမင်္ဂလာ ရှိသောငါတို့သခင်
ယေရှုခရစ်၏ခမည်းတော်ဘုရားသခင်သိတော်မူ၏။ ။
၃၂ ဒမာသက်မြို့၌အရေတမင်းကြီး ခန့်ထားသောမြို့ဝန် သည် ငါကိုဖမ်

၃၃ ဆီးခြင်း ဤအလို ရှိ၍ဒမာသကုမြို့ကို စောင့်ရှောက်စည့် တွင် ငါကို
တောင်း ၌ထည့် လျှက်ပြတင်းပေါက်မှထုတ်၍မြို့ရိုး ပေါ်ကချော့ချသ
ဖြင့်ထို မြို့ ဝန်လက်မှငါပြေးလွတ်လေ၏။

❊❊

၁ ငါသည် ကြွားဝါခြင်းကိုမပြုသင့် လျှင်သခင်ဘုရားပြတော်မူသော။
ထူးဆန်း သောရူပါရုံနှင့်ဗျာဒိတ် တော်များကိုတဖန် ပြောဦးမည်။
၂ ခရစ် တော်တပည့် ဖြစ် သောလူတယောက် ကို တတိယကောင်းကင်
တိုင်အောင်ချီဆောင်သည်အကြောင်းကိုငါသိ၏။ယခုဆယ်လေး နှစ်ရှိ
ပြီး။ထိုအခါကိုယ် ခန္ဓာပါသည် မပါသည်ကိုငါမသိ။ဘုရား သခင်သိ
၃။၄ တော်မူ၏။ ထိုသူကိုပရဒိသုဘုံသို့ချီဆောင်၍ လူမပြောအပ် မပြော
နိုင်သောစကား ကို သူကြား သည် အကြောင်း ကိုငါသိ၏။ ထိုအခါ
ကိုယ်ခန္ဓာပါသည်မပါသည်ကိုငါမသိ။ဘုရားသခင်သိတော်မူ၏။
၅ ထိုသို့သောသူကိုငါကြွားဝါမည်။ နွမ်ရိအားနည်းခြင်း မှတပါးကိုယ်
၆ ဂုဏ်ကို မကြွားဝါ။ ကြွားဝါခြင်း ဤအလို ရှိလျှင်လည်း အရူး ဖြစ်
သည်မဟုတ်။အဘယ်ကြောင့်နည်းဟူမူကား။ငါမှန်မှန်ပြောတတ်၏။
တစုံတယောက်သောသူသည်ငါကိုမြင်သည်ထက်ငါသိတင်းကိုကြား
၇ သည်ထက်ငါကိုသာ၍ မထင်ရအောင်ငါမပြောဘဲနေ၏။ ငါခံသော
ဗျာဒိတ်တော်အလွန် ထူး မြတ်၍ ငါသည် ထောင်လွှား သောစိတ်မရှိရ
အောင်ငါကိုဒါဏ်ခတ်သောစာတန် ၏ တမန်တည်း ဟူသောငါကိုယ်
၈ ၌ ရှူး သောဆူးကို စီရင်ပေး သနားတော်မူပြီး။ ထိုဆင်း ရဲနှင့် လွှတ်
ကင်းမည် အကြောင်း။ သုံး ကြိမ်မြောက် အောင်သခင်ဘုရား ကိုငါဆု
၉ တောင်း၍အသနားတော်ခံပြီးလျှင် ငါကျေးဇူးသည်သင်အဖို့လောက်
ပေ၏။ ငါတန်ခိုးသည် အားနည်း ခြင်း အဖြစ် ၌ စုံလင် တတ် ၏ ဟုမိန့်
၁၀ တော်မူ၏။ ။ထိုကြောင့်ခရစ်တော်၏တန်ခိုးသည်ငါအ
ပေါ် ၌ ကျိန်း ဝပ်မည် အကြောင်း။ ငါအား နည်း ခြင်း အဖြစ် ကို ဝမ်း
မြောက်သောစိတ်နှင့်ငါကြွားဝါခြင်း ဤသာ၍ အလို ရှိ၏။သို့ဖြစ်၍ခ
ရစ် တော်ကြောင့် ခံရသောအားနည်း ခြင်း။ ကဲ့ရဲ့ခြင်း။ ဆင်း ရဲခြင်း။
ညှဉ်းဆဲနှိပ် စက် ခြင်း။ ကြပ်တည်း စွာ သောဒုက္ခဝေဒနာခံခြင်း တို့
ကိုငါနှစ်သက်၏။ အဘယ်ကြောင့်နည်းဟူမူကား။ငါသည် အားနည်း
၁၁ သောအခါတန်ခိုးနှင့်ပြည့်စုံလျက်ရှိ၏။ ငါသည်အရူးဖြစ်သလော။
ဖြစ်လျှင်သင်တို့သည်အနိုင်အထက်ဖြစ်စေပြီး။အဘယ်သို့နည်းဟူမူ

တား။သင်တို့ချီးမွမ်းခြင်းကိုငါခံသင့်၏။ငါသည်ဘာမျှမဟုတ် သော်
၁၂ လည်းအကြီးဆုံး သောတမန် တော်တို့အောက် အလျှင်း မယုတ်မညံ့။ အ
ကယ် ၌ နိမိတ်လက္ခဏာ အံ့ဖွယ် သောအမှု၊ ထူး ဆန်း သောတန် ခိုး
များအားဖြင့် သင် တို့ဆီမှာသည်း ခံခြင်း နှင့် တကွတမန် တော်လက္ခ
၁၃ ဏာကိုငါထင်ရှား စွာပြပြီ။ ငါသည် သင် တို့ကိုမနှောင့်ရှက်သောအ
ရာတခု ကို ထား လျှင်သင် တို့သည် အချား သောအသင်း တော်ထက်
အဘယ်သို့ယုတ် ညံ့သနည်း။ ထိုသို့ငါပြစ်မှား သောအပြစ်ကို သည်း
၁၄ ခံကြပါ။ ဤတတိယအကြိမ်သင်တို့ဆီသို့သွားခြင်းငှါငါအသင့်ရှိ၏။
သင်တို့ကိုနှောင့်ရှက်မည်အကြံမရှိ။သင်တို့ဥစ္စာကိုငါရှာသည်မဟုတ်၊
သင်တို့ကိုသာငါရှာ၏။ သားသမီးတို့သည် မိဘအတွက် ဥစ္စာကိုဆည်း
ဘူးရသည်မဟုတ်။မိဘတို့သည်သားသမီးအတွက်ဆည်းဘူးရ၏။
၁၅ ငါသည် သင် တို့ကို ချစ် ခြင်း မေတ္တာစိတ်တိုး ပွားသည် အတိုင်း သင်
တို့သည်ငါကိုချစ်ခြင်းမေတ္တာစိတ်ဆုတ်ယုတ် သော်လည်းသင်တို့စိတ်
ဝိညာဉ်အကျိုး အလို့ငှါငါသည်ကိုယ် ဥစ္စာကို ၎င်ကိုယ်ကို၎င်ကုန်စေ
၁၆ ခြင်းငှါအလွန်စေတနာရှိ၏။ ။သင်တို့ကိုငါမနှောင့်ရှက်
သည် မှန် စေတော့။လိမ္မာသော သူဖြစ် လျှင်ပရိယာယ်အား ဖြင့်သင်
၁၇ တို့ကိုဖမ်းဆီးသည် မဟုတ် လောဟုမေး သော် တစုံတ ယောက် သော
သူကိုသင်တို့ဆီသို့ စေလိုက် ၍ သင်တို့ဥစ္စာကိုမတရား သောပရိယာ
၁၈ ယ်အား ဖြင့်ငါယူသလော။ တိတုသည် သင် တို့ဆီသို့ သွား မည် အ
ကြောင်း ငါတောင်း၍သူနှင့်တကွအချား သော ညီတယောက်ကိုငါစေ
လိုက်၏။တိတုသည်မတရားသော ပရိယာယ်အားဖြင့်သင် တို့ဥစ္စာကို
ယူသလော။ငါတို့သည်စိတ်သဘောချင်းတူ၍ကျင့်သည်မဟုတ်လော၊
ထုံးစံ ခြေလှမ်းချင်းတူသည်မဟုတ်လော။

❋❋

၁၉ တဖန် တုံ။ ငါတို့သည် သင် တို့ရှေ့၌ ကိုယ်အပြစ်ကို ဖွက် ထားသည်ဟု
ထင်ကြသလော။ခရစ်တော်ကိုထောက် ၍ ဘုရား သခင် ရှေ့ငါတို့ပြော
ကြ၏။ချစ်သူတို့။ငါတို့ပြုသမျှမှာသင်တို့တည်ဆောက်ခြင်း အလို့ငှါပြု
၂၀ ကြ၏။ ငါရောက်လာသောအခါသင်တို့သည်ငါနှစ်သက်သောသူမဖြစ်၊
ငါသည်လည်းသင်တို့မနှစ် သက်သော သူဖြစ် မည် ဟူ၍ ၎င်သင် တို့၌
ရန် တွေ့ခြင်း။ ငြူစူခြင်း။အမျက်ထွက်ခြင်း။ညှင်းချုံခြင်း။သူ့အသ
ရေကို ရှုတ်ချခြင်း။ ဂုံးတိုက်ခြင်း။ မာန ထောင်လွှားခြင်း။ အချင်းချင်း

၂၁ အမှုလုပ်ခြင်းဖြစ်မည်ဟူ၍ဂုဏ် အထက်ကပြစ်မှား၍ညစ်ညူးစွာ
ကျင့်ခြင်း။မတရားသောမေထုန်၌မှီဝဲခြင်း။ကိလေသာလွန်ကျူးခြင်း
အမှုတို့ကိုပြုမိ၍ယခုတိုင်အောင်နောင်တမရသောသူအများကြောင့်
ငါစိတ်မသာညည်းတွားရသဖြင့်သင်တို့ရှေ့၌ဘုရားသခင်သည်ငါ
၁ ကိုနှိမ့်ချတော်မူမည်ဟူ၍ဂုဏ်စိုးရိမ်ခြင်းရှိ၏။ ။ဤတတိယ
အကြိမ်သင်တို့ဆီသို့ငါလာမည်ဖြစ်၍သက်သေခံနှစ်ဦးသုံးဦးအား
၂ ဖြင့်စကားရှိသမျှတို့သည်တည်ရလိမ့်မည်။ တဖန်ငါရောက်လာ
လျှင်သင်တို့ကိုမသနားရဟုပြစ်မှားသောသူမှစ၍ကြွင်းသောသူ
အားလုံးတို့အား အထက်ကငါပြောသည်သာမကယခုပင်သင်တို့
၃ ဆီမှာမရှိသော်လည်းတဖန်ရှိဘိသကဲ့သို့ငါပြောနှင့်၏။ သင်တို့တွင်
အားနည်းတော်မမူ။အားကြီးတော်မူသောခရစ်တော်သည်ငါ၌ဗျာ
ဒိတ်ပြုတော်မူခြင်းသက်သေကိုသင်တို့သည်ရှာသောကြောင့်ငါ
၄ ရောက်လာသောအခါမသနားရ။ အဘယ်ကြောင့်နည်းဟူမူကား။
ထိုခရစ်တော်သည်အားနည်းခြင်းနှင့်လက်ဝါးကပ်တိုင်မှာအသေခံ
သော်လည်းဘုရားသခင်၏တန်ခိုးတော်နှင့်အသက်ရှင်တော်မူ၏။ငါ
တို့သည်လည်းခရစ်တော်နည်းတူအားနည်းသော်လည်းသင်တို့တွင်
ပြသောဘုရားသခင်၏တန်ခိုးတော်အားဖြင့်ခရစ်တော်နှင့်အတူအ
၅ သက်ရှင်ခြင်းရှိကြလိမ့်မည်။ သင်တို့သည်ယုံကြည်ခြင်း၌တည်သလော။
မတည်လောဟုကိုယ်ကိုကိုယ်စစ်ကြောကြလော့။ကိုယ်ကိုကိုယ်စုံစမ်း
ကြလော့။အစစ်မခံနိုင်သောသူမဟုတ်လျှင်ယေရှုခရစ်သည်သင်တို့
၆ ၌တည်တော်မူသည်ဟုကိုယ်အကြောင်းကိုကိုယ်မသိသလော။ ငါတို့
သည်အစစ်ခံနိုင်သောသူဖြစ်သည်ကိုသင်တို့သိကြလိမ့်မည်ဟုငါ
၇ ထင်မှတ်မျှော်လင့်ခြင်းရှိ၏။ ငါတို့သည်အစစ်ခံနိုင်ကြောင်းထင်ရှား
စေခြင်းငှါငါအလိုရှိသည်မဟုတ်ဘဲအစစ်မခံနိုင်သောသူကဲ့သို့ထင်
သော်လည်းသင်တို့သည်ကောင်းမွန်စွာကျင့်စေခြင်းငှါမကောင်း
သောအကျင့်တခုကိုမျှမကျင့်မည်အကြောင်း။ဘုရားသခင်ကိုငါဆု
၈ တောင်းပဌနာပြု၏။ ငါတို့သည်သမ္မာတရားကိုဆီးတား၍အ
၉ လျှင်းမတတ်နိုင်။ သမ္မာတရားဘက်၌နေ၍သာတတ်နိုင်ကြ၏။ငါ
တို့သည်အားနည်းလျက်သင်တို့သည်အားကြီးလျက်ရှိသည်ကိုငါတို့ဝမ်း
မြောက်ခြင်းရှိကြ၏။သင်တို့သည်ရုံလင်ခြင်းသို့ရောက်စေခြင်းငှါသာ
၁၀ ငါတို့အလိုရှိကြ၏။ ထိုကြောင့်သခင်ဘုရားသည်ပယ်ရှင်းဖျက်ဆီး

၆ ငါတို့၌နှိုးဆော်ကြ၏။ ထို့ကြောင့်တိတုသည်သင်တို့ဆီမှာ
အစပြုနှင့်သကဲ့သို့ထိုအလှူကိုပြီးစီးစေမည်အကြောင်း။ငါတို့သည်သူကို
၇ တောင်းပန်ကြပြီး။ ထိုသို့နှင့်အညီသင်တို့သည်ရုံကြည်ခြင်း။တရား
ဟောခြင်း။ညာဏ်ရှိခြင်း။အမျိုးမျိုးသောသတိနှင့်ပြည့်စုံခြင်း။ငါတို့
ကိုချစ်ခြင်းမှစသောအလုံးစုံတို့နှင့်ကြွယ်ဝပြည့်စုံသည်ဖြစ်၍ ထို
၈ ကျေးဇူးနှင့်လည်းကြွယ်ဝပြည့်စုံခြင်းဖြစ်စေသတည်း။ ထိုသို့ငါဆို
သော်ပညတ်အားဖြင့်ဆိုသည်မဟုတ်။အချားသောသူတို့၏ကျိုးစား
အားထုတ်ခြင်းကိုအစွဲပြု၍သင်တို့၏မေတ္တာသည်မှန်သည်မမှန်
၉ သည်ကိုစုံစမ်းသောအားဖြင့်ဆိုသတည်း။ အဘယ်ကြောင့်နည်းဟူ
မူကား။ငါတို့သခင်ယေရှုခရစ်သည်အလွန်ရတတ်သော်လည်းကိုယ်
တော်ဆင်းရဲခြင်းအားဖြင့်သင်တို့သည်ရတတ်ခြင်းသို့ရောက်ရ
အောင်သင်တို့အဖို့အလို့ငှါဆင်းရဲခံတော်မူသောကျေးဇူးတော်ကို
၁၀ သင်တို့သိကြ၏။ ။ဤအမှု၌ငါသဘောကိုငါပြ၏။မနှစ်ကပင်
စေတနာစိတ်နှင့်အဦးပြုသောသင်တို့သည်ဤအမှုကိုပြီးစီးစေချင်
၁၁ သာ၍ကောင်းလိမ့်မည်။ သို့ဖြစ်၍အထက်ကစေတနာစိတ်ရှိသည်
နှင့်အညီယခုတွင်သင်တို့သည်တတ်နိုင်သည့်အတိုင်းပြု၍ဤအမှုကို
၁၂ ပြီးစီးစေကြလော့။ အကြောင်းမူကား။စေတနာစိတ်အရင်ရှိလျှင်မ
တတ်နိုင်သောအမှုကိုမထောက်ဘဲတတ်နိုင်သောအမှုကိုသာထောက်
၁၃ ၍နှစ်သက်တော်မူဘွယ်ဖြစ်၏။ ဤအမှုအရာ၌အချားသောသူတို့
သည်ချမ်းသာရ၍သင်တို့သည်ဆင်းရဲစေခြင်းငှါငါအကြံရှိသည်မ
၁၄ ဟုတ်။ များများရသောသူမပို။နည်းနည်းရသောသူမလိုဟူသောကျမ်း
၁၅ စကားနှင့်အညီမျှခြင်းတရားကိုထောက်၍ယခု၌သင်တို့၏စည်းစိမ်
သည်သူတို့၏ဆင်းရဲကိုမစသဖြင့်ရင်နောင်၌သူတို့၏စည်းစိမ်သည်
သင်တို့၏ဆင်းရဲကိုမစသဖြင့်ရင်အညီအမျှဖြစ်စေခြင်းငှါငါအကြံ
၁၆ ရှိ၏။ ။ထိုသို့သင်တို့အကျိုးကိုပြုရချင်သောစေတနာစိတ်
ကိုဘုရားသခင်သည်တိတုအားလည်းပေးတော်မူသောကျေးဇူးတော်
၁၇ ကြီးလှပေ၏။ ထိုသူသည်ငါတိုက်တွန်းသောစကားကိုခံ၍ထောင်
သည်သာမကအလွန်စေတနာစိတ်အားကြီး၍သင်တို့ဆီသို့အလိုလို
၁၈ သွား၏။ ခရစ်ဝင်ကျမ်းစာကိုဟောရင်းရေးထား၍အသင်းတော်အား
လုံးတို့၌ချီးမွမ်းလျက်ရှိသောညီကိုတိတုနှင့်အတူငါတို့စေလွှတ်ကြ
၁၉ ၏။ ထိုညီမူကားသခင်ဘုရား၏ဂုဏ်အသရေတော်ကိုရင်ကိုယ်စေ

တနာ စိတ်ကို ငါတို့သည် ထင်ရှားစေ၍ အသင်းတော်များ၏ အလှူ
ကျေးဇူးကို ပြုရသည့် အမှုမှာငါတို့နှင့်အတူသွားစေခြင်းငှါအသင်း
၂၀ တော်များရွေးကောက် ခန့်ထား သော သူဖြစ်သတည်း။ ငါတို့သည်
ထိုများ စွာသော အလှူ ကျေးဇူး ကို ပြုစုရာတွင် အပြစ်တင်စရာအ
၂၁ ကြောင်းအလျှင်းမရှိရအောင်သတိပြုကြ၏။ သခင်ဘုရားရှေ့တော်
၌ မကလူတို့ရှေ့ ၌ တင့်တယ်လျောက်ပတ်သောအကျင့် ကို ကြံစည်ကြ
၂၂ ၏။ ထိုသူနှစ်ယောက်နှင့်အတူအချားသော ညီကိုစေလွှတ်ကြ၏။ထို
ညီမူကား ငါတို့သည်အရာရာ ၌အဖန်ဖန် စုံစမ်း ၍ သိသည့်အတိုင်းလု
လ္လပြုသော သူဖြစ်၏။ယခု၌သင်တို့ကိုအလွန်ရုံသော့ကြောင့်သာ၍လု
၂၃ လ္လပြု၏။ တိတုသည်အဘယ်သူနည်းဟုတစုံတယောက်သောသူမေး
လျှင်ငါ၏အပေါင်းအဖေါ် ဖြစ် ၏။ သင်တို့အမှုကိုငါနှင့် အတူဆောင်
ရွက်သော သူဖြစ် ၏။အချားသော ညီအစ်ကိုတို့သည်အဘယ်သူနည်း
ဟုမေးလျှင်အသင်းတော်များ၏တမန်ဖြစ် ကြ၏။ခရစ်တော်၏ဘုန်း
၂၄ အသရေ ဖြစ်ကြ၏။ ထိုကြောင့် သင်တို့ချစ်ခြင်း မေတ္တာကို ငါတို့
သည်သင်တို့ကြောင့်ကြွားဝါခြင်းအကြောင်းကိုငင်အသင်းတော်များ
မျက်မှောက်၌ထိုသူတို့အားထင်ရှားစွာပြကြလော့။

✻✻

၁ သန့်ရှင်းသူတို့ကိုလုပ်ကျွေးခြင်းအမှု၏အကြောင်းများကိုသင်တို့အား
၂ ငါရေး၍ကြွား လိုက် သော်အကျိုး မရှိ။ အဘယ် ကြောင့်နည်းဟူမူ
ကား။သင်တို့၏စေတနာစိတ်ကိုငါသိ၏။သင်တို့၌ရှိသောထိုစေတနာ
စိတ်ကိုငါကြွား ဝါ၍အခါယပြည်သူပြည်သား တို့သည် မနှစ်မှစ၍အ
သင့်ရှိပြီးဟုမာကေဒေါနိလူ တို့အား ငါဆိုတတ် ၏။ ထိုသို့သင် တို့စေ
တနာစိတ်အားကြီးခြင်းအကြောင်းအရာသည့်များ သောသူတို့ကိုနှိုး
၃ ဆော်တိုက်တွန်းလေပြီ။ သို့သော်လည်းငါတို့သည်သင်တို့ကိုကြွား
ဝါသောစကား သည် ဤအမှု၌ အချည်း နှီးမဖြစ် စေဘဲထိုစကားနှင့်
အညီသင် တို့သည် အသင့် ရှိစေခြင်း ငှါ ညီအစ် ကို အချို့တို့ကိုငါစေ
၄ လွှတ်၏။ သို့မဟုတ်။မာကေဒေါနိလူတို့သည် ငါနှင့် အတူလာ၍သင်
တို့သည် အသင့် မရှိသည် ကိုတွေ့လျှင် သင် တို့ရှက် မည် မဆို ဘဲငါတို့
၅ သည်ရဲရင့်စွာကြွားဝါခဲ့ပြီးသည်ကိုအရှက်ခံတော့မည်။ ထိုကြောင့်
အထက်ကကြွားပြောသောသင်တို့၏အလှူကျေးဇူးသည်အနိုင်အထက်
ယူရ သောဥစ္စာကဲ့သို့မဟုတ်။အလှူကျေးဇူး ကဲ့သို့အသင့်ရှိစေခြင်းငှါ

ညီအစ်ကိုတို့သည်သင်တို့ဆီသို့အရင်သွားစေ၍ထိုအလှူကျေးဇူးကို
အရင်ပြည့်စုံစေရအောင်ငါမတိုက်တွန်းဘဲမနေကောင်းဟုငါသ
၆ ဘောရှိ၏။ ။မျိုးစေ့နည်းနည်းကြဲသောသူသည်စပါးနည်း
နည်းရိတ်ရမည်။များများကြဲသောသူသည်များများရိတ်ရမည်ဟု
၇ မှတ်ကြလော့။ လူတိုင်းကိုယ်အလိုလိုလှူရ၏။နှစ်မြောသောစိတ်နှင့်
မလှူရ။မလှူဘဲမနေရဟုစိတ်ထင်နှင့်မလှူရ။အကြောင်းမူကား။စေတ
၈။၉ နာစိတ်နှင့်လှူသောသူကိုသာဘုရားသခင်နှစ်သက်တော်မူ၏။ ကျမ်
စာလာသည်ကား။သူသည်စွန့်ကြဲလေပြီ။ဆင်းရဲသောသူတို့အားလှူ
လေပြီ။သူ၏ကောင်းကျိုးအစည်အမြဲတည်၏ဟုလာသည်နှင့်အညီ
သင်တို့သည်အရာရာ၌သုံးလောက်သောဥစ္စာအမျိုးမျိုးအစည်ရှိ၍
ကောင်းသောအကျင့်အမျိုးမျိုးနှင့်အထူးသဖြင့်ပြည့်စုံမည်အကြောင်း။
အမျိုးရုံသောမင်္ဂလာကျေးဇူးနှင့်အထူးသဖြင့်ပြည့်စုံစေခြင်းငှါဘု
၁၀ ရားသခင်တတ်နိုင်တော်မူ၏။ မျိုးစေ့ကြဲသောသူအားမျိုးစေ့ကိုငှင်အ
စာအာဟာရကိုငှင်ပေးတော်မူသောသူသည်သင်တို့အားမျိုးစေ့ကိုပေး
၍ပွားများစေတော်မူမည်။သင်တို့ကောင်းကျိုးကိုလည်းကြွယ်ဝစေ
၁၁ တော်မူမည်။ ထိုသို့သင်တို့သည်စေတနာစိတ်နှင့်အမျိုးမျိုးသောစွန့်
ကြဲပေးကမ်းခြင်းအလိုငှါအရာရာ၌ကြွယ်ဝခြင်းရှိသည်ဖြစ်၍ငါတို့
အားဖြင့်ဘုရားသခင်၏ကျေးဇူးတော်ကိုချီးမွမ်းစရာအကြောင်း
၁၂ ဖြစ်လိမ့်မည်။ အဘယ်သို့နည်းဟူမူကား။ဤလုပ်ကျွေးခြင်းအမှု
သည်သန့်ရှင်းသူတို့၏ဆင်းရဲကိုမစသည်သာမကဘုရားသခင်၏
ကျေးဇူးတော်ကိုချီးမွမ်းစရာအကြောင်းအများနှင့်ပြည့်စုံသတည်း။
၁၃ အဘယ်သို့နည်းဟူမူကား။သင်တို့သည်ခရစ်တော်၏ဧဝံဂေလိတ
ရားအလိုသို့ထင်ရှားစွာလိုက်ခြင်းအရာကိုငှင်ထိုသန့်ရှင်းသူတို့မှစ
သောလူအပေါင်းတို့အားကြည်ညိုသောစေတနာစိတ်နှင့်စွန့်ကြဲပေး
ကမ်းခြင်းအရာကိုငှင်သူတို့သည်အောင်းမေ့သောအခါဤလုပ်ကျွေး
ခြင်းအမှု၏လက္ခဏာသက်သေကိုထောက်၍ဘုရားသခင်၏ကျေးဇူး
၁၄ တော်ကိုချီးမွမ်းကြ၏။ သင်တို့၌ထူးမြတ်သောဘုရားသခင်၏
၁၅ ကျေးဇူးတော်ကိုလည်းသူတို့သည်ထောက်လျှင်သင်တို့အဖို့အလို့
ငှါဆုတောင်း၍အလွန်ချစ်ခင်မြတ်နိုးခြင်းစိတ်ရှိကြ၏။ ပြော၍မကုန်
နိုင်သောဘုရားသခင်၏ဆုကျေးဇူးတော်ကိုအောင်းမေ့၍ချီးမွမ်း
ခြင်းဖြစ်စေသတည်း။

❋❋

၁ သင်တို့မျက်မှောက်၌နှိမ့်ချခြင်း။မျက်ကွယ်၌သင်တို့အမှုကိုစီရင်၍ရဲ
ရင့်ခြင်း ရှိသော ငါပေါလုသည် ခရစ်တော်၏နူး ညံ့သိမ်မွေ့ဖြည်း
၂ ညင်းတော်မူခြင်းကိုအကြောင်းပြု၍သင်တို့ကိုတောင်းပန်ပါ၏။ ငါ
တို့သည်ဇာတိပကတိအလိုသို့ လိုက်၍ ကျင့်သောသူဖြစ်ကြသည် ဟု
ထင်မှတ်သောသူတို့အားငါကြံစည်သောရဲရင့်ခြင်းအတိုင်းသင်တို့ဆီ
သို့ငါရောက်လာသော အခါထို ဗျလောက်မရဲရင့်ရမည် အကြောင်း ငါ
၃ တောင်းပန်ပါ၏။ အဘယ်ကြောင့်နည်းဟူမူကား။ငါတို့သည်လူဇာ
တိ၌ကျင်လည်သော်လည်းဇာတိပကတိအလိုသို့လိုက် ၍ စစ်တိုက်ကြ
သည်မဟုတ်။ငါတို့စစ် တိုက်၍သုံးစွဲသောလက်နက်သည်ဇာတိပကတိ
၄ လက်နက်မဟုတ်။ ဘုရားသခင်တန်ခိုးတော်အားဖြင့်မြို့ရိုးမြို့ပြတို့ကို
၅ ဖြိုဖျက်နိုင်သောလက်နက်ဖြစ်၏။ ထိုလက်နက်အား ဖြင့်လူအကြံအ
စည် တို့ကိုဧင်ဘု ရားသခင်ကိုသိသောပညာကိုဆီးတား သောမာန်
မာနရှိသမျှကို ဧင်နှိမ့် ချမှောက် လှန်၍ စိတ်ရှိသမျှတို့ကိုဖမ်းသွား ချုပ်
၆ ထား ၍ခရစ် တော်၏ စကားကိုနား ထောင်စေကြ၏။ သင် တို့၏နား
ထောင်ခြင်း အရာသည် ပြည့်စုံပြီး မှနားမထောင် ဘဲနေသောသူအား
၇ လုံးကိုဒါဏ်ပေးခြင်းငှါငါတို့သည်အသင့်ရှိကြ၏။ ။မျက်
နှာကိုသာကြည့် မှတ်ကြသလော။အကြင် သူကငါသည် ခရစ်တော်လူ
ဖြစ်၏ဟုမိမိကိုကိုးစား၍ထင်၏။ထိုသူသည်ခရစ်တော်လူဖြစ်သကဲ့
သို့ငါတို့လည်း ခရစ်တော် လူဖြစ် ကြောင်း ကို တဖန် အလိုလို ဆင်ချင်
၈ သိမှတ် ပါ လေစေ။ သခင်ဘုရားသည် သင်တို့ကို ပယ် ရှင်း ဖျက်ဆီး
ခြင်းအလို့ငှါမဟုတ်ဘဲတည်ဆောက်ခြင်းအလို့ငှါသာငါတို့အားအပ်ပေး
တော်မူသောတန်ခိုးကိုငါသာ၍ကြွား ဝါသော်လည်း ငါရှက်ကြောက်စ
၉ ရာအကြောင်းမရှိ။ ရေး၍ ပေးလိုက် သောစာအားဖြင့်သာသင်တို့
၁၀ ကိုချိန်းချောက်သကဲ့သို့ငါမပြုလို။ အဘယ် ကြောင့်နည်းဟူမူကား။
သူ့စာသည်လေးလံသောစာ။တန်ခိုးနှင့်ပြည့်စုံသောစာဖြစ်၏။ ကိုယ်
တိုင်ရှိလျှင်မူကားသတိမရှိသောသူ။အချည်းနှီးစကားကိုပြောသော
၁၁ သူဖြစ်၏ဟုဆိုတတ်သောသူရှိ၏။ ငါတို့သည်ကိုယ်တိုင်မရှိ၍စာ၌
ပါသောစကားအားဖြင့် ဖြစ်သကဲ့သို့ကိုယ်တိုင် မျက်မှောက်ရှိသော
အခါအမှုအားဖြင့်ဖြစ်လိမ့်မည်ဟုထိုသူသည်ဆင်ချင်သိမှတ်ပါလေ
၁၂ စေ။ ။ကိုယ်ကိုကိုယ်ချီးမွမ်းသောသူတို့နှင့်ရေတွက်ဝင်

ခြင်းကိုဝင်ပြိုင်နှိုင်းခြင်းကိုငါတို့မပြုဝံ့။ ထိုသူတို့သည်အချင်းချင်း
တယောက်နှင့်တယောက် နှိုင်းနှိုင်းခြင်း။ ပြိုင်နှိုင်းခြင်းကိုပြု၍ပညာ
၁၃ မဲ့ဖြစ်ကြ၏။ ထိုမှတပါး။ ကိုယ်ဌာနကိုယ်တာကိုလွန်ကျူး၍ပြုသော
အမှုအရာကိုငါတို့ကြွားဝါခြင်းမရှိဝံ့။ ဘုရားသခင်ဝေဌတော်မူသော
အဌာနအတာ၏အကိုင်းအရှည်အတွင်းတွင်ပြုသောအရာကိုသာကြွား
ဝါခြင်း ရှိဝံ့၏။ ထို အတိုင်း အရှည်သည် သင်တို့ထိုင် အောင်ပင်မှီသ
၁၄ တည်း။ သင်တို့ထိုင် အောင်မမှီဘဲငါတို့သည် လွန်ကျူး၍ပြုသည်မ
ဟုတ်။ အဘယ်ကြောင့်နည်း ဟူမူကား။ ခရစ်တော်၏ဧဝံဂေလိတရား
၁၅ ကိုဟော၍သင်တို့ဆီသို့တိုင် အောင်ရောက်ကြပြီ။ ငါတို့သည်ကိုယ်
၁၆ ဌာနကိုယ်တာကိုလွန်ကျူး သဖြင့်သူတပါး အလုပ်ထဲသို့ဝင်၍ ကြွား
ဝါလေ့မရှိ။ ထိုသို့သူဌာန သူတာအတွင်းတွင်ပြင်ဆင်ပြီးသောအမှုအ
ရာကို ကြွားဝါခြင်းမရှိဘဲသင် တို့ပြည် တဖက်သို့ကူး၍ဧဝံဂေလိတ
ရားကိုဟောသောအ ခွင့်ရှိရ အောင်သင်တို့ယုံကြည် ခြင်းပါရမီရင့်ပြီး
၁၇ မှငါတို့အဌာနအတာအလွန်ကျယ်ဝန်းမည်ဟုမျှော်လင့်ခြင်းရှိ၏။ သို့
ဖြစ်၍ကြွားဝါသောသူမည် သည်ကား သခင်ဘုရားကိုအမှီပြု၍သာ
၁၈ ကြွားဝါပါလေစေ။ အကြောင်း မူကား။ ကိုယ်ကိုကိုယ်ချီးမွမ်းသော
သူသည်ဝန်ခံတော်မူသော သူဖြစ်သည်မဟုတ်။ သခင်ဘုရား ချီးမွမ်
သောသူသာလျှင်ဝန်ခံတော်မူသော သူဖြစ်သတည်း။

✻✻

၁ ငါမိုက်မဲသောအဖြစ်ကိုသင်တို့သည်ခဏသည်းခံခြင်းငှါငါအလိုရှိ၏။
၂ ခဏသည်းခံကြပါလော့။ အကြောင်းမူကား။ သင်တို့ကိုသီလနှင့်ပြည့်စုံ
သောသတို့သမီးကညာကဲ့သို့ခရစ်တော်၌အားငါဆက်မည်အကြံရှိ၍သင်
တို့ကိုလင်တဦးနှင့်ထိမ်းမြားဆောင်နှင်းပြီးသောကြောင့်ဘုရားသခင်
အလိုတော်အတိုင်းစိုးရိမ်သောစိတ်နှင့် သင် တို့ကိုစောင့်ရှောက်လျက်
၃ နေ၏။ မြွေသည်မိမိပရိယာယ်အားဖြင့်ဧဝကိုလှည့်စားသကဲ့သို့သင်
တို့သည်စိတ်ဆွေးမြေ့ဖောက်ပြန်၍ခရစ် တော်ကို အကြွင်းမဲ့ချစ်သောစိတ်
၄ ပျောက်မည်ဟုစိုးရိမ်ခြင်း ရှိ၏။ သင် တို့ဆီသို့ရောက်လာသောသူ
သည်ငါတို့မဟောပြောသေးသောယေရှုတပါးကိုဟောပြောလျှင်၎င်
သင်တို့သည်မခံရသေးသောဝိညာဉ်တော်တပါးကိုခံရလျှင်၎င်နားမ
ထောင်သေးသောဧဝံဂေလိတရားစကားကိုနားထောင်လျှင်၎င်ထိုသူ
၅ ကိုသည်းခံကောင်း၏။ ။ငါသည်အကြီးဆုံးသောတမန်တော်အောက်

၆ အလျှင်းမဟုတ်သည်ကိုငါသဘောရှိ၏။ စကားအားဖြင့်လူရိုင်းဖြစ်
သော်လည်းပညာအားဖြင့် လူရိုင်းမဟုတ်။ သင်တို့တွင် အရာရာ၌ငါ
၇ တို့သည်ကိုယ်ကိုကိုယ်အစဉ်ထင်ရှားပြကြပြီ။ သင်တို့ကိုချီးမြှောက်
ခြင်းငှါကိုယ်ကိုကိုယ်နှိမ့်ချလျက်ကျေးဇူးဆပ်ခြင်းကိုမခံဘဲဘုရား
သခင်၏ဧဝံဂေလိတရားကိုသင်တို့အားဟောသည်အရာမှာငါအပြစ်
၈ ရှိသလော။ သင်တို့အမှုကိုဆောင်ရွက်မည်အကြောင်း။အခြားသော
အသင်းတော်များပေးသောစရိတ်ကိုငါခံ၍သူ တို့ကိုလုယူရာရောက်
၉ လေပြီ တကား။ သင်တို့ဆီမှာရှိနေ၍ တစုံတခုလိုသောအခါအဘယ်
သူကိုမျှငါမနှောင့်ရှက်။အဘယ်သို့နည်းဟူမူကား။ မာကေဒေါနိပြည်
ကလာသောညီအစ်ကိုတို့သည် ငါလိုသမျှကိုပေးကြ၏။ သင်တို့ကိုအ
လျှင်း မနှောင့်ရှက်ရအောင်သတိပြုခဲ့ပြီ။ နောက်၌လည်းသတိပြုဦး
၁၀ မည်။ ခရစ်တော်၏သမ္မာတရားသည်ငါ၌ရှိသည်ဖြစ်၍အခါယပြည်
များတို့၌ဤသို့ငါကြွားဝါခြင်းအကြောင်းကိုအဘယ်သူမျှမဆီးတား
၁၁ ရ။ အဘယ်ကြောင့်နည်း။သင်တို့ကိုငါမချစ်သလော။ဘုရားသခင်
၁၂ သိတော်မူ၏။ ။အခွင့်ရလိုသောသူတို့သည်အခွင့်မရ
အောင်ငှင်ကြွား ဝါခြင်းအရာ ၌ သူတို့သည် ငါကဲ့သို့ထင်ရှား ဖြစ်ရ
၁၃ အောင်ငှင်ငါပြုခဲ့ပြီးသည်အတိုင်းအစဉ်ပြုဦးမည်။ အဘယ်ကြောင့်
နည်းဟူမူကား။ထို သူတို့သည် မမှန် သောတမန် တော်ဖြစ်ကြ၏။လှည့်
စားတတ်သောအမှုစောင့်ဖြစ်ကြ၏။ ခရစ်တော်၏ တမန် ဖြစ်ရောင်
၁၄ ဆောင်ကြ၏။ ဤအမှုသည် အံ့သြဖွယ် မဟုတ်။ မာရ်နတ် စာတန်
ပင်လျှင်လင်းသောကောင်းကင်တမန်ဖြစ် ရောင်ဆောင်တတ်၏။
၁၅ သို့ဖြစ်၍သူ့ဆရာတို့သည်လည်းဖြောင့်မတ်ခြင်းတရား ဟောဆရာ
ဖြစ် ရောင် ဆောင် လျှင် အဘယ် သို့ထူး ဆန်း သနည်း။ သူတို့သည်
ကိုယ်ကျင့်သောအကျင့်အတိုင်း နောက် ဆုံး ၌ အကျိုးအပြစ် ကို ခံရကြ
၁၆ လတံ့။ တဖန်ငါဆိုသည်ကား။ငါသည်အရူးဖြစ် သည် ဟုအဘယ် သူ
မျှမထင်စေနှင့်။ သို့ မဟုတ်။ ငါကြွား ဝါစရာအခွင့် အနည်း ငယ် ရှိရ
၁၇ အောင်အရူးကဲ့သို့ငါကိုမှတ်၍သည်းခံကြလော့။ ဤသို့ငါပြောသောစ
ကားမှာသခင်ဘုရားနည်းတူငါပြောသည်မဟုတ်။အရူးဖြစ်သကဲ့သို့
၁၈ ရဲရင့်စွာကြွားဝါလျက်ငါပြော၏။ ။လူအများတို့သည်လော
ကီအခြင်းအရာ၌ကြွား ဝါသောကြောင့်ငါသည် လည်းကြွား ဝါရ၏။
၁၉ သင်တို့သည် လူလိမ္မာဖြစ် သောကြောင့်အရူး တို့ကိုစေတနာစိတ်နှင့်

၂၀ သည်းခံကြ၏။ သူတပါးသည်သင်တို့ကိုကျွန်ခံစေခြင်း။ရောင်းစား
ခြင်း။ ဥစ္စာလုယူခြင်း။ ရန် တွေ့ခြင်း။ပါးပုတ်ခြင်း ကိုပြုလျှင် သင်တို့
၂၁ သည်းခံကြ၏။ ငါတို့သည်အစွမ်းသတ္တိမရှိဟုကဲ့ရဲ့ခြင်းကိုအမှတ်ပြု
၍ငါပြော၏။ အကြင်အရာကိုသူတပါး မှိဝဲ၍ရဲရင့်၏။ထိုအရာကိုငါမှိ
၂၂ ဝဲ၍ရဲရင့်ခြင်းရှိ၏ဟုအရူးဖြစ်သကဲ့သို့ငါဆို၏။ သူတို့သည် ဟေဗြဲ
လူဖြစ်သလော။ငါသည်လည်း ဖြစ်၏။ သူတို့သည် ဣသရေလလူဖြစ်
သလော။ ငါသည် လည်း ဖြစ်၏။ သူတို့ သည် အာဗြဟံအမျိုး ဖြစ် သ
၂၃ လော။ငါသည်လည်းဖြစ်၏။ သူတို့သည်ခရစ်တော်ထံဆရာဖြစ်သ
လော။ငါသည် အထူး သဖြင့်ဖြစ် ၏ဟုအရူး လိုငါဆိုရ၏။ပင်ပန်းစွာ
အမှုကိုအထူးသဖြင့် ရွက် ဆောင် လျက် ရိုက် ပုတ် ခြင်း ထောင်ထဲမှာ
လှောင် ထား ခြင်းကိုအထူး သဖြင့် ခံလျက်သေဘေးနှင့် အကြိမ် ကြိမ်
၂၄ တွေ့ကြုံလျက်ဖြစ်၏။ ငါးကြိမ် မြောက် အောင် ယုဒလူစီရင်၍ ဒါဏ်
ချက် လေးဆယ်တချက်ယုတ် ငါခံပြီး။သုံး ကြိမ်မြောက် အောင် ကြိမ်လုံး
၂၅ နှင့်ရိုက် ခြင်း ကိုရင် တ ကြိမ်ခဲနှင့်ပြစ်ခြင်း ကိုရင်ငါခံပြီး။ သုံးကြိမ်
မြောက် အောင် သင်္ဘောပျက် ခြင်း ကို ခံပြီး။ တနေ့တညည့် ပတ်လုံး
၂၆ ပင် လယ် ထဲမှာနေပြီး။ အကြိမ် ကြိမ်ဒေသစာရီလှည့် လည်ပြီ ။မြစ်
ကို ကူး သောဘေး။ခားမြတိုက်သောဘေး။အမျိုးသားချင်း ပြုသော
ဘေး။ တပါး အမျိုး သား ပြု သောဘေး။ မြို့ ရွာ၌ ရောက် သောဘေး။
တော၌ ရောက်သောဘေး။ ပင်လယ် ဘေး။ ညီအစ်ကို ရောင်ဆောင်
၂၇ သောသူပြု သောဘေး။ ဤ ဘေးများ ကို ငါတွေ့ရပြီး။ ပင် ပန်း စွာ
အမှုကိုဆောင် ရွက် ခြင်း။ အကြိမ် များ စွာမအိပ် ဘဲစောင့် နေခြင်း။
မွတ်သိပ်ခြင်း။ရေငတ်ခြင်း။အကြိမ် ကြိမ်အစာရှောင်ခြင် ။အချမ်းအ
အေးခံခြင်း။အဝတ်အချည်း စည်း ရှိခြင်း။ဤဆင်းရဲများ ကိုငါခံရပြီး။
၂၈ ။ထိုပြင်မှမှတပါး။အသင်းတော်အားလုံးတို့ကိုစိုးရိမ်သော
၂၉ စိတ်နှင့်ကြည့်ရှုပြုစု၍နေ့တိုင်းအစည်နှောင့်ရှက်ခြင်းကိုငါခံရ၏။ သူ
တပါးနွမ်းရိခြင်း ရှိ လျှင် ငါမနွမ်း ရိဘဲနေသလော။ သူတပါး စိတ်ပျက်
၃၀ လျှင်ငါပူပန် သောစိတ်မရှိလော။ ငါသည်မကြွားဝါဘဲမနေရသည်
မှန်လျှင်ကိုယ်နွမ်းရိသောအဖြစ်ကိုသာအကြောင်း ပြု၍ကြွားဝါမည်။
၃၁ မုသာ စကား ငါမပြော သည် ကို ထာဝရမင်္ဂလာ ရှိ သောငါတို့သခင်
ယေရှုခရစ်၏ခမည်းတော်ဘုရားသခင်သိတော်မူ၏။ ။
၃၂ ဒမာသက်မြို့၌အရေတမင်းကြီး ခန့်ထားသောမြို့ဝန်သည် ငါကိုဖမ်

၃၃ ဆီးခြင်း၌ငါအလို ရှိ၍ဒမာသကုမြို့ကိုစောင့်ရှောက်စည့် တွင် ငါကို
တောင်း၌ထည့်လျက်ပြတင်းပေါက်မှထုတ်၍မြို့ရိုး ပေါ်ကချွေချသ
ဖြင့်ထိုမြို့ ဝန်လက်မှငါပြေးလွတ်လေ၏။

**

၁ ငါသည် ကြွားဝါခြင်းကိုမပြုသင့် လျှင်သခင်ဘုရားပြတော်မူသော။
ထူးဆန်း သောရူပါရုံနှင့်ဗျာဒိတ်တော်များကိုတဖန် ပြောဦးမည်။
၂ ခရစ်တော်တပည့်ဖြစ် သောလူတယောက် ကို တတိယကောင်းကင်
တိုင်အောင်ချီဆောင်သည်အကြောင်းကိုငါသိ၏။ယခုဆယ်လေး နှစ်ရှိ
ပြီး။ထိုအခါကိုယ် ခန္ဓာပါသည် မပါသည်ကိုငါမသိ။ဘုရား သခင်သိ
၃။၄ တော်မူ၏။ ထိုသူကိုပရဒိသုဘုံသို့ချီဆောင်၍ လူမပြောအပ်မပြော
နိုင်သောစကား ကို သူကြား သည် အကြောင်း ကိုငါသိ၏။ ထိုအခါ
ကိုယ်ခန္ဓာပါသည်မပါသည်ကိုငါမသိ။ဘုရားသခင်သိတော်မူ၏။
၅ ထိုသို့သောသူကိုငါကြွားဝါမည်။ နွမ်းရိအားနည်းခြင်း မှတပါးကိုယ်
၆ ဂုဏ်ကို မကြွားဝါ။ ကြွားဝါခြင်း ၌ငါအလို ရှိလျှင်လည်း အရူး ဖြစ်
သည်မဟုတ်။အဘယ်ကြောင့်နည်းဟူမူကား။ငါမှန်မှန်ပြောတတ်၏။
တစုံတယောက်သောသူသည်ငါ့ကိုမြင်သည်ထက်ငါ့သိတင်းကိုကြား
၇ သည်ထက်ငါ့ကိုသာ၍မထင်ရအောင်ငါမပြောဘဲနေ၏။ ငါခံသော
ဗျာဒိတ်တော်အလွန် ထူး မြတ်၍ငါသည် ထောင်လွှား သောစိတ်မရှိရ
အောင်ငါ့ကိုဒါဏ်ခတ်သောစာတန် ၏ တမန်တည်း ဟူသောဒငါကိုယ်
၈ ၌ စူး သောဆူးကို ဗိရင်ပေး သနားတော်မူပြီး။ ထိုဆင်း ရဲနှင့် လွှတ်
ကင်းမည် အကြောင်း။ သုံး ကြိမ်မြောက် အောင်သခင်ဘုရား ကိုငါဆု
၉ တောင်း၍အသနားတော်ခံပြီးလျှင် ငါကျေးဇူးသည်သင်အဖို့လောက်
ပေ၏။ ငါတန်ခိုးသည် အားနည်း ခြင်း အဖြစ် ၌ စုံလင် တတ် ၏ ဟုမိန့်
၁၀ တော်မူ၏။ ။ထိုကြောင့်ခရစ်တော်၏တန်ခိုးသည်ငါအ
ပေါ် ၌ ကျိန်း ဝပ်မည် အကြောင်း။ ငါအား နည်း ခြင်း အဖြစ် ကို ဝမ်း
မြောက်သောစိတ်နှင့်ငါကြွားဝါခြင်း ၌သာ၍အလို ရှိ၏။သို့ဖြစ်၍ခ
ရစ် တော်ကြောင့် ခံရသောအားနည်း ခြင်း။ ကဲ့ရဲ့ခြင်း။ ဆင်း ရဲခြင်း။
ညှဉ်းဆဲနှိပ်စက် ခြင်း။ကြပ်တည်း စွာ သောဒုက္ခဝေဒနာခံခြင်း တို့
ကိုငါနှစ်သက်၏။ အဘယ်ကြောင့်နည်းဟူမူကား။ငါသည် အားနည်း
၁၁ သောအခါတန်ခိုးနှင့်ပြည့်စုံလျက်ရှိ၏။ ငါသည်အရူး ဖြစ်သလော။
ဖြစ်လျှင်သင်တို့သည်အနိုင်အထက်ဖြစ်စေပြီး။အဘယ်သို့နည်းဟူမူ

ကား။သင်တို့ချီးမွမ်းခြင်းကိုငါခံသင့်၏။ငါသည်ဘာမျှမဟုတ် သော်
၁၂ လည်းအကြီးဆုံး သောတမန် တော်အောက်အလျှင်း မယုတ်မညံ့။ အ
ကယ် ၍ နိမိတ်လက္ခဏာ အံ့ဖွယ် သောအမှု၊ ထူး ဆန်း သောတန် ခိုး
များအားဖြင့် သင် တို့ဆီမှာသည်း ခံခြင်း နှင့် တကွတမန် တော်လက္ခ
၁၃ ဏာကိုငါထင်ရှား စွာပြပြီး။ ငါသည် သင် တို့ကိုမနှောင့်ယှက်သောအ
ရာတခု ကို ထား လျှင်သင် တို့သည် အချား သောအသင်း တော်ထက်
အဘယ်သို့ယုတ် ညံ့သနည်း။ ထိုသို့ငါပြစ်မှား သောအပြစ်ကို သည်း
၁၄ ခံကြပါ။ ဤတတိယအကြိမ်သင်တို့ဆီသို့သွားခြင်းငှါငါအသင့်ရှိ၏။
သင်တို့ကိုနှောင့်ယှက်မည်အကြံမရှိ။သင်တို့ဥစ္စာကိုငါရှာသည်မဟုတ်။
သင်တို့ကိုသာငါရှာ၏။ သားသမီးတို့သည် မိဘအတွက် ဥစ္စာကိုဆည်း
ဘူးရသည်မဟုတ်။မိဘတို့သည်သားသမီးအတွက်ဆည်းဘူးရ၏။
၁၅ ငါသည် သင် တို့ကို ချစ် ခြင်း မေတ္တာစိတ်တိုး ပွားသည် အတိုင်း သင်
တို့သည်ငါကိုချစ်ခြင်းမေတ္တာစိတ်ဆုတ်ယုတ် သော်လည်းသင်တို့စိတ်
ဝိညာဉ်အကျိုး အလို့ငှါငါသည်ကိုယ် ဥစ္စာကို ၎င်ကိုယ်ကို၎င်ကုန်စေ
၁၆ ခြင်းငှါအလွန်စေတနာရှိ၏။ ။သင်တို့ကိုငါမနှောင့်ယှက်
သည် မှန် စေတော့။လိမ္မာသော သူဖြစ် လျှင်ပရိယာယ်အား ဖြင့်သင်
၁၇ တို့ကိုဖမ်းဆီးသည် မဟုတ် လောဟုမေး သော် တစုံတ ယောက် သော
သူကိုသင်တို့ဆီသို့ စေလိုက် ၍ သင်တို့ ဥစ္စာကိုမတရား သော ပရိယာ
၁၈ ယ်အား ဖြင့် ငါယူသလော။ တိတုသည် သင် တို့ဆီသို့ သွား မည် အ
ကြောင်း ငါတောင်း၍သူနှင့်တကွအချားသော ညီတယောက်ကိုငါစေ
လိုက်၏။တိတုသည်မတရားသောပရိယာယ်အားဖြင့်သင် တို့ဥစ္စာကို
ယူသလော။ငါတို့သည်စိတ်သဘောချင်းတူ၍ကျင့်သည်မဟုတ်လော။
ထိုးစံ ခြေလှမ်းချင်းတူသည်မဟုတ်လော။

❋❋

၁၉ တဖန် တုံ။ ငါတို့သည် သင် တို့ရှေ့၌ ကိုယ်အပြစ်ကို ဖွက် ထားသည်ဟု
ထင်ကြသလော။ခရစ်တော်ကိုထောက် ၍ ဘုရားသခင် ရှေ့ငါတို့ပြော
ကြ၏။ချစ်သူတို့။ငါတို့ပြုသမျှမှာသင်တို့တည်ဆောက်ခြင်း အလို့ငှါပြု
၂၀ ကြ၏။ ငါရောက်လာသောအခါသင်တို့သည်ငါနှစ်သက်သောသူမဖြစ်။
ငါသည်လည်းသင်တို့မနှစ် သက်သော သူဖြစ် မည် ဟူ ၍ ၎င်သင် တို့၌
ရန် တွေ့ခြင်း။ ဂုဏ်ပြိုင်ခြင်း။ အမျက်ထွက်ခြင်း။ ညှင်းချုံခြင်း။ သူအသ
ရေကို ဖျက်ချခြင်း။ ကုံးတိုက်ခြင်း။ မာနထောင်လွှားခြင်း။ အချင်းချင်း

၂၁ အမှုလုပ်ခြင်းဖြစ်မည်ဟူ၍ဇင် အထက်ကပြစ်မှား၍ညစ်ညူးစွာ
ကျင့်ခြင်း။မတရားသောမေထုန်၌မှိဲခြင်း။ကိလေသာလွန်ကျူးခြင်း
အမှုတို့ကိုပြုမိ၍ယခုတိုင်အောင်နောင်တမရသောသူအများကြောင့်
ငါစိတ်မသာညည်းတွားရသဖြင့်သင်တို့ရှေ့၌ဘုရားသခင်သည်ငါ
၁ ကိုနှိမ့်ချတော်မူမည်ဟူ၍ဇင်စိုးရိမ်ခြင်းရှိ၏။ ။ဤတတိယ
အကြိမ်သင်တို့ဆီသို့ငါလာမည် ဖြစ်၍သက်သေခံနှစ်ဦးသုံးဦးအား
၂ ဖြင့်စကားရှိသမျှတို့သည်တည်ရလိမ့်မည်။ တဖန်ငါရောက်လာ
လျှင်သင်တို့ကိုမသနားရဟုပြစ်မှားသောသူမှစ၍ကြွင်းသောသူ
အားလုံးတို့အား အထက်ကငါပြောသည် သာမကယခုပင်သင်တို့
၃ ဆီမှာမရှိသော်လည်းတဖန်ရှိဘိသကဲ့သို့ငါပြောနှင့်၏။ သင်တို့တွင်
အားနည်းတော်မမူ။အားကြီးတော်မူသောခရစ်တော်သည်ငါ၌ဗျာ
ဒိတ်ပြုတော်မူခြင်းသက်သေကိုသင်တို့သည်ရှာသောကြောင့်ငါ
၄ ရောက်လာသောအခါမသနားရ။ အဘယ်ကြောင့်နည်းဟူမူကား။
ထိုခရစ်တော်သည်အားနည်းခြင်းနှင့်လက်ဝါးကပ်တိုင်မှာအသေခံ
သော်လည်းဘုရားသခင်၏တန်ခိုးတော်နှင့်အသက်ရှင်တော်မူ၏။ငါ
တို့သည်လည်းခရစ်တော်နည်းတူအားနည်းသော်လည်းသင်တို့တွင်
ပြသောဘုရားသခင်၏တန်ခိုးတော်အားဖြင့်ခရစ်တော်နှင့်အတူအ
၅ သက်ရှင်ခြင်းရှိကြလိမ့်မည်။ သင်တို့သည်ယုံကြည်ခြင်း၌တည်သလော။
မတည်လောဟုကိုယ်ကိုကိုယ်စစ်ကြောကြလော့။ကိုယ်ကိုကိုယ်စုံစမ်
ကြလော့။အစစ်မခံနိုင်သောသူမဟုတ်လျှင်ယေရှုခရစ်သည်သင်တို့
၆ ၌တည်တော်မူသည်ဟုကိုယ်အကြောင်းကိုကိုယ်မသိသလော။ ငါတို့
သည်အစစ်ခံနိုင်သောသူဖြစ်သည်ကိုသင်တို့သိကြလိမ့်မည်ဟုငါ
၇ ထင်မှတ်မျှော်လင့်ခြင်းရှိ၏။ ငါတို့သည်အစစ်ခံနိုင်ကြောင်းထင်ရှား
စေခြင်းငှါငါအလိုရှိသည်မဟုတ်ဘဲအစစ်မခံနိုင်သောသူကဲ့သို့ထင်
သော်လည်းသင်တို့သည်ကောင်းမွန်စွာကျင့်စေခြင်းငှါမကောင်း
သောအကျင့်တခုကိုမျှမကျင့်မည်အကြောင်း။ဘုရားသခင်ကိုငါဆု
၈ တောင်းပဌနာပြု၏။ ငါတို့သည်သမ္မာတရားကိုဆီးတား၍အ
၉ လျှင်းမတတ်နိုင်။ သမ္မာတရားဘက်၌နေ၍သာတတ်နိုင်ကြ၏။ငါ
တို့သည်အားနည်းလျက်သင်တို့သည်အားကြီးလျက်ရှိသည်ကိုငါတို့ဝမ်
မြောက်ခြင်းရှိကြ၏။သင်တို့သည်ရုံလင်ခြင်းသို့ရောက်စေခြင်းငှါသာ
၁၀ ငါတို့အလိုရှိကြ၏။ ထိုကြောင့်သခင်ဘုရားသည်ပယ်ရှင်းဖျက်ဆီး

ခြင်းအလိုငှါမဟုတ်။တည်ဆောက်ခြင်းအလိုငှါသာငါ၌အပ်ပေးတော်
မူသောတန်ခိုးရှိသည်အတိုင်းငါရောက်လာသောအခါပြင်းစွာဒါဏ်ခ
ပေးရအောင် ယခုပင်သင်တို့နှင့်ကွာ ၍ ဝေးသေးသောအခါ ဤသို့ငါ
၁၁ ရေးထား၏ ။ကြွင်းသေးသောစကားဟူမူကား။ညီအစ်ကို
တို့။ သင် တို့အား မင်္ဂ လာဖြစ် စေ သော။ စုံလင် ခြင်း။ သက် သာဝမ်
မြောက်ခြင်းရှိကြလော့။စိတ်တညီတ ညွတ် တည်း ဖြစ်၍အချင်း ချင်း
အသင့်အတင့်နေကြလော့။သို့ဖြစ်၍မေတ္တာကိုဒ်အသင့်အတင့်နေခြင်း
ချမ်းသာကိုဒ်ပေးတော်မူသောဘုရားသခင်သည်သင်တို့ဆီမှာရှိနေ
၁၂ တော်မူလတ္တံ့။ သန့်ရှင်းသောနမ်ခြင်းဖြင့်အချင်းချင်းတယောက်ကို
၁၃ တယောက်နှုတ်ဆက်ကြပါ။ သန့်ရှင်းသူအားလုံးတို့သည်သင်တို့ကို
၁၄ နှုတ်ဆက်ကြ၏။ ငါတို့သခင်ယေရှုခရစ်၏ကျေးဇူးတော်ဒ်ဘုရား
သခင်၏မေတ္တာတော်ဒ် သန့်ရှင်းသောဝိညာဉ်၏ မိဿဟာယဒ်
သင်တို့အားလုံး၌ဖြစ်စေသတည်း။အာမင်။

။ကောရိန္သုဩဝါဒစာ ဒုတိယ စောင်ပြီး၏။

---

။ဂလာတိဩဝါဒစာ။

---

၁ လူ နှင့် မစပ် ဆိုင် ဘဲလူ၏အ ခွင့်မရှိဘဲလျက်ယေရှုခရစ်၏အ ခွင့်နှင့်
ဒ်ထို သခင်ကို သေခြင်းမှထမြောက် စေတော်မူသောခမည်းတော်
၂ ဘုရားသခင်၏အ ခွင့်နှင့်ဒ်တမန်တော်ဖြစ်သောငါပေါလုမှစ၍ ငါ
ဆီမှာ ရှိသော ညီအစ်ကိုအားလုံးတို့ကဂလာတိပြည်၌ရှိသောအသင်း
၃ တော်များကို ကြားလိုက်ပါ၏။ သခင်ယေရှုခရစ်နှင့်ခမည်းတော်ဘု
ရားထံတော်ကကျေးဇူးတော်နှင့် ညိမ်သက်ခြင်း သင် တို့အား ဖြစ်ပါ
၄ စေသော။ ထိုသခင်သည် ငါတို့အဖတည်း ဟူ သောဘုရားသခင်၏
အလိုတော်နှင့်အညီဆိုး ညစ် သော ဤ ပစ္စုပ္ပာန် ဘဝမှငါတို့ကိုကယ်
နှုတ်ခြင်းငှါငါတို့အပြစ်ကြောင့်ကိုယ်ကိုကိုယ်အပ်ပေး တော်မူ၏။
၅ ထိုဘုရား သခင် သည် ကမ္ဘာအဆက် ဆက် ဘုန်း ကြီးတော်မူစေသ
၆ တည်း။အာမင်။ ။ခရစ်တော်၏ကျေးဇူး၌သင်တို့ကိုခေါ်သွင်း
သောသူ နှင့်သင်တို့သည်ဤမျှလောက် မြန် မြန် ခွာ၍ အခြားသော
ဧဝံဂေလိတရား ကို ခံယူကြသော ကြောင့် ငါသည် အံ့ဩခြင်း ရှိ၏၊

၇ ထိုဧဝံဂေလိတရားသည်ဧဝံဂေလိတရားမဟုတ်။ သို့သော်လည်းသင်
တို့ကိုနှောင့်ရှက်၍ခရစ်တော်၏ ဧဝံဂေလိတရားကိုဖောက်လွှဲချင်
၈ သောသူအချို့ရှိကြ၏။ သို့သော်လည်းငါတို့သည်သင်တို့အားဟော
ပြောသောဧဝံဂေလိတရားမှတပါးအခြားသောဧဝံဂေလိတရားကိုငါ
တို့ဖြစ်စေ။ ကောင်းကင်ဘုံမှကောင်းကင်တမန်ဖြစ်စေ။ ဟောပြော
၉ ချင်ဟောပြောသောသူသည် ကျိန်ဆိုတော်မူခြင်းကိုခံစေ။ တဖန်
တုံ။ ငါတို့သည် သင်တို့အားဟောပြောသောဧဝံဂေလိတရားမှတပါး
အခြားသောဧဝံဂေလိတရားကိုတစုံကယောက်သောသူဟောပြော
ချင်ဆိုသူသည်ကျိန်ဆိုတော်မူခြင်းကိုခံစေဟုငါတို့ပြောခဲ့ပြီးသည်
၁၀ အတိုင်းယခုငါထပ်၍ဆိုသေး၏။ အဘယ်ကြောင့်နည်းဟူမူကား။ ယခု
တွင်ငါသည်လူ၏အလိုသို့လိုက်သလော။ ဘုရားသခင်၏အလိုတော်သို့
လိုက်သလော။ လူစိတ်တို့ကိုနှုးညွှတ်အောင်ငါရှာကြံသလော။ လူစိတ်ကို
နှုးညွှတ်အောင်ငါရှာကြံသေးလျှင်ခရစ်တော်၏အစေခံကျွန်မဟုတ်
၁၁ ပြီး။ ညီအစ်ကိုတို့ငါဟောပြောသောဧဝံဂေလိတရား
၁၂ သည်လူတို့၏တရားမဟုတ်။ လူထံမှာငါခံရသည်မဟုတ်။ ယေရှု
ခရစ်၏ဗျာဒိတ်တော်မှတပါးအခြားသောဥပဒေသကိုငါမခံသည်အ
၁၃ ကြောင်းကိုသင်တို့အားငါကြားလိုက်၏။ အဘယ်သို့နည်းဟူမူကား။
အထက်ကယုဒဘာသာ၌နေ၍ငါကျင့်သောအကျင့်ဘည်းဟူသောဘု
ရားသခင်၏အသင်းတော်ကိုအတိုင်းထက်လွန်၍ဆဲဖျက်ဆီးကြောင်း
၁၄ ကိုရင် ဘိုးဘေးတို့လက်မှခံသောနည်းဥပဒေသဘက်စိတ်အထူးသ
ဖြင့်အားကြီးလျက်ငါလူမျိုးထဲမှာငါရွယ်တူချင်းအများတို့ထက်ယုဒ
ဘာသာကိုကျင့်လည့်လေ့ကျက်ကြောင်းကိုရင်သင်တို့ကြားသိရကြ
၁၅ ပြီး။ သို့သော်လည်းငါကိုအမိဝမ်းထဲကပင်ရွေးချယ်ခွဲထား၍ကျေး
၁၆ ဇူးတော်အားဖြင့်ခေါ်တော်မူသောဘုရားသခင်သည် သားတော်၏
ဧဝံဂေလိတရားကိုတပါးအမျိုးသားတို့၌ငါဟောပြောစေမည်အ
ကြောင်း။ မိမိအလိုတော်နှင့်အညီသားတော်ကိုငါအားပြတော်မူ
သောအခါအသွေးအသားရှိသောသူတို့နှင့်တိုင်ပင်ခြင်းကိုငါမပြုဘဲ
၁၇ ငါ့အရင်တမန်တော်ဖြစ်နှင့်သောသူတို့ရှိရာယေရုရှလင်မြို့သို့မသွား
ဘဲအာရပ်ပြည်သို့ချက်ချင်းသွား၍တဖန်ဒမာသကုမြို့သို့ပြန်လေ၏။
၁၈ ထိုနောက်သုံးနှစ်လွန်ပြီးမှပေတရုနှင့်အကျွမ်းဝင်ရအောင်ယေရုရှလင်
၁၉ မြို့သို့ငါသွား၍သူနှင့်အတူဆယ်ငါးရက်နေ၏။ သူနှင့်သခင်ဘုရား

၏ညီတော်ယာကုပ်မှတပါးအချားသောတမန်တော်တယောက်ကိုမျှ
၂၀ ငါမတွေ့မမြင်။ ဤသို့သင်တို့အားငါရေးထား၍ကြားလိုက်သည့်တွင်
မုသာစကားကိုငါမပြောမသုံးဟုဘုရားသခင်ရှေ့တော်၌ငါဆို၏။
၂၁ ထိုနောက်ရှုရိပြည်၊ကိလိကိပြည်သို့ငါသွား၍ ယုဒပြည်၌ခရစ်တော်
၂၂ ၏ဘာသာကိုခံယူသောသင်းဝင်သူတို့သည် ငါမျက်နှာကိုမျှမသိ၊
၂၃ မှတ်ဘဲ ငါတို့ကိုညှဉ်းဆဲဘူးသောသူသည်အထက်ကမိမိဖျက်ဆီး
သောယုံကြည်ခြင်းတရားကိုယခုမှာမိမိဟောပြောသည်ဟုသူတို့
၂၄ ကြားရုံရှိကာမျှနှင့် ငါ့အကြောင်းကြောင့်ဘုရားသခင်ကိုချီးမွမ်း
ကြ၏။



၁ ထိုနောက်ဆယ်လေးနှစ်လွန်ပြီးမှတိတုကိုခေါ်၍ဗာနာဗနှင့်အတူယေ
၂ ရုရှလင်မြို့သို့ငါတဖန်သွားလေ၏။ ဗျာဒိတ်တော်အတိုင်းပင်သွား
သည်ဖြစ်၍တပါးအမျိုးသားတို့၌ဟောပြောသောဧဝံဂေလိတရား
ကိုထိုအခါငါပြန်ပြောလေ၏။သို့ဆိုသော်ငါဆောင်ရွက်ခဲ့ပြီးလေသောအ
မှုနှင့်နောက်၌ဆောင်ရွက်လတံ့သောအမှုအချည်းနှီးမဖြစ်ရအောင်
၃ အသရေထင်ရှားသောသူတို့အားသာပြန်ပြော၏။ သို့သော်လည်း
ငါနှင့်အတူပါသောဟေလသမျိုးတိတုကိုအရေဖျားလှီးမင်္ဂလာကိုခံ
၄ စေခြင်းငှါမပြုကြ။ အဘယ်ကြောင့်နည်းဟူမူကား။ယေရှုခရစ်အား
ဖြင့်ငါတို့ခံစားသောလွတ်ခြင်းအခွင့်ကိုချောင်းကြည့်၍ငါတို့ကိုကျွန်
ခံစေမည်အကြံနှင့်ပရိယာယ်အားဖြင့်သွင်းသောညီအစ်ကိုယောင်
၅ ဆောင်သောသူတို့အကြောင်းကြောင့်မပြုဘဲနေသတည်း။ မှန်သော
ဧဝံဂေလိတရားသည်သင်တို့၌တည်နေမည်အကြောင်း။ငါတို့သည်ထို
၆ သူတို့စီရင်ခြင်းကိုခဏမျှဝန်မခံကြ။ အသရေထင်ရှားသောသူတို့
သည်အထက်ကအဘယ်သို့သောသူဖြစ်သော်လည်းငါနှင့်အလျှင်းခ
ထူးချား။ဘုရားသခင်သည်လူမျက်နှာကိုမှတ်တော်မမူ။ထိုသူတို့နှင့်ငါ
၇။၈ ပေါင်းဖော်၍ထူးချားသောအရာကိုမခံ့မရ။ မခံမရသည်မှတပါး။ဓာ
တ်သွင်းမင်္ဂလာခံသောသူတို့တွင်ပေတရုကိုတမန်တော်ဖြစ်စေခြင်းငှါ
ပေတရု၌ပြုပြင်တော်မူသောသူသည်တပါးအမျိုးသားတို့တွင်ငါ့ကိုတ
မန်တော်ဖြစ်စေခြင်းငှါငါ၌လည်းပြုပြင်တော်မူသည်ဖြစ်၍ဓာတ်သွင်း
မင်္ဂလာခံခြင်းနှင့်စပ်ဆိုင်သောဧဝံဂေလိတရားကိုပေတရု၌အပ်သကဲ့
သို့ဓာတ်သွင်းမင်္ဂလာခံခြင်းနှင့်မစပ်ဆိုင်သောဧဝံဂေလိတရားကိုငါ

၉ ၌အပ်ကြောင်း ကိုသူတို့မြင်ကြ၍ ငါ့ရသောကျေးဇူးတော်ကိုသိကြ
သောအခါမိမိတို့သည် ဇာတ်သွင်း မင်္ဂလာခံသောသူ တို့ဆီသို့ သွား
မည်အကြောင်းနှင့် ငါတို့သည် တပါး အမျိုးသားတို့ဆီသို့သွားမည်အ
ကြောင်း။မှန်တိုင် နှင့်တူသောယာကုပ်။ ကေဖ။ ယောဟန် တို့သည်လ
၁၀ ကျာလက်ခံမင်္ဂလာကိုဗာနာဗနှင့်ငါအားပေးကြ၏။ ငါတို့သည်ဆင်း
ရဲသောသူများကိုအောင်း မေ့စေခြင်း၌ါသူ တို့အလို တခုတည်း ရှိ၏။
၁၁ ထိုအမှုကိုငါအလိုလိုကျိုးစားအားထုတ်တတ်၏။ ။ထို
နောက်ပေတရုသည်အန္တိအုတ်မြို့သို့ရောက်လာသောအခါသူ၌ အပြစ်
တင် စရာအ ခွင့်ရှိသော့ကြောင့် သူကိုယ် တိုင်ကိုငါညှင်း ၍ ဆီး တား
၁၂ ၏။ အဘယ်ကြောင့်နည်းဟူမူကား။ လူအချို့တို့သည်ယာကုပ်ဆီက
မရောက်မလာမှီပေတရုသည် တပါး အမျိုး သား တို့နှင့် အတူစား ၏။
သူတို့ရောက် လာသော နောက် ပေတရုသည်ဇာတ်သွင်း မင်္ဂလာကိုခံ
သောသူတို့၏မျက်နှာကိုထောက်၍တပါးအမျိုး သားတို့နှင့်မပေါင်းဘို့
၁၃ ဘဲတယောက်တချားစီနေ၏။ ကြွင်းသောယုဒလူတို့သည်ပေတရုနှင့်
အတူလျှို့ဝှက်၍သူတို့လျှို့ဝှက် ခြင်း အား ဖြင့် ဗာနာဗသည် လည်း သူ
၁၄ တို့ဘက်၌ပါသွား၏။ သူတို့သည်မှန်သောဧဝံဂေလိတရားနှင့်အညီ
ဖြောင့်မတ်စွာမကျင့်ကြောင်းကိုငါမြင်လျှင်သူတို့အားလုံးရှေ့မှာပေ
တရုအားသင်သည်ယုဒလူဖြစ် လျက်ပင် ယုဒထုံး စံအတိုင်းမကျင့်ဘဲ
တပါးအမျိုးထုံးစံအတိုင်းကျင့်လျှင်တပါးအမျိုး သားတို့သည်ယုဒထုံး
စံအတိုင်း ကျင့်ရအောင် အဘယ်ကြောင့် သူတို့ကိုအနိုင် အထက်ပြုသ
၁၅ နည်း။ လူတို့သည်ပညတ်တရားအကျင့်အားဖြင့်ကျေးဇူးရှိရာသို့မ
၁၆ ရောက်။ယေရှုခရစ်ကိုယုံကြည် ခြင်းအားဖြင့်ကျေးဇူးရှိရာသို့ရောက်
သည်ဟုအပြစ်ထင်ရှားသောတပါးအမျိုးသားမဟုတ်ဘဲဇာတိအမျိုး
အားဖြင့်ယုဒလူဖြစ်သောငါတို့သည်အမှန် သိ၍ဘိသည်နှင့်အညီပည
တ်တရားအကျင့်အားဖြင့်ကျေးဇူးရှိရာသို့မရောက်ဘဲခရစ်တော်ကို
ယုံကြည်ခြင်းအားဖြင့်ကျေးဇူးရှိရာသို့ရောက်ခြင်း၌ါငါတို့ပင်ယေရှုခ
ရစ်ကိုယုံကြည်ကြပြီ။ပညတ်တရားအကျင့်အားဖြင့်လူအမျိုးတွင်အဘ
၁၇ ယ်သူမျှကျေးဇူးရှိရာသို့မရောက်ရာ။ ခရစ်တော်အားဖြင့်ကျေးဇူး
ရှိရာသို့ရောက်ခြင်း၌ါငါတို့သည် ကျိုး စားလျက်ပင်အပြစ်ထင် ရှား
သောသူဖြစ်သေးသည် မှန်လျှင်ခရစ်တော်သည်အပြစ်တရားကိုပြုရ
၁၈ သောသူဖြစ်ပါသည်တကား။ထိုသို့မဖြစ်နိုင်ရာ။ အထက်ကငါဖြိုဖျက်

သောအရာကိုနောက်တဖန်ငါတည်ဆောက်ပြန်လျှင်ကိုယ်အပြစ်ရှိ
၁၉ သည်ကိုကိုယ်ထင်ရှားပြု၏။ ထိုမှတပါး၊ ငါသည်ဘုရားသခင်နှင့်
ဆိုင်သောအရာ၌အသက်ရှင်စေခြင်းအကြောင်း၊ ပညတ်တရားနှင့်ဆိုင်
၂၀ သောအရာ၌ပညတ်တရားအားဖြင့်ငါသေလေ၏။ ခရစ်တော်နှင့်အ
တူလက်ဝါးကပ်တိုင်မှာအသေခံပြီ၊ သို့သော်လည်းငါအသက်ရှင်
သေး၏၊ သို့ဆိုသော်ငါကိုယ်တိုင်မရှင်၊ ခရစ်တော်သည်ငါ၌ရှင်တော်
မူ၏၊ ကိုယ်ခန္ဓာ၌ယခုငါရှင်သောအသက်ကိုဘုရားသခင်၏သား
တော်၌ယုံကြည်ခြင်းအားဖြင့်ငါရှင်၏၊ သားတော်သည်ငါကိုချစ်၍ငါ
၂၁ အဖို့ကိုယ်ကိုကိုယ်စွန့်တော်မူ၏။ ဘုရားသခင်၏ကျေးဇူးတော်ကို
ငါမပယ်၊ ပညတ်တရားကိုအမှီပြု၍ ကုသိုလ်ရနိုင်လျှင် ခရစ်တော်
သည်အချည်းနှီးအသေခံတော်မူပြီ။

**

၁ ပညာမဲ့ဂလာတိလူတို့၊ လက်ဝါးကပ်တိုင်မှာအသေခံတော်မူသော
ယေရှုခရစ်ကိုသင်တို့မျက်မှောက်၌ထင်ရှားပြုပြီးသည်ဖြစ်၍သင်တို့
၂ မျက်စိကိုအဘယ်သူလှည့်ဘိသနည်း။ ပညတ်တရားအကျင့်အားဖြင့်
ဝိညာဉ်တော်ကိုခံသလော။ ယုံကြည်ခြင်းတရားကိုနာခြင်းအားဖြင့်ခံ
၃ သလောဟူသောအရာတခုကိုသာသင်တို့၌ငါသိလို၏။ ဤမျှလောက်
ပညာမဲ့သလော။ ဝိညာဉ်တော်ကိုအမှီပြု၍ လုပ်စရှိပြီးမှဇာတိကိုအ
၄ မှီပြု၍ပြီးစေသလော။ ဤမျှလောက်သောဆင်းရဲကိုအချည်းနှီးခံကြ
၅ ပြီးလော။ အချည်းနှီးသက်သက်ဖြစ်ရသလော။ ထိုမှတပါး။ ဝိညာဉ်
တော်ကိုသင်တို့အားပေး၍သင်တို့၌တန်ခိုးများကိုပြသောသူသည်
ပညတ်တရားအကျင့်အားဖြင့်ပြုသလော။ ယုံကြည်ခြင်းတရားကိုနာ
၆ ခြင်းအားဖြင့်ပြုသလော။ ထိုနည်းတူ။ အာဗြဟံသည်ဘုရားသခင်
ကိုယုံကြည်သည်ဖြစ်၍ သူ၏ယုံကြည်ခြင်းကိုကုသိုလ်ကဲ့သို့မှတ်တော်
၇ မူ၏။ ယုံကြည်ခြင်းရှိသောသူတို့သည်အာဗြဟံသားဖြစ်သည်ဟုအ
၈ မှန်သိမှတ်ကြလော့။ ဘုရားသခင်သည်ယုံကြည်ခြင်းကိုထောက်၍တ
ပါးအမျိုးသားတို့ကိုကုသိုလ်ရှိရာ၌တည်စေတော်မူမည်ဟုကျမ်း
စာမျှော်မြင်လျက်အာဗြဟံကိုပြော၍သင်အားဖြင့်လူမျိုးအပေါင်းတို့
သည်ကောင်းကြီးမင်္ဂလာခံရကြလိမ့်မည်ဟုဧဝံဂေလိတရားကိုဟော
၉ နှင့်လေ၏။ သို့ဖြစ်၍ယုံကြည်ခြင်းရှိသောသူတို့သည်ယုံကြည်သောအာ
၁၀ ဗြဟံနှင့်အတူကောင်းကြီးမင်္ဂလာကိုခံကြ၏။ ပညတ်တရားအကျင့်

ကိုအမှီပြုသောသူရှိသမျှတို့သည် အကျိန်နှင့်စပ်ဆိုင်ကြ၏။ အဘယ်
ကြောင့်နည်းဟူမူကား။ပညတ္တိကျမ်းစာ၌ပါသမျှသောပညတ်တို့ကို
အမြဲမကျင့်သောသူတိုင်းကျိန်ဆိုတော်မူခြင်းကိုခံရသည်ဟုကျမ်း စာ
၁၁ လာသတည်း။ တဖန်တုံ။ ရုံကြည်ခြင်းအားဖြင့်ဖြောင့်မတ်သောသူ
၁၂ သည်အသက်ရှင်လိမ့်မည်။ ပညတ်တရားမူကား ရုံကြည်ခြင်းနှင့်မ
စပ်ဆိုင်။ထိုသို့ကျင့်သောလူသည်အကျင့်အားဖြင့်အသက်ရှင်လိမ့်မည်
၁၃ ဟုဆို၏။ ထိုကြောင့်ဘုရားသခင်ရှေတော်၌ အဘယ်သူမျှပညတ်တ
ရားအားဖြင့်ဂုသိုလ်ရှိရာသို့မရောက်နိုင်ဟုထင်ရှားသည်ချည်းဖြစ်
၏။သစ်တိုင်၌ဆွဲထားသောသူတိုင်းကျိန်ဆိုခြင်းကိုခံသောသူဖြစ်
သည် ဟုကျမ်းစာလာသည်နှင့်အညီခရစ်တော်သည်ငါတို့အထွက်
ကျိန်ဆိုခြင်းကိုခံသောသူဖြစ်၍ငါတို့ကိုပညတ်တရား၏ကျိန်ဆို
၁၄ ခြင်းမှရွေးတော်မူပြီး။ အကြောင်းမူကား။အာဗြဟံခံသောကောင်း
ကြီးမင်္ဂလာသည် ယေရှုခရစ်အားဖြင့်တပါးအမျိုးသားတို့၌သက်
ရောက်၍ ငါတို့သည် ရုံကြည်ခြင်းအားဖြင့်ဝိညာဉ်တော်၏ဂတိတော်
၁၅ ကိုခံရမည်အကြောင်းတည်း။ ။ညီအစ်ကိုတို့။လောကီဝေါဟာ
ရအားဖြင့်ငါပြောမည်။ လူသော်လည်းဝန်ခံစာကိုချုပ်ပြီးမှ အဘယ်
၁၆ သူမျှမပယ်ရ။ထပ်ဆင့်၍စကားမသွင်းရ။ အာဗြဟံမှစ၍ သူ၏အ
မျိုးအနွယ်နှင့်ဂတိတော်တို့သည်ဆိုင်ကြ၏။ အမျိုးအနွယ်တို့အားဖြင့်
ဟုဆိုသော်အများသောသူတို့ကိုရည်မှတ်၍မိန့်တော်မမူ။ သင်၏အ
မျိုးအနွယ်အားဖြင့် ဟူသော စကားမှာ တယောက်သောသူကိုသာ
ရည်မှတ်၍မိန့်တော်မူ၏။ထိုတယောက်သောသူကားခရစ်တော်ဖြစ်
၁၇ သတည်း။ ငါဆိုသည်ကား။ ခရစ်တော်ကိုရည်မှတ်၍ ဘုရားသခင်
တည်စေနှင့်တော်မူသောဝန်ခံခြင်းတရားကို အနှစ်လေးရာသုံးဆယ်
လွန်ပြီးမှနောက်ဖြစ်သောပညတ်တရားသည်မပယ်နိုင်။ ဂတိတော်
၁၈ ကိုအချည်းနှီးမဖြစ်စေနိုင်။ ထိုမှတပါး။အမွေတော်သည်ပညတ်တ
ရားနှင့်စပ်ဆိုင်လျှင်ဂတိတော်နှင့်မစပ်ဆိုင်။ ဘုရားသခင်သည်ဂတိ
၁၉ တော်အားဖြင့်အာဗြဟံအားထိုအမွေတော်ကိုသနားတော်မူ၏။ သို့
ဖြစ်၍ပညတ်တရားအဘယ်အကျိုးရှိသနည်း ဟူမူကား။ဂတိတော်ကို
ခံရသောအမျိုးအနွယ်မဖြစ်မှီတိုင်အောင်ဒုစရိုက်များကြောင့်ထိုတ
ရား ကို ထပ်၍ပေး တော်မူ ၏။ ထိုတရား ကိုကောင်း ကင်တမန် များ
၂၀ အားဖြင့်အာမခံလက်၌ထားတော်မူ၏။ အာမခံမည်သည်ကားတဖက်

နှင့်သာဆိုင်သည်မဟုတ်။ဘုရားသခင်မူကားတဖက်ဖြစ်တော်မူ၏။
၂၁ သို့ဖြစ်၍ ပညတ်တရား သည်ဘုရားသခင် ၏ဂတိတော်တို့ နှင့်ဆန့်
ကျင်ဘက်ဖြစ်သလော။ထိုသို့မဖြစ်နိုင်ရာ။အသက်ရှင်စေနိုင်သောပ
ညတ်တရားကိုပေးတော်မူသည်မှန်လျှင်အကယ်၍ထိုတရားအားဖြင့်
၂၂ ကျသိုလ်ရထိမ့်မည်။ ယခုမူကားယုံကြည်သောသူတို့သည်ယေရှုခရစ်
၌ယုံကြည် ခြင်း နှင့်စပ်ဆိုင်သောဂတိတော်ကို ရစိမ့် သောငှါကျမ်း စာ
၂၃ သည် လူအပေါင်း ကိုအပြစ်၌ ချုပ် ထား ၏။ ယုံကြည် ခြင်း တရားမ
ရောက်မှီပညတ်တရားသည်စောင့်နေသည်ဖြစ်၍ထိုအခါငါတို့သည်
နောက် ၌ ထင် ရှားလတ္တံ့သောယုံကြည်ခြင်းတရား ကို မျှော်လင့် ၍ ချုပ်
၂၄ ထားလျက်ရှိကြ၏။ ထိုကြောင့်ငါတို့သည်ယုံကြည် ခြင်းအား ဖြင့်ကျ
သိုလ်ရှိရာသို့ရောက်စေခြင်းငှါပညတ်တရားသည်ခရစ် တော်ထံသို့
၂၅ ငါတို့ကိုပို့ဆောင် ၍ ငါတို့၏အုပ်ထိန်း ဖြစ် သတည်း။ ယုံကြည်ခြင်းတ
ရားသည် ရောက်လာသောအခါငါတို့ကို ထိုအထိန်း လက် မှလွှတ် လေ
၂၆ ၏။ အဘယ် သို့နည်း ဟူမူကား။သင် တို့အား လုံးသည် ယေရှုခရစ်
၂၇ ကိုယုံကြည်သဖြင့်ဘုရားသခင်၏သားဖြစ်ကြ၏။ ရေနှစ်မင်္ဂလာအား
ဖြင့်ခရစ်တော်ထဲသို့သွင်း သော သူ ရှိသမျှတို့သည် ခရစ် တော်ကိုယူ
၂၈ တင်ဝတ်ဆောင်သောသူဖြစ်ကြ၏။ ယေရှုခရစ်၌ယုဒလူမရှိ။ဟေလ
သလူမရှိ။ ကျွန် မရှိ။လူလွတ်မရှိ။ယောကျ်ား မရှိ။မိန်းမမရှိ။ထိုသခင်၌
၂၉ သင်တို့အားလုံးသည်တလုံးတဝတည်းဖြစ်ကြ၏။ ခရစ်တော်နှင့်စပ်
ဆိုင်လျှင်အာဗြဟံအမျိုး အနွယ်ပင်ဖြစ်၍ ဂတိတော်အတိုင်းအမွေခံ
အရာ၌တည်ကြ၏။



၁ တဖန် ထိုး။အမွေခံမည့် သည် ကား၊ ဥစ္စာအား လုံးကို ပိုင်ထိုက် သော်
၂ လည်းအရွယ်မရောက်မှီကာလပတ်လုံး အစေအပါကျွန်နှင့်တူ၏။ အ
ဖစီရင်နှင့်သောကာလအချိန်ရောက်သည်တိုင်အောင်အစောင့်အထိန်း
၃ အအုပ်အချုပ်တို့လက်၌ရှိ၏။ ထိုနည်းတူ။ငါတို့သည်အရွယ်မရောက်
၄။၅ မှီလောကဓံတရား လက်၌ကျွန် ခံကြ၏။ ကာလအချိန် စေ့သောအခါငါ
တို့သည် သား ၏အ ခွင့် အရာ ကို ခံရအောင် ပညတ် တရား လက် ၌ ရှိ
သော သူတို့ကိုရွေး စေခြင်း ငှါမိန်းမဝမ်း၌ ပဋိသန္ဓေယူ၍ ပညတ် တရား
အောက် ဖွားမြင်သောသားတော်ကိုဘုရားသခင်စေလွှတ် တော်မူ၏။
၆ ထိုသို့သင်တို့သည် သားဖြစ် သောကြောင့်အဗ္ဗအဖ ဟူ၍ခေါ်တတ်သော

သားတော်၏ဝိညာဉ်တော်ကို သင်တို့စိတ်နှလုံးထဲသို့ဘုရားသခင်
၇ စေလွှတ်တော်မူ၏။ သို့ဖြစ်၍သင်တို့တွင်တယောက်မျှနောက်တဖန်
အစေအပါကျွန်မဖြစ်။သားပင်ဖြစ်၏။သားဖြစ်လျှင်ခရစ်တော်အားဖြင့်ဘုရားသခင်၏အမွေခံလည်းဖြစ်၏။
၈ ။သို့သော်လည်း
အထက်ကသင်တို့သည်ဘုရားသခင်ကို မသိသောအခါဇာတိပကတိ
၉ အားဖြင့်ဘုရားမဟုတ်သောသူတို့၏အမှုကိုဆောင်ရွက်ကြ၏။ ယ
ခုမူကားသင်တို့သည်ဘုရားသခင်ကိုသိပြီးမှဟူ၍မဆို။ဘုရားသခင်
သည်သင်တို့ကိုသိတော်မူပြီးမှအားမရှိ။ချမ်းသာမပေးနိုင်သောလော
ကဓံတရားဆီသို့အဘယ်ကြောင့် သင်တို့သည် တဖန် ပြောင်းလဲသ
နည်း။ရှေးဦးမှစ၍သင်တို့သည်ထိုလောကဓံတရားနှင့်တဖန်ကျွန်ခံခြင်း
၁၀ ငှါအလိုရှိကြပြီးတကား။ နှစ်။လ။နေ့ရက်။အချိန်ကာလများကိုစောင့်
၁၁ ကြပြီးတကား။ ငါသည်သင်တို့ဆီမှာအချည်းနှီးကျိုးစားအားထုတ်
၁၂ သည်ဟုသင်တို့အကြောင်းကြောင့်ငါစိုးရိမ်လျက်ရှိ၏။ ညီအစ်ကို
တို့။သင်တို့ကဲ့သို့ငါဖြစ်၏။ငါကဲ့သို့သင်တို့ဖြစ်ကြစေဟုငါတောင်း
၁၃ ပန်၏။သင်တို့သည်ငါ့ကိုအလျှင်းမပြစ်မှားပါ။ ငါသည်ကိုယ်နာခြင်း
ရောဂါနှင့်တကွဧဝံဂေလိတရားကိုသင်တို့အားအထက်ကဟောပြော
၁၄ ကြောင်းကိုသင်တို့သိကြ၏။ ကိုယ်ကာယနှင့်ငါခံရသောစုံစမ်းခြင်းကို
သင်တို့မထီမဲ့မြင်မပြု။ငါ့ကိုမပယ်။ဘုရားသခင်၏ကောင်းကင်တ
၁၅ မန်ကဲ့သို့၎င်၊ ယေရှုခရစ်ကဲ့သို့၎င်ငါ့ကိုလက်ခံကြ၏။ သို့ဖြစ်လျှင်
သင်တို့ခံရသောမင်္ဂလာကား အဘယ်မင်္ဂလာနည်း။အထက်ကကိုယ်
မျက်စိကိုထုတ်၍ငါ့အားပေးနိုင်လျှင်ပေးခြင်းငှါသင်တို့အလိုရှိသည်
၁၆ ဟုငါသက်သေခံ၏။ ယခုတွင်သမ္မာတရားကိုသင်တို့အားငါဟော
၁၇ ပြော၍သင်တို့ရန်သူဖြစ်ပါသည်တကား။ သူတပါးတို့သည်သင်တို့
ကိုအလွန်ချစ်သည်မှန်စေတော့။ကောင်းမြတ်စွာချစ်သည်မဟုတ်။
သင်တို့သည်သူတို့ကိုအလွန်ချစ်ရအောင်ငါတို့ကိုပယ်ခြင်းငှါသူတို့အ
၁၈ လိုရှိကြ၏။ သို့သော်လည်းသင်တို့ဆီမှာငါရှိစဉ်တွင်သာကောင်းသော
အရာကိုအလွန်ချစ်အပ်သည်မဟုတ်။အစဉ်မပြတ်အလွန်ချစ်အပ်၏။
၁၉ ခရစ်တော်သည်သင်တို့အထဲ၌တည်လျက်ရှိတော်မူသည်တိုင်အောင်
သင်တို့အဖို့သားဖွားခြင်းဝေဒနာကိုငါခံရသောငါ့ချစ်သားတို့။
၂၀ သင်တို့ကိုငါရုံမှားခြင်းရှိသည်ဖြစ်၍ယခုသင်တို့ကိုကိုယ်တိုင်တွေ့၍
၂၁ ထူးချွားသောစကားကိုပြောခြင်းငှါအလိုရှိ၏။ ။ပညတ်

တရားအောက်၌နေချင်သောသူတို့၊ သင်တို့သည် ပညတ်တရားကို
၂၂ နားမထောင်ကြသလော၊ ပညတ်ကျမ်းစာ၌ ရေးထားသည်ကား၊ အာဗြဟံ၌
သားနှစ်ယောက်ရှိ၏၊ သားတယောက်ကား ကျွန်မ၏သားဖြစ်၏။ တ
၂၃ ယောက်ကား ကျွန်မဟုတ်သောမိန္မ၏သားဖြစ်၏၊ ကျွန်မ၏သားသ
ည် ဇာတိပကတိအားဖြင့် ဖွားသောသားဖြစ်၏၊ ကျွန်မဟုတ်သောမိ
န္မ၏သားသည် ဂတိတော်အားဖြင့် ဖွားသောသားဖြစ်၏ဟုလာသ
၂၄ တည်း။ ထိုအကြောင်းအရာကား ပုံဆောင်ဖြစ်၏၊ ထိုမိန္မနှစ်ယောက်
ကား ပဋိညာဉ်တရားနှစ်ပါးကို ဆိုလိုသတည်း၊ အာဂရအမည်ရှိသော
မိန္မတည်းဟူသော ပဋိညာဉ်တရားတပါးသည် သိနာတောင်ပေါ်မှာစီ
၂၅ ရင်၍ ကျွန်များကိုဖွားတတ်သောတရားဖြစ်၏။ အဘယ်ကြောင့်
နည်းဟူမူကား၊ အာဂရသည် အာရပ်ပြည်၌ရှိသော သိနာတောင်ဖြစ်
၏။ ယခုရှိသော ယေရုရှလင်မြို့နှင့်တူ၏၊ မိမိသားများနှင့်တကွ ကျွန်ခံ
၂၆ ရ၏။ အထက်မှာရှိသော ယေရုရှလင်မြို့မူကား ငါတို့၏အမိတည်းဟူ
၂၇ သော ကျွန်မဟုတ်သောမိန္မဖြစ်သတည်း။ ကျမ်းစာလာသည်ကား၊
သားမဖွားသောအမြုံမ၊ ဝမ်းမြောက်လော့၊ သားဖွားခြင်း၏ဝေဒနာ
ကိုမခံသေးသောမိန္မ၊ ကြွေးကြော်အော်ဟစ်လော့၊ အကြောင်းမူကား၊
စွန့်ထားသောမိန္မသည် လင်ရှိသောမိန္မထက် သာ၍များသောသား
၂၈ ကိုဖွားမြင်ပြီးဟုလာသတည်း။ ညီအစ်ကိုတို့၊ ငါတို့သည် ဣဇာက်
၂၉ နည်းတူ၊ ဂတိတော်နှင့်စပ်ဆိုင်သောသားဖြစ်ကြ၏။ ထိုအခါဇာတိ
ပကတိအားဖြင့် ဖွားသောသားသည် ဝိညာဉ်တော်အားဖြင့် ဖွား
၃၀ သောသားကိုညှဉ်းဆဲသကဲ့သို့ ထိုနည်းတူယခုပင်ဖြစ်၏။ သို့သော်
လည်းကျမ်းစာအဘယ်သို့လာသနည်းဟူမူကား၊ ကျွန်မနှင့်သူ၏သား
ကိုနှင်ထုတ်လော့၊ ကျွန်မ၏သားသည်ကျွန်မဟုတ်သောမိန္မ၏သား
၃၁ နှင့်အတူအမွေမခံရဟုလာသတည်း။ ယခုတွင်ညီအစ်ကိုတို့၊ ငါတို့
သည်ကျွန်မ၏သားမဟုတ်၊ ကျွန်မဟုတ်သောမိန္မ၏သားဖြစ်ကြ
၁ ၏။ ထိုကြောင့်ခရစ်တော်သည်ငါတို့ကိုလွှတ်တော်မူသောလွှတ်ခြင်း
အခွင့်၌တည်နေသဖြင့်ကျွန်ခံရာထမ်းဘိုးထမ်း၍ချည်နှောင်ခြင်းကို
တဖန်မခံကြနှင့်။



၂ ငါပေါလုဆိုသည်ကား၊ သင်တို့သည်ဇာတ်သွင်းမင်္ဂလာကိုခံလျှင်ခရစ်
၃ တော်အားဖြင့်အဘယ်အကျိုးကိုမျှမရနိုင်ကြ။ ဇာတ်သွင်းမင်္ဂလာခံ

သောသူအားလုံးတို့အားငါတဖန်သက်သေခံသည်ကား။ ထိုသို့သော
သူသည်ပညတ်တရားအားလုံးကိုကျင့်ရအံ့သောဝါကျွေးတင်သော
၄ သူဖြစ်၏။ ပညတ်တရားအားဖြင့်ကျသိလ်ရှိရာသို့ရောက်သမျှသောါ
သင်တို့သည် ခရစ်တော်နှင့်ကင်း လွတ်၍ ကျေး ဇူးတရား၌ မကည့်။
၅ ရွေလျှော့သောသူ ဖြစ်ကြ၏။ ငါတို့မူကားရုံကြည်ခြင်းအားဖြင့်ကျ
သိလ်ရမည်ဟုမျှော်လင့်သောကျေးဇူးတော်ကိုဝိညာဉ်တော်အားဖြင့်
၆ ငံ့လင့်၍နေကြ၏။ ယေရှုခရစ်ထံဇာတ်သွင်းမင်္ဂလာခံခြင်းအကျိုးမ
ရှိ။မခံဘဲနေခြင်းလည်းအကျိုးမရှိ။မေတ္တာအားဖြင့်ပြုပြင်တတ်သောရုံ
၇ ကြည်ခြင်းသာအကျိုးရှိ၏။ အထက်ကသင်တို့သည် ကောင်းကောင်း
ပြေးတတ်၏။ သို့ဖြစ်၍ သမ္မာ တရားကိုနား မထောင် စေခြင်း ငှါအ
၈ ဘယ်သူကဆီးကားသနည်း။ ယခုယူသောအယူကားသင်တို့ကိုခေ
၉ သောသူ၏ဩဝါဒကိုအမှီပြု၍ ယူသော အယူမဟုတ်။ အနည်းငယ်
၁၀ သောတဆေးသည်မုန့်စိမ်းတပုံလုံးကို ကြွစေတတ်၏။ သင်တို့သည်
ကွဲပြားသောအယူ ရှိသမျှကိုပယ်မည် ဟုသခင်ဘုရားကိုငါအမှီပြု၍
စိတ်စွဲလမ်းခြင်းရှိ၏။ သင်တို့ကိုနှောင့်ရှက်သောသူမည်သည်ကားမိမိအ
၁၁ ပြစ်ဒါဏ်ကိုခံရလိမ့်မည်။ တဖန်ထုံ။ညီအစ်ကိုတို့။ငါသည်ဇာတ်သွင်း
မင်္ဂလာတရားကိုဟောပြောသေးသည်မှန်လျှင်အဘယ်ကြောင့်ညှဉ်း
ဆဲခြင်းကိုခံရသေးသနည်း။ ထိုသို့ဟောပြောလျှင် လက်ဝါးကပ်တိုင်
၁၂ တော်ကိုထိမိ၍လဲစရာ အကြောင်း ပယ်ရှင်းလျက် ရှိ၏။ သင်တို့ကို
မှောက်မှား စေသော သူတို့ ကိုပယ်ရှားနှင်ထုတ် စေခြင်းငှါငါအလိုရှိ
၁၃ ၏။ ။ညီအစ်ကိုတို့။ သင်တို့သည် လွှတ်ခြင်းအခွင့်၌ခန့်
ထားသောသူ ဖြစ်ကြ၏။ ဇာတိပကတိသည် အ ခွင့်ရ အောင်ထို လွှတ်
ခြင်းကိုမသုံး ကြနှင့်။ အချင်း ချင်း ချစ်၍ အမှုချင်းကိုဆောင် ရွက်ကြ
၁၄ လော့။ အကြောင်းမူကား။ကိုယ်နှင့်စပ်ဆိုင်သောသူကိုကိုယ်နှင့်အမျှ
ချစ်လော့ဟူသောပညတ်တပါးကိုကျင့်လျှင်တရားအားလုံးကိုကျင့်
၁၅ ရာရောက်၏။ သို့မဟုတ်။ အချင်းချင်း ကိုက် စားလျှင်အချင်းချင်း
၁၆ ဖျက်ဆီးမည် စိုးရိမ်၍သတိရှိကြလော့။ ။ငါပညတ်သည်ကား။
ဝိညာဉ်ပကတိအတိုင်းကျင့်လော့။ထိုသို့ကျင့် လျှင်ဇာတိပကတိ၏အ
၁၇ လိုကိုမလိုက်ဘဲနေကြလိမ့်မည်။ အဘယ်ကြောင့်နည်းဟူမူကား။ဇာ
တိပကတိ။ဝိညာဉ်ပကတိ။တပါးနှင့်တပါးဆန့်ကျင်သောအလိုရှိကြ၏။
တပါးနှင့်တပါး ဆန့်ကျင်ဘက် ဖြစ်၍ သင်တို့ သည် ကျင့်ချင်သောအ

ခြင်းအလို၌မဟုတ်။တည်ဆောက်ခြင်းအလို၌သာငါ၌အပ်ပေးတော်
မူသောတန်ခိုးရှိသည်အတိုင်းငါရောက်လာသောအခါပြင်းစွာဒါဏ်မ
ပေးရအောင် ယခုပင်သင်တို့နှင့်ကွာ ၍ ဝေးသေးသောအခါ ဤ သို့ငါ
၁၁ ရေးထား၏ ။ကြွင်းသေးသောစကားဟူမူကား။ညီအစ်ကို
တို့။ သင် တို့အား မင်္ဂ လာဖြစ် စေ သော။ ရုံလင် ခြင်း။ သက် သာဝမ်
မြောက်ခြင်းရှိကြလော့။စိတ်တညီတ ညွတ် တည်း ဖြစ်၍အချင်း ချင်း
အသင့်အတင့်နေကြလော့။သို့ဖြစ်၍မေတ္တာကိုဒ်အသင့်အတင့်နေခြင်း
ချမ်းသာကိုဒ်ပေးတော်မူသောဘုရားသခင်သည်သင်တို့ဆီမှာရှိနေ
၁၂ တော်မူလတ့ံ။ သန့်ရှင်းသောနမ်ခြင်းဖြင့်အချင်းချင်းတယောက်ကို
၁၃ တယောက်နှုတ်ဆက်ကြပါ။ သန့်ရှင်း သူအားလုံးတို့သည်သင်တို့ကို
၁၄ နှုတ်ဆက်ကြ၏။ ငါတို့သခင်ယေရှုခရစ်၏ကျေးဇူးတော်၎င်ဘုရား
သခင်၏မေတ္တာတော်၎င် သန့် ရှင်း သောဝိညာဉ် ၏ မိဿဟာယ၎င်
သင်တို့အားလုံး၌ဖြစ်စေသတည်း။အာမင်။

။ ကောရိန္သုဩဝါဒစာ ဒုတိယ စောင် ပြီး၏ ။

---

။ ဂလာတိဩဝါဒစာ ။

---

၁ လူ နှင့် မဆိုင် ဘဲလူ၏အခွင့်မရှိဘဲလျက်ယေရှုခရစ်၏အခွင့်နှင့်
၎င်ထို သခင်ကို သေခြင်း မှထမြောက် စေတော်မူသောခမည်းတော်
၂ ဘုရားသခင်၏အ ခွင့်နှင့်၎င်တမန်တော်ဖြစ်သောငါပေါလုမှစ၍ ငါ
ဆီမှာ ရှိသော ညီအစ်ကိုအားလုံးတို့ကဂလာတိပြည်၌ရှိသောအသင်း
၃ တော်များကို ကြားလိုက်ပါ၏။ သခင်ယေရှုခရစ်နှင့်ခမည်းတော်ဘု
ရားထံတော်ကကျေးဇူးတော်နှင့် ညိမ်သက်ခြင်း သင် တို့အား ဖြစ်ပါ
၄ စေသော။ ထိုသခင်သည် ငါတို့အဖတည်း ဟူ သောဘုရားသခင်၏
အလိုတော်နှင့်အညီဆိုး ညစ် သော ဤ ပစ္စုပ္ပာန် ဘဝမှငါတို့ကိုကယ်
နှုတ်ခြင်း၌ငါတို့အပြစ်ကြောင့်ကိုယ်ကိုကိုယ်အပ်ပေး တော်မူ၏။
၅ ထိုဘုရား သခင် သည် ကမ္ဘာအဆက် ဆက် ဘုန်း ကြီးတော်မူစေသ
၆ တည်း။အာမင်။ ။ခရစ်တော်၏ကျေးဇူး၌သင်တို့ကိုခေါ်သွင်း
သော သူ နှင့်သင်တို့သည်ဤမျှလောက် မြန် မြန် ခွာ၍ အခြားသော
ဧဝံဂေလိတရား ကို ခံယူကြသော ကြောင့် ငါသည် အံ့သြခြင်း ရှိ၏၊

၇ ထိုဧဝံဂေလိတရားသည်ဧဝံဂေလိတရားမဟုတ်။ သို့သော်လည်းသင်
တို့ကိုနှောင့်ရှက်၍ခရစ်တော်၏ဧဝံဂေလိတရားကိုမှောက်လှန်ချင်
၈ သောသူအချို့ရှိကြ၏။ သို့သော်လည်းငါတို့သည်သင်တို့အားဟော
ပြောသောဧဝံဂေလိတရားမှတပါးအခြားသောဧဝံဂေလိတရားကိုငါ
တို့ဖြစ်စေ။ ကောင်းကင်ဘုံမှကောင်းကင်တမန်ဖြစ်စေ။ ဟောပြော
၉ လျှင်ဟောပြောသောသူသည်ကျိန်ဆိုတော်မူခြင်းကိုခံစေ။ တဖန်
တုံ။ငါတို့သည်သင်တို့အားဟောပြောသောဧဝံဂေလိတရားမှတပါး
အခြားသောဧဝံဂေလိတရားကိုတစုံတယောက်သောသူဟောပြော
လျှင်ထိုသူသည်ကျိန်ဆိုတော်မူခြင်းကိုခံစေဟုငါတို့ပြောခဲ့ပြီးသည်
၁၀ အတိုင်းယခုငါထပ်၍ဆိုသေး၏။ အဘယ်ကြောင့်နည်းဟူမူကား။ယခု
တွင်ငါသည်လူ၏အလိုသို့လိုက်သလော။ဘုရားသခင်၏အလိုတော်သို့
လိုက်သလော။လူစိတ်တို့ကိုနူးညွတ်အောင်ငါရှာကြံသလော။လူစိတ်ကို
နူးညွတ်အောင်ငါရှာကြံသေးလျှင်ခရစ်တော်၏အစေခံကျွန်မဟုတ်
၁၁ ပြီး။ ညီအစ်ကိုတို့ငါဟောပြောသောဧဝံဂေလိတရား
၁၂ သည်လူတို့၏တရားမဟုတ်။ လူထံမှာငါခံရသည်မဟုတ်။ ယေရှု
ခရစ်၏ဗျာဒိတ်တော်မှတပါးအခြားသောဥပဒေသကိုငါမခံသည်အ
၁၃ ကြောင်းကိုသင်တို့အားငါကြားလိုက်၏။ အဘယ်သို့နည်းဟူမူကား။
အထက်ကယုဒဘာသာ၌နေ၍ငါကျင့်သောအကျင့်ဘည်းဟူသောဘု
ရားသခင်၏အသင်းတော်ကိုအတိုင်းထက်လွန်ညှဉ်းဆဲဖျက်ဆီးကြောင်း
၁၄ ကိုငှင် ဘိုးဘေးတို့လက်မှခံသောနည်းဥပဒေသဘက်စိတ်အထူးသ
ဖြင့်အားကြီးလျက်ငါလူမျိုးထဲမှာငါရွယ်တူချင်းအများတို့ထက်ယုဒ
ဘာသာကိုကျင့်လည်လွှေကျက်ကြောင်းကိုငှင်သင်တို့ကြားသိရကြ
၁၅ ပြီး။ သို့သော်လည်းငါကိုအမိဝမ်းထဲကပင်ရွေးချယ်ခွဲထား၍ကျေး
၁၆ ဇူးတော်အားဖြင့်ခေါ်တော်မူသောဘုရားသခင်သည် သားတော်၏
ဧဝံဂေလိတရားကိုတပါးအမျိုးသားတို့၌ငါဟောပြောစေမည်အ
ကြောင်း။ မိမိအလိုတော်နှင့်အညီသားတော်ကိုငါအားပြတော်မူ
သောအခါအသွေးအသားရှိသောသူတို့နှင့်တိုင်ပင်ခြင်းကိုငါမပြုဘဲ
၁၇ ငါအရင်တမန်တော်ဖြစ်နှင့်သောသူတို့ရှိရာယေရုရှလင်မြို့သို့မသွား
ဘဲအာရပ်ပြည်သို့ချက်ချင်းသွား၍တဖန်ဒမာသကုမြို့သို့ပြန်လေ၏။
၁၈ ထိုနောက်သုံးနှစ်လွန်ပြီးမှပေတရုနှင့်အကျွမ်းဝင်ရအောင်ယေရုရှလင်
၁၉ မြို့သို့ငါသွား၍သူနှင့်အတူဆယ်ငါးရက်နေ၏။ သူနှင့်သခင်ဘုရား

၏ညီတော်ယာကုပ်မှတပါးအချားသောတမန်တော်တယောက်ကိုမျှ
၂၀ ငါမတွေ့မမြင်။ ဤသို့သင်တို့အားငါရေးထား၍ကြားလိုက်သည်တွင်
မုသာစကားကိုငါမပြောမသုံးဟုဘုရားသခင်ရှေ့တော်၌ငါဆို၏။
၂၁ ထိုနောက်ရှုရိပြည်၊ကိလိကိပြည်သို့ငါသွား၍ ယုဒပြည်၌ခရစ်တော်
၂၂ ၏ဘာသာကိုခံယူသောသင်းဝင်သူတို့သည် ငါမျက်နှာကိုမျှမသိမ
၂၃ မှတ်ဘဲ ငါတို့ကိုညှဉ်းဆဲဘူးသောသူသည်အထက်ကမိမိဖျက်ဆီး
သောရုံကြည်ခြင်းတရားကိုယခုမှာမိမိဟောပြောသည်ဟုသူတို့
၂၄ ကြားရုံရှိကာမျှနှင့် ငါအကြောင်းကြောင့်ဘုရားသခင်ကိုချီးမွမ်
ကြ၏။

**

၁ ထိုနောက်ဆယ်လေးနှစ်လွန်ပြီးမှတိတုကိုခေါ်၍ဗာနာဗနှင့်အတူယေ
၂ ရုရှလင်မြို့သို့ငါတဖန်သွားလေ၏။ ဗျာဒိတ်တော်အတိုင်းပင်သွား
သည်ဖြစ်၍တပါးအမျိုးသားတို့၌ဟောပြောသောဧဝံဂေလိတရား
ကိုထိုအခါငါပြန်ပြောလေ၏။သို့ဆိုသော်ငါဆောင်ရွက်ခဲ့ပြီးလောအ
မှုနှင့်နောက်၌ဆောင်ရွက်လတံ့သောအမှုအချည်းနှီးမဖြစ်ရအောင်
၃ အသရေထင်ရှားသောသူတို့အားသာပြန်ပြော၏။ သို့သော်လည်း
ငါနှင့်အတူပါသောဟေလသမျိုးတိတုကိုအရေဖျားလှီးမင်္ဂလာကိုခံ
၄ စေခြင်းငှါမပြုကြ။ အဘယ်ကြောင့်နည်းဟူမူကား၊ယေရှုခရစ်အား
ဖြင့်ငါတို့ခံစားသောလွတ်ခြင်းအခွင့်ကိုချောင်းကြည့်၍ငါတို့ကိုကျွန်
ခံစေမည်အကြံနှင့်ပရိယာယ်အားဖြင့်သွင်းသောညီအစ်ကိုရောင်
၅ ဆောင်သောသူတို့အကြောင်းကြောင့်မပြုဘဲနေသတည်း။ မှန်သော
ဧဝံဂေလိတရားသည်သင်တို့၌တည်နေမည်အကြောင်း၊ငါတို့သည်ထို
၆ သူတို့စီရင်ခြင်းကိုခဏမျှဝန်မခံကြ။ အသရေထင်ရှားသောသူတို့
သည်အထက်ကအဘယ်သို့သောသူဖြစ်သော်လည်းငါနှင့်အလျှင်းမ
ထူးချား။ဘုရားသခင်သည်လူမျက်နှာကိုမှတ်တော်မမူ။ထိုသူတို့နှင့်ငါ
၇။၈ ပေါင်းဖော်၍ထူးချားသောအရာကိုမခံမရ။ မခံမရသည်မှတပါး၊ဖော
တ်သွင်းမင်္ဂလာခံသောသူတို့တွင်ပေတရုကိုတမန်တော်ဖြစ်စေခြင်းငှါ
ပေတရု၌ပြုပြင်တော်မူသောသူသည်တပါးအမျိုးသားတို့တွင်ငါကိုတ
မန်တော်ဖြစ်စေခြင်းငှါငါ၌လည်းပြုပြင်တော်မူသည်ဖြစ်၍ဖောတ်သွင်း
မင်္ဂလာခံခြင်းနှင့်စပ်ဆိုင်သောဧဝံဂေလိတရားကိုပေတရု၌အပ်သကဲ့
သို့ဖောတ်သွင်းမင်္ဂလာခံခြင်းနှင့်မစပ်ဆိုင်သောဧဝံဂေလိတရားကိုငါ

၉ ဌ်အပ်ကြောင်း ကိုသူတို့မြင်ကြ၍ ငါရသောကျေးဇူးတော်ကိုသိကြ
သောအခါမိမိတို့သည်ဇာတ်သွင်း မင်္ဂလာခံသောသူ တို့ဆီသို့ သွား
မည်အကြောင်းနှင့် ငါတို့သည် တပါး အမျိုးသားတို့ဆီသို့သွားမည်အ
ကြောင်း။မှန်တိုင် နှင့်တူသောယာကုပ်။ ကေဖ။ ယောဟန် တို့သည်လ
၁၀ ကျ်ာလက်ခံမင်္ဂလာကိုဗာနာဗနှင့်ငါအားပေးကြ၏။ ငါတို့သည်ဆင်း
ရဲသောသူများကိုအောက်မေ့စေခြင်းငှါသူ တို့အလို တခုတည်းရှိ၏။
၁၁ ထိုအမှုကိုငါအလိုလိုကျိုးစားအားထုတ်တတ်၏။ ။ထို
နောက်ပေတရုသည်အန္တိအုတ်မြို့သို့ရောက်လာသောအခါသူ၌ အပြစ်
တင် စရာအ ခွင့်ရှိသော့ကြောင့် သူကိုယ် တိုင် ကိုငါညှင်း ၍ ဆီး တား
၁၂ ၏။ အဘယ်ကြောင့်နည်းဟူမူကား။ လူအချို့တို့သည်ယာကုပ်ဆီက
မရောက် မလာမှီပေတရုသည် တပါး အမျိုး သားတို့နှင့် အတူစား ၏။
သူတို့ရောက် လာသော နောက် ပေတရုသည်ဇာတ်သွင်း မင်္ဂလာကိုခံ
သောသူတို့၏မျက်နှာကိုထောက်၍တပါးအမျိုး သားတို့နှင့်မပေါင်းဘို့
၁၃ ဘဲတယောက်တချားစီနေ၏။ ကြွင်းသောယုဒလူတို့သည်ပေတရုနှင့်
အတူလျှို့ဝှက်၍သူတို့လျှို့ဝှက် ခြင်း အား ဖြင့် ဗာနာဗသည် လည်း သူ
၁၄ တို့ဘက်၌ပါသွား၏။ သူတို့သည်မှန်သောဧဝံဂေလိတရားနှင့်အညီ
ဖြောင့်မတ်စွာမကျင့်ကြောင်းကိုငါမြင်လျှင်သူတို့အားလုံးရှေ့မှာပေ
တရုအားသင်သည်ယုဒလူဖြစ် လျက်ပင် ယုဒထုံး စံအတိုင်းမကျင့်ဘဲ
တပါးအမျိုးထုံးစံအတိုင်းကျင့်လျှင်တပါးအမျိုး သားတို့သည်ယုဒထုံး
၁၅ စံအတိုင်း ကျင့်ရအောင် အဘယ်ကြောင့် သူတို့ကိုအနိုင် အထက်ပြုသ
၁၆ နည်း။ လူတို့သည်ပညတ်တရားအကျင့်အားဖြင့်ကျသိုလ်ရှိရာသို့မ
ရောက်။ယေရှုခရစ်ကိုဂုံကြည် ခြင်းအားဖြင့်ကျသိုလ် ရှိရာ သို့ရောက်
သည်ဟုအပြစ်ထင်ရှားသောတပါးအမျိုးသားမဟုတ်ဘဲဇာတိအမျိုး
အားဖြင့်ယုဒလူဖြစ်သောငါတို့သည်အမှန် သိ၍ဘိသည်နှင့်အညီပည
တ်တရားအကျင့်အားဖြင့်ကျသိုလ်ရှိရာသို့မရောက်ဘဲခရစ်တော်ကို
ဂုံကြည်ခြင်းအားဖြင့်ကျသိုလ်ရှိရာသို့ရောက်ခြင်းငှါငါတို့ပင်ယေရှုခ
ရစ်ကိုဂုံကြည်ကြပြီး။ပညတ်တရားအကျင့်အားဖြင့်လူအမျိုးတွင်အဘ
၁၇ ယ်သူမျှကျသိုလ်ရှိရာသို့မရောက်ရာ။ ခရစ်တော်အားဖြင့်ကျသိုလ်
ရှိရာသို့ရောက်ခြင်း ငှါငါတို့သည် ကျိုး စားလျက်ပင်အပြစ် ထင် ရှား
သောသူဖြစ်သေးသည် မှန်လျှင်ခရစ်တော်သည်အပြစ်တရားကိုပြုရ
၁၈ သောသူဖြစ်ပါသည်တကား။ထိုသို့မဖြစ်နိုင်ရာ။ အထက်ကငါဖြိုဖျက်

သောအရာကိုနောက်တဖန်ငါတည်ဆောက်ပြန်လျှင်ကိုယ်အပြစ်ရှိ
၁၉ သည်ကိုကိုယ်ထင်ရှားပြ၏။ ထိုမှတပါး။ ငါသည်ဘုရားသခင်နှင့်
ဆိုင်သောအရာ၌အသက်ရှင်မည်အကြောင်း။ ပညတ်တရားနှင့်ဆိုင်
၂၀ သောအရာ၌ပညတ်တရားအားဖြင့်ငါသေနေ၏။ ခရစ်တော်နှင့်အ
တူ လက်ဝါးကပ်တိုင်မှာအသေခံပြီး။ သို့သော်လည်း ငါအသက်ရှင်
သေး၏။ သို့ဆိုသော်ငါကိုယ်တိုင်မရှင်။ ခရစ်တော်သည်ငါ၌ရှင်တော်
မူ၏။ ကိုယ်ခန္ဓာ၌ယခုငါရှင်သောအသက်ကိုဘုရားသခင်၏သား
တော်၌ယုံကြည်ခြင်းအားဖြင့်ငါရှင်၏။ သားတော်သည်ငါ့ကိုချစ်၍ငါ
၂၁ အဖို့ကိုယ်ကိုကိုယ်စွန့်တော်မူ၏။ ဘုရားသခင်၏ကျေးဇူးတော်ကို
ငါမပယ်။ ပညတ်တရားကိုအမှီပြု၍ ကျွတ်လွတ်ရနိုင်လျှင်ခရစ်တော်
သည်အချည်းနှီးအသေခံတော်မူပြီး။

✱✱

၁ ပညာမဲ့ဂလာတိလူတို့။ လက်ဝါးကပ်တိုင်မှာအသေခံတော်မူသော
ယေရှုခရစ်ကိုသင်တို့မျက်မှောက်၌ထင်ရှားပြပြီးသည်ဖြစ်၍သင်တို့
၂ မျက်စိကိုအဘယ်သူလှည့်ဘိသနည်း။ ပညတ်တရားအကျင့်အားဖြင့်
ဝိညာဉ်တော်ကိုခံသလော။ ယုံကြည်ခြင်းတရားကိုနာခြင်းအားဖြင့်ခံ
၃ သလောဟူသောအရာတခုကိုသာသင်တို့၌ငါသိလို၏။ ဤမျှလောက်
ပညာမဲ့သလော။ ဝိညာဉ်တော်ကိုအမှီပြု၍လုပ်စရှိပြီးမှဇာတိကိုအ
၄ မှီပြု၍ပြီးစေသလော။ ဤမျှလောက်သောဆင်းရဲကိုအချည်းနှီးခံကြ
၅ ပြီးလော။ အချည်းနှီးသက်သက်ဖြစ်ရသလော။ ထိုမှတပါး။ ဝိညာဉ်
တော်ကိုသင်တို့အားပေး၍သင်တို့၌တန်ခိုးများကိုပြသောသူသည်
ပညတ်တရားအကျင့်အားဖြင့်ပြုသလော။ ယုံကြည်ခြင်းတရားကိုနာ
၆ ခြင်းအားဖြင့်ပြုသလော။ ထိုနည်းတူ။ အာဗြဟံသည်ဘုရားသခင်
ကိုယုံကြည်သည်ဖြစ်၍သူ၏ယုံကြည်ခြင်းကိုကျွတ်လွတ်ကဲ့သို့မှတ်တော်
၇ မူ၏။ ယုံကြည်ခြင်းရှိသောသူတို့သည်အာဗြဟံသားဖြစ်သည်ဟုအ
၈ မှန်သိမှတ်ကြလော့။ ဘုရားသခင်သည်ယုံကြည်ခြင်းကိုထောက်၍တ
ပါးအမျိုးသားတို့ကိုကျွတ်လွတ်ရှိရာ၌တည်စေတော်မူမည်ဟုကျမ်း
စာမျှော်မြင်လျက်အာဗြဟံကိုပြော၍သင်အားဖြင့်လူမျိုးအပေါင်းတို့
သည်ကောင်းကြီးမင်္ဂလာခံရကြလိမ့်မည်ဟုဧဝံဂေလိတရားကိုဟော
၉ နှင့်လေ၏။ သို့ဖြစ်၍ယုံကြည်ခြင်းရှိသောသူတို့သည်ယုံကြည်သောအာ
၁၀ ဗြဟံနှင့်အတူကောင်းကြီးမင်္ဂလာကိုခံကြ၏။ ပညတ်တရားအကျင့်

ကိုအမှီပြုသောသူရှိသမျှတို့သည် အကျိန်နှင့်စပ်ဆိုင်ကြ၏။ အဘယ်
ကြောင့်နည်းဟူမူကား။ပညတ္တိကျမ်းစာ၌ပါသမျှသောပညတ်တို့ကို
အမြဲမကျင့်သောသူတိုင်းကျိန်ဆိုတော်မူခြင်းကိုခံရသည်ဟုကျမ်း စာ
၁၁ လာသတည်း။ တဖန်တုံ၊ ယုံကြည်ခြင်းအားဖြင့်ဖြောင့်မတ်သောသူ
၁၂ သည်အသက်ရှင်လိမ့်မည်။ ပညတ်တရားမူကား ယုံကြည်ခြင်းနှင့်မ
စပ်ဆိုင်။ထိုသို့ကျင့်သောလူသည်အကျင့်အားဖြင့်အသက်ရှင်လိမ့်မည်
၁၃ ဟုဆို၏။ ထိုကြောင့်ဘုရားသခင်ရှေ့တော်၌ အဘယ်သူမျှပညတ်တ
ရားအားဖြင့်ကုသိုလ်ရှိရာသို့မရောက်နိုင်ဟုထင်ရှားသည်ချည်းဖြစ်
၏။သစ်တိုင်၌ဆွဲထားသောသူတိုင်းကျိန်ဆိုခြင်းကိုခံသောသူဖြစ်
သည်ဟုကျမ်းစာလာသည်နှင့်အညီခရစ်တော်သည်ငါတို့အထွက်
ကျိန်ဆိုခြင်းကိုခံသောသူဖြစ်၍ငါတို့ကိုပညတ်တရား၏ကျိန်ဆို
၁၄ ခြင်းမှရွေးတော်မူပြီး။ အကြောင်းမူကား။အာဗြဟံခံသောကောင်း
ကြီးမင်္ဂလာသည် ယေရှုခရစ်အားဖြင့် တပါးအမျိုးသားတို့၌သက်
ရောက်၍ ငါတို့သည် ယုံကြည်ခြင်းအားဖြင့်ဝိညာဉ်တော်၏ဂတိတော်
၁၅ ကိုခံရမည်အကြောင်းတည်း။ ။ညီအစ်ကိုတို့။လောကီဝေါဟာ
ရအားဖြင့်ငါပြောမည်။ လူသော်လည်းဝန်ခံစာကိုချုပ်ပြီးမှ အဘယ်
၁၆ သူမျှမပယ်ရ။ထပ်ဆင့်၍စကားမသွင်းရ။ အာဗြဟံမှစ၍သူ၏အ
မျိုးအနွယ်နှင့်ဂတိတော်တို့သည်ဆိုင်ကြ၏။ အမျိုးအနွယ်တို့အားဖြင့်
ဟုဆိုသော်အများသောသူတို့ကိုရည်မှတ်၍မိန့်တော်မမူ။ သင်၏အ
မျိုးအနွယ်အားဖြင့်ဟူသောစကားမှာ တယောက်သောသူကိုသာ
ရည်မှတ်၍မိန့်တော်မူ၏။ထိုတယောက်သောသူကားခရစ်တော်ဖြစ်
၁၇ သတည်း။ ငါဆိုသည်ကား။ ခရစ်တော်ကိုရည်မှတ်၍ဘုရားသခင်
တည်စေနှင့်တော်မူသောဝန်ခံခြင်းတရားကိုအနှစ်လေးရာသုံးဆယ်
လွန်ပြီးမှနောက်ဖြစ်သောပညတ်တရားသည်မပယ်နိုင်။ ဂတိတော်
၁၈ ကိုအချည်းနှီးမပြစ်စေနိုင်။ ထိုမှတပါး။အမွေတော်သည်ပညတ်တ
ရားနှင့်စပ်ဆိုင်လျှင်ဂတိတော်နှင့်မစပ်ဆိုင်။ ဘုရားသခင်သည်ဂတိ
၁၉ တော်အားဖြင့်အာဗြဟံအားထိုအမွေတော်ကိုသနားတော်မူ၏။ သို့
ဖြစ်၍ပညတ်တရားအဘယ်အကျိုးရှိသနည်း ဟူမူကား။ဂတိတော်ကို
ခံရသောအမျိုးအနွယ်မဖြစ်မှီတိုင်အောင်ဒုစရိုက်များကြောင့်ထိုတ
ရားကိုထပ်၍ပေးတော်မူ၏။ ထိုတရားကိုကောင်းကင်တမန်များ
၂၀ အားဖြင့်အာမခံလက်၌ထားတော်မူ၏။ အာမခံမည်သည်ကားတဖက်

နှင့်သာဆိုင်သည်မဟုတ်။ဘုရားသခင်မူကား တဖက်ဖြစ် တော်မူ၏။
၂၁ သို့ဖြစ် ၍ ပညတ်တရား သည်ဘုရားသခင် ၏ဂတိတော်တို့ နှင့်ဆန့်
ကျင်ဘက်ဖြစ်သလော။ထိုသို့မဖြစ်နိုင်ရာ။အသက်ရှင်စေနိုင်သောပ
ညတ်တရားကိုပေးတော်မူသည်မှန်လျှင်အကယ်၍ထိုတရားအားဖြင့်
၂၂ ကုသိုလ်ရလိမ့်မည်။ ယခုမူကား ယုံကြည်သော သူတို့သည်ယေရှုခရစ်
၌ယုံကြည် ခြင်း နှင့်စပ်ဆိုင်သောဂတိတော်ကို ရစိမ့် သော ငှါကျမ်း စာ
၂၃ သည် လူအပေါင်း ကိုအပြစ်၌ ချုပ် ထား ၏။ ယုံကြည် ခြင်း တရားမ
ရောက်မှီပညတ်တရားသည်စောင့်နေသည်ဖြစ်၍ထိုအခါငါတို့သည်
နောက် ၌ ထင် ရှား လတံ့သောယုံကြည်ခြင်းတရား ကို မျှော်လင့် ၍ ချုပ်
၂၄ ထားလျက်ရှိကြ၏။ ထိုကြောင့်ငါတို့သည်ယုံကြည် ခြင်းအား ဖြင့်ကု
သိုလ်ရှိရာသို့ရောက်စေခြင်းငှါပညတ်တရားသည်ခရစ် တော်ထံသို့
၂၅ ငါတို့ကိုပို့ဆောင် ၍ ငါတို့၏အုပ်ထိန်း ဖြစ် သတည်း။ ယုံကြည်ခြင်းတ
ရားသည် ရောက်လာသောအခါငါတို့ကို ထိုအထိန်း လက် မှလွှတ် လေ
၂၆ ၏။ အဘယ် သို့နည်း ဟူမူကား။ သင် တို့အား လုံးသည် ယေရှုခရစ်
၂၇ ကိုယုံကြည်သဖြင့်ဘုရားသခင်၏သားဖြစ်ကြ၏။ ရေနှစ်မင်္ဂလာအား
ဖြင့်ခရစ်တော်ထဲသို့သွင်း သော သူ ရှိသမျှတို့သည် ခရစ် တော်ကိုယု
၂၈ တင်ဝတ်ဆောင်သော သူဖြစ်ကြ၏။ ယေရှုခရစ်၌ယုဒလူမရှိ။ဟေလ
သလူမရှိ။ ကျွန် မရှိ။လူလွတ်မရှိ။ ယောကျ်ား မရှိ။မိန်းမမရှိ။ထိုသခင်၌
၂၉ သင်တို့အားလုံးသည်တလုံးတဝတည်းဖြစ်ကြ၏။ ခရစ်တော်နှင့်စပ်
ဆိုင်လျှင်အာဗြဟံအမျိုး အနွယ်ပင်ဖြစ် ၍ ဂတိတော်အတိုင်းအမွေခံ
အရာ၌တည်ကြ၏။



၁ တဖန် ထုံ။အမွေခံမည် သည့် ကား ဥစ္စာအား လုံးကို ပိုင်ထိုက် သော်
၂ လည်းအရွယ်မရောက်မှီကာလပတ်လုံး အစေအပါကျွန်နှင့်တူ၏။ အ
ဘစီရင်နှင့်သောကာလအချိန်ရောက်သည်တိုင်အောင်အစောင့်အထိန်း
၃ အအုပ်အချုပ်တို့လက်၌ရှိ၏။ ထိုနည်းတူ။ငါတို့သည်အရွယ်မရောက်
၄။၅ မှီလောကဓံတရား လက် ၌ကျွန် ခံကြ၏။ ကာလအချိန် စေ့သောအခါ
ငါတို့သည် သား ၏ အ ခွင့် အရာ ကို ခံရ အောင် ပညတ် တရား လက် ၌ ရှိ
သော သူတို့ကိုရွေး စေခြင်း ငှါမိန်းမဝမ်း၌ ပဋိသန္ဓေယူ၍ ပညတ် တရား
အောက် ဖွားမြင်သောသားတော်ကိုဘုရားသခင်စေလွှတ် တော်မူ၏။
၆ ထိုသို့သင်တို့သည် သား ဖြစ် သော့ကြောင့်အဗ္ဗအဖ ဟု ခေါ်တတ်သော

သားတော်၏ဝိညာဉ်တော်ကိုသင်တို့စိတ်နှလုံးထဲသို့ဘုရားသခင်
၇ စေလွှတ်တော်မူ၏။ သို့ဖြစ်၍သင်တို့တွင်တယောက်မျှနောက်တဖန်
အစေအပါကျွန်မဖြစ်။သားပင်ဖြစ်၏။သားဖြစ်လျှင်ခရစ်တော်အား
၈ ဖြင့်ဘုရားသခင်၏အမွေခံလည်းဖြစ်၏။ ။သို့သော်လည်း
အထက်ကသင်တို့သည်ဘုရားသခင်ကိုမသိသောအခါဇာတိပကတိ
၉ အားဖြင့်ဘုရားမဟုတ်သောသူတို့၏အမှုကိုဆောင်ရွက်ကြ၏။ ယ
ခုမူကားသင်တို့သည်ဘုရားသခင်ကိုသိပြီးမှဟူ၍မဆို။ဘုရားသခင်
သည်သင်တို့ကိုသိတော်မူပြီးမှအားမရှိ။ချမ်းသာမပေးနိုင်သောလော
ကဓံတရားဆီသို့အဘယ်ကြောင့်သင်တို့သည်တဖန်ပြောင်းလဲသ
နည်း။ရှေးဦးမှစ၍သင်တို့သည်ထိုလောကဓံတရားနှင့်တဖန်ကျွန်ခံခြင်း
၁၀ ငှါအလိုရှိကြပြီးတကား။ နှစ်။လ။နေ့ရက်။အချိန်ကာလများကိုစောင့်
၁၁ ကြပြီးတကား။ ငါသည်သင်တို့ဆီမှာအချည်းနှီးကျိုးစားအားထုတ်
၁၂ သည်ဟုသင်တို့အကြောင်းကြောင့်ငါစိုးရိမ်လျက်ရှိ၏။ ညီအစ်ကို
တို့။သင်တို့ကဲ့သို့ငါဖြစ်၏။ငါကဲ့သို့သင်တို့ဖြစ်ကြလော့ဟုငါတောင်း
၁၃ ပန်၏။သင်တို့သည်ငါ့ကိုအလျှင်းမပြစ်မှားပါ။ ငါသည်ကိုယ်နာခြင်း
ရောဂါနှင့်တကွဧဝံဂေလိတရားကိုသင်တို့အားအထက်ကဟောပြော
၁၄ ကြောင်းကိုသင်တို့သိကြ၏။ ကိုယ်ကာယနှင့်ငါခံရသောစုံစမ်းခြင်းကို
သင်တို့မထီမဲ့မြင်မပြု။ငါ့ကိုမပယ်။ဘုရားသခင်၏ကောင်းကင်တ
၁၅ မန်ကဲ့သို့၎င်၊ယေရှုခရစ်ကဲ့သို့၎င်ငါ့ကိုလက်ခံကြ၏။ သို့ဖြစ်လျှင်
သင်တို့ခံရသောမင်္ဂလာကားအဘယ်မင်္ဂလာနည်း။အထက်ကကိုယ်
မျက်စိကိုထုတ်၍ငါ့အားပေးနိုင်လျှင်ပေးခြင်းငှါသင်တို့အလိုရှိသည်
၁၆ ဟုငါသက်သေခံ၏။ ယခုတွင်သမ္မာတရားကိုသင်တို့အားငါဟော
၁၇ ပြော၍သင်တို့ရန်သူဖြစ်ပါသည်တကား။ သူတပါးတို့သည်သင်တို့
ကိုအလွန်ချစ်သည်မှန်စေတော့။လျောက်ပတ်စွာချစ်သည်မဟုတ်။
သင်တို့သည်သူတို့ကိုအလွန်ချစ်ရအောင်ငါတို့ကိုပယ်ခြင်းငှါသူတို့အ
၁၈ လိုရှိကြ၏။ သို့သော်လည်းသင်တို့ဆီမှာငါရှိစဉ်တွင်သာကောင်းသော
အရာကိုအလွန်ချစ်အပ်သည်မဟုတ်။အစဉ်မပြတ်အလွန်ချစ်အပ်၏။
၁၉ ခရစ်တော်သည်သင်တို့အထဲ၌တည်လျက်ရှိတော်မူသည့်တိုင်အောင်
သင်တို့အဖို့သားဖွားခြင်းဝေဒနာကိုငါခံရသောငါ့ချစ်သားတို့။
၂၀ သင်တို့ကိုငါရုံမှားခြင်းရှိသည်ဖြစ်၍ယခုသင်တို့ကိုကိုယ်တိုင်တွေ့၍
၂၁ ထူးခြားသောစကားကိုပြောခြင်းငှါအလိုရှိ၏။ ။ပညတ်

ထရားအောက်၌နေချင်သောသူတို့။ သင်တို့သည်ပညတ်တရားကို
၂၂ နားမလည်ကြသလော။ ပညတ်ကျမ်းစာလာသည်ကား။အာဗြဟံ၌
သားနှစ်ယောက်ရှိ၏။သားတယောက်ကားကျွန်မ၏သားဖြစ်၏။တ
၂၃ ယောက်ကားကျွန်မဟုတ်သောမိမ္မ၏သားဖြစ်၏။ ကျွန်မ၏သားသ
ည်ဇာတိပကတိအားဖြင့်ဖွားသောသားဖြစ်၏။ကျွန်မဟုတ်သောမိ
မ္မ၏သားသည်ဂတိတော်အားဖြင့်ဖွားသောသားဖြစ်၏ဟုလာသ
၂၄ တည်း။ ထိုအကြောင်းအရာကားပုံပမာဖြစ်၏။ထိုမိမ္မနှစ်ယောက်
ကားဝန်ခံခြင်းတရားနှစ်ပါးကိုဆိုလိုသတည်း။အာဂရအမည်ရှိသော
မိမ္မတည်းဟူသောဝန်ခံခြင်းတရားတပါးသည်သိနတောင်ပေါ်မှာစီ
၂၅ ရင်၍ကျွန်များကိုဖွားတတ်သောတရားဖြစ်၏။ အဘယ်ကြောင့်
နည်းဟူမူကား။အာဂရသည်အာရပ်ပြည်၌ရှိသောသိနတောင်ဖြစ်
၏။ယခုရှိသောယေရုရှလင်မြို့နှင့်တူ၏။မိမိသားများနှင့်တကွကျွန်ခံ
၂၆ ရ၏။ အပေါ်မှာရှိသောယေရုရှလင်မြို့မူကားငါတို့၏အမိတည်းဟူ
၂၇ သောကျွန်မဟုတ်သောမိမ္မဖြစ်သတည်း။ ကျမ်းစာလာသည်ကား။
သားမဖွားသောအမြုံမ။ဝမ်းမြောက်လော့။သားဖွားခြင်း၏ဝေဒနာ
ကိုမခံသေးသောမိမ္မ။ကျေးကျော်အော်ဟစ်လော့။အကြောင်းမူကား။
စွန့်ထားသောမိမ္မသည်လင်ရှိသောမိမ္မထက်သာ၍များသောသား
၂၈ ကိုဖွားမြင်ပြီးဟုလာသတည်း။ ညီအစ်ကိုတို့။ငါတို့သည်ဣဇာက်
၂၉ နည်းတူ။ဂတိတော်နှင့်စပ်ဆိုင်သောသားဖြစ်ကြ၏။ ထိုအခါဇာတိ
ပကတိအားဖြင့်ဖွားသောသားသည်ဝိညာဉ်တော်အားဖြင့်ဖွား
၃၀ သောသားကိုညှဉ်းဆဲသကဲ့သို့ထိုနည်းတူယခုပင်ဖြစ်၏။ သို့သော်
လည်းကျမ်းစာအဘယ်သို့လာသနည်းဟူမူကား။ကျွန်မနှင့်သူ၏သား
ကိုနှင်ထုတ်လော့။ကျွန်မ၏သားသည်ကျွန်မဟုတ်သောမိမ္မ၏သား
၃၁ နှင့်အတူအမွေမခံရဟုလာသတည်း။ ယခုတွင်ညီအစ်ကိုတို့။ငါတို့
သည်ကျွန်မ၏သားမဟုတ်။ကျွန်မဟုတ်သောမိမ္မ၏သားဖြစ်ကြ
၁ ၏။ ထိုကြောင့်ခရစ်တော်သည်ငါတို့ကိုလွှတ်တော်မူသောလွှတ်ခြင်း
အခွင့်၌တည်နေသဖြင့်ကျွန်ခံရာထမ်းဘိုးထမ်း၍ချည်နှောင်ခြင်းကို
တဖန်မခံကြနှင့်။

✻✻

၂ ငါပေါလုဆိုသည်ကား။ သင်တို့သည်ဇာတ်သွင်းမင်္ဂလာကိုခံလျှင်ခရစ်
၃ တော်အားဖြင့်အဘယ်အကျိုးကိုမျှမရနိုင်ကြ။ ဇာတ်သွင်းမင်္ဂလာခံ

သောသူအားလုံးတို့အားငါတဖန်သက်သေခံသည်ကား။ ထိုသို့သော
သူသည်ပညတ်တရားအားလုံးကိုကျင့်ရအံ့သောဝါကျွေးတင်သော
၄ သူဖြစ်၏။ ပညတ်တရားအားဖြင့်ကုသိုလ်ရှိရာသို့ရောက်သမျှသောဝါ
သင်တို့သည် ခရစ်တော်နှင့်ကင်းလွတ်၍ ကျေးဇူးတရားနှင့် မကည်း။
၅ ရွေ့လျော့သောသူဖြစ်ကြ၏။ ငါတို့မူကားရုံကြည်ခြင်းအားဖြင့်ကု
သိုလ်ရမည်ဟုမျှော်လင့်သောကျေးဇူးတော်ကိုဝိညာဉ်တော်အားဖြင့်
၆ ငံ့လင့်၍နေကြ၏။ ယေရှုခရစ်ထံဖ၁တ်သွင်းမင်္ဂလာခံခြင်းအကျိုးမ
ရှိ။မခံဘဲနေခြင်းလည်းအကျိုးမရှိ။မေတ္တာအားဖြင့်ပြုပြင်တတ်သောရုံ
၇ ကြည်ခြင်းသာအကျိုးရှိ၏။ အထက်ကသင်တို့သည် ကောင်းကောင်း
ပြေးတတ်၏။ သို့ဖြစ်၍ သမ္မာတရားကိုနားမထောင်စေခြင်းငှါအ
၈ ဘယ်သူကဆီးတားသနည်း။ ယခုယူသောအယူကားသင်တို့ကိုခေ
၉ သောသူ၏ဩဝါဒကိုအမှီပြု၍ယူသောအယူမဟုတ်။ အနည်းငယ်
၁၀ သောတဆေးသည်မုန့်စိမ်းတပုံလုံးကိုကြွစေတတ်၏။ သင်တို့သည်
ကွဲပြားသောအယူရှိသမျှကိုပယ်မည်ဟုသခင်ဘုရားကိုငါအမှီပြု၍
စိတ်စွဲလမ်းခြင်းရှိ၏။ သင်တို့ကိုနှောင့်ရှက်သောသူမည်သည်ကားမိမိအ
၁၁ ပြစ်ဒါဏ်ကိုခံရလိမ့်မည်။ တဖန်ထို။ညီအစ်ကိုတို့။ငါသည်ဖ၁တ်သွင်း
မင်္ဂလာတရားကိုဟောပြောသေးသည်မှန်လျှင်အဘယ်ကြောင့်ညှဉ်း
ဆဲခြင်းကိုခံရသေးသနည်း။ ထိုသို့ဟောပြောလျှင်လက်ဝါးကပ်တိုင်
၁၂ တော်ကိုထိမိ၍လဲစရာအကြောင်းပယ်ရှင်းလျက်ရှိ၏။ သင်တို့ကို
မှောက်မှားစေသောသူတို့ကိုပယ်ရှားနှင်ထုတ်စေခြင်းငှါငါအလိုရှိ
၁၃ ၏။ ။ညီအစ်ကိုတို့။သင်တို့သည် လွတ်ခြင်းအခွင့်နှင့်ခန့်
ထားသောသူဖြစ်ကြ၏။ဖ၁တိပကတိသည် အခွင့်ရအောင်ထိုလွတ်
ခြင်းကိုမသုံးကြနှင့်။ အချင်းချင်းချစ်၍ အမှုချင်းကိုဆောင်ရွက်ကြ
၁၄ လော့။ အကြောင်းမူကား။ကိုယ်နှင့်စပ်ဆိုင်သောသူကိုကိုယ်နှင့်အမျှ
ချစ်လော့ဟူသောပညတ်တပါးကိုကျင့်လျှင်တရားအားလုံးကိုကျင့်
၁၅ ရာရောက်၏။ သို့မဟုတ်။ အချင်းချင်းကိုက်စားလျှင်အချင်းချင်း
၁၆ ဖျက်ဆီးမည်စိုးရိမ်၍သတိရှိကြလော့။ ။ငါပညတ်သည်ကား။
ဝိညာဉ်ပကတိအတိုင်းကျင့်လော့။ထိုသို့ကျင့်လျှင်ဖ၁တိပကတိ၏အ
၁၇ လိုကိုမလိုက်ဘဲနေကြလိမ့်မည်။ အဘယ်ကြောင့်နည်းဟူမူကား။ဖ၁
တိပကတိ။ဝိညာဉ်ပကတိ။တပါးနှင့်တပါးဆန့်ကျင်သောအလိုရှိကြ၏။
တပါးနှင့်တပါးဆန့်ကျင်ဘက်ဖြစ်၍သင်တို့သည်ကျင့်ချင်သောအ

၁၇ ကျင့်ကိုမကျင့်နိုင်ကြ။ သို့သော်လည်းဝိညာဉ်ပကတိအလိုသို့လိုက်
၁၈ လျှောက်ပြတ်တရားနှင့်လွတ်ကြ၏။ ဇာတိပကတိအကျင့်တို့သည်ထင်
ရှားရှိ၏။ထိုအကျင့်မှုကား။ မတရားသောမေထုန်မှီဝဲခြင်း။ ညစ်ညူး
၂၀ စွာကျင့်ခြင်း။ကိလေသာလွန်ကျူးခြင်း။ ရုပ်တုကိုကိုးကွယ်ခြင်းသူတ
ပါးကိုပြုစားခြင်း။ရန်ညိုးဖွဲ့ခြင်း။ရန်တွေ့ခြင်းဂုဏ်ပြိုင်ခြင်း။အမျက်
၂၁ ထွက်ခြင်း။ညင်းခုံခြင်း။အချင်းချင်းကွဲပြားခြင်း။သင်းခွဲခြင်း။ သူအ
ကျိုးကိုသူ့ရူခြင်း။ လူအသက်ကိုသတ်ခြင်း။ ရစ်မူး သောက်ကျူး
ခြင်း၊ ပွဲလုပ်ခြင်းမှစ၍ထိုကဲ့သို့သောအကျင့်ပေတည်း။ ထိုသို့သော
အကျင့်ကိုကျင့်သောသူတို့သည်ဘုရားသခင်၏နိုင်ငံတော်ကိုအမွေ
မခံရဟုအထက်ကငါဆိုနှင့်ခဲ့ပြီးသည်အတိုင်းယခုပင်လည်းငါဆိုနှင့်၏။
၂၂ ဝိညာဉ်ပကတိအကျိုးမှုကား။ ချစ်ခြင်း။ ဝမ်းမြောက်ခြင်း။ ငြိမ်သက်
၂၃ ခြင်း။စိတ်ရှည်ခြင်း။ကျေးဇူးပြုခြင်း။ကောင်းမြတ်ခြင်း။သစ္စာရှိခြင်း။
နူးညံ့သိမ်မွေ့ခြင်း။ကာမဂုဏ်ချုပ်တည်းခြင်းပေတည်း။ထိုသို့သောအ
၂၄ ကျင့်ကိုအဘယ်တရားမျှမမြစ်တား။ ခရစ်တော်နှင့်ဆိုင်သော
သူတို့သည်ဇာတိပကတိကိုငင်သူ၏စိတ်များ။သူ၏အလိုဆန္ဒများကို
၂၅ ငင်လက်ဝါးကပ်တိုင်မှာရိုက်ထားကြပြီး။ သို့ဖြစ်၍ဝိညာဉ်ပကတိ
၂၆ ကြောင့်အသက်ရှင်လျှင်ဝိညာဉ်ပကတိအတိုင်းကျင့်ကြဖို့။ အချည်း
နှီးကျော်စောကီတ္တိကိုတပ်မက်ခြင်း။ အချင်းချင်းချုပ်ချယ်နှောင့်
ရှက်ခြင်း။အချင်းချင်းညူရူခြင်းတို့ကိုရှောင်၍နေကြဖို့။

❋❋

၁ ညီအစ်ကိုတို့။လူသည်သတိလစ်၍တစုံတခုသောဒုစရိုက်ကိုပြုမိလျှင်
မြွေဆုကျေးဇူးကိုခံရသောသူဖြစ်သောသင်တို့သည်ကိုယ်တိုင်အပြစ်
သွေးဆောင်ခြင်းမရှိရအောင်ကိုယ်ကိုကိုယ်သတိပြုလျက်သိမ်မွေ့နူး
ညံ့သောသဘောနှင့်ထိုသို့သောသူကိုမစ၍သူနေရာ၌တည်စေပြန်
၂ ကြလော့။ ထမ်းရွက်စရာဝန်ချင်းကိုအချင်းချင်းကူညီ၍ထမ်းရွက်
၃ သောအားဖြင့်ခရစ်တော်၏တရားကိုကျင့်ကြလော့။ အကြင်သူသည်
ဘာမျှမဟုတ်ဘဲလျက်ဤမျှလောက်ငါဖြစ်သည်ဟုစိတ်ထင်လျှင်ထို
၄ သူသည်ကိုယ်ကိုကိုယ်လှည့်စား၏။ လူတိုင်းကိုယ်ပြုသောအမှုကို
စစ်ကြောပါလေစေ။သို့ပြုလျှင်သူတပါး၌မဆိုဘဲကိုယ်၌သာကြွားဝါ
၅ ဝမ်းမြောက်စရာအကြောင်းရှိလိမ့်မည်။ အဘယ်ကြောင့်နည်းဟူမူ
ကား။လူအသီးအသီးတို့သည်မိမိဝန်ကိုမိမိဆောင်ရွက်ကြရမည်။

၆ ။နှုတ်ကပတ်တရားကိုသင်ခံသောသူသည်သွင်ပေးသောသူအားကော
၇ င်းသောအရာရာတို့ကိုဝေမျှပါလေစေ။ ကိုယ်ကိုကိုယ်မလှည့်စားကြ
နှင့်။ဘုရားသခင်ကိုမလှည့်စားနိုင်။ လူသည်မျိုးစေ့ကြဲသည်အတိုင်းအ
၈ သီးအနှံကိုရိတ်လိမ့်မည်။ မိမိဇာတိပကတိ၌မျိုးစေ့ကြဲသောသူသည်ဇာ
တိပကတိအားဖြင့်ပုပ်ခြင်းအသီးကိုရိတ်လိမ့်မည်။ဝိညည်ပကတိ၌မျိုး
စေ့ကြဲသောသူသည်ဝိညည်ပကတိအားဖြင့်ထာဝရအသက်ရှင်ခြင်း
၉ အသီးကိုရိတ်လိမ့်မည်။ အားမလျော့စိတ်မပျက်ဘဲကောင်းသောအ
ကျင့်ကိုကျင့်ကြစို့။ထိုသို့တည်ကြည်၍ကျင့်လျှင် ထော်လျော်သောအ
၁၀ ချိန်ရောက်သော်အသီး အနှံကိုရိတ်ကြလိမ့်မည်။ ထိုကြောင့်အဆင်
သင့်သည်အတိုင်း ရုံကြည်ခြင်း အပေါင်းအသင်းကိုသာ၍ထောက်သ
၁၁ ဖြင့်လူအားလုံးတို့၌ကျေးဇူးပြုကြစို့။ ။ဘယ်မျှလောက်ကြီး
သောစာကိုကိုယ်လက်နှင့်သင်တို့အားငါရေးထားသည့်ကိုသင်တို့
၁၂ မြင်ကြ၏။ မိမိတို့အသွေးအဆင်းတင့်တယ်စေချင်သောသူရှိသမျှတို့
သည်ခရစ်တော်၏လက်ဝါးကပ်တိုင်ကြောင့်ခံရသောညှဉ်းဆဲခြင်း
နှင့်မိမိတို့ကင်းလွတ်ရအောင်သာဇာတ်သွင်းမင်္ဂလာကိုသင်တို့ခံစေ
၁၃ ခြင်းငှါအနိုင်အထက်သွေးဆောင်ကြ၏။ဇာတ်သွင်း မင်္ဂလာခံသော
သူတို့သည်ပညတ်တရားကိုကိုယ်တိုင်မကျင့်သည်ဖြစ်၍သင်တို့အ
သွေးအဆင်းကိုအမှီပြုသဖြင့်ကြွားဝါရအောင်သာဇာတ်သွင်းမင်္ဂ
၁၄ လာကိုသင်တို့ခံစေခြင်းငှါအလိုရှိကြ၏။ငါဖြစ်လျှင်ငါတို့သခင်ယေရှု
ခရစ်၏လက်ဝါးကပ်တိုင်တော်မှတပါးအဘယ်အရာ၌ကြွားဝါခြင်း
မရှိစေသတည်း။ထိုလက်ဝါးကပ်တိုင်တော်မှာ၍လောကသည်ငါ့အား
ရိုက်ထားလျက်ရှိ၏။ငါသည်လည်း၍လောကအားရိုက်ထားလျက်ရှိ
၁၅ ၏။ အဘယ်ကြောင့်နည်းဟူမူကား။ယေရှုခရစ်ထံဇာတ်သွင်းမင်္ဂ
လာခံခြင်းအကျိုးမရှိ။မခံဘဲနေခြင်းလည်းအကျိုးမရှိ။သတ္တဝါသစ်ဖြစ်
၁၆ မှသာအကျိုးရှိ၏။ ဤနည်းဥပဒေသအတိုင်းကျင့်သောသူရှိသမျှတို့
အပေါ်၌ငြိမ်ဘုရားသခင်၏ဣသရေလအမျိုးအပေါ်၌ငြိမ်သက်
၁၇ ခြင်းနှင့်သနားတော်မူခြင်းသက်ရောက်ပါစေသော။ ယခုမှစ၍အ
ဘယ်သူမျှငါ့ကိုမနှောင့်ရှက်စေနှင့်။ငါကိုယ်၌သခင်ယေရှု၏ဒါဏ်
၁၈ ချက်ရာကိုငါဆောင်၏။ ညီအစ်ကိုတို့။ငါတို့သခင်ယေရှုခရစ်၏
ကျေးဇူးတော်သင်တို့စိတ်နှစ်လုံး၌ဖြစ်စေသတည်း။အာမင်။

။ဂလာတိဩဝါဒစာပြီး၏။

၁ ဘုရားသခင်၏ အလို တော် အား ဖြင့်ယေရှု ခရစ်၏ တမန်တော်ဖြစ်
သော ငါပေါလုကဖေက်မြို့၌ နေသောသန့်ရှင်းသူတည်းဟူသောယေရှု
၂ ခရစ်ကိုရိုကြည်သောသူတို့ကိုကြားလိုက်ပါ၏။ သခင်ယေရှုခရစ်နှင့်
ငါတို့အဖတည်းဟူသောဘုရားသခင်အထံတော်ကကျေးဇူးတော်နှင့်
၃။၄ ညိမ်သက်ခြင်း သင်တို့ အားဖြစ်ပါစေသော။ ငါတို့သည် ဘုရားသ
ခင်ရှေ့၌မေတ္တာ အားဖြင့်သန့် ရှင်းလျက် အပြစ်ကင်းလွတ် လျက်ဖြစ်
မည် အကြောင်း။ ဤကမ္ဘာ မတည် မရှိခင်ငါတို့ ကို ခရစ်တော် ၌ရွေး
ကောက်တော်မူသည်နှင့်အညီကောင်းကင်ဘုံနှင့်ဆိုင်သောအရာတို့၌
ခပ်သိမ်းသောမင်္ဂလာ တို့ကိုခရစ်တော်အားဖြင့်ငါတို့အားပေးသ
နားတော်မူသောငါတို့သခင်ယေရှုခရစ်၏ ခမည်းတော်ဘုရားသခင်
၅။၆ အားမင်္ဂလာဖြစ်စေသတည်း။ ထိုဘုရားသခင်သည် ချစ်တော်မူသော
သားတော် ကြောင့်ငါတို့ အားပေးတော် မူသော ကျေးဇူးတော်၏ဘုန်း
အသရေ ကိုချီး မွမ်းစေခြင်း ငှါငါတို့သည် ယေရှု ခရစ် အားဖြင့်သား
တော်အရာ ကိုရမည် အကြောင်း။ အလိုတော်ရှိ သော စေတနာအတိုင်း
၇။၈ ရှေ့ မဆွ ကခွဲခန့် မှတ် သား တော် မူ၏။ ခပ်သိမ်းသော သတိပညာ
တော်နှင့် လျော်စွာ ငါတို့၌အတိုင်း ထက်အလွန် များလှသောကျေးဇူး
တော်သည် ကြွယ်ဝပြည့်စုံသည် နှင့် အညီထို ချစ် တော်မူသောသား
တော်၏ အသွေး အားဖြင့် အပြစ် လွှတ်ခြင်း တည်း ဟူသော ရွေးခြင်း
၉ ကျေးဇူးကိုငါတို့သည်ခံရကြ၏။ ဘုရားသခင်သည်နှစ် လိုးသွင်းတော်
မူသောစေတနာ တော်နှင့်လျော် သောအလို တော်၏နက်နဲ သော အရာ
၁၀ ကိုငါတို့အားပြတော်မူ၏။ ထိုနက်နဲ သော အရာ ဟူမူကား။ ကာလအ
ချိန် စေ့စုံခြင်းသောသနာတွင်ခရစ်တော်သည်ကောင်းကင်ပေါ်။ မြေကြီး
၁၁ ပေါ်မှာ ရှိရှိသမျှတို့ကို ပေါင်း၍ချုပ် ချာစေတော်မူလိမ့် သတည်း။ မိ
မိစေ တနာအလို တော်သို့ လိုက်၍ အလုံး စုံတို့ကိုစီရင် ပြုပြင် တော်မူ
တတ်သော သူ၏ကြံစည်ခြင်းရှိသည် အတိုင်းရှေ့မဆွက ခွဲခန့်မှတ်သား
တော်မူသည်နှင့်အညီငါတို့ သည်ထို ခရစ်တော် အားဖြင့် အမွေခံဖြစ်

၁၂ ကြ၏။ အကြောင်းမူကား ခရစ်တော်ကိုမျှော်လင့်နှင့်သောငါတို့အား
၁၃ ဖြင့်ဘုန်းတော်ကိုချီးမွမ်းစေခြင်းအကြောင်းဖြစ်သတည်း။ သင်တို့
သည်လည်း ကယ်တင်တော်မူခြင်းအကြောင်းနှင့်ရှည်သော ဧဝံဂေလိ
တရားတည်းဟူသော သမ္မာတရားကိုကြား၍ ထိုခရစ်တော်၌ယုံ
ကြည်ပြီးမှ ဂတိတော်နှင့်ဆိုင်သောသန့်ရှင်းသောဝိညာဉ်တော်တံဆိပ်
၁၄ ခတ်ခြင်းကိုခံကြပြီ။ ပိုင်ထိုက်ရသောသူတို့သည်ဘုန်းတော်ကိုချီး
မွမ်းခြင်းအကြောင်းနှင့် ရွေးခြင်းသို့မရောက်မှီကာလပတ်လုံး ထိုဝိ
၁၅ ညာဉ်တော်သည် ငါတို့အမွေ၏စားရန်ဖြစ်တော်မူ၏။ ။ထို
ကြောင့်သင်တို့သည်သခင်ယေရှုကိုယုံကြည်သည်အရာကိုရင်သန့်ရှင်း
၁၆ သူအပေါင်းတို့ကိုချစ်ကြသည်အရာကိုရင်ငါကြားပြီးလျှင် သင်တို့
ကိုအကြောင်းပြု၍ကျေးဇူးတော်ကိုအစဉ်မပြတ် ချီးမွမ်းလျက်သင်တို့
၁၇ အဖို့အလို့ငှါ ဆုတောင်းပဌနာပြုလျက်နေ၏။ ဆုတောင်းသောအ
ချက်ဟူမူကား။ ငါတို့သခင်ယေရှုခရစ်၏ ဘုရားသခင်ဖြစ်တော်မူ
သောဘုန်းကြီးသောအဖခမည်းတော်သည်ကိုယ်တော်မြတ်ကိုသိခြင်း
အလို့ငှါပညာကိုရင်ထိုးထွင်းသောဉာဏ်ကိုရင် သင်တို့အားပေးပါ
၁၈ မည်အကြောင်း။ ခေါ်တော်မူသောကြောင့်မျှော်လင့်ရသောအရာကား
အဘယ်အရာဖြစ်သည်ကိုရင်သန့်ရှင်းသူတို့သည်ခံရသောအမွေတော်
၁၉ ၏ဘုန်းစည်းစိမ်ကား အဘယ်မျှလောက်ကြီးသည် ကိုရင် ယုံကြည်
သောငါတို့၌ပြုတော်မူသောအလွန်ကြီးလှသောတန်ခိုးတော်ကားအ
ဘယ်မျှလောက်ကြီးသည်ကိုရင်သင်တို့သည် သိရအောင် သင်တို့၏
၂၀ ဉာဏ်မျက်စိကိုလင်းစေပါမည်အကြောင်း။ဆုတောင်းပဌနာပြု၏။
ထိုတန်ခိုးတော်ကားခရစ်တော်ကိုသေခြင်းမှထမြောက်စေတော်မူ၍
ခရစ်တော်၌ ပြုပြင်သော မဟာတန်ခိုးအာနုဘော်အရှိန်ကဲ့သို့ဖြစ်
၂၁ ၏။ ခပ်သိမ်းသော အထွဋ်အမြတ်။ အာဏာစက်။ တန်ခိုး။ အစိုးရ
ခြင်းမှစ၍ ယခုဘဝနှောင်ဘဝ၌ ခေါ်ဝေါ်သမုတ်အပ်သော ဘွဲ့နာမအ
လုံးစုံတို့အထက်ကောင်းကင်အရပ်၌မိမိလက်ျာတော်ဘက်မှာအလွန်
၂၂ မြင့်မြတ်သောနေရာကိုခရစ်တော်အားပေးတော်မူ၍ ခြေဖဝါးတော်
အောက်သို့အလုံးစုံတို့ကိုချထားသဖြင့်အသင်းတော်အဖို့အလို့ငှါသူ
၂၃ ကိုအလုံးစုံတို့၏အချုပ်အချာဥက္ကဌဖြစ်စေတော်မူ၏။ ထိုအ
သင်းတော်ကားအားလုံးတို့ကိုအလုံးစုံတို့နှင့်ပြည့်စုံစေတော်မူသော
သူ၏ပြည့်စုံခြင်းတည်းဟူသောခရစ်တော်၏ကိုယ်ဖြစ်သတည်း။



၁။၂ သင်တို့သည် အထက်ကလောကီတရားသို့လိုက်၍ အာကာသကောင်း
ကင်၏တန်ခိုးကိုရှင်ညှင်းဆဲသောသူတို့၌ပြုပြင်သောစိတ်သဘော
ကိုရှင်အစိုးရသောမင်း၏အလိုနှင့်အညီဒုစရိုက်အပြစ်တို့၌ကျင်လည်
ကြ၍ထိုဒုစရိုက်အပြစ်၌သေလျက်ရှိနေသောသင်တို့ကိုပင်ဘုရားသ
၃ ခင်သည်အသက်ရှင်စေတော်မူပြီ။ ထိုညှင်းဆဲသောသူတို့နှင့်တ
ကွငါတို့အားလုံးသည်အထက်ကကိုယ်ကာယအလိုသို့ရှင်စိတ်၏အလို
သို့ရှင်လိုက်သဖြင့်ကာမဂုဏ်တို့၌ကျင်လည်သည်ဖြစ်၍ အချားသော
သူတို့ကဲ့သို့ပင်ပကတိအတိုင်းအမျက်တော်ကိုခံရသောသူဖြစ်ကြ
၄ ၏။ သို့သော်လည်းကရုဏာတော်နှင့်ကြွယ်ဝတော်မူသောဘုရားသ
၅ ခင်သည်ငါတို့ကိုချစ်တော်မူသောမဟာမေတ္တာတော်အားဖြင့် ဒုစ
ရိုက်အပြစ်၌သေလျက်ရှိနေသောငါတို့ကိုခရစ်တော်နှင့်အတူအသက်
ရှင်စေတော်မူပြီ။ ကျေးဇူးတော်ကြောင့်သာကယ်တင်ခြင်းသို့
၆ ရောက်သတည်း။ ယေရှုခရစ်အားဖြင့်ငါတို့ကိုထမြောက်စေ၍
၇ ကောင်းကင်အရပ်၌နေရာပေးတော်မူပြီ။ အကြောင်းမူကား ထိုသ
ခင်အားဖြင့်ငါတို့၌ကျေးဇူးပြု၍ကျေးဇူးတော်၏အလွန်ကြွယ်ဝခြင်း
ကိုနောက်ကပ်ကာလတို့၌ထင်ရှားစေမည်အကြောင်းဖြစ်သတည်း။
၈ ကျေးဇူးတော်ကြောင့်ယုံကြည်သောအားဖြင့်ကယ်တင်ခြင်းသို့ရောက်
ရ၏။ ကိုယ်အလိုအလျောက်ရောက်သည်မဟုတ်။ ဘုရားသခင်သနား
၉ တော်မူရာဖြစ်သတည်း။ ကိုယ်ကျင့်သိလ်ကြောင့်ကယ်တင်တော်မူ
ခြင်းသို့ရောက်သည်မဟုတ်။ သို့ဖြစ်၍ အဘယ်သူမျှကြွားဝါစရာအ
၁၀ ကြောင်းမရှိ။ အဘယ်ကြောင်နည်းဟူမူကား။ ကောင်းသောအကျင့်
ကိုကျင့်အံ့သောငှါငါတို့သည် ယေရှုခရစ်၌ပြုပြင်သောအားဖြင့်ဖန်
ဆင်းတော်မူရာဖြစ်ကြ၏။ ထိုကောင်းသောအကျင့်တို့၌ငါတို့ကျင်
လည်စေမည်အကြောင်း။ ဘုရားသခင်သည် ငါတို့ကိုပြင်ဆင်တော်မူ
၁၁ နှင့်ပြီ။ ။ ထိုကြောင့်လက်ဖြင့်ကိုယ်ကာယ၌ပြုသောဝေဟာရ
ဇာတ်သွင်းမင်္ဂလာကိုခံသောသူတို့ခေါ်ဝေါ်သမုတ်သောအားဖြင့်အ
ဇာတိသူဟူ၍ခေါ်ဝေါ်ကြသောသာသနာပလူတို့အထဲ၌သင်တို့သည်
၁၂ အထက်ကပကတိအတိုင်းဖြစ်ကြသည်ကိုရှင် ထိုအခါသင်တို့သည်ခ
ရစ်တော်ကိုမသိ။ ဣသရေလအပေါင်းအသင်းမဝင်။ ဂတိတော်ပါသော
ဝန်ခံခြင်းဟာရားတို့နှင့်မဆိုင်။ မျှော်လင့်ခြင်းမရှိ။ လောက၌ဘုရားမဲ့

၁၃ နေကြသည်ကိုဝင်အောင်းမေ့ကြလော့။ သင်တို့သည်အထက်ကကွာ
ဝေးလျက်ရှိသော်လည်းယခုမှာယေရှုခရစ်တပည့်တော်ဖြစ်၍အ
၁၄ သွေးတော်အားဖြင့်အနီးသို့ရောက်ကြပြီ။ အဘယ်ကြောင့်နည်းဟူ
၁၅ မူကား။ထိုသခင်သည်ငါတို့၏ရန်ညှိမ်းရာဖြစ်တော်မူ၏။ဝိနည်းအ
ထုံးအဖွဲ့နှင့်စပ်ဆိုင်သောပညတ်တရားတည်းဟူသောရန်ညိုးဖွဲ့ခြင်း
၏အကြောင်းကိုကိုယ်ခန္ဓာတော်တွင်ပယ်ရှားတော်မူသဖြင့်ပိုင်း
ချားလျက်ရှိသောစပ်ကြားအုတ်ထရံကိုဖြိုဖျက်၍လူမျိုးနှစ်ရပ်တို့ကိုတ
ရပ်တည်းဖြစ်စေတော်မူ၏။အကြောင်းမူကားရန်ကိုညှိမ်းစေပြီးလျှင်
၁၆ ကိုယ်တော်၌ထိုလူနှစ်ရပ်တို့ကိုလူသစ်တဦးတကိုယ်တည်းဖြစ်အောင်
ပြင်ဆင်၍တလုံးတကိုယ်တည်းဖြစ်ပြီးသောထိုလူနှစ်ရပ်တို့ကိုလက်
ဝါးကပ်တိုင်တော်အားဖြင့်ရန်ကိုသတ်ဖြတ်လျက်ဘုရားသခင်နှင့်မိ
၁၇ သဟာယဖွဲ့စေမည်အကြောင်းတည်း။ ထိုခရစ်တော်သည်လည်း
ကြွလာ၍ဝေးလျက်ရှိသောသင်တို့အားငြိမ်းလျက်ရှိသောငါတို့အား
ငြိမ်ရန်ညှိမ်းခြင်းတရားတည်းဟူသောဧဝံဂေလိတရားကိုဟော
၁၈ တော်မူ၏။ ထိုသို့ခရစ်တော်အားဖြင့်ငါတို့နှစ်ဦးစလုံးသည်ဝိညာဉ်
ဉာဉ်တလုံးတခုတည်းဖြစ်၍ခမည်းတော်ထံသို့တိုးဝင်ရမည်အခွင့်
၁၉ ကိုရကြပြီ။ ထိုကြောင့်သင်တို့သည်တကျွန်းတနိုင်ငံသားမဟုတ်။
ဧည့်သည်လည်းမဟုတ်။သန့်ရှင်းသူတို့၏အမျိုးသားချင်းဖြစ်၍ဘု
၂၀ ရားသခင်၏ကျောင်းတော်နှင့်ဆိုင်ကြ၏။ အဘယ်သို့နည်းဟူမူ
ကား။တမန်တော်တို့မှစ၍ပရောဖက်ဆရာများတည်းဟူသောတိုက်
မြစ်အပေါ်၌သင်တို့သည်ထပ်ဆင့်၍တည်ဆောက်လျက်ရှိကြ၏။
၂၁ ထိုတိုက်ထောင့်အမြစ်ကျောက်သည်ကားယေရှုခရစ်ပင်ဖြစ်သ
တည်း။ထိုကျောက်နှင့်တတိုက်လုံးသည်စေ့စပ်၍ကြီးပွားသဖြင့်သ
၂၂ ခင်ဘုရားအလို့ငှါသန့်ရှင်းသောကျောင်းတော်ဖြစ်လေ၏။ ထိုကျော
င်းတော်၌လည်းဘုရားသခင်သည်ဝိညာဉ်တော်အားဖြင့်ကျိန်းဝပ်
တော်မူခြင်းအလို့ငှါသင်တို့သည်ငါတို့နှင့်အတူတည်ဆောက်လျက်ရှိ
ကြ၏။

✻✻

၁ ထိုအကြောင်းကြောင့်ငါပေါလုသည်ယေရှုခရစ်နှင့်စပ်ဆိုင်သော
၂ အားဖြင့်အကျဉ်းခံရ၏။ သင်တို့အဖို့အလို့ငှါငါ့အားအပ်ပေး
သောဘုရားသခင်၏ကျေးဇူးသာသနာကိုသင်တို့ကြားသိရသည်

၃ နှင့်အညီတပါးမျိုးဖြစ်သောသင်တို့အတွက်ငါခံရ၏။ ကျေးဇူးသာ
သနာကိုအပ်ပေးသည် အကြောင်းဟူမူကား။ငါသည်အထက်ကနည်း
နည်း ရေး ထားသည် အတိုင်း ဘုရား သခင် သည် ဗျာဒိတ်တော်အား
၄ ဖြင့် နက်နဲ သောအရာ ကိုငါအားပြတော်မူ၏။ ထိုစာ ကို ဖတ်ရွတ်
လျှင်ခရစ် တော်၏နက် နဲ သောအရာ ၌ ငါထွေကျက် သည် ကိုသင်တို့
၅ သည် သိရကြ၏။ ထိုနက် နဲ သောအရာသည် သန့်ရှင်း သောတမန်
တော်တို့မှစ၍ ပရောဖက် ဆရာ တို့အား ဝိညာဉ် တော်အား ဖြင့်ယခု
ဖွင့်လှစ်သည်နည်းတူ။အခြား သောကာလအခါတို့ ၌ လူမျိုး တို့အားမ
၆ ထင်ရှား ပြီ။ ထိုနက်နဲ သောအရာဟူမူကား။တပါး အမျိုးသား တို့
သည် ဧဝံဂေလိတရား အား ဖြင့်ယုဒအမျိုးသား တို့ နှင့်အတူအမွေခံ၍
တလုံး တဝတ ကိုယ် တည်း ဖြစ် လျက် ခရစ် တော်နှင့် ဆိုင် သောဂတိ
၇ တော်၌ဆက်ဆံရကြသတည်း။ တန်ခိုး အာနုဘော်တော်ပြုပြင်သော
အားဖြင့်ငါအားပေးသနားတော်မူသော်ဘုရားသခင်၏ကျေးဇူးတော်
ကိုခံရသည်နှင့်အညီထိုတရားကိုဟောပြောသောဆရာအဖြစ်သို့ငါ
၈။၉ ရောက်ရပြီ။ စစ်၍မကုန်နိုင်သောခရစ်တော်၏ကြွယ်ဝပြည့်စုံခြင်း
၏ဧဝံဂေလိတရား ကိုတပါးအမျိုးသားတို့အားဟောပြောခြင်းငှါလည်
အလုံး စုံတို့ ကို ဖန် ဆင်းတော် မူသောဘုရားသခင် ၌ ရှေးကပ်ကာလ
ပတ်လုံး ဖွက်ထား လျက် ရှိသောထိုနက်နဲ သောအရာနှင့်စပ်ဆိုင်သော
သာသနာသည် အဘယ်သို့ဖြစ်သည် ကိုလူအပေါင်း တို့အားထင်ရှား
စေခြင်း ငှါ၎င်သန့်ရှင်းသူအားလုံးတို့တွင်အငယ်ဆုံးဖြစ်သောငါအား
၁၀ ထိုကျေး ဇူးတော်ကိုပေး တော်မူပြီ။ အကြောင်း မူကားငါတို့သခင်
၁၁ ယေရှုခရစ် ကို အကြောင်း ပြု၍ ထာဝရအကြံတော် ရှိသည် နှင့် အညီ
ကောင်းကင် အရပ်တို့ ၌ အထွန်းအမြတ် အာဏာ စက် တို့သည် ဘုရား
သခင် ၏ထူး ဆန်း သော ပညာ တော်ကို အသင်း တော်အား ဖြင့်ယခု
၁၂ သိရကြမည်အကြောင်းတည်း။ ထိုသခင်ကိုယုံကြည်ခြင်းအားဖြင့်ငါ
တို့သည်ရဲရင့်သောစိတ်နှင့်တိုးဝင်တောင်းလျှောက်ရမည်အခွင့်ကိုရ
၁၃ ကြပြီ။ ။ထိုကြောင့်သင်တို့၏အသရေဖြစ်သောသင်တို့
အတွက် ငါခံရသော ဆင်းရဲခြင်း ကို မြင်လျှင်သင် တို့စိတ် ကို မငြိုမ
၁၄ လျော့စေတည် စေချင်ပါ၏။ ထိုသို့တည် စေခြင်း ငှါကောင်းကင် ပေါ်
၁၅ မြေကြီး ပေါ်မှာရှိသော တအိမ် ထောင် တည်း ဟူသော သား တော်အ
ပေါင်းတို့၏အချုပ်အချာဖြစ်တော်မူသောငါတို့သခင် ယေရှုခရစ်၏

ခမည်းတော်ရှေ့မှာငါသည်ဒူးထောက်၍တောင်းလျှောက်လေ့ရှိ၏။
၁၆ တောင်းလျှောက်သောအချက်ဟူမူကား။ဝိညာဉ်တော်အားဖြင့်သင်
၁၇ တို့အတွင်းလူကိုခွန်အားနှင့်မြဲမြံခိုင်ခံ့စေခြင်းငှါရင် ယုံကြည်ခြင်း
အားဖြင့်ခရစ်တော်သည်သင်တို့စိတ်နှစ်လုံးထဲ၌ကျိန်းဝပ်တော်မူ
ခြင်းငှါရင် ဘုန်းတော်ကြွယ်ဝပြည့်စုံခြင်းနှင့်ညီ လျော်စွာသင်တို့
အားပေးသနားတော်မူမည်အကြောင်း။မေတ္တာ၌စိုက်ပျိုးခြင်း။တိုက်
၁၈ မြစ်လည်းကျတည်ခြင်းရှိသဖြင့် သင်တို့သည်သန့်ရှင်းသူအပေါင်း
တို့နည်းတူ။အနံ့အလျားအောက်အနက်တို့ကိုပိုင်းချားသိခြင်းငှါရင်
၁၉ မိမိဥာဏ်အားဖြင့်မသိနိုင်သောခရစ်တော်၏မေတ္တာတော်ကိုသိ
နားလည်ခြင်းငှါရင်သင်တို့သည်တတ်စွမ်းနိုင်မည်အကြောင်း။ဘုရား
သခင်၏ပြည့်စုံတော်မူခြင်းအားလုံးနှင့်သင်တို့ပြည့်စုံပါမည်အ
၂၀ ကြောင်း။ငါတောင်းလျှောက်လေ့ရှိ၏။ ငါတို့၌ပြုပြင်သောတန်ခိုး
တော်အတိုင်းငါတို့တောင်းလျှောက်ကြံစည်သမျှထက်အလွန်လွန်ချား
၂၁ အောင်ပြုခြင်းငှါတတ်နိုင်တော်မူသောသူသည် အသင်းတော်၌ယေ
ရှုခရစ်အားဖြင့်ကမ္ဘာအဆက်ဆက်ဘုန်းကြီးတော်မူစေသတည်း။
အာမင်။

❋❋

၁ သင်တို့သည်ခေါ်တော်မူသောကျေးဇူးတော်ကိုခံရသည်နှင့်အထိုက်
အလျောက်ကျင့်ဆောင်မည်အကြောင်း။သခင်ဘုရားနှင့်စပ်ဆိုင်
သောအားဖြင့်အကျဉ်းခံရသောငါသည်သင်တို့ကိုတိုက်တွန်းနှိုး
၂ ဆော်ပါ၏။ အရာရာ၌စိတ်နှိမ့်ချခြင်း။နူးညံ့သိမ်မွေ့ခြင်း။စိတ်
ရှည်ခြင်းနှင့်ပြည့်စုံသဖြင့်မေတ္တာစိတ်နှင့်တယောက်ကိုတယောက်
၃ သည်းခံခြင်းရှိကြ၍ အသင့်အတင့်ပေါင်းဖော်ခြင်းအဖွဲ့အစည်းအား
ဖြင့်သင်တို့အချင်းချင်းစိတ်သဘောမချားမနားတလုံးတဝတည်း
၄ ဖြစ်ရအောင်ကြိုးစားအားထုတ်ကြလော့။ သင်တို့ကိုခေါ်တော်မူ
ခြင်းနှင့်စပ်ဆိုင်သောမျှော်လင့်ခြင်းတပါးထဲသို့ခေါ်သွင်းတော်မူ
၅ သည်နှင့်အညီကိုယ်တကိုယ်။ဝိညာဉ်တဝိညာဉ်တည်းရှိ၏။ သခင်
၆ တပါး။ယုံကြည်ခြင်းတပါး။ရေနှစ်မင်္ဂလာတပါး။ ခပ်သိမ်းသောငါတို့
၏အဖဖြစ်သောဘုရားသခင်တဆူတည်းရှိတော်မူ၏။ ထိုဘုရားသ
ခင်သည်ခပ်သိမ်းသောငါတို့၏အပေါ်မှာရှိတော်မူ၏။ခပ်သိမ်းသော
ငါတို့ကိုနှံ့ပြားတော်မူ၏။ခပ်သိမ်းသောငါတို့၏အထဲ၌လည်းရှိတော်

၇ မူ၏။ ဘို့သော်လည်း ခရစ်တော်သည် ဆုပေးတော်မူသည့် အတိုင်း
၈ အသီးအသီးငါတို့ကိုယ်စီကျေးဇူးတော်ကိုခံရကြပြီ။ ထိုသို့နှင့်အညီ
ကျမ်းစွ္ဓလာ သည်ကား။ မြင့်ရာ အရပ် သို့ တက် ကြွတော်မူသဖြင့်ဖမ်း
သွားတတ်သောသူတို့ကိုဖမ်းသွား တော်မူ၍လူတို့အား ဆုလပ်များကို
၉ ပေးတော်မူပြီးဟုလာ၏။ တက်ကြွတော်မူသည်ဟုဆိုသော်အစစွာ
မြေကြီး အောက် အရပ် သို့ဆင်း သက်တော်မူ ကြောင်း ကို ရည် ၍ ဆို
၁၀ သည် မဟုတ်လော။ ဆင်း သက် တော်မူသော သူသည် အချား သူမ
ဟုတ်။အလုံးစုံတို့ကိုပြည့် စုံစေခြင်း ဌါ ခပ် သိမ်းသောကောင်းကင်တို့
၏အထွဋ်ကိုလွန်၍တက်ကြွတော်မူသောသူဖြစ်ပေသတည်း။
၁၁ ။ခရစ်တော်၏ကိုယ်တော်ကိုတည်ဆောက်ခြင်းဌါဆရာ၏အ
၁၂ မှုကိုပြုတတ်ရအောင်သန့်ရှင်းသူတို့ကိုပြင်ဆင်မည် အကြောင်း။ထို
သခင်သည်လူအချို့တို့ကိုတမန်တော်အရာစွ္ဓရင်အချို့တို့ကိုပရောဖက်
အရာစွ္ဓရင်အချို့တို့ကိုသာသနာပြုအရာစွ္ဓရင်အချို့တို့ကိုသင်းအုပ်အ
၁၃ ရာ။ဆရာအရာစွ္ဓရင်ခန့်ထားတော်မူ၏။ ငါတို့အားလုံးသည်ယုံကြည်
ခြင်းသို့ရင်ဘုရားသခင်၏သားတော်ကိုသိကျွမ်းခြင်း သို့ရင်တညီတ
ညွတ် တည်းရောက် ၍ ခရစ်တော်၏ပြည့်စုံသောအရပ်တော်ပမာဏ
နှင့်အညီကြီးရင့်သောလူ ၏ အဖြစ် သို့ ရောက်ကြသည် တိုင် အောင်
၁၄ ဖြစ်သတည်း။ အကြောင်းမူကားသူတပါးတို့သည်လူပရိယာယ်နှင့်
အပြစ် သွေးဆောင် ခြင်း ဌါလှည့်ဖျား ပြောဆိုသဖြင့် ငါတို့သည် နော
က်တဖန်ခပ်သိမ်းသောဩဝါဒလေတိုက် ၍ ဖရိုဖရဲလွင့်သွားသောသူ
၁၅ ငယ်မဖြစ် ဘဲလျက် မေတ္တာစိတ်နှင့် သမ္မာတရားကို ဟောပြောသ
ဖြင့်ဦးခေါင်းတည်းဟူသော ခရစ်တော်မှာအရာရာတို့ စွ္ဓ ကြီးပွား
၁၆ ကြမည်အကြောင်းတည်း။ ထိုဦးခေါင်းမှအဆစ်အပိုင်းများတို့သည်
အားဖြည့်သဖြင့်တကိုယ်လုံးသည် စေ့စပ်ထုံးဖွဲ့လျက်အသီးအသီးအ
င်္ဂါများကိုယ်ငန်း ကိုယ်တာအတိုင်း ပြုပြင်သည်နှင့်အညီမိမိကိုယ်ကို
မေတ္တာစွ္ဓတည်ဆောက်ခြင်းဌါကိုယ်ကိုကြီးပွားစေ၏။ ။
၁၇ ထိုကြောင့် တပါး အမျိုးသားအချား တို့သည် လျှပ်ပေါ် သောစိတ်နှင့်
ကျင့်သည်နည်းတူသင် တို့သည် နောက်တဖန်မကျင့်မည်အကြောင်း။
၁၈ ငါသည် သခင်ဘုရားကဆင့် ဆို ၍ မှာလိုက်ပေ၏။ ထိုသူတို့သည်
ဉာဏ်အလင်း ကွယ်သည် ဖြစ်၍နှစ် လုံး မိုက်မဲသောအားဖြင့် မော
ဟာဖုံး လွှမ်း သော့ကြောင့် ဘုရား သခင် ၏ အသက် နှင့် ကွာ ရှင်း လျက်

၁၉ ဖြစ်ကြ၏။ ထိုသူတို့သည်စိတ်ကြင်နာခြင်းမရှိ။တပ်မက်ခြင်းအလွန်
ပြင်းသည် နှင့်ညစ်ညူးသောအကျင့်အမျိုးမျိုး ကို ကျိုးစား၍ကျင့်ရ
၂၀ အောင်မိမိတို့ကိုကိလေသာလက် သို့အပ်လိုက် ကြ၏။ ထိုသို့သောအ
၂၁ တတ် ကို သင်တို့သည် ခရစ်တော်ထံသင် ကြပြီး မဟုတ်။ သင်တို့မူ
၂၂ ကားအထက်ကကျင်လည်ကြသည်အရာမှာလှည့်စားတတ်သောလော
၂၃ ဘစိတ် တို့ဖြင့် ပုပ် စပ် သောလူဟောင်း ကိုချွတ်ပယ်၍စိတ်နှစ်လုံးသ
၂၄ ဘောသစ်ကိုရသည်ဖြစ်၍မှန် သောဖြောင့်မတ်ခြင်း။သန့်ရှင်း ခြင်း
ပါရမီအားဖြင့်ဘုရားသခင်၏အတူအမျှဖန်ဆင်းသောလူသစ်ကိုယူ
တင်ဝတ်ဆောင်မည် အကြောင်း။ ခရစ် တော်၏စကားကိုကြားနာရ
သည်ဖြစ်၍ယေရှု၌သမ္မာတရားရှိသည်နှင့် အညီသင် တို့သည်ထိုသ
ခင်ထံနည်းခံကြပြီးသတည်း။

❋❋

၂၅ ထိုကြောင့်မုသာစကားကိုပယ်ရှား၍မှန် သောစကားကိုသာအချင်း
ချင်းအားလုံးပြောကြလော့။အကြောင်းမူကား။ငါတို့သည်အချင်း ချင်း
၂၆ အင်္ဂါချင်းဖြစ်ကြ၏။ အမျက်ထွက် သောအား ဖြင့် အပြစ်မရှိစေနှင့်။
၂၇ အမျက်မပြေဘဲနေမဝင်စေနှင့်။ မာရ်နတ်ကိုအခွင့်မပေးကြနှင့်။ ခိုး
၂၈ တတ်သောသူသည် နောက်တဖန်မခိုး ဘဲနေ ၍ ဆင်းရဲသောသူအား
ပေးကမ်းဝေဌရန်ရှိရအောင်မိမိလက်နှင့်ကောင်း သောအလုပ်ကိုလုပ်
၂၉ ဆောင်အားထုတ်ပါလေစေ။ ညစ်ညူးသောစကားတခွန်းကိုမျှသင်
တို့နှုတ်ထဲမှမထွက် စေနှင့်။ ကြားနာသောသူတို့၌အကျိုး ရှိရအောင်
တည် ဆောက်စရာဖို့ကောင်းမွန်သောစကားကိုသုံးဆောင်ကြလော့။
၃၀ ရွေးနှုတ်ခြင်းနေ့ရက် တိုင်အောင်သင်တို့ကိုတံဆိပ်ခတ်တော်မူသော
ဘုရားသခင်၏သန့်ရှင်းသောဝိညာဉ် တော်ဝမ်းနည်း အောင် မပြုကြ
၃၁ နှင့်။ စိတ်တိုခြင်း။စိတ်ဆိုးခြင်း။အမျက်ထွက်ခြင်း။အော်ဟစ်ဝေါက်
ဝေါခြင်း။သူ့အသရေပျက် အောင်ပြောဆိုခြင်း တို့ကိုငှင်သူ့အကျိုး ကို
၃၂ မနာလိုသောစိတ်ကို၎င်သင်တို့မှစင်စင်ပယ်ရှားကြလော့။ အချင်းချင်း
ကျေး ဇူး ပြုခြင်း။သနား စုံမက် ခြင်း။ဘုရား သခင်သည်ခရစ်တော်
ကြောင့်သင် တို့၏အပြစ်ကိုလွှတ်တော်မူသကဲ့သို့အချင်း ချင်းအပြစ်
၁ လွှတ်ခြင်းရှိကြလော့။ ထိုသို့သင်တို့သည်ဘုရားသခင်၏ ချစ်သား
ဖြစ်ကြသည်နှင့် အညီ ဘုရားသခင် ကျင့်တော်မူသည် နည်းတူကျင့်
၂ ကြလော့။ ခရစ်တော်သည်ငါတို့ကိုချစ်တော်မူသောအားဖြင့်ဘုရား

သခင် ရှေ့တော်၌ မွှေးကြိုင် စွာအနံ့ရှိအောင်မိမိကိုပူဇော်သကာဖြင့်
ဝှင် ယဇ်ဖြင့် ဝှင် ငါတို့အတွက် မိမိစွန့် တော်မူသည် နည်းတူသင်တို့
၃ သည်မေတ္တာတရား၌ကျင်လည်ကြလော့။ ။မတရားသော
မေထုန်၌ မှိဝဲခြင်း။ အမျိုးမျိုး သောကိလေသာညစ် ညူး ခြင်း။ လောဘ
လွန်ကျူးခြင်းအမှုတို့ကိုသန့်ရှင်းသူတို့သည်ရှောင်သင့်သည်အတိုင်း
၄ စကားဖြင့်မျှမဆက်ဆံကြနှင့်။ မတော်လျော်သောညစ်ညူးပျက်ရယ်
ပျက်ပြယ် သောစကား များကိုလည်း ပယ်၍ ကျေးဇူးတော်ကိုချီးမွမ်
၅ သောစကားကိုသာ၍သုံး ကြလော့။ မတရားသောမေထုန်၌မှိဝဲသော
သူ။ညစ်ညူးစွာပြုသောသူ။ရုပ်တုကိုကိုးကွယ်သောသူနှင့်တူသော
လောဘလွန်ကျူးသောသူတရံတယောက် မျှခရစ် တော်ဘုရားသခင်
၆ ၏နိုင်ငံ၌အမွေမခံရသည်ကိုသင်တို့သိကြ၏။ လျှပ်ပေါ်သောစကား
ဖြင့်အဘယ်သူမျှသင်တို့ကိုမလှည့်ဖြားစေနှင့်။ထိုအမှုကြောင့်ဘုရား
သခင်၏အမျက်တော်သည်ညွင်းဆန်သောသူကိုအပေါ်၌သင့်ရောက်
၇။၈ ပေ၏။ ထိုကြောင့်သူတို့နှင့်ဆက်ဆံ၍မကျင့်ကြနှင့်။ အထက်ကာလ
၌သင်တို့သည် မှောင်မိုက်အတိဖြစ်ကြ၏။ ယခုမူကား သခင်ဘုရား၌
၉ အလင်းဖြစ်ကြ၏။သို့ဖြစ်၍အလင်း ၏သားကဲ့သို့ကျင့်နေကြလော့။
အလင်းတော်၏ အကျိုး မူကားအလုံးစုံသောကောင်း မွန်ခြင်း။ဖြောင့်
၁၀ မတ် ခြင်း။ သစ္စာ စောင့်ခြင်း ဖြစ်သ တည်း။ သခင်ဘုရားနှစ်သက်
တော် မူသော အရာ အဘယ် အရာ ဖြစ်သည် ကိုလေ့ကျက် ခြင်းရှိကြ
၁၁ လော့။ အကျိုးမဲ့သောမှောင်မိုက် အမှုတို့နှင့် မဆက်ဆံသည်သာမက
၁၂ ထိုအမှုတို့ထို အပြစ် တင်ကြလော့။ အကြောင်း မူကား။ သူတို့ သည်
ဆိတ်ကွယ် ရာ ၌ပြု သောအမှုအရာတို့ကို စကား ပြောကာမျှ၌အညစ်
၁၃ အညူးပါသေး၏။ အပြစ်တင် ဖွယ်သောအရာရှိသမျှတို့ သည်အလင်း
ဖြင့်ထင်ရှားခြင်း ရှိကြ၏။ ထင်ရှား စေတတ်သောအရာရှိသမျှသည်
၁၄ လည်းအလင်းဖြစ်၏။ ထိုကြောင့် အိပ်ပျော် သောသူ။ နိုးလော့။ သေ
ခြင်း မှထမြောက်လော့။သို့ပြု၍ခရစ်တော်သည် သင်အား အလင်းကို
၁၅ ထွန်းတော်မူမည်ဟုဆိုသတည်း။ ။ထိုကြောင့်ပညာမဲ့ကဲ့
သို့မဟုတ်။ပညာရှိကဲ့သို့စေ့စေ့မြဲမြဲကျင့် ဆောင်မည် အကြောင်း။
၁၆ သတိပြုကြလော့။ ယခုနေ့ရက်ကာလတို့သည်ဆိုးယုတ်သော့ကြောင့်
၁၇ အချိန်ကာလကိုရွေးနှုတ်ဆယ် ယူကြလော့။ ထိုကြောင့်သတိမဲ့သော
သူမဖြစ်သဖြင့်သခင်ဘုရား၏အလိုတော်ရှိရာကိုပိုင်း ချားသိသော

၁၈ သူဖြစ်ကြလော့။ လွန်ကျူး စေတတ်သောစပျစ်ရည် နှင့်ရစ်မူးခြင်း
၁၉ ကိုရှောင်သဖြင့်ဝိညာဉ်တော်နှင့် ပြည့်စုံလျက်ရှိကြလော့။ ဆာလံသီ
ချင်း မှစသောဓမ္မသီချင်း အမျိုးမျိုး တို့ကို အချင်း ချင်း ပြော ဆိုဖတ်
ရွတ်၍နူးညွတ်သောစိတ်နှစ်လုံးနှင့်သခင်ဘုရားရှေ့ကျူးဧျှသီချင်း
၂၀ ဆိုကြလော့။ ငါတို့သခင်ယေရှုခရစ်၏နာမတော်ကိုအမှီပြုသဖြင့်ခ
မည်းတော်ဘုရားသခင်ရှေ့အရာရာ၌ ကျေးဇူးတော်ကိုကာလအစဉ်
ချီးမွမ်း၍ဈေ့ာက်ကြလော့။

**

၂၁ ခရစ်တော်ကိုခန့်ညားသောအားဖြင့်အချင်းချင်းတယောက်အောက်
၂၂ တယောက်နှိမ့်ချလျက်နေကြလော့။ အချင်းမိန်းမတို့။သခင်ဘုရားအုပ်
စိုးတော်မူခြင်းကိုဝန်ခံသကဲ့သို့ကိုယ်ခင်ပွန်း အုပ်စိုးခြင်းကိုဝန်ခံကြ
၂၃ လော့။ အကြောင်း မူကား။ ခရစ်တော်သည် အသင်း တော်၏အပေါ်
မှာခေါင်းဖြစ် တော်မူသကဲ့သို့ယောကျ်ားသည် မိမိခင်ပွန်း၏အပေါ်
မှာခေါင်းဖြစ်၏။ခရစ်တော်သည်လည်းမိမိကိုယ် ကိုကယ်တင်သော
၂၄ သူဖြစ်တော်မူ၏။ အသင်းတော်သည်ခရစ်တော်အုပ်စိုးတော်မူခြင်း
ကိုဝန်ခံသကဲ့သို့မိန်းမတို့လည်းကိုယ်ခင်ပွန်းအုပ်စိုးခြင်း ကိုအရာရာ၌
၂၅ ခံရမည်။ အချင်း ယောကျ်ား တို့။ခရစ် တော်သည် အသင်းတော်ကို
ချစ်တော်မူသကဲ့သို့သင်တို့လည်း ကိုယ် ခင်ပွန်း ကိုချစ်ကြလော့။
၂၆ ထိုအသင်းတော်သည်သန့်ရှင်းလျက်အပြစ်ကင်းလျက် ရှိသည်ဖြစ်၍
၂၇ အညစ်အကြေးတင်ခြင်း။အရေတွန့် ခြင်းမှစသည်တို့နှင့်လွတ်လပ်သ
ဖြင့်အသရေတင့်တယ်လျက် ရှိသောအသင်းတော်ကိုခရစ်တော်သည်
မိမိအား ဆက် သလိုသော ဌါနှုတ်ကပတ်တော်အား ဖြင့် ရေချိုး ရာ၌
ဆေးကြောသန့်ရှင်းစေမည်အကြောင်း။ထိုအသင်းတော်အဖို့အလို ဌါ
၂၈ ကိုယ် ကိုကိုယ်စွန့် တော်မူ၏။ ထိုနည်း တူ။ယောကျ်ားတို့သည်မိမိ
ကိုယ်ကိုချစ်သကဲ့သို့မိမိခင်ပွန်းကိုချစ်အပ်၏။ခင်ပွန်းကိုချစ်သော
၂၉ သူသည်ကိုယ်ကိုချစ်သော သူဖြစ်၏။ ကိုယ်အသားကိုမုန်းသော သူတ
ယောက်မျှမရှိပြီ။သခင်ဘုရားသည်အသင်းတော်ကိုကျွေး မွေး ပြုစု
တော်မူသကဲ့သို့လူတိုင်းသည်ကိုယ်အသားကိုကျွေး မွေးပြုစုတတ်၏။
၃၀ အကယ်၍ငါတို့သည်သခင်ဘုရား၏အသားတော်အရိုး တော်တို့အဝင်
၃၁ ဖြစ်လျက်ကိုယ်တော်မြတ် ၏အင်္ဂါဖြစ်ကြ၏။ထို အကြောင်း ကြောင့်
ယောကျ်ားသည်ကိုယ်မိဘကိုစွန့်၍ကိုယ်ခင်ပွန်း၌မှီဝဲသဖြင့်ထိုသူ

၃၂ နှစ်ယောက်တို့သည်တသားတကိုယ်တည်းဖြစ်ရလိမ့်မည်။ ဤအရာ
သည်အလွန်နက်နဲသောအရာဖြစ်ပေ၏။ထိုသို့ငါဆိုသော်ခရစ်တော်
၃၃ နှင့်အသင်းတော်ကိုရည်၍ဆိုသတည်း။ သို့ဖြစ်၍သင်တို့အသီးအသီး
ကိုယ်ကိုကိုယ် ချစ်သကဲ့သို့ ကိုယ်ခင်ပွန်းကို ချစ် ကြလော့။မိန္မသည်
၁ လည်းကိုယ်ခင်ပွန်းကိုရိုသေခြင်းရှိစေလော့။ ။။သားသမီးတို့။
သခင် ဘုရား ၏ အလိုတော်နှင့် အညီမိဘစကား ကိုနား ထောင်ကြ
၂။၃ လော့။ မိဘစကားကိုနား ထောင်ခြင်း အမှုသည် တရား သော အမှု
ဖြစ်၏။မိဘအားရိုသေစွာကျင့်လော့။ဤပညတ်တော်ကားသင်သည်
ကောင်းစား၍ပြည် တော်၌အသက်ရှည် လတ္တံ့ဟူသောဂတိတော်နှင့်
၄ ဆိုင် သောပဌမပညတ် ဖြစ်၏။ အဖတို့။ ကိုယ် သား သမီး စိတ်ဆိုး
အောင်ချုပ်ချယ်ခြင်းကိုမပြုကြနှင့်။ သခင်ဘုရား ၏ အလိုတော်နှင့်အ
၅ ညီဆုံးမသွန် သင် လျက် ကျွေး မွေး ကြလော့။ အစေခံ ကျွန် တို့။ ခရစ်
တော် ကို နား ထောင် သကဲ့သို့ လောကီသခင် ကိုကြောက် ရွံ့တုန် လှုပ်
၆ ခြင်းနှင့်စိတ်နှစ် ခွမရှိဘဲနားထောင်ကြလော့။ လူတို့စိတ် နှူးညွတ်စေ
သော သူကဲ့သို့မျက်မှောက်၌သာနားထောင်သည်မဟုတ်။ခရစ်တော်
၇ ၏ကျွန် ကဲ့သို့စေတနာနှင့် ဘုရားသခင် ၏အလိုတော်ကိုပြု၍ လူအ
စေကိုသာမခံ။ကြည် ညိုသောစိတ် နှင့် သခင်ဘုရား ၏ အစေကို ခံကြ
၈ လော့။ ကောင်း သောအကျင့် ကိုကျင့် သော သူမည်သည် ကားကျွန်
ဖြစ်စေ။လူလွတ်ဖြစ် စေ။သခင် ဘုရား လက်တော်မှအကျိုး ကိုရမည်
၉ ဟုသိမှတ်ကြလော့။ သခင်တို့။ချိမ်းချောက်ခြင်းကိုချုပ်တည်းသဖြင့်
ကိုယ်ကျွန်တို့ကိုထိုနည်းတူပြုကြလော့။သင်တို့၏သခင်သည်ကောင်း
ကင်ဘုံ၌ရှိတော်မူသည်ကိုငင်ထိုသခင်သည်မျက်နှာကို မှတ်တော်မမူ
သည်ကိုငင်သိမှတ်ကြလော့။

❋❋

၁၀ ကြွင်းသေးသောစကား ဟူမူကား။ ညီအစ်ကို တို့။သခင်ဘုရားအား
၁၁ ဖြင့်ငင်တန်ခိုးတော်အရှိန် အား ဖြင့် ငင် ခိုင်ခံ့ခြင်း ရှိကြလော့။ မာရ်
နတ်၏ပရိယာယ် တို့ကိုဆီး တား နိုင် မည် အကြောင်း။ ဘုရားသခင်
၁၂ ပြင်ဆင်တော်မူသောလက်နက်ရုံကိုဝတ်ဆောင်ကြလော့။ အကြောင်း
မူကား။အသွေးအသား ရှိသောရန်သူတို့နှင့်သာငါတို့သည် ဆိုင်ပြိုင်
တိုက်လံကြသည်မဟုတ်။အထွဋ်အမြတ် တို့နှင့်ငင်အာဏာစက်တို့နှင့်
ငင်လောကီမှောင်မိုက် ၌ အစိုး တရပြုလုပ် သောမင်းတို့နှင့်ငင်မိုဃ်း

ကောင်းကင်၌နေသောနတ်ဆိုးတို့နှင့်ငင်ငါတို့သည် ဆိုင်ပြိုင် တိုက်လံ
၁၃ ရကြ၏။ ထိုကြောင့်ခဲယည်းဆိုးယုတ်သောနေ့ရက်ကာလ၌ဆီးတား
နိုင်သဖြင့်ကိစ္စအလုံးစုံတို့ကိုပြီး၍ခံနေနိုင်မည်အကြောင်း။ဘုရား
၁၄ သခင်ပြင်ဆင်တော်မူသောလက်နက်စုံကိုယူဆောင်ကြလော့။ သစ္စာ
တည်းဟူသောခါးပန်းကိုစည်းလျက် ဖြောင့်မတ်ခြင်း ပါရမီ တည်း
၁၅ ဟူသောရင်ဘွဲ့ကိုဝတ်ဆွဲလျက် ညီမ်သက်ခြင်းနှင့်ရှည်သောဧဝံဂေလိ
တရားကိုဟောပြောအံ့သော ဌါပြင်ဆင်သောအဖြစ် တည်း ဟူသော
၁၆ ခြေစွပ်ကိုစွပ်လျက်ခံနေကြလော့။ မာရ်နတ်ပြစ်ခတ်သောမီးစက်လက်
နက်ကိုကာသတ်နိုင်သောရုံကြည်ခြင်း တည်းဟူသောလွှားကိုထည်း
၁၇ ခပ်သိမ်းသောလက်နက်တို့အပေါ်မှာထပ်၍ယူဆောင်ကြလော့။ ကယ်
တင်ခြင်း တည်းဟူသောသံခမောက် ကို ငင် ဘုရား သခင်၏နှုတ်က
၁၈ ပတ်တည်းဟူသောဝိညည်တော်၏ခါးကိုငင်ယူကြလော့။ ကာလအ
စည်စိတ် နှစ် လုံး ပါလျက် ဆုတောင်း ပဌနာပြုခြင်း အမျိုးမျိုးတို့ဖြင့်
တောင်း လျှောက် ကြလော့။ထို သို့ဆုတောင်း ခြင်း ဌါအားမလျှော့ဘဲ
လျက် ငါမှစ ၍ သန့်ရှင်း သူအပေါင်း တို့အမှိဆုတောင်း လျက် စောင့်
၁၉ ရှောက်ကြလော့။ ငါသည် ဧဝံဂေလိတရား ကြောင့် သံကြိုးဖြင့်ချည်
၂၀ နှောင်ခြင်းကိုခံလျက် သံတမန်အမှုကိုပြုနေသည် ဖြစ်၍ ထိုတရား၏
နက်နဲ သောအရာကိုဖော်ပြခြင်း ဌါငါသည် နှုတ်ကိုရဲရင့် စွာ ဖွင့်လှစ်
ခြင်း အခွင့် ရှိရမည် အကြောင်း ကိုငင် ထိုတရား ကို ဟောပြောအပ်
သည် နှင့် အညီရဲရင့် စွာဟောပြောရမည် အကြောင်း ကိုငင် ငါအမှိ
၂၁ လည်းဆုတောင်းကြလော့။ ။သင်တို့သည်ငါပြုမူသောအ
ကြောင်းအရာများတို့ကိုသိရအောင်သခင်ဘုရားထံသစ္စာရှိသောဆ
ရာတည်းဟူသော။ငါချစ်သော ညီတုခိတ်သည် သင်တို့အား အလုံးစုံ
၂၂ တို့ကိုဖော်ပြလိမ့်မည်။ သင်တို့သည်ငါတို့အကြောင်းအရာများကိုသိ
မည် အကြောင်းနှင့် ထိုသူသည် သင် တို့စိတ်နှစ်လုံးကို သက်သာစေ
၂၃ မည်အကြောင်း။ထိုသူကိုသင်တို့ဆီသို့ငါစေလိုက်ပေ၏။ ညီအစ်ကို
တို့အားညီမ်သက်ခြင်းဖြစ်ပါစေသော။ခမည်းတော်ဘုရားကငင်သ
ခင်ယေရှုခရစ်ကငင်ရုံကြည်ခြင်းနှင့်ချစ်ခြင်းမေတ္တာဖြစ်ပါစေသော။
၂၄ ငါတို့သခင်ယေရှုခရစ်ကို အမှန်ချစ်သောသူအပေါင်း တို့ ၌ ကျေးဇူး
တော်ဖြစ်စေသတည်း။အာမင်။

။ဧဖက်ဩဝါဒစာပြီး၏။

# ။ဖိလိပ္ပိြသြဝါဒစာ။

၁ ယေရှုခရစ်၏ ကျွန် ဖြစ် သောပေါလုနှင့် တိမောသေကဖိလိပ္ပိမြို့၌နေ
သောသင်းအုပ်နှင့်သင်းထောက် တို့ မှစ၍ ယေရှုခရစ်အားဖြင့် သန့်
၂ ရှင်းသောသူအပေါင်းတို့ကိုကြားလိုက်ပါ၏။ သခင်ယေရှုခရစ်နှင့်
ငါတို့အဗတည်းဟူသောဘုရားသခင်အထံတော်ကကျေးဇူး တော်နှင့်
၃။၄ ညှိမ်သက်ခြင်းသင်တို့အားဖြစ်ပါစေသော။ ။ငါသည်ဆု
၅ တောင်းပဌနာပြုသောအခါခါဝမ်း မြောက် သောစိတ်နှင့်သင်တို့အား
လုံးအဖို့အစဉ်ဆုတောင်းပဌနာပြုလျက်သင်တို့ကိုအောင်းမေ့သောအ
ခါခါသင်တို့သည်ရှေ့ဦးစွာနေ့ရက်မှစ၍ယခုတိုင်အောင်သင်တို့သည်
ဧဝံဂေလိတရားကို ဆက်ဆံ၍ ခံစား ကြောင်းကိုငါထောက်သဖြင့်ဘု
၆ ရားသခင်၏ကျေးဇူးတော်ကိုချီးမွမ်းပါ၏။ သင်တို့တွင်ကောင်းသော
အမှုကိုပြုစပြုတော်မူသောသူသည်ယေရှုခရစ်၏နေ့ရက် တိုင် အောင်
၇ ပြီးစီးလျက်ပြုတော်မူမည်အရာကိုငါစိတ်စွဲလမ်း လျက်ရှိ၏။ သင်တို့
အရာ၌လည်း ဤသို့ငါယူအပ်၏။ အဘယ် ကြောင့် နည်းဟူမူကား။ငါ
သည်အကျည်း ခံရသည်အရာမှာရင် ဧဝံဂေလိတရားဘက် သက်သေ
ခံ၍ထိုတရားကိုတည်စေသည်အရာမှာရင်ငါခံရသောကျေး ဇူးတော်
ကိုသင်တို့အားလုံး သည် ဆက် ဆံကြသည် ဖြစ် ၍ ငါမေတ္တာရောက်
၈ သောသူဖြစ်ကြ၏။ ငါသည်ယေရှုခရစ်၏ မေတ္တာကရုဏာနှင့်သင်
တို့အား လုံးကိုအဘယ် မျှလောက်လွမ်းသည်ဟုဘုရားသခင်သည်ငါ
၉ သက်သေဖြစ်တော်မူ၏။ ငါသည်အဘယ်သို့ဆုတောင်းသနည်းဟူ
မူကား။သင်တို့သည်ကောင်းမြတ်သောအရာတို့ကိုပိုင်းချားနှစ်သက်
ရအောင်ညာဏ်ပညာအမျိုးမျိုးအားဖြင့်မေတ္တာပါရမီတိုး ပွား၍ပြ
၁၀ ည့်စုံမည်အကြောင်း။ ယေရှုခရစ်အားဖြင့်ဘုရားသခင်၏ဘုန်းအသ
၁၁ ရေတော်ကိုထင်ရှားစေတတ် သောဖြောင့်မတ်ခြင်းအကျိုး နှင့်သင်တို့
သည်ပြည့်စုံ၍ခရစ်တော်၏ နေ့ရက် တိုင် အောင် စိတ်ကြည် ဖြူလျက်
တိမ်းလဲစရာအကြောင်းနှင့်ကင်းလွတ်လျက်နေရမည် အကြောင်း။ငါ
၁၂ ဆုတောင်းပဌနာပြု၏။ ညီအစ်ကိုတို့။ငါ၌ရောက်သော

အမှုအရာတို့သည် ဧဝံဂေလိတရားကို မပြစ်တားသည် သာမကပြုစု
၁၃ သည်ဟုသင်တို့သိခြင်း၌ငါအလို ရှိ၏။ ထိုသို့အားဖြင့် ခရစ်တော်
ကြောင့် ငါခံရသောချည်နှောင်ခြင်း အရာသည် နန်းတော်၌ အနှံ့အ
၁၄ ပြားထင်ရှားသည်သာမကခပ်သိမ်းသောအရပ်၌ထင်ရှားရှိ၏။ သ
ခင်ဘုရား၌ ညီအစ်ကိုအများတို့သည် ငါခံရသောချည်နှောင်ခြင်း
အားဖြင့်ရဲမှားသောစိတ်နှင့်ကင်းလွတ်၍ ကြောက်ရွံ့ခြင်းမရှိဘဲနှုတ်
၁၅ ကပတ်တရားစကားကိုသာ၍ဟောပြောဝံ့ကြ၏။ လူအချို့တို့သည်
ညူရှုရန်တွေ့သောအားဖြင့် ခရစ်တော်၏တရားကိုဟောပြောကြ၏။
၁၆ အချို့တို့သည်စေတနာစိတ်နှင့် ဟောပြောကြ၏။ ငါသည် ဧဝံဂေလိတ
ရားကိုထောက်မရအောင်ခန့်ထားသောသူဖြစ်ကြောင်းကို၎င်း သူတို့
သည်သိ၍ခရစ်တော်၏တရားကိုမေတ္တာစိတ်နှင့်ဟောပြောကြ၏။
၁၇ ထိုသူတို့သည် ကြည်ဖြူသောစိတ်မရှိ။ ငါချည်နှောင်ခြင်းကိုခံသည်
တွင်သာ၍ဆင်းရဲစေမည် အကြံရှိ၍ ရန်တွေ့ချင်သောစိတ်နှင့်ဟော
၁၈ ပြောကြ၏။ သို့ဖြစ်၍အဘယ်သို့နည်း။လျှို့ဝှက်၍ဟော
ပြောသည်ဖြစ်စေ။သစ္စာရှိ၍ ဟောပြောသည်ဖြစ်စေ။ အဘယ်သို့
သောအားဖြင့်ဟောပြောသည်ဖြစ်စေ။ခရစ်တော်၏တရားကိုဟော
ပြောခြင်းရှိ၏။ထိုအရာ၌ ငါယခုဝမ်းမြောက်၏။ နောင်၌လည်းဝမ်း
၁၉ မြောက်လိမ့်မည်။ အဘယ်ကြောင့်နည်းဟူမူကား။ငါသည်အလျှင်း
၂၀ ရှက်ကြောက်ခြင်းမရှိဘဲရဲရင့်ခြင်းနှင့်ပြည့်စုံ၍ အသက်ရှင်သည်ဖြစ်
စေ။သေသည်ဖြစ်စေ။ငါကိုယ်ခန္ဓာ၌ခရစ်တော်သည်အစဉ်မပြတ်
ဂုဏ်အသရေထင်ရှား သကဲ့သို့ယခုပင် ထင်ရှားတော်မူမည် ဟုငါ
မျှော်လင့်အားကြီး၍တောင့်တသည်နှင့်အညီသင်တို့ဆုတောင်းသ
ဖြင့်၎င်းယေရှုခရစ်၏ဝိညာဉ်တော်မစသဖြင့်၎င်း၎င်းအကြောင်းအရာ
၂၁ သည်ငါကိုကယ်တင်သောအကြောင်းဖြစ်မည်ဟုငါသိ၏။ ငါ့အသက်
ရှင်သည်အရာမှာခရစ်တော်ဖြစ်၏။သေလျှင်မူကားသာ၍အကျိုးရှိ
၂၂ ၏။ ဤကိုယ်ခန္ဓာ၌ငါသည်အသက်ရှင်လျှင်ငါပြုသောအမှု၏အကျိုး
ကား ထိုသို့သောအကျိုးဖြစ်၏။သို့သော်လည်းဘယ်သင်းရွေးယူ
၂၃ ကောင်းသည်ကိုငါမသိ။ ထိုအကျိုးနှစ်ပါးကြားမှာယခုငါအကျည်း
ခံ၏။ရုတေ့၍ ခရစ်တော်နှင့် အတူနေခြင်း၌ငါတောင့်တလိုချင်သော
၂၄ စိတ်ရှိ၏။သာ၍အလွန်ထူးမြတ်သောအကျိုးဖြစ်၏။ သို့သော်လည်း
၂၅ ကိုယ်ခန္ဓာ၌ငါနေဦးလျှင်သင်တို့အကျိုးသာ၍ရှိလိမ့်မည်။ ထိုသို့ရှိ

၂၆ လိမ့်မည်ဟုရုံမှားခြင်းနှင့်ကင်းသည်ဖြစ်၍ သင်တို့ဆီသို့ငါတဖန်
ရောက်လာသောအားဖြင့်သင်တို့သည် ယေရှုခရစ်ကို အမှီပြု၍ငါ့အ
တွက်သာ၍ကြွားဝါဝမ်းမြောက်ခြင်းရှိရအောင်သင်တို့သည်တိုးပွား
မည်အကြောင်း။ ရုံကြည်သဖြင့်ဝမ်းမြောက်မည်အကြောင်း။ ငါသည်
ကိုယ်ခန္ဓာ၌နေ၍သင်တို့အားလုံးနှင့်ပေါင်းဖော်ရမည်ဟုငါသိ၏။
၂၇ ။သင်တို့သည်ရန်သူများကြောင့်အလျှင်းမကြောက်မရွံ့
တုန်လှုပ်ဘဲတပါးတည်းသောစိတ်ဝိညာဉ်၌ကည်၍ဧဝံဂေလိတရား
နှင့်ဆိုင်သောရုံကြည်ခြင်းအဖို့အလို့ငှါတညီတညွတ်တည်းကြိုးစား
အားထုတ်ကြသည်အကြောင်း အရာကိုငါရောက်လာ၍သင်တို့နှင့်
မျက်မှောက်တွေ့သည်ဖြစ်စေ။ကွာလျက်နေသည်ဖြစ်စေ။ငါကြားသိ
ပါမည်အကြောင်း။ခရစ်တော်၏ဧဝံဂေလိတရားနှင့်အထိုက်အလျော
၂၈ က်ဝတ်ကြီးဝတ်ငယ်များကိုပြု၍သာနေကြလော့။ ထိုသို့ရန်သူများ
ကြောင့်အလျှင်းမကြောက်မရွံ့မတုန်လှုပ်သောအကြောင်းအရာသည်
သူတို့၌ပျက်စီးခြင်း၏နိမိတ်လက္ခဏာဖြစ်သော်လည်း ဘုရားသခင်ဗိ
ရင်တော်မူသောအားဖြင့်သင်တို့၌ကားကယ်တင်ခြင်း၏နိမိတ်လက္ခ
၂၉ ဏာမင်ဖြစ်၏။ အဘယ်ကြောင့်နည်းဟူမူကား။ သင်တို့သည်အ
၃၀ ထက်ကမြင်သည်အတိုင်း။ယခုလည်းကြားသည်အတိုင်းငါခံရသော
တိုက်ယံခြင်းကိုခံသည်နည်းတူသင်တို့သည်ခံကြသည်ဖြစ်၍ခရစ်
တော်ကိုရုံကြည်ခြင်းအခွင့်မှတပါး။ ခရစ်တော်အတွက် ဆင်းရဲခံ
ခြင်းအခွင့်ကိုကျေးဇူးတော်အားဖြင့်ရကြ၏။



၁ ထိုကြောင့်ခရစ်တော်၌သက်သာခြင်းဖြစ်စေ။မေတ္တာနှင့်စပ်ဆိုင်
သောချမ်းသာဖြစ်စေ။ဝိညာဉ်တော်၏ပေါင်းဖော်ဆက်ဆံခြင်းဖြစ်
စေ။သနားရုံမက်ခြင်းကရုဏာဖြစ်စေ။တပါးပါးရှိသည်မှန်လျှင်
၂ သင်တို့သည်အချင်းချင်းချစ်ကြ၍ စိတ်မကွဲပြားဘဲတလုံးတဝတည်း
ကြံစည်ခြင်းနှင့်တကွသဘောတညီတညွတ်တည်းရှိသောအားဖြင့်
၃ ငါဝမ်းမြောက်ခြင်းကိုပြည့်စုံစေကြလော့။ ရန်တွေ့လိုသောစိတ်။အ
ချည်းနှီးကျော်စောကိတ္တိကိုတပ်မက်သောစိတ်ရှိ၍ အဘယ်ကိုမျှမပြု
ကြနှင့်။သူတပါးသည်ကိုယ်ထက်သာ၍ကောင်းမြတ်သည်ဟုနှိမ့်ချ
၄ သောစိတ်ရှိ၍တယောက်ကိုတယောက်ထင်မှတ်ကြလော့။ ကိုယ်ဂုဏ်
အသရေကိုသာမရှုမမှတ်ဘဲသူဂုဏ်အသရေကိုအချင်းချင်းရှုမှတ်ကြ

၅ လော့။ ယေရှုခရစ်၌ရှိသောထိုစိတ်သဘောကိုသင်တို့၌လည်းရှိစေ
၆ ကြလော့။ ထိုသခင်သည်ဘုရားသခင်၏သဏ္ဍာန်တော်နှင့်ပြည့်စုံ
တော်မူသည်ဖြစ်၍ကိုယ်ကိုဘုရားသခင်နှင့်တုစေသည်အရာမှာလု
၇ ယူခြင်းအမှုမပါဟုထင်မှတ်လျက်ပင် မိမိအသရေကို မိမိစွန့်၍အ
စေခံကျွန်၏သဏ္ဍာန်ကိုယူဆောင်သဖြင့်လူကဲ့သို့သောအဖြစ်၌ဖွါး
၈ မြင်တော်မူ၏။ ထိုသို့လူ၏လက္ခဏာနှင့်ပြည့်စုံလျက်အသေခံခြင်း
သာမည မက လက်ဝါးကပ်တိုင် မှာ အသေ ခံခြင်း တိုင် အောင် အစေ
၉ ကျွန်ခံ၍မိမိကို မိမိနှိမ့်ချတော်မူ၏။ ထိုကြောင့်ဘုရားသခင်သည်
ကိုယ်တော်ကိုအလွန်ချီးမြှောက်၍ဘွဲ့နာမတကာထက်ကြီးမြတ်သော
၁၀ ဘွဲ့နာမကိုပေးသနား တော်မူ၏။ အကြောင်း မူကား။ ကောင်း ကင်
သတ္တဝါ။မြေကြီးသတ္တဝါ။မြေကြီးအောက်သတ္တဝါ ရှိရှိသမျှတို့သည်
၁၁ ယေရှု၏ ဘွဲ့နာမတော်ကိုဒူးထောက်၍ ယေရှုခရစ်သည် သခင်ဖြစ်
တော်မူ၏ဟုနှုတ်နှင့်ဝန်ခံသဖြင့်ခမည်းတော်ဘုရား၏ဘုန်းအသရေ
၁၂ တော်ကိုထင်ရှားစေကြမည်အကြောင်းတည်း။ ။သို့ဖြစ်၍
ငါချစ်သူတို့။သင်တို့သည်ငါမျက်မှောက်၌နားထောင်သည်သာမက
ငါကွာလျက်ရှိသော်လည်းအစဉ်နားထောင်ကြသည်နှင့်အညီကြောက်
ရွံ့တုန်လှုပ်သောစိတ်နှင့်ကိုယ်ကယ်တင်ခြင်းကိုကိုယ်ကျိုးစားအား
၁၃ ထုတ်ကြလော့။ အကြောင်းမူကား။သင်တို့သည်အလိုရှိရအောင်၎င်
အကျင့်ကျင့်ရအောင်၎င်သင်တို့အထဲ၌စေတနာတော်အားဖြင့်ပြု
၁၄ ပြင်တော်မူသော သူကား ဘုရားသခင်ပေတည်း။ သင်တို့ပြုလေရာ
ရာ၌သူတပါးကိုအပြစ်တင်ခြင်း။ အချင်းချင်းညှင်းချုံခြင်းမရှိဘဲပြု
၁၅ ကြလော့။ သို့ပြုလျှင်အပြစ်တင်ခွင့်မရှိ။အဘယ်သူကိုမျှမပြစ်မှား
၁၆ ဘဲနေ၍မဖြောင့်မမှန်ဖောက်ပြန်သောလူမျိုးအထဲ၌အဘယ်အပြစ်
မျှမပါသောဘုရားသခင်၏သားဖြစ်ကြလိမ့်မည်။ အသက်ရှင်ခြင်း
နှင့်ဆိုင်သောနှုတ်ကပတ်တရားကိုပြသ၍ စကြဝဠာ၌ နေလကြယ်
နက္ခတ်ကဲ့သို့ထိုလူမျိုးအထဲ၌ထွန်းလင်းကြလော့။ သို့ပြုလျှင်ငါသည်
အကျိုးမရှိဘဲလျက်အမှုကိုဆောင်ရွက်သည်မဟုတ်ကြောင်းနှင့်အ
ကျိုးမရှိဘဲလျက်ကျိုးစားအားထုတ်သည်မဟုတ်ကြောင်းကိုငါ
ထောက်၍ ခရစ်တော်၏နေ့ရက်၌ကြွားဝါဝမ်းမြောက်ခြင်းရှိလိမ့်
၁၇ မည်။ ။ထိုမျှမက။သင်တို့ယုံကြည်ခြင်းကိုပူဇော်တင်လှူသောါ
ယဇ်အပေါ်မှာငါကိုလောင်းသော်လည်းဝမ်းမြောက်ခြင်းရှိ၏။သင်

၁၈ တို့အားလုံးနှင့်အတူဝမ်းမြောက်ခြင်းရှိ၏ ထိုနည်းတူ။ သင်တို့သည်
၁၉ လည်းဝမ်းမြောက်ကြလော့။ ငါနှင့်အတူဝမ်းမြောက်ခြင်းရှိကြလော့။
သင်တို့အကြောင်းအရာများကိုငါသိ၍စိတ်သက်သာခြင်းငှါတိမောသေကိုသင်တို့ဆီသို့များမကြာ စေလိုက်မည့် အကြောင်း။သခင်ယေ
၂၀ ရှုခရစ်၌ငါမှီဝဲခြင်းရှိ၏။ အဘယ်ကြောင့်နည်းဟူမူကား။ သူသည်
သင်တို့အကျိုးကိုကြည့်ရှုချင်သော စေတနာစိတ်ရှိသကဲ့သို့ စိတ်သ
၂၁ ဘောတူသောသူတယောက်မျှငါ၌မရှိ။ အားလုံးတို့သည် ယေရှုခ
၂၂ ရစ်၏အကျိုးကိုမရှာ။ ကိုယ်အကျိုးကိုသာရှာကြ၏။ သို့သော်လည်း
သားသည်အဖနှင့်အတူဆောင်ရွက်သကဲ့သို့သူသည်ငါနှင့်အတူဧဝံဂေလိတရားအမှုကိုအမှန်ဆောင်ရွက်သည် ဟုသူပြသောသက်သေ
၂၃ ကိုသင်တို့သိကြ၏။ ထိုကြောင့်ငါ၌အဘယ်သို့ဖြစ်မည်ဟုငါသိသော
အခါသူကိုသင်တို့ဆီသို့ချက်ချင်းစေလိုက်မည်ငါမြော်လင့်လျက်
၂၄ နေ၏။ ထိုမျှမက။ငါကိုယ်တိုင်သင်တို့ဆီသို့များမကြာလာမည်ဟုသ
၂၅ ခင်ဘုရားအားဖြင့်ရုံမှတ်စွဲလမ်းသောစိတ်ရှိ၏။ ။သို့သော်
လည်းဆောင်ရွက်ခြင်း။စစ်တိုက်ခြင်းအမှု၌ငါအပေါင်းအဖော်။ငါကိုပြုစုရသောသူတည်းဟူသောသင်တို့တမန်။ငါညီဧပဖြောဒိတ်ကိုသင်
၂၆ တို့ဆီသို့စေလိုက်သင့်သည်ဟုငါထင်မှတ်၏။ အဘယ်ကြောင့်နည်း
ဟူမူကား။ သူသည် နာကြောင်းကိုသင်တို့ကြားသိသောကြောင့်သူ
၂၇ သည်သင်တို့အားလုံးကိုလွမ်း၍စိတ်မသာနေ၏။ သူသည်သေလု
အောင်နာသည်မှန်၏။ ထိုအခါဘုရားသခင်သည်သူကိုသနားတော်မူ၏။ သူကိုသာသနားတော်မူသည်မဟုတ်။ငါ၌ဝမ်းနည်းခြင်းအဆင့်
၂၈ ဆင့်အထပ်ထပ်မရှိစေခြင်းငှါငါကိုလည်းသနားတော်မူ၏။ ထို
ကြောင့်သင်တို့သည်သူကိုတဖန်တွေ့မြင်၍ဝမ်းမြောက်ရအောင်ငှင်ငါသည်လည်းသက်သာရအောင်ငှင်သူကိုသာ၍ကျိုးစားသည်နှင့်ငါ
၂၉ စေလိုက်၏။ သို့ဖြစ်၍သခင်ဘုရားကိုထောက်သဖြင့်ဝမ်းမြောက်
သောစိတ်နှင့်သူကိုလက်ခံသိမ်းဆည်းကြလော့။ ထိုသို့သောသူတို့ကို
၃၀ ရိုသေလေးမြတ်ကြလော့။ အကြောင်းမူကား။သင်တို့သည်ငါကိုပြုစုရ၍မပြည့်စုံသောဝတ်ကိုသူသည်ပြည့်စုံစေခြင်းငှါကိုယ်အသက်ကိုမမှတ်ဘဲခရစ်တော်၏အမှုကြောင့်သေခြင်းသို့ရောက်လုနီးပြီ။



၁ ကြွင်းသေးသောစကားဟူမူကား။ငါညီအစ်ကိုတို့။ သခင်ဘုရား၌

ဝမ်းမြောက်ခြင်းရှိကြလော့။ အထပ်ထပ်ငါ ရေးထားသော်လည်းငါပင်
၂ ပန်းခြင်းမရှိ။ သင်တို့သည် လည်း လုံခြုံခြင်း ရှိလိမ့်မည်။ ခွေးတို့ကို
ရှောင်ကြလော့။ မကောင်း သော အကျင့်ကိုကျင့် သော သူတို့ကို ရှောင်
ကြလော့။ ဇာတ်သွင်း မင်္ဂလာ ကို ခံရှောင်ဆောင်သော သူတို့ ကိုရှောင်
၃ ကြလော့။ ငါတို့သည်စိတ်ဝိညာဉ်အားဖြင့်ဘုရား သခင်ကိုကိုးကွယ်
၍ဇာတိခန္ဓာကိုး စားခြင်းမရှိဘဲ ယေရှုခရစ်၌သာကြွားဝါဝမ်း မြောက်
၄ သော သူဖြစ်၍မှန်သောဇာတ်သွင်း မင်္ဂလာကိုခံသော သူဖြစ်ကြ၏။
သို့သော်လည်း ငါဖြစ်လျှင် ဇာတိခန္ဓာကိုးစားစရာ အကြောင်းရှိ၏။ အ
ချားသူမည်သည်ကားဇာတိခန္ဓာကိုးစားစရာ အကြောင်းရှိသည်ဟုထင်
၅ လျှင်ငါမူကားသာ၍ရှိ၏။ ငါသည် ရှစ်ရက်မြောက်သောနေ့၌ဇာတ်
သွင်းမင်္ဂလာကိုခံ၏။ ဣသရေလအမျိုး။ ဗင်္ယာမိန်အနွယ်ဖြစ်၏။ ဟေဗြဲ
လူမှဆင်းသက် သော ဟေဗြဲလူ စစ်ဖြစ်၏။ တရားအား ဖြင့်ဖာရိရှဲလူ
၆ ဖြစ်၏။ စိတ်အားကြီး ခြင်းကို မေး သော် ငါသည် အသင်း တော်ကို
ညှဉ်းဆဲသော သူဖြစ်၏။ ပညတ် တရားအားဖြင့် ရသော ဖြောင့်မတ်ခြင်းကို
၇ မေးမြန်းသော်ငါသည် အပြစ် တင် ခွင့် မရှိ သော သူဖြစ်၏။ သို့သော်
လည်းငါအကျိုးစီးပွားကိုပြု စုသောအရာရှိသမျှတို့ ကိုရှုံး သောအရာ
၈။ဘ၁ ကဲ့သို့ ခရစ်တော်ကြောင့် ငါထင်မှတ်၏။ ထိုမျှမက။ ငါသ ခင်ယေရှု
ခရစ်ကိုသိသော ပညာသည် အဘယ်မျှလောက်မြတ်သည်ကိုထောက်
၍ခပ်သိမ်း သော အရာ တို့ကိုရှုံးထိုက် သော အရာ ကဲ့သို့ငါ ထင်မှတ်
၏။ ထိုသခင်ကြောင့် ခပ်သိမ်းသောအရာတို့ကိုအရှုံး ခံရပြီး။ သေခြင်း
မှထမြောက်သောအ ခွင့်ကိုငါရနိုင် ကောင်းလျှင် ကိုယ်တော်သည်အ
သေခံတော်မူသည်နည်းတူငါသည် လည်း အသေခံ၍ထိုသခင် ကို၎င်
ထမြောက်တော်မူခြင်းတန်ခိုးကို၎င်းဆင်းရဲခံတော်မူခြင်းကိုဆက်ဆံ၍
ခံခြင်းကို၎င်သိကျွမ်း ခြင်းငှါပညတ်တရား အားဖြင့် ရသောကိုယ်ဖြောင့်
မတ်ခြင်းကိုမကိုးစားဘဲ ခရစ်တော်ကိုယုံကြည် ခြင်း အားဖြင့် ရသောဖြောင့်
မတ်ခြင်းတည်းဟူသောယုံကြည်ခြင်းကိုထောက်၍ ဘုရားသခင်ပေးတော်
မူသောဖြောင့်မတ်ခြင်းကိုကိုးစားသဖြင့်ခရစ်တော်ကိုအမြတ်ရ၍ ထို
သခင်၌တည် ပါမည် အကြောင်း။ ခပ်သိမ်း သော အရာ တို့ကိုမစင်ကဲ့
၁၂ သို့ငါထင်မှတ်၏။ ထိုသို့ဆိုသော်အကျိုးခံရပြီး။ စုံလင်ခြင်းသို့ရောက်
ရပြီးဟုငါမဆိုလို။ အကြွင်းအကျိုးကိုပေးခြင်းငှါခရစ်တော်သည်ငါကို
၁၃ ကိုင်ဖမ်းတော်မူ၏။ ထိုအကျိုးကိုကိုင်မိရ အောင်ငါပြေး၍လိုက်သေး၏။

၁၃ ။ညီအစ်ကိုတို့။ငါကိုင်မိပြီးဟုကိုယ်ကိုကိုယ်မထင်သော်
လည်းငါပြုသောအမှုတခုဟူမူကား။နောက်ကျသောအရာတို့ကိုမမှတ်
၁၄ ဘဲရှေ့၌ရှိသောအရာတို့ကိုမျှော်လင့်အားကြီး၍ ယေရှုခရစ်အား
ဖြင့်ဘုရားသခင်သည်အထက်အရပ်မှခေါ်တော်မူခြင်းနှင့်ဆိုင်သော
၁၅ ဆုကိုရအောင်ပန်းတိုင်ဆီသို့ငါလိုက်ပြေး၏။ ထိုကြောင့်စုံလင်
သောသူရှိသမျှတို့။ဤသို့သောသဘောရှိကြစို့။သင်တို့သည်တစုံတခု
သောအရာ၌သဘောချွတ်ချော်လျှင်ထိုအရာကိုပင်ဘုရားသခင်ဖော်
၁၆ ပြတော်မူလိမ့်မည်။ သို့မဟုတ်သော်လည်းယခုမှီသမျှအတိုင်းကျင့်
၁၇ ကြစို့။ ညီအစ်ကိုတို့။ငါကျင့်သည်နည်းတူအားလုံးတညီတည်းကျင့်
ကြလော့။ငါတို့သည်ပေးသောပုံသက်သေနှင့်အညီကျင့်သောသူတို့
၁၈ ကိုလည်းရှုမှတ်ကြလော့။ အကြောင်းမူကား။အထက်ကအဖန်ဖန်ငါ
ပြော၍ယခုပင်မျက်ရည်ကျလျက်နှင့်ပြောသည်အတိုင်းခရစ်တော်၏
၁၉ လက်ဝါးကပ်တိုင်ကိုရန်ဘက်ပြု၍ကျင့်သောသူအများရှိ၏။ ထိုသူ
တို့သည်ပျက်စီးခြင်း၌လမ်းဆုံးသတည်း။သူတို့ဘုရားမူကားမိမိတို့
ဝမ်းပေတည်း။မိမိတို့ရှက်ကြောက်ဖွယ်သောအကျင့်၌သာမိမိကြွား
၂၀ ဝါကြ၏။ လောကီအရာကိုသာစိတ်စွဲလမ်းခြင်းရှိကြ၏။ ငါတို့ကျင့်
သောအကျင့်မူကားကောင်းကင်ဘုံနှင့်စပ်ဆိုင်လျက်ရှိ၏။ကယ်တင်
တော်မူသောသခင်ယေရှုခရစ်သည်ကောင်းကင်ဘုံမှကြွတော်မူ
၂၁ မည်ဟုငါတို့မျှော်လင့်လျက်နေကြ၏။ ထိုသခင်သည်ခပ်သိမ်းသောအ
ရာကိုပင်မိမိအောက်၌နှိမ့်ချနိုင်တော်မူသောပြုပြင်အားထုတ်ခြင်း
အားဖြင့်ရုတ်ချလျက်ရှိသောငါတို့၏ကိုယ်ခန္ဓာကိုဘုန်းအသရေနှင့်
၁ ပြည့်စုံသောကိုယ်ခန္ဓာတော်နည်းတူအသစ်ပြင်ဆင်တော်မူလတ္တံ့။
ထိုကြောင့်ငါဝမ်းမြောက်ခြင်းအကြောင်း။ငါဦးရစ်သရဖူတည်းဟူ
သောငါချစ်၍အလွန်လွမ်းသောညီအစ်ကိုအချစ်တို့။ ငါဆိုခဲ့ပြီးသည်
အတိုင်းသခင်ဘုရား၌တည်နေကြလော့။



၂ ဧဝေါဒိ နှင့်သုန္တုတ်သည် သခင်ဘုရား၌ သဘောတညီတညွတ်တ
ည်းရှိမည်အကြောင်း။နှစ်ပါးစလုံးကိုငါတောင်းပန်သွေးဆောင်
၃ ပါ၏။ အချင်းငါလုပ်ဖော်ဆောင်ဖက်စစ်။သင်ကိုလည်းငါတောင်း
ပန်၏။ ငါနှင့်ကလေမင်မှစ၍အသက်စာရင်းဝင်၍အချားသောငါ၏
လုပ်ဖော်ဆောင်ဖက်နှင့်အတူဧဝံဂေလိတရားကိုဟောပြောသောအ

မှန်၍ကျေးဇူးကျိုးစားအားထုတ် သောမိမ္မတို့ ကိုမစထောက်ပံ့လော့။
၄ သခင်ဘုရား၌အစည့် မပြတ်ဝမ်မြောက် ခြင်းရှိကြလော့။ တဖန်ငါ
၅ ဆိုသည်ကား။ဝမ်မြောက်ကြလော့။ လူအပေါင်းတို့ရှေ့၌သင်တို့ဖြည်း
ညှင်း ခြင်းသဘောထင်ရှား စေလော့။သခင်ဘုရား သည် အနီးအပါး
၆ ရှိတော်မူ၏။ အဘယ်အမှု၌ မှုမိုးရိမ်ခြင်း မရှိဘဲအရာရာ၌ကျေးဇူး
တော်ကိုချီးမွမ်းခြင်းနှင့်တကွဆုတောင်းပဌနာပြု သောအားဖြင့်သင်
တို့ တောင်း ပန်လို ရာ တို့ ကိုဘု ရား သခင် အား ကြား လျှောက် ကြ
၇ လော့။ သို့ပြု လျှင် အဘယ် သူမျှကြံ၍ မမှီနိုင် သောဘုရား သခင်၏
ညိမ်သက်ခြင်း သည် ယေရှုခရစ် အားဖြင့် သင်တို့ စိတ်နှစ် လုံးတို့ကို
၈ စောင့် မလိမ့်မည်။ ကြွင်းသေး သော စကားဟူမူကား။ ညီအစ်ကို
တို့။ သမ္မာ တရား နှင့် ညီ ညွတ် သော အကျင့်။ လျှောက် ပတ် သောအ
ကျင့်။ ဖြောင့် မတ်သောအကျင့်။ စင်ကြယ် သောအကျင့်။ သူတပါး၌
ကျေးဇူး ပြုသောအကျင့်။ကောင်းသောသိတင်းနှင့်ပြည့်စုံသောအကျင့်
ရှိသမျှတို့ကိုဂုဏ်တပါးပါးသောပါရမီ။တပါးပါးသောအချီးအမွမ်းနှင့်
၉ စပ်ဆိုင်သောအကျင့်တို့ကိုဂုဏ်ကြီးစည်ဆင်ချင်ကြလော့။ သင်တို့သည်
အထက်ကသင် ယူ၍ ငါ၌ကြား မြင်ခဲ့ ပြီးသမျှတို့ကို ကျင့်ကြလော့။သို့
ကျင့်လျှင်ညိမ်သက် ခြင်း အရှင်။ ဘုရားသခင် သည် သင်တို့ဆီမှာ ရှိ
၁၀ တော်မူလိမ့်မည်။ ။အင်တန်ကာလကြာပြီး မှယခု ပင်ငါအ
ဖို့အလို ငါကြည့် ရှုပြု ရသော စေတနာစိတ်ကို သင်တို့သည် တဖန်နိုး
၁၁ ဆော်ကြသည်ဖြစ်၍သခင်ဘုရား၌ငါအလွန်ဝမ်မြောက်ခြင်းရှိ၏။
ထို စေ တနာ စိတ် သည် အထက်ကရှိ သော် လည်း အဆင် မသင့် ပြီ။
ထိုသို့ငါဆို သော်ကိုယ်ဆင်းရဲ ကို ရည် စောင် ၍ ဆို သည် မဟုတ်။အ
ဘယ်ကြောင့်နည်းဟူမူကား။ ငါတွေ့ကြုံ သမျှသောအခြင်း အရာ တို့၌
၁၂ ရောင့်ရဲသောစိတ်ရှိအောင်ငါသင်မိပြီ။ ရှုတ်ချခြင်းကိုငြံကြွယ်ဝခြင်း
ကိုငြံငါခံတတ်၏။အရပ်တိုင်း အရာရာ၌စား၍ ဝခြင်း။ မွတ်သိပ်ခြင်း။
၁၃ စည်းစိမ်ရှိခြင်း။ဆင်းရဲခြင်းတို့ကိုခံရအောင်ငါ သင်မိပြီ။ ငါကိုခွန်
အားနှင့်ပြည့်စုံစေတော်မူသောသူအားဖြင့်ခပ်သိမ်းသောအရာကိုငါ
၁၄ တတ်စွမ်းနိုင်၏။ သို့သော်လည်းဆင်းရဲဒုက္ခကိုငါခံစည်အခါသင်တို့
၁၅ သည်ငါနှင့်ဆက်ဆံသည်ဖြစ်၍ကောင်းမွန် စွာပြုကြပြီ။ ဖိလိပ္ပိမြို့
သားတို့။ဧဝံဂေလိတရားကိုဟောစပြု၍မါကေဒေါနိပြည်မှငါထွက်ခဲ
ရှိသောအခါအလှူလှူခြင်း။ အလှူခံခြင်း အမှု၌ သင် တို့ မှတပါး အဘယ်

၁၆ အသင်းတော်မျှငါနှင့်မဆက်ဆံကြ။ သက်သာလောနိတ်မြို့၌ငါရှိစဉ်
ပင်ငါလိုသောအရာကိုသင်တို့သည် နှစ်ကြိမ်တိုင်အောင်ပေးလိုက်
၁၇ ကြ၏။ ထိုသို့ဆိုသော်အလှူကိုငါရှာသည် မဟုတ်။ သင်တို့အတွက်
၁၈ ကြွယ်ဝသောအကျိုးကိုငါရှာ၏။ ယခုအခါအရာရာ၌ငါရတတ်၏။ ဥ
စွာကြွယ်ဝ၏။မွှေးကြိုင်သောအနံ့နှင့်ပြည့်စုံ၍ ဘုရားသခင်နှစ်သက်
အားရတော်မူသောယဇ်တည်းဟူသောသင်တို့ပေးလိုက်သောအရာ
၁၉ တို့ကိုဧပဖြောဒိတ်ထက်မှငါခံရသည်ဖြစ်၍ငါကြွယ်ဝလျက်ရှိ၏။ ငါ
ဘုရားသခင်သည်ဘုန်းအာနုဘော်၌စံပယ်တော်မူသောစည်းစိမ်နှ
သည်အတိုင်းသင်တို့အလိုရှိသမျှတို့ကိုယေရှုခရစ်အားဖြင့်ပြည့်စုံ
၂၀ စေတော်မူလိမ့်မည်။ ငါတို့အဖတည်းဟူသောဘုရားသခင်သည်က
မ္ဘာအဆက်ဆက်ဘုန်းကြီးတော်မူစေသတည်း။အာမင်။
၂၁ ယေရှုခရစ်၌ရှိသောသန့်ရှင်းသူအားလုံးကိုနှုတ်ဆက်ကြပါ။ငါနှင့်အ
၂၂ တူရှိသောညီအစ်ကိုမှစ၍ သန့်ရှင်းသူအားလုံးတို့သည်သင်တို့ကိုနှုတ်
ဆက်ကြ၏။ကဲသာဘုရင်၏နန်းတော်၌နေသောသန့်ရှင်းသူတို့သည်
၂၃ အထူးသဖြင့်နှုတ်ဆက်ကြ၏။ သခင်ယေရှုခရစ်၏ကျေးဇူးတော်
သင်တို့အားလုံး၌ဖြစ်စေသတည်း။အာမင်။

။ဖိလိပ္ပိဩဝါဒစာပြီး၏။

---

## ။ကောလောသဲဩဝါဒစာ။

၁ ဘုရားသခင်၏အလိုတော်အားဖြင့်ယေရှုခရစ်၏တမန်တော်ဖြစ်
၂ သောငါပေါလုနှင့်ငါညီတိမောသေက ကောလောသဲမြို့၌နေသော
သန့်ရှင်းသူတည်းဟူသော။ခရစ်တော်ကိုယုံကြည်သောညီအစ်ကိုတို့
ကိုကြားလိုက်ပါ၏။ငါတို့အဖတည်းဟူသောဘုရားသခင်အထံတော်
ကကျေးဇူးတော်နှင့်ညိမ်သက်ခြင်းသင်တို့အားဖြစ်ပါစေသော။
၃။၄ ။သမ္မာတရားတည်းဟူသောဧဝံဂေလိတရားကိုသင်တို့
သည်အထက်ကကြားသိကြသည်အတိုင်းသင်တို့အဖို့ကောင်းကင်ဘုံ
၌သိုထားသောမျှော်လင့်ရာကိုသင်တို့သည်ထောက်၍ယေရှုခရစ်၌ယုံ
ကြည်ခြင်းကိုရှင်သန့်ရှင်းသူအပေါင်းတို့၌ချစ်ခြင်းကိုရှင်ငါတို့သည်
ကြားပြီးလျှင်သင်တို့အဖို့အစဉ်မပြတ်ဆုတောင်း၍ငါတို့သခင်ယေ

ရှုခရစ်၏ခမည်းတော်တဦးဟူသောဘုရားသခင်၏ကျေးဇူးတော်ကို
၆ ချီးမွမ်းကြ၏။ ထိုတရားသည်လောကီနိုင်ငံလုံးကိုနှံ့ပြားသည်နှင့်အညီ
သင်တို့ဆီသို့ရောက်ခဲ့ပြီး။သင်တို့၌အသီးသီးခြင်း။ကိုးပွားခြင်းကိုပြု
၇ သည်နည်းတူအရပ်ရပ်ပြုတတ်၏။ သင်တို့အမှု၌သစ္စာနှင့်ပြည့်စုံ၍
ခရစ်တော်ထံဆရာဖြစ်သောငါတို့ချစ် သောကျွန်ချင်းဧပဖြသည်
သင်တို့ကိုသွန်သင်သည်အတိုင်း သင်တို့သည်ကြား၍ဘုရား သခင်
၏ကျေးဇူးတော်ကိုမှန်ကန်စွာဝန်ခံသောနေ့မှစ၍ထိုသို့သောအကျိုး
၈ ရှိ၏။ သင်တို့၌ဝိညာဉ်တော်ပြုပြင်သောမေတ္တာကိုဧပဖြသည်ငါတို့
၉ အားပြခဲ့ပြီး။ ။ထိုကြောင့်ငါတို့သည်ကြားရသည်နေ့မှစ
၁၀ ၍သင်တို့အမှုအလို ငါ့အစည် မပြတ်ဆုတောင်းပဌနာပြု၍ နေ၏။ ဆု
တောင်းသောအချက်ဟူမူကား။သင်တို့သည်ကောင်း သောအကျင့်အ
မျိုးမျိုး တည်း ဟူသောအသီး ကို သီးခြင်း။ ဘုရား သခင် ကို သိသော
၁၁ ညာဏ် တိုးပွားခြင်းရှိ၍ ငင် ဝမ်းမြောက် သောစိတ် နှင့် အရာရာ၌
သည်း ခံခြင်း။ စိတ် ရှည် ခြင်း အလို ငါ့ဘုန်း ကြီး သောတန်ခိုး တော်အ
၁၂ တိုင်း ခွန်အားနှင့်ပြည့်စုံ၍ ငင် ခမည်းတော်ဘုရား၏ကျေးဇူးတော်
ကို ချီးမွမ်း၍ငင်သခင်ဘုရားနှင့် ထိုက်လျောက် အောင် သင် တို့သည်
ကျင့်၍အရာရာ၌ နှစ် သက်စေတော်မူခြင်း ငါ့ပညာအမျိုးမျိုး။ မွေ
ညာဏ်အမျိုးမျိုးအားဖြင့်အလိုတော်ကိုအကုန်အစင်နားလည် ပါမည်
အကြောင်း ဆုတောင်းပဌနာပြု၏။အလင်း၌နေသောသန့်ရှင်း သူတို့
၏အမွေကိုငါတို့သည်ဆက်ဆံဝင်စားထိုက်မည်အကြောင်း။ကျေးဇူး
၁၃ ပြုတော်မူ၏။ မှောင်မိုက်တန်ခိုးမှလည်းငါတို့ကို နှုတ်၍ ချစ်တော်မူ
၁၄ သောသား၏နိုင်ငံထဲသို့သွင်းတော်မူ၏။ ထိုသားတော်အားဖြင့်အ
ပြစ်လွှတ်ခြင်းတည်း ဟူသောရွေးခြင်း ကျေးဇူး ကိုငါတို့သည် ခံရကြ
၁၅ ၏။ ။ထိုသားတော်သည်မျက်မြင်မရသောဘုရားသခင်
၏ပုံသဏ္ဍာန်တော်ဖြစ်၏။ခပ်သိမ်းသတ္တဝါအပေါင်းတို့တွင်လည်းသား
၁၆ ဦးဖြစ်တော်မူ၏။ အဘယ် ကြောင့် နည်း ဟူမူကား။ ထိုသား တော်
သည် ကောင်းကင်ပေါ်။မြေကြီး ပေါ်မှာ ရှိသမျှသောရူပအရာ။ အရူပ
အရာ။ရာဇပလ္လင်ဖြစ်စေ။အစိုးရခြင်းတန်ခိုးဖြစ်စေ။အထွဋ်အမြတ်
ဖြစ်စေ။ အာဏာစက် ဖြစ်စေ။ ခပ်သိမ်းသောအရာ တို့ကို ဖန်ဆင်း
တော်မူ၏။ ထိုသခင်အား ဖြင့် ငင်ထိုသခင် အမှုအလို့ငါ့ငင် ခပ်သိမ်း
၁၇ သောအရာတို့သည်ဖန်ဆင်းလျက်ဖြစ်ကြ၏။ သားတော်သည်လည်း

ခပ်သိမ်းသောအရာမဖြစ်မှီရှိတော်မူ၍ခပ်သိမ်း သောအရာတို့သည်
၁၈ တန်ခိုးတော်အားဖြင့်သာတည်ကြ၏။ အသင်းတော်တည်းဟူသော
ကိုယ် ၏ ခေါင်း ဖြစ် တော်မူ၏။ အရာရာ၌ ထူးမြတ်ရအောင်မူလအ
၁၉ ရင်းဖြစ်၍ သေခြင်းမှအဦး ဆုံး ဖွား မြင်သောသူဖြစ် တော်မူ၏။ အ
ဘယ် ကြောင့်နည်း ဟူမူကား။ ခပ်သိမ်း သော ပြည့် စုံခြင်း အားလုံး
၂၀ သည်သားတော်၌ကိန်းဝပ်တော်မူခြင်း၌၎င် လက်ဝါးကပ်တိုင်မှာ
သွန်းသောအသွေးတော်အား ဖြင့်ရန် ကို ညှိမ်း စေ၍ ကောင်းကင်အ
ရာဖြစ် စေ။ မြေကြီး အရာ ဖြစ် စေ။ ခပ်သိမ်း သော အရာ တို့ကိုသား
တော်အားဖြင့်ဘုရားသခင်နှင့် မိဿဟာယဖွဲ့စေခြင်း ၎င်အလိုရှိ
၂၁ တော်မူ၏။ ။အထက်ကဘုရားသခင်နှင့်ကွာရှင်း၍ဆိုး
ညစ်သောအကျင့်ကိုကျင့်သဖြင့်စိတ် နှစ်လုံး ၌ ရန် သူဖြစ်သောသင်
တို့ကိုကိုယ်ခန္ဓာတော်၌အသေခံတော်မူသောအားဖြင့်ယခုမိဿဟာ
၂၂ ယဖွဲ့စေတော်မူ၏။ အကြောင်းမူကား။ သင် တို့သည် ခဲရာကျခြင်း။
၂၃ တည်ကြည် ခြင်း နှင့် တကွမြဲ မြဲ စွာ ရှုံကြည် သည် ဖြစ် ၍ ကောင်းကင်
အောက် ရှိရှိသ မျှသော ဝေနေယျသတ္တဝါတို့ အား ဟောပြော သော။
သင်တို့ကြား နှဲပြီး သောဧဝံဂေလိတရား ၏မျှော်လင့် ခြင်း မရွေ့လျော့
ဘဲခဲကြလျှင်သန့်ရှင်းစင်ကြယ် လျက် အပြစ် တင် ခွင့်နှင့် ကင်းလွတ်
လျက်ရှိသောသင်တို့ကိုရှေ့တော်၌ဆက်သမည့်အကြောင်းတည်း။



၂၄ ငါပေါလုသည် ထိုတရားကိုဟောသောဆရာဖြစ် သည်နှင့်သင်တို့အ
ဖို့အလို၌ငါဆင်းရဲခံခြင်း၌ယခုဝမ်းမြောက်၍ခရစ်တော်၏ဆင်းရဲဒုက္ခ
အကြွင်းအကျန်ကိုအသင်းတော်တည်းဟူသောကိုယ် တော်အဖို့အလို့
၂၅ ၌ငါကိုယ် ခန္ဓာ၌ငါပြည့် စုံစေ၏။ ရှေးကပ်ကာလပတ်လုံး ဖွက်ထား
၂၆ လျက်ရှိသော်လည်း ယခုတွင်သန့် ရှင်းသူတို့အားဖော်ပြသော။ ခုက်ခဲ
ရာတည်း ဟူသောဘုရားသခင် ၏နှုတ်ကပတ်တရား တော်ကိုအကုန်
အစင်ဟောပြောစေခြင်း ၌သင်တို့အကျိုး ကို ထောက် ၍ ငါအား အပ်
ပေးတော် မူသောဘုရား သခင် ၏ သာသနာတော် နှင့်အညီငါသည်
၂၇ အသင်း တော် ၌ ဆရာအဖြစ် သို့ရောက် ရပြီး။ တပါး အမျိုး သားတို့
တွင်၍ခုက် နဲ့ သောအရာနှင့် ဆိုင်သောဘုန်းစည်းစိမ်ကားအဘယ်မျှ
လောက်ကြီးသည် ကိုသန့် ရှင်းသူတို့သည် သိစေခြင်း၌ဘုရားသခင်
အလိုရှိတော်မူ၏။ထိုစည်းစိမ်ကားဘုန်းအသရေကိုမျှော်လင့်ခြင်းအ

ကြောင်းတည်းဟူသော။သင်တို့အထဲ၌တည်တော်မူသောခရစ်တော်
၂၉ ပေတည်း။ ခရစ်တော်အားဖြင့်လူတိုင်းစုံလင်ခြင်းသို့ရောက်၍လူ
တိုင်းကိုဆက်သအံ့သောငှါငါတို့သည်လူတိုင်းကိုသတိပေး၍ပညာ
အမျိုးမျိုးနှင့်လူတိုင်းကိုဆုံးမသွန်သင်လျက်ခရစ်တော်၏တရားကို
ဟောပြောကြ၏။ ထိုသို့အလို့ငှါငါသည်အမှုဆောင်ရွက်၍ငါ၌တန်
ခိုးတော်ပြုပြင်အားထုတ်တော်မူသည့်အတိုင်းငါကျိုးစားအားထုတ်
၁။၂ လျှက်ရှိ၏။ ။သင်တို့နှင့်လောဒိကိမြို့သူမြို့သားမှစ၍ငါမျက်နှာ
ကိုမမြင်သောသူရှိသမျှတို့သည်မေတ္တာချင်းနှင့်ထုံးဖွဲ့၍ခမည်းတော်
ဘုရားနှင့်ခရစ်တော်၏နက်နဲသောအရာကိုနားလည်နိုင်သော။ဗိစိကိ
စ္ဆာနှင့်ကင်းစင်သောဉာဏ်၏စည်းစိမ်အားလုံးရှိ၍စိတ်နှစ်လုံးသက်
သာစေမည်အကြောင်း။အဘယ်မျှလောက်ကြီးသောတိုက်လံခြင်းကို
၃ ငါခံရသည်ဟုသင်တို့သိစေခြင်းငှါငါအလိုရှိ၏။ ထိုနက်နဲသောအ
ရာ၌ပညာဘဏ္ဍာ။ဉာဏ်ဘဏ္ဍာရှိသမျှတို့သည်ဖွက်ထားလျက်ရှိ
၄ ၏။ အဘယ်မည်သောသူမျှဖျားယောင်းသောစကားအားဖြင့်
၅ သင်တို့ကိုမလှည့်စားရအောင်ဤစကားကိုငါပြောဆို၏။ ငါသည်
ကိုယ်ခန္ဓာအားဖြင့်သင်တို့နှင့်ကွာ၍နေသော်လည်းစိတ်ဝိညာဉ်အား
ဖြင့်သင်တို့နှင့်အတူရှိသည်ဖြစ်၍သင်တို့လျှောက်ပတ်စွာစီရင်ပြု
ပြင်တတ်သည်ကိုရင်ခရစ်တော်၌ခိုင်ခံ့စွာယုံကြည်သည်ကိုရင်မြင်
၆ လျှင်ဝမ်းမြောက်ခြင်းရှိ၏။ သို့ဖြစ်၍သင်တို့သည်သခင်ယေရှုခရစ်
၇ ကိုခံယူပြီးသည်ဖြစ်၍ ထိုသခင်၌စိုက်ပျိုးခြင်း။တည်ဆောက်ခြင်း
ရှိလျက်ရင်နည်းဥပဒေသခံပြီးသည်အတိုင်းယုံကြည်ခြင်း၌မြဲမြံစွာစွဲ
လမ်းလျက်ရင်ကျေးဇူးတော်ကိုချီးမွမ်းခြင်းနှင့်တကွယုံကြည်ခြင်းတိုး
၈ ပွားပြည့်စုံလျက်ရင်ထိုသခင်၌ကျင်လည်ကြလော့။ ။ခရစ်
တော်တရားကိုမလိုက်။လူအဆက်ဆက်ခံသောနည်းဥပဒေသကိုရင်
လောကဓံတရားကိုရင်လိုက်၍လောကီပညာ။အချည်းနှီးပရိယာယ်
အားဖြင့်အဘယ်သူမျှသင်တို့ကိုမလုယူမဖျက်ဆီးရအောင်သတိပြုကြ
၉ လော့။ အကြောင်းမူကား။ဘုရားသခင်၏ဇာတိအဖြစ်တော်၏ပြည့်
စုံခြင်းအားလုံးသည်ခရစ်တော်၌ကိုယ်ထင်ရှားရှိ၍ကျိန်းဝပ်တော်
၁၀ မူ၏။ အထွဋ်အမြတ်။အာဏာစက်ရှိသမျှကိုအုပ်စိုးတော်မူသောထို
၁၁ သခင်၌သင်တို့သည်စုံလင်ခြင်းရှိကြ၏။ ခရစ်တော်၏ဇာတ်သွင်း
မင်္ဂလာအားဖြင့်ဇာတိပကတိ၏ကိုယ်ကိုပယ်ရှင်း၍လက်ဖြင့်မလုပ်

သောဇာတ်သွင်းမင်္ဂလာကိုထိုသခင်၌သင်တို့သည်ခံကြသည်ဖြစ်၍
၁၂ ရေနှစ်မင်္ဂလာအားဖြင့်ထိုသခင်နှင့်အတူသင်းဂြိုဟ်ခြင်းရှိကြ၏။ရှင်
ခရစ်တော်ကိုသေခြင်းမှထမြောက်စေတော်မူသောဘုရားသခင်၏
ပြုပြင်အားထုတ်ခြင်းကိုရုံမှတ်သောအားဖြင့်ရေနှစ်မင်္ဂလာကိုခံ၍ထို
၁၃ သခင်နှင့်အတူထမြောက်ခြင်းသို့ရောက်ကြ၏။ ဒုစရိုက်အပြစ်၌ရှင်
ဇာတိပကတိ၏အဇာတိ၌ရှင် သေလျက်ရှိနေသောသင်တို့ကိုခရစ်
တော်နှင့်အတူအသက်ရှင်စေ၍သင်တို့အပြစ်အားလုံးကိုကင်းလွှတ်
၁၄ စေတော်မူ၏။ ငါတို့နှင့်ဆန့်ကျင်ဘက်ဖြစ်သောပိခုည်းအထုံးအဖွဲ့
နှင့်စပ်ဆိုင်သောလက်မှတ်ကိုချေလျှင်လက်ဝါးကပ်တိုင်မှာရိုက်ထား
၁၅ ၍ငါတို့စပ်ကြားထဲကပယ်ရှင်းတော်မူပြီး။ အထွဋ်အမြတ်။အာဏာ
စက်များကိုလုယူလျှင်ထင်ရှားထုပ်ပြ၍လက်ဝါးကပ်တိုင်အားဖြင့်
အောင်ပွဲကိုခံတော်မူပြီး။



၁၆ ထိုကြောင့်စားသောက်ခြင်းအရာ။ပွဲနေ့။လဆန်းနေ့။ဥပုသ်နေ့ကို
၁၇ စောင့်ခြင်းအရာတွင်သင်တို့ကိုအဘယ်သူမျှမစီရင်စေနှင့်။ ထိုအ
ရာတို့သည်နောက်ဖြစ်လတံ့သောအရာတို့၏အရိပ်သာဖြစ်၏။ကိုယ်
၁၈ မူကားခရစ်တော်၏ကိုယ်ဖြစ်၏။ ဥကြောင်းတော်ကိုအမှီမပြု။ဇာ
တိပကတိ၏စိတ်နှစ်လုံးအချည်းနှီးထောင်လွှားလျက်မိမိမသိမမြင်
သောအရာကိုရှုးစမ်းလျက်စိတ်နှိမ့်ချခြင်း။ကောင်းကင်တမန်ကိုကိုး
ကွယ်ခြင်းကိုနှစ်သက်သောသူမည်သည်ကားသင်တို့ဆုကိုမလုမယူ
၁၉ စေနှင့်။ဥကြောင်းတော်မှတကိုယ်လုံးသည်အဆစ်အပိုင်းအထုံးအဖွဲ့
များအားဖြင့်အားဖြည့်၍ထုံးဖွဲ့လျက်ဘုရားသခင်၏အလိုတော်နှင့်
၂၀ အညီကြီးပွားတတ်၏။ ။သင်တို့သည်ခရစ်တော်နှင့်အ
တူသေ၍လောကဓံတရားမှရုတ်စွာကြသည်မှန်လျှင်လောကီအသက်
၂၁ ရှင်သကဲ့သို့လူတို့၏ပညတ်ဩဝါဒကိုလိုက်သည်ဖြစ်၍ မထိနှင့်။မ
မြည်းနှင့်။မကိုင်နှင့်ဟူသောပညတ်စကားကိုအဘယ်ကြောင့်နား
၂၂ ထောင်ကြသနည်း။ ထိုသို့ပညတ်သောအရာအားလုံးတို့သည်သုံး၍
၂၃ ပျက်စီးဖို့ရာဖြစ်၏။ ထိုသို့သောပညတ်တို့သည်ကားကိုယ်အသား
ကိုဝပြောစွာကျွေးမွေးခြင်းနှင့်မဆိုင်။စေတနာရှိ၍ကိုးကွယ်ခြင်း။
စိတ်နှိမ့်ချခြင်း။ကိုယ်ကာယကိုဆုံးမခြင်းနှင့်ဆိုင်၍ပညာရှိရောင်
၁ ဆောင်သတည်း။ ။အထက်ကဆိုခဲ့ပြီးသည်အတိုင်းသင်

တို့သည်ခရစ်တော်နှင့်အတူထမြောက်ကြသည်မှန်လျှင်ဘုရားသခင်
၏လက်ျာတော်ဘက်မှာခရစ်တော်သည် ထိုင်နေတော်မူရာအရပ်၌
၂ ရှိသောအထက်အရာတို့ကိုရှာကြလော့။ မြေကြီးပေါ်မှာရှိသောအ
ရာတို့ကိုစွဲလမ်းသောစိတ်မရှိစေဘဲလျက်အထက်အရာတို့ကိုသာစိတ်
၃ စွဲလမ်းခြင်းရှိကြလော့။ အကြောင်းမူကား။ သင်တို့သည် သေသော
သူဖြစ်၍ သင်တို့အသက်သည် ခရစ်တော်နှင့်အတူ ဘုရားသခင်
၄ ၌ ဖွက်ထားလျက်ရှိ၏။ ငါတို့အသက်တည်းဟူသောခရစ်တော်သည်
ထင်ရှားတော်မူသောအခါငါတို့သည် လည်းထိုသခင်နှင့်အတူဘုန်း
၅ ကြီး၍ထင်ရှားကြလတ့ံ။ ။ထိုကြောင့်မတရားသော
မေထုန် ၌မှိဝဲခြင်း။ညစ်ညူးစွာကျင့်ခြင်း။ကိလေသာပူပန်ခြင်း။ဆိုး
ညစ်သောတပ်မက်ခြင်း။ရုပ်တုကိုကိုးကွယ်ခြင်းနှင့်တူသောလောဘ
လွန်ကျူးခြင်းတည်းဟူသောမြေကြီးပေါ်မှာရှိသောသင်တို့၏ ကိုယ်
၆ အင်္ဂါတို့ကိုသေစေကြလော့။ ထိုအမှုများကြောင့်ဘုရားသခင်အမျက်
၇ တော်သည်ညင်းဆန်သောသူတို့အပေါ်၌သင့်ရောက်ပေ၏။ ထိုသူ
တို့နှင့်သင်တို့သည်လည်းအထက်ကပေါင်းဖော်သောအခါထိုအမှုများ
၈ ၌ကျင်လည်ကြ၏။ ထိုခုမူကားထိုအမှုအားလုံးကိုဒေါသအမျက်ထွက်
ခြင်း။စိတ်ဆိုးခြင်း။သူ့အကျိုးကိုမခံလိုခြင်း။သူ့အသရေပျက်အောင်
ပြောဆိုခြင်း။ညစ်ညူးသောစကားကိုသုံးခြင်း တို့ကိုဒေါသင်တို့နှုတ်
၉ မှပယ်ရှားကြလော့။ အချင်းချင်းမုသာစကားကိုမပြောမသုံးကြနှင့်။
အကြောင်းမူကား။သင်တို့သည်လူဟောင်း၏အကျင့်တို့ နှင့်လူဟော
၁၀ င်းကိုယ်ကို ချွတ်ပယ်၍ ဖန်ဆင်းတော်မူသောသူ၏ပုံသဏ္ဌာန်နှင့်
အညီမှန်သောပညာအားဖြင့်အသစ်ပြုပြင်သောလူသစ်ကိုယူတင်
၁၁ ဝတ်ဆောင်သောသူဖြစ်ကြ၏။ ထိုဖန်ဆင်းပြုပြင်တော်မူရာ၌ဟေ
လသလူမရှိ။ယုဒလူမရှိ။အာတ်သွင်းမင်္ဂလာခံခြင်းမရှိ။ မခံခြင်းမရှိ။
လူရိုင်းမရှိ။ သကုသိလူမရှိ။ကျွန်မရှိ။လူလွတ်မရှိ။ခရစ်တော်သည်
၁၂ အားလုံးတို့၌အလုံးစုံဖြစ်တော်မူ၏။ ။ထိုကြောင့်သင်တို့
သည်ဘုရားသခင်ရွေးကောက်သောသူ။ သန့်ရှင်းသောသူ။ ချစ်အပ်
သောသူကဲ့သို့သနားစုံမက်ခြင်း။ ကျေးဇူးပြုခြင်း။စိတ်နှိမ့်ချခြင်းနူး
၁၃ ညံ့သိမ်မွေ့ခြင်းစိတ်ရှည်ခြင်းတို့ကိုယူတင်ဝတ်ဆောင်ကြလော့။ တ
ယောက်၌တယောက်အပြစ်တင်စရာအခွင့်ရှိလျှင်အချင်းချင်းသည်းခံ
၍အပြစ်လွှတ်ကြလော့။ခရစ်တော်သည်သင်တို့၏အပြစ်ကိုလွှတ်တော်

၁၄ မှုသကဲ့သို့ထိုနည်းစွာပြုကြလော့။ ရုံလင်စေတတ်သောခါးပန်းတည်း
ဟူသောချစ်ခြင်းမေတ္တာကိုထပ်၍ ယူတင်ဝတ်ဆောင်ကြလော့။
၁၅ သင်တို့စိတ်နှစ်လုံးအထဲ၌ခရစ်တော်၏ ညှိမ်သက်ခြင်းအုပ်စိုးပါလေ
စေ။ထိုသို့အလိုငှါသင်တို့သည် တလုံးတကိုယ်တည်း၌ခေါ်ထားတော်
မူခြင်းကိုခံကြသည်ဖြစ်၍ကျေးဇူးတော်ကိုသိသောစိတ်ရှိကြလော့။
၁၆ ။ခရစ်တော်၏နှုတ်ကပတ်တရားသည်ပညာအမျိုးမျိုးနှင့်
သင်တို့အထဲ၌ကြွယ်ဝစွာတည်နေ၍သင်တို့သည် ဆာလံသီချင်းမှစ
သောဓမ္မသီချင်းအမျိုးမျိုးအားဖြင့်အချင်းချင်းဆုံးမွဲသွန်သင်ခြင်း။သ
တိပေးခြင်းကိုပြု၍နူးညွတ်သောစိတ်နှစ်လုံးနှင့်ဘုရားသခင်ရှေ့တင့်
၁၇ တယ်လျှောက်ပတ်စွာသီချင်းဆိုကြလော့။ သခင်ယေရှု၏မျက်နှာတော်
ကိုထောက်၍ ကာယကံဝစီကံအမှုရှိသမျှတို့ကို ပြုကြလော့။ ထိုသခင်
ကိုလည်းအမှီပြုသဖြင့်ခမည်းတော်ဘုရားသခင်ရှေ့ကျေးဇူးတော်ကို
ချီးမွမ်း၍လျှောက်ကြလော့။



၁၈ အချင်းမိမ္မတို့။သခင်ဘုရား၏ဘာသာ၌ပြုသင့်သည်အတိုင်းကိုယ်
၁၉ ခင်ပွန်းအုပ်စိုးခြင်းကိုဝန်ခံကြလော့။ အချင်းယောကျ်ားတို့။ကိုယ်
၂၀ ခင်ပွန်းကိုချစ်ကြလော့။ကြမ်းတမ်းစွာမပြုကြနှင့်။ သားသမီးတို့။မိဘ
စကားကိုအရာရာ၌နားထောင်ကြလော့။မိဘစကားကိုနားထောင်
၂၁ ခြင်းအမှုသည်သခင်ဘုရားနှစ်သက်တော်မူသောအမှုဖြစ်၏။ အဘ
တို့။ကိုယ်သားသမီးစိတ်ဆိုးအောင်ချုပ်ချယ်ခြင်းကိုမပြုကြနှင့်။ထိုသို့
ပြုလျှင်သူတို့သည်အားလျော့စိတ်ပျက်ခြင်းသို့ရောက်ကြလိမ့်မည်။
၂၂ အစေခံကျွန်တို့။သခင်ဘုရားကိုကြောက်ရွံ့သဖြင့်လူစိတ်ကိုနူးညွတ်
စေသောသူကဲ့သို့မျက်မှောက်၌သာနားထောင်သည်မဟုတ်။စိတ်နှစ်
၂၃ ခွမရှိဘဲလောကီသခင်စကားကိုအရာရာ၌နားထောင်ကြလော့။ လူ
အမှုကိုသာပြုသကဲ့သို့မဟုတ်။သခင်ဘုရား၏အမှုကိုရွက်ဆောင်
၂၄ သကဲ့သို့ပြုလေရာရာစေတနာစိတ်နှင့်ပြုကြလော့။ သင်တို့သည်သ
ခင်ခရစ်တော်၏အစေကိုခံကြသည်ဖြစ်၍အမွေတော်တည်းဟူသော
၂၅ အကျိုးကိုထိုသခင်ဘုရား၏လက်မှခံရမည်ဟုသိမှတ်ကြလော့။ မတ
ရားသောအမှုကိုပြုသောသူမည်သည်ကားမိမိပြုသောအမှု၏အကျိုး
၁ အပြစ်ကိုခံရလိမ့်မည်။အဘယ်သူ၏မျက်နှာကိုမှတ်တော်မမူ။ သခင်
တို့။သင်တို့၏သခင်သည်ကောင်းကင်ဘုံ၌ရှိတော်မူသည်ဟုသိမှတ်၍

ဖြောင့်မတ်ခြင်းတရား။ မျှခြင်းတရားနှင့်အညီကိုယ်ကျွန်တို့ကိုပြုကြ
၂ လော့။ ။ဆုတောင်းပဌနာပြုခြင်းအမှုကိုအမြဲပြု၍ကျေးဇူးတော်
၃ ကိုချီးမွမ်းလျက်နှင့်စောင့်ရှောက်ကြလော့။ ငါသည်ခရစ်တော်၏နက်
၄ နဲသောအရာကြောင့်အချုပ်အနှောင်ခံရသည်ဖြစ်၍ ထိုနက်နဲသော
အရာကိုဟောပြောခြင်း၌ဘုရားသခင်သည်တရားဟောရာတံခါး
ကိုငါတို့အား ဖွင့်တော်မူမည်အကြောင်းကိုဧင်ထိုနက်နဲသောအရာ
ကိုဟောပြောအပ်သည်နှင့်အညီငါထင်ရှားစေမည်အကြောင်းကိုဧင်
၅ ငါတို့အဖို့လည်းဆုတောင်းကြလော့။ သာသနာပလူတို့၏မျက်နှာကို
ထောက်သဖြင့်ပညာနှင့်ကျင့်ဆောင်၍အချိန်ကာလကိုရွေးနှုတ်ဆယ်
၆ ယူကြလော့။ လူအသီးအသီးတို့ကို အဘယ်သို့ပြန်ပြောရမည်ဟုသိ
ခြင်း၌သင်တို့စကားသည်ဆားအားဖြင့်ဇနီသောအရသာနှင့်ပြည့်
စုံလျက်အစဉ်မပြတ်တင့်တယ်လျောက်ပတ်ပါသေစေ။ ။
၇ သစ္စာရှိသောဆရာဖြစ်၍သခင်ဘုရား၌ငါကျွန်ချင်းတည်းဟူသော။
ငါချစ်သောညီတုခိတ်သည်ငါအကြောင်းအရာအားလုံးကိုသင်တို့
၈ အားဖော်ပြလိမ့်မည်။ သူသည်သင်တို့အကြောင်းအရာများကိုသိ၍
၉ သင်တို့စိတ်နှစ်လုံးကိုသက်သာစေရအောင်သူကိုဧင် သင်တို့ဆီက
ရောက်လာ၍သစ္စာရှိသောငါချစ်သောညီဩနေသိမ်ကိုဧင်သင်တို့
ဆီသို့ငါစေလိုက်၏။ သူတို့သည်ဤမြို့၌ဖြစ်သမျှသောအကြောင်းအ
၁၀ ရာကိုသင်တို့အားဖော်ပြလိမ့်မည်။ ။ငါနှင့်အတူအကျဉ်းခံ
သောသူအာရိတ္တာခု။ ဗာနာဗ၏တူမာကု။ ယုတ္တုဟုခေါ်ဝေါ်သောယေ
ရှုသည် သင်တို့ကို နှုတ်ဆက်ကြ၏။ မာကုအတွက်သင်တို့ကိုငါမှာ
၁၁ လိုက်ခဲ့ပြီး။ သူသည်သင်တို့ဆီသို့ရောက်လာလျှင်လက်ခံကြပါ။ ဓာတ်
သွင်းမင်္ဂလာခံသူတို့တွင်၌သူတို့သာဘုရားသခင်၏နိုင်ငံတော်အ
ဖို့ငါနှင့်အတူအမှုဆောင်သောသူဖြစ်၍ငါစိတ်ကိုသက်သာစေကြ၏။
၁၂ သင်တို့ဆီကရောက်လာသော။ ခရစ်တော်၏ကျွန်ဧပဖြသည်သင်တို့
ကိုနှုတ်ဆက်၏။ သင်တို့သည်စုံလင်လျက်ဘုရားသခင်၏အလိုတော်ကို
အကုန်အစင်လေ့ကျက်လျက်နေမည်အကြောင်း။ သူသည်သင်တို့အဖို့
၁၃ ကာလအစဉ်ကျိုးစား၍ဆုတောင်းတတ်၏။ သင်တို့မှစ၍လောဒိကိ
မြို့။ ဟေရပေါလိမြို့၌ရှိသောသူတို့အဖို့သူသည်အလွန်စေတနာစိတ်
၁၄ အားကြီးသည်ဟုငါသည်သူ၏သက်သေဖြစ်၏။ ငါချစ်သောဆေး
၁၅ သမားလုကာနှင့်ဒေမသည်သင်တို့ကိုနှုတ်ဆက်ကြ၏။ လောဒိကိမြို့၌

ရှိသောညီအစ်ကိုတို့ကိုဍင်နုမ္ဖမှစ၍သူ၏အိမ်၌ရှိသောအသင်းတော်
၁၆ ကိုဍင်နှုတ်ဆက်ကြပါ။ ။ဤစာကိုသင်တို့သည်ဖတ်ပြီးမှ
လောဒိကိမြို့အသင်းတော်တွင်ဖတ်စေကြလော့။ လောဒိကိမြို့မှပေး
၁၇ လိုက်သောစာကိုလည်းသင်တို့ဖတ်ကြလော့။ အာခိပ္ပုကိုလည်းသင်
သည်သခင်ဘုရား၏လက်မှခံရပြီးသောဆရာ၏အမှုအရာကိုပြည့်
၁၈ စုံစေရအောင်သတိပြုပါဟုပြောကြလော့။ ငါပေါလုသည်သင်တို့ကို
နှုတ်ဆက်ချက်ကိုကိုယ်လက်ဖြင့်ရေးထား၏။ငါခံရသောချည်နှောင်
ခြင်းကိုအောင်းမေ့ကြပါ။ သင်တို့၌ကျေးဇူးတော်ဖြစ်စေသတည်း။
အာမင်။

။ကောလောသဲဩဝါဒစာပြီး၏။

---

## ။သက်သာလောနိတ်ဩဝါဒစာပဌမစောင်။

---

၁ ပေါလု။သိလွာနု။တိမောသေတို့ကခမည်းတော်ဘုရား၌ဍင်သခင်ယေ
ရှုခရစ်၌ဍင်တည်ရှိ၍သင်းဝင်သောသက်သာလောနိတ်မြို့သားတို့ကို
ကြားလိုက်ပါ၏။ သခင်ယေရှုခရစ်နှင့် ငါတို့အဖတည်းဟူသောဘု
ရားသခင်အထံတော်ကကျေးဇူးတော်နှင့်ညိမ်သက်ခြင်းသင်တို့အား
၂။၃ ဖြစ်ပါစေသော။ ။ငါတို့အဖတည်းဟူသောဘုရားသခင်
ရှေ့တော်၌သင်တို့သည်ရုံကြည်သောစိတ်နှင့်အကျင့်ကျင့်ခြင်း။ချစ်
သောစိတ်နှင့်ကျိုးစားအားထုတ်ခြင်း။ငါတို့သခင်ယေရှုခရစ်ကိုမျှော်
လင့်သောစိတ်နှင့်တည်ကြည်ခြင်းတို့ကိုငါတို့သည်အစဉ်မပြတ်အော
င်းမေ့၍ဍင်ချစ်သောညီအစ်ကိုတို့။သင်တို့ကိုဘုရားသခင်ရွေး
ကောက်တော်မူခြင်းကိုသိမှတ်စွဲလမ်း၍ဍင်သင်တို့အားလုံးကိုအ
ကြောင်းပြုသဖြင့်ဘုရားသခင်၏ကျေးဇူးတော်ကိုကာလအစဉ်ချီး
မွမ်း၍သင်တို့အဖို့အလို့ငှါဆုတောင်းပဌနာပြုနေကြ၏။
၅ ငါတို့သည်သင်တို့ဆီမှာနေသောအခါသင်တို့အတွက်အဘယ်သို့
သောသူဖြစ်သည်ဟုသင်တို့သိကြသည်နှင့်အညီငါတို့ဟောသော
ဝံဂေလိတရားသည်သင်တို့၌စကားသက်သက်ဖြစ်သည်မဟုတ်။တန်
ခိုးနှင့်ဍင်သန့်ရှင်းသောဝိညာဉ်တော်နှင့်ဍင်ဝိစိကိစ္ဆာမရှိဘဲအမှန်သိ
၆ ခြင်းနှင့်ဍင်ပြည့်စုံသောတရားဖြစ်၏။ သင်တို့သည်လည်းကြီးစွာ

သောဆင်းရဲခြင်းကိုခံရသော်လည်းသန့်ရှင်းသောဝိညာဉ်တော်နှင့်
ဆိုင်သောဝမ်းမြောက်ခြင်းနှင့်တကွနှုတ်ကပတ်တရားတော်ကိုခံယူ၍
၇ ငါတို့ကဲ့သို့သောသူမကသခင်ဘုရားကဲ့သို့သောသူဖြစ်ကြ၏။ သို့
ဖြစ်၍မာကေဒေါနိပြည်။အခါယပြည်၌ရှိကြည်ညိုသောသူအားလုံးတို့အား
၈ သင်တို့သည်ပုံသက်သေပေးသောသူဖြစ်ကြ၏။ အဘယ်သို့နည်းဟူ
မူကား။သင်တို့ဆီမှာသခင်ဘုရား၏နှုတ်ကပတ်တရားတော်သည်
မာကေဒေါနိပြည်။ အခါယပြည်၌ကျော်စောသည်သာမကသင်တို့
သည်ဘုရားသခင်ကိုကြည်ညိုခြင်းသိတင်းအရပ်ရပ်နှံ့ပြားလေ၏။သို့
၉ ဖြစ်၍ငါတို့သည်တစုံတခုကိုမျှပြောစရာအကြောင်းမရှိ။ ငါတို့သည်
သင်တို့အထဲသို့အဘယ်သို့ဝင်ကြသည်အကြောင်းအရာကိုသူတပါး
တို့သည်ကြားပြောကြ၏။ရုပ်တုဆင်းတုကိုပြစ်ပယ်၍သင်တို့သည်
အသက်နှင့်ပြည့်စုံလျက်မှန်တော်မူသောဘုရားသခင်၏အမှုကို
၁၀ ဆောင်ခြင်းငှါ၎င် ရောက်လတ္တံ့သောဘေးဒါဏ်မှငါတို့ကိုကယ်နှုတ်
သောယေရှုတည်းဟူသောသေခြင်းမှထမြောက်စေတော်မူသောသား
တော်သည်ကောင်းကင်ဘုံမှကြွလာမည်အရာကိုငံ့လင့်ခြင်းငှါ၎င်ဘု
ရားသခင်အထံတော်သို့ပြောင်းလဲကြသည်အကြောင်းအရာကိုလည်း
၁ ကြားပြောကြ၏။ ။ညီအစ်ကိုတို့။ငါတို့သည်သင်တို့အ
ထဲသို့ဝင်ခြင်းအမှုသည်ချည်းနှီးသောအမှုမဟုတ်ကြောင်းကိုသင်
၂ တို့ကိုယ်တိုင်သိကြ၏။ သင်တို့သိကြသည်နှင့်အညီငါတို့သည်ဖိ
လိပ္ပိမြို့၌ဆင်းရဲညှဉ်းဆဲခြင်းကိုခံပြီးမှဘုရားသခင်ကိုအမှီပြု၍ကြီး
စွာသောတိုက်လှံခြင်းနှင့်တကွဘုရားသခင်၏ဧဝံဂေလိတရားကို
၃ သင်တို့အားရဲရင့်စွာဟောပြောကြ၏။ ငါတို့သည်မှားယွင်းခြင်း။
ညစ်ညူးခြင်း။ လှည့်စားခြင်းအားဖြင့်သင်တို့ကိုတိုက်တွန်းသွေး
၄ ဆောင်ကြသည်မဟုတ်။ ဧဝံဂေလိတရားကိုစောင့်ထိုက်သောသူ
ဟုငါတို့ကိုဘုရားသခင်ဝန်ခံတော်မူသည်နှင့်အညီလူကိုသာမနှစ်
သက်စေဘဲငါတို့စိတ်နှစ်လုံးကိုစစ်ကြောစုံစမ်းတော်မူသောဘုရား
၅ သခင်ကိုနှစ်သက်စေသကဲ့သို့ဟောပြောကြ၏။ အဘယ်သို့နည်းဟူ
မူကား။သင်တို့သိသည်နှင့်အညီငါတို့သည်ချော့မော့သောစကားကို
တခါမျှမသုံး။ ဖွက်ထားသောလောဘစိတ်အလျှင်းမရှိ။ဘုရားသခင်
၆ သည်ငါတို့သက်သေဖြစ်တော်မူ၏။ ထိုမှတပါး။ခရစ်တော်၏တမန်
တော်ဖြစ်၍အာဏာထားပိုင်သော်လည်းလူပေးသောဘုန်းအသရေ

၇။၈ ကိုသင်တို့ဆီမှာမရှာ။အချားသူတို့ဆီမှာမရှာဘဲ သင်တို့တွင်ဖြည်း
ညှင်းစွာပြုကြ၏။ သင်တို့ကိုချစ်သောကြောင့်နို့ထိန်းသည် မိမိသူ
ငယ်ကို ကျွေးမွေးပြုစုသကဲ့သို့ငါတို့သည်သင်တို့ကိုနှစ်မြောစုံမက်
ခြင်းနှင့်တကွဘုရားသခင်၏ဧဝံဂေလိတရားမျှမကကိုယ်အသက်ကို
၉။၁၂ ပင်ပေးချင်သောစေတနာစိတ်ရှိကြ၏။ ။ညီအစ်ကိုတို့၊
ငါတို့ပင်ပန်းစွာအမှုလုပ်ခြင်း။ ကျိုးစားအားထုတ်ခြင်းကိုသင်တို့
မှတ်မိကြ၏။သင်တို့တွင်တယောက်ကိုမျှမနှောင့်ရှက်ရအောင်ငါတို့
သည်နေ့ညဉ့်လုပ်ဆောင်၍ဘုရားသခင်၏ဧဝံဂေလိတရားကိုသင်တို့
အားဟောပြောကြ၏။မိမိနိုင်ငံတော်။ဘုန်းတော်ထဲသို့သင်တို့ကိုခေါ်
သွင်းတော်မူသောဘုရားသခင်နှင့်အထိုက်အလျောက်သင်တို့သည်
ကျင့်ဆောင်စေခြင်းငှါအဖသည်မိမိသားတို့၌ပြုသကဲ့သို့ငါတို့သည်
သင်တို့အားလုံးကိုအဘယ်သို့တိုက်တွန်းသွေးဆောင်၍သက်သေခံ
သည်ကိုသင်တို့သိကြသည်နှင့်အညီယုံကြည်ခြင်းသို့ရောက်သောသင်
တို့တွင်ငါတို့သည်အဘယ်သို့သန့်ရှင်းဖြောင့်မတ်လျက်အပြစ်တင်
ခွင့်နှင့်ကင်းလွတ်လျက်နေကြသည်ကိုသင်တို့သည်သက်သေဖြစ်ကြ
၏။ဘုရားသခင်လည်းသက်သေဖြစ်တော်မူ၏။

❋❋

၁၃ သင်တို့သည်ငါတို့ဟောပြောသောဘုရားသခင်၏နှုတ်ကပတ်တရား
ကိုခံယူကြသောအခါလူ၏နှုတ်ထွက်စကားကိုမခံမယူဘဲဘုရားသ
ခင်၏နှုတ်ကပတ်တော်အမှန်ဖြစ်သည်နှင့်အညီယုံကြည်ခြင်းသို့ရော
က်သောသင်တို့အထဲ၌ပြုပြင်သောဘုရားသခင်၏နှုတ်ကပတ်တရား
ကိုခံယူကြသည်အကြောင်းအရာကိုငါတို့သည်ဘုရားသခင်၏ကျေး
၁၄ ဇူးတော်ကိုအစဉ်မပြတ်ချီးမွမ်းကြ၏။ အဘယ်သို့နည်းဟူမူကား။
ယေရှုခရစ်၏ဘာသာကိုခံယူ၍ယုဒပြည်၌ဘုရားသခင်၏သင်းဝင်
သူတို့သည်ယုဒလူတို့လက်မှဆင်းရဲခံသကဲ့သို့ ညီအစ်ကိုတို့။သင်တို့
သည်မိမိတို့အမျိုးသားချင်းလက်မှထိုနည်းတူခံသောအားဖြင့်သင်
တို့သည်ယုဒပြည်၌ရှိသောတပည့်တော်ကဲ့သို့သောသူဖြစ်ကြ၏။
၁၅ ယုဒလူတို့သည်သခင်ယေရှုမှစ၍ပရောဖက်များကိုအသေသတ်ကြ
ပြီး။ငါတို့ကိုညှဉ်းဆဲကြ၏။ဘုရားသခင်အလိုတော်ကိုမလိုက်။ ခပ်
၁၆ သိမ်းသောလူတို့နှင့်ဆန့်ကျင်ဘက်ဖြစ်ကြ၏။ တပါးအမျိုးသားတို့
သည်ကယ်တင်ခြင်းသို့ရောက်စေခြင်းငှါငါတို့သည်ဟောပြောကြ

သည့်ကိုသူတို့သည် မြစ်တား၍မိမိတို့အပြစ်ကိုအစည်ပြည့်စုံစေကြ
၏။သူတို့အပေါ်၌အမျက်တော်သည်ကြွင်းတည်းစွာရောက်ပေ၏။
၁၇ ။ညီအစ်ကိုတို့။ငါတို့သည်စိတ်နှစ်လုံးအားဖြင့်မဟုတ်။ကိုယ်
အားဖြင့်သာသင်တို့နှင့်ခဏကွာသည့်ရှိသော်သင်တို့မျက်နှာကိုမြင်
၁၈ ခြင်းအလွန်လွမ်းသောစိတ်နှင့်သာ၍ကြိုးစားအားထုတ်ကြ၏။ ထို
ကြောင့် ငါပေါလုသည် သင် ထို ဆီသို့ လာခြင်း ၌ါ နှစ် ကြိမ် မြောက်
၁၉ အောင်အလို ရှိသော်လည်းမာရ်နတ်စာတန်သည်ဆီးတားလေ၏။ ငါ
တို့မျှော်လင့်ခြင်း။ဝမ်းမြောက်ခြင်း။ကြွားဝါခြင်း၏ဦးရစ်သရဖူကား
အဘယ်အရာနည်း။ငါတို့သခင်ယေရှုခရစ်ကြွလာတော်မူ၍ရှေ့တော်
၂၀ ၌သင်တို့ပင်မဟုတ်လော။ သင်တို့သည် ငါတို့ဘုန်း အသရေ။ ငါတို့
၁ ဝမ်းမြောက်ခြင်းအကြောင်းဖြစ်ကြသတည်း။ ။ထိုကြောင့်
ငါသည်တဖန်မအောင့်နိုင်သောအခါအာသင်မြို့၌တယောက်တည်း
၂ ကျန်ရစ်၍နေခြင်း၌ါဝန်ခံလေ၏။ ခရစ်တော်၏ဧဝံဂေလိတရားကို
ဟောပြော၍ဘုရားသခင်၏အမှုတော်ကိုလုပ်ဖော်ဆောင်ဖက်ဖြစ်
၃ သောငါ့ညီတိမောသေကိုလွှတ်လိုက်၏။ ငါတို့ခံရသောဆင်းရဲခြင်း
ကြောင့်အဘယ်သူမျှမရွေ့လျော့ရအောင်သင်တို့ကိုမြဲမြံစေ၍ယုံကြည်
ခြင်းအရာ၌သင်တို့ကိုတိုက်တွန်းနှိုးဆော်မည်အကြောင်း။ သူ့ကိုငါ
၄ လွှတ်လိုက်၏။ ဤဆင်းရဲကိုခံရအောင်ငါတို့သည် ခန့်ထားသောသူ
ဖြစ် ကြောင်း ကိုသင် တို့ကိုယ်တိုင် သိကြ ၏။ အဘယ် သို့နည်းဟူမူ
ကား။ငါတို့သည်ဆင်းရဲခြင်းကိုခံရလိမ့်မည်ဟုသင် တို့ဆီမှာရှိတုန်း
ခါငါတို့ပြော နှင့်ကြပြီး။ ပြောသည် အတိုင်းဖြစ်၏။ သင်တို့လည်းသိ
၅ ကြ၏။ စုံစမ်းသွေးဆောင်တတ်သောသူသည် သင် တို့ကိုစုံစမ်းသွေး
ဆောင်သဖြင့်ငါတို့ပင်ပန်းစွာလုပ်ဆောင်ခြင်းသည်အချည်းနှီးဖြစ်
မည်ဟုစိုးရိမ်၍မအောင့်နိုင်သောအခါသင်တို့၏ယုံကြည်ခြင်းကိုသိရ
၆ အောင်ငါစေလိုက်လေ၏။ ။ယခုမူကားတိမောသေသည်
သင်တို့ဆီကပြန်လာ၍သင်တို့ယုံကြည်ခြင်း။ချစ်ခြင်း ရှိသည်ဟူ၍၎င်
ငါတို့သည် သင် တို့ ကိုလွမ်း သကဲ့သို့သင်တို့သည် ငါတို့ကိုလွမ်း ၍အ
စည်မပြတ်ကောင်းကောင်းအောင်းမေ့ကြသည် ဟူ၍ ၎င်ဝမ်းမြောက်
၇ စရာသိတင်းကိုကြားပြောသည့်ရှိသော် ညီအစ်ကိုတို့။ငါတို့သည်အ
ရာရာ၌ဆင်းရဲ၍ခက်ခဲစွာခံရသည်တွင်သင်တို့ယုံကြည်ခြင်းအားဖြင့်
၈ သက်သာခြင်းသို့ရောက်ကြ၏။ သင်တို့သည် သခင်ဘုရား၌တည်

၉ ကြသည့်ဖြစ် ၍ ယခုတွင်ငါတို့သည် အသက်ရှင်ကြ၏။ ငါတို့ဘုရား
သခင်ရှေ့၌သင်တို့အကြောင်းကြောင့်ငါတို့ခံရသောဝမ်းမြောက်ခြင်း
အပေါင်း ကို ထောက် ၍ သင် တို့အကြောင်းကြောင့် ဘုရား သခင် ၏
၁၀ ကျေးဇူးတော်ကိုအဘယ်သို့ဆပ်နိုင်သနည်း။ သင်တို့မျက်နှာကိုမြင်
၍သင်တို့ယုံကြည်ခြင်း၌လိုသေးသမျှကိုစုံလင်စေမည်အကြောင်း။ငါ
တို့သည်နေ့ညအလွန်တရာဆုတောင်းပဌနာပြုနေကြ၏။
၁၁ သင်တို့ဆီသို့ငါတို့သွားရာလမ်းကိုငါတို့အဖတည်းဟူသောဘုရားသ
၁၂ ခင်နှင့်ငါတို့သခင်ယေရှုခရစ်သည်ပြင်ဆင်တော်မူပါစေသော။ ထို
၁၃ သခင်သည်မိမိသန့်ရှင်းသူအားလုံးတို့နှင့်အတူကြွလာတော်မူသော
အခါငါတို့အဖတည်းဟူသောဘုရားသခင်ရှေ့မှာအပြစ်တင်ခွင့်မရှိ
သောသင်တို့၏စိတ်နှစ်လုံးကိုကိုယ်တော်သည်သန့်ရှင်းသောပါရမီ၌
မြဲမြံစေတော်မူခြင်းငှါငါတို့သည်သင်တို့ကိုချစ်သကဲ့သို့သင်တို့သည်
အချင်းချင်းကိုင်သူတပါးအားလုံးတို့ကိုငင်ချစ်၍အထူးသဖြင့်ကြွယ်
ဝပြည့်စုံမည်အကြောင်း။သခင်ဘုရားပြုတော်မူပါစေသော်။

**

၁ ကြွင်း သေး သော စကား ဟူမူကား။ ညီအစ် ကို တို့။ သင်တို့သည် အ
ဘယ်သို့ကျင့်ရမည်။အဘယ် သို့ဘုရား သခင်ကို နှစ် သက်စေရမည်
ဟုငါတို့ထံ၌နည်းခံကြသည် နှင့်အညီတိုးပွား၍ကြွယ်ဝပြည့်စုံမည်အ
ကြောင်း။သခင်ယေရှုကိုအမှီပြုသဖြင့် ငါတို့သည် တောင်းပန်၍တိုက်
၂ တွန်းသွေးဆောင်ကြ၏။ အဘယ်သို့သောပညတ်တို့ကိုသခင်ယေရှု
၃ ၏အ ခွင့် တော် နှင့် ငါတို့သည်အပ် ပေးသည်ကိုသင်တို့သိကြ၏။ ဘု
ရားသခင် ၏အလိုတော်ဟူမူကား။ သင်တို့သည် မတရားသောမေ့ရန်
၄။၅ ကိုကြည်ရှောင်၍ သန့်ရှင်းစေခြင်းငှါရင် ဘုရားသခင်ကိုမသိသော
သာသနာပလူတို့သည် ကိလေသာတပ်မက်ခြင်းရှိသကဲ့သို့ မဟုတ်။
သင်တို့အားလုံးသည်သန့်ရှင်းခြင်း။ အသရေတင့်တယ်ခြင်း နှင့် မိမိ
၆ ကိုယ်ကိုမိမိထိန်းတတ်စေခြင်း ငှါရင် ဤအမှုအရာ၌လွန်ကျူး၍ညီ
အစ်ကို ကိုပရိယာယ်အားဖြင့်မပြစ်မှားစေခြင်း ငှါရင်အလိုတော်ရှိ
၏။ငါတို့သည်အထက်ကဟောပြော၍သက်သေခံနှင့်သည် အတိုင်းသ
ခင်ဘုရားသည် ထိုသို့သောပြစ်မှားခြင်းကိုခံသောသူအားလုံးဘက်
၇ ၌တရားစီရင်တော်မူလိမ့်မည်။ ဘုရားသခင်သည်ညစ်ညူးစေခြင်း
ငှါငါတို့ကိုခေါ်တော်မူသည်မဟုတ်။သန့်ရှင်းစေခြင်းငှါခေါ်တော်မူ၏။

၈ ထိုကြောင့်ငါတို့ကိုညှင်းပယ်သောသူသည်လူကိုသာညှင်းပယ်သည်
မဟုတ်။ ကိုယ်ကော်၏သန့်ရှင်းသောဝိညာဉ်တော်ကိုငါတို့အားပေး
၉ တော်မူသောဘုရားသခင်ကိုညှင်းပယ်၏။ ၊၊ညီအစ်ကို
ချင်းချစ်ခြင်းအရာကိုသင်တို့ဆီသို့ရေး၍ပေးလိုက်စရာအကြောင်း
မရှိ။အဘယ်ကြောင့်နည်းဟူမူကား။ သင်တို့သည်အချင်းချင်းချစ်ရ
အောင်ဘုရားသခင်သွန်သင်တော်မူသောသူဖြစ်ကြ၏။ ထိုမျှ
၁၀ မက။ မာကေဒေါနိပြည်အရပ်၌ရှိသောညီအစ်ကိုအားလုံးတို့ကိုထို
၁၁ သို့ပြုကြ၏။ သို့သော်လည်း ညီအစ်ကိုတို့။ သင်တို့သည် တိုးပွား၍
၁၂ ကြွယ်ဝပြည့်စုံမည်အကြောင်းနှင့် သာသနာပလူတို့ရှေ့၌လျှောက်
ပတ်စွာကျင့်နေ၍အဘယ်မျှမလိုရအောင် ငါတို့သည် အထက်ကမှာ
ထားသည်နှင့်အညီ ညိမ်ညိမ်နေသဖြင့်ကိုယ်အမှုကိုဆောင်ရွက်၍
ကိုယ်လက်နှင့် လုပ်ဆောင်ရအောင်စေတနာစိတ်ရှိ၍ကျိုးစားအား
ထုတ်မည်အကြောင်း။ငါတို့သည်တိုက်တွန်းသွေးဆောင်ကြ၏။
၁၃ ၊၊ညီအစ်ကိုတို့။မျှော်လင့်ခြင်းမရှိသောအချားသူတို့သည်ဝမ်
နည်းသကဲ့သို့သင်တို့သည်ဝမ်းမနည်းရအောင်အိပ်ပျော်သောသူတို့
၁၄ အကြောင်းကိုသိစေချင်ပါ၏။ ယေရှုသည်သေပြီးမှတဖန်ထမြောက်
တော်မူသည်ကိုငါတို့သည်ယုံကြည်လျှင်ထိုနည်းတူယေရှု၌အိပ်ပျော်သော
သူတို့ကိုလည်းထိုသခင်နှင့်အတူဘုရားသခင်ပို့ဆောင်တော်မူလိမ့်
၁၅ မည်။ သခင်ဘုရား၏ဗျာဒိတ်တော်အားဖြင့် တဖန်ငါတို့ဆိုသည်
ကား။သခင်ဘုရားကြွလာတော်မူသောအခါအသက်ရှင်၍ကျန်ကြွင်း
သောငါတို့သည်အိပ်ပျော်ပြီးသောသူတို့အရင်၌နေရကြမည်မဟုတ်။
၁၆ သခင်ဘုရားသည်ကြွေးကြော်ခြင်း။ကောင်းကင်တမန်မင်းအသံပေး
ခြင်း။ဘုရားသခင်၏တံပိုးတော်မှုတ်ခြင်းနှင့်တကွကောင်းကင်ဘုံမှ
ကိုယ်တိုင်ဆင်းသက်တော်မူ၍ခရစ်တော်၌သေလွန်သောသူတို့သည်
၁၇ အဦးထမြောက်ကြလိမ့်မည်။ ထိုအခါအသက်ရှင်၍ကျန်ကြွင်းသော
ငါတို့သည်အာကာသကောင်းကင်၌သခင်ဘုရားထံတော်သို့ရောက်
စေခြင်းငှါသူတို့နှင့်တကွမိုဃ်းတိမ်ပေါ်မှာဆောင်သွားသောအား
၁၈ ဖြင့်သခင်ဘုရားနှင့်အတူအစဉ်မပြတ်နေကြလိမ့်မည်။ သို့ဖြစ်၍
ဤစကားများအားဖြင့်အချင်းချင်း တယောက်ကိုတယောက်သက်
သာစေကြလော့။



၁ ညီအစ်ကိုတို့။ကပ်ကာလအချိန်များကိုသင်တို့ဆီသို့ရေးထား၍ပေး
၂ လိုက်စရာအကြောင်းမရှိ။ အဘယ်ကြောင့်ခုည်းဟူမူကား။ညည့်အ
ခါသူခိုးလာသကဲ့သို့သခင်ဘုရား၏နေ့ရက်လာသည်ကိုသင်တို့သေ
၃ ချာစွာသိကြ၏။ ညိမ်ဝပ်ခြင်းရှိ၏။ဘေးအန္တရာယ်နှင့်ကင်းလွတ်
၏ဟုဆိုတုန်းခါကိုယ်ဝန်ဆောင်သောမိမ္မ၌သားဖွားခြင်းဝေဒနာ
ရောက်သကဲ့သို့သူတို့အပေါ်၌လျှင်စွာသောပျက်စီးခြင်းရောက်၍
၄ လွတ်ခြင်းအခွင့်မရှိကြ။ သို့သော်လည်းညီအစ်ကိုတို့။ထိုနေ့ရက်
သည်သူခိုးကဲ့သို့သင်တို့နှင့်အမှတ်တမဲ့တွေ့ကြုံမည်အကြောင်း။
၅ သင်တို့သည်မှောင်မိုက်၌နေကြသည်မဟုတ်။ သင်တို့အားလုံးသည်
အလင်း၏သား။နေ့၏သားဖြစ်ကြ၏။ ညည့်၏သား။မှောင်မိုက်
၆ ၏သားမဟုတ်။ သို့ဖြစ်၍အချားသောသူတို့သည်အိပ်ပျော်သကဲ့
၇ သို့မဟုတ်။သမ္မာသတိရှိ၍စောင့်နေကြစို့။ အကြောင်းမူကား။အိပ်
ပျော်နေသောသူတို့သည်ညည့်အခါအိပ်ပျော်တတ်၏။သေရည်သေ
၈ ရက်နှင့်ရစ်မူးသောသူတို့သည်လည်းညည့်အခါရစ်မူးတတ်၏။ နေ့
၏သားဖြစ်သောငါတို့မူကားသမ္မာသတိရှိကြစို့။ ယုံကြည်ခြင်း။ချစ်
ခြင်းရင်ဘွဲ့ကိုဝှင်ကယ်တင်ခြင်းသို့ရောက်မည်ဟုမျှော်လင့်ခြင်းသံခ
၉ မောက်ကိုဝှင်ဝတ်ဆောင်ကြစို့။ အမျက်တော်ကိုခံစေခြင်းငှါဘုရား
သခင်သည်ငါတို့ကိုခန့်ထားတော်မူသည်မဟုတ်။ငါတို့သခင်ယေရှု
ခရစ်အားဖြင့်ကယ်တင်ခြင်းကိုပိုင်ထိုက်စေခြင်းငှါခန့်ထားတော်မူ
၁၀ ၏။ ငါတို့သည်နိုးလျက်ရှိသည်ဖြစ်စေ။အိပ်ပျော်သည်ဖြစ်စေ။ထို
သခင်နှင့်အတူအသက်ရှင်ရအောင်ငါတို့အဖို့အသေခံတော်မူပြီး။
၁၁ ထိုကြောင့်သင်တို့သည်ယခုပင်ပြုသကဲ့သို့အချင်းချင်းတိုက်တွန်း၍
၁၂ တယောက်ကိုတယောက်တည်ဆောက်ကြလော့။ ။ထိုမှတ
ပါး။ညီအစ်ကိုတို့။သင်တို့တွင်အမှုတော်ကိုဆောင်ရွက်ခြင်း။သခင်
ဘုရားအခွင့်နှင့်အုပ်စိုးခြင်း။သတိပေးခြင်းအမှုကိုပြုသောသူတို့ကို
၁၃ သိမှတ်၍ သူတို့အမှုကြောင့်မေတ္တာစိတ်နှင့်အလွန်ချစ်ခင်လေးမြတ်
မည်အကြောင်း။ငါတို့သည်တောင်းပန်ကြ၏။အချင်းချင်းအသင့်အ
၁၄ တင့်နေကြလော့။ ။တဖန်တုံ။ညီအစ်ကိုတို့။မတရားစွာပြု
သောသူတို့ကိုသတိပေးကြလော့။စိတ်ငယ်သောသူတို့ကိုအားပေးကြ
လော့။အားနည်းသောသူတို့ကိုထောက်မကြလော့။ခပ်သိမ်းသောသူ

၁၅ အားရှည်သောစိတ်ရှိစေကြလော့။ သူတပါး၌အဘယ်သူမျှရန်တုံ့မ
မူစေခြင်းငှါသတိပြု၍အချင်းချင်းတို့၌၎င်ခပ်သိမ်းသောသူတို့၌၎င်
၁၆ ကာလအစဉ်ကျေးဇူးပြု၍ကျိုးစားအားထုတ်ကြလော့။ အစဉ်မပြတ်
၁၇ ဝမ်းမြောက်ခြင်းရှိကြလော့။ မချားမလပ်ဆုတောင်းပဌနာပြုကြလော့။
၁၈ အရာရာ၌ကျေးဇူးတော်ကိုချီးမွမ်းကြလော့။ အကြောင်းမူကား။ သင်
တို့သည်ထိုသို့ကျင့်စေခြင်းငှါယေရှုခရစ်၌ဘုရားသခင်အလိုတော်ရှိ
၁၉ ၏။ ဝိညာဉ်တော်အရှိန်ကိုမညှိမ်းစေနှင့်။ ပရောဖက်ပြုခြင်းကိုမထိ
၂၀ မဲ့မြင်မမှတ်ကြနှင့်။ ခပ်သိမ်းသောအရာကိုစုံစမ်း၍ကောင်းသောအ
၂၁ ရာကိုအမြဲကိုင်စွဲကြလော့။ ဆိုးညစ်ခြင်း၏အရောင်အဆင်းရှိသမျှ
၂၂ ကိုရှောင်ကြလော့။ ညှိမ်သက်ခြင်းအရှင်။ ဘုရားသခင်ကိုယ်တိုင်
၂၃ လည်းသင်တို့ကိုအကုန်အစင်သန့်ရှင်းစေတော်မူပါစေသော။ငါတို့
သခင်ယေရှုခရစ်ကြွလာတော်မူသည်တိုင်အောင်သင်တို့ကိုယ်ခန္ဓာ
စိတ်ဝိညာဉ်အားလုံးကိုအပြစ်တင်ခွင့်နှင့်ကင်းလွတ်၍စောင့်ရှောက်
၂၄ တော်မူပါစေသော။ သင်တို့ကိုခေါ်တော်မူသောသူသည်သစ္စာနှင့်
၂၅ ပြည့်စုံသည်ဖြစ်၍ထိုသို့ပြုတော်မူလိမ့်မည်။ ။ညီအစ်ကို
၂၆ တို့။ ငါတို့အဖို့ဆုတောင်းကြလော့။ သန့်ရှင်းသောနမ်းခြင်းဖြင့်ညီ
၂၇ အစ်ကိုအားလုံးကိုနှုတ်ဆက်ကြပါ ဤစာကိုသန့်ရှင်းသောညီအစ်ကို
အားလုံးတို့အားဖတ်စေခြင်းငှါသခင်ဘုရားကိုတိုင်တည်၍ငါသည်
၂၈ သင်တို့ကိုမိဌာန်သစ္စာပေး၏။ ငါတို့သခင်ယေရှုခရစ်၏ကျေးဇူး
တော်သင်တို့၌ဖြစ်စေသတည်း။အာမင်။

။သက်သာလောနိတ်ဩဝါဒစာပဌမစောင်ပြီး၏။

---

## ။သက်သာလောနိတ်ဩဝါဒစာဒုတိယစောင်။

---

၁ ပေါလု။သိလွာနု။တိမောသေတို့ကငါတို့အဖတည်းဟူသောဘုရားသ
ခင်၌၎င်သခင်ယေရှုခရစ်၌၎င်တည်လျက်သင်းဝင်သောသက်သာ
၂ လောနိတ်မြို့သားတို့ကိုကြားလိုက်ပါ၏။ သခင်ယေရှုခရစ်နှင့်ငါတို့
အဖတည်းဟူသောဘုရားသခင်အထံတော်ကကျေးဇူးတော်နှင့်ညှိမ်
၃ သက်ခြင်းသင်တို့အားဖြစ်ပါစေသော။ ။ညီအစ်ကိုတို့။
သင်တို့ယုံကြည်ခြင်းအလွန်တိုးပွား၍လူတိုင်းအသီးအသီးတို့သည်အ

ချင်းချင်းချစ် ခြင်း မေတ္တာနှင့် ပြည့် စုံကြသည် ဖြစ် ၍ ငါတို့သည် ပြု
သင့်သည်အတိုင်း သင် တို့ကြောင့် ဘုရားသခင် ၏ကျေးဇူး တော်ကို
၄ အစဉ်မပြတ်ချီးမွမ်းရကြ၏။ သို့ဖြစ်၍ညှဉ်းဆဲခြင်း။ဒုက္ခဆင်းရဲ
ခြင်းကိုသင်တို့သည်ခံလေသမျှတို့၌သည်းခံ၍ရုံကြည်ခြင်းရှိသည်ကို
ငါတို့သည် ထောက် ၍ ဘုရားသခင်၏အသင်းတော်များ တွင်သင်တို့
၅ ၌ဝါကြွားဝါကြ၏။ သင်တို့သည်ဘုရားသခင်နိုင်ငံတော်အတွက်ဆင်း
ရဲခံရ၍ ထိုနိုင်ငံတော်ကို ဝင်စားထိုက်စေခြင်းငှါဘုရား သခင်သည်
၆ တရားသဖြင့်စီရင်တော်မူခြင်းထင်ရှားရှိ၏။ အဘယ်သို့နည်းဟူမူ
ကား။သင်တို့ကိုဆင်းရဲစေသောသူတို့ ၌ဆင်းရဲကိုငင်ဆင်းရဲခံသော
သင်တို့၌ငါတို့နှင့် အတူချမ်းသာကိုငင် ဘုရားသခင်ဆပ်ပေးတော်မူ
၇ အပ်၏။ သခင်ယေရှုသည်တန်ခိုးရှိသောကောင်းကင်တမန်တို့နှင့်အ
၈ တူကောင်းကင်ဘုံကပေါ်ထွန်းတော်မူသည်ဖြစ်၍ ဘုရားသခင်ကို
မသိ သောသူ။ ငါတို့သခင် ယေရှုခရစ် ၏ ဧဝံဂေလိတရား ကို နားမ
ထောင်သော သူတို့ကို မီး လျှံအား ဖြင့်ဒါဏ်ပေး တော်မူသောအခါဘု
၉။၁၀ ရားသခင်သည် ထိုသို့ဆပ်ပေးတော်မူလိမ့်မည်။ ထိုသခင်သည်မိမိ
သန့်ရှင်းသူတို့အားဖြင့်ဂုဏ်အသရေတော်ထင်ရှား ခြင်း ကို ငင်ငါတို့
သက်သေကိုသင်တို့သည်ရုံကြည်သည်ဖြစ်၍ရုံကြည်သောသူအားလုံး
အားဖြင့်အံ့ဩချီး မွမ်းခြင်းကိုငင်ခံခြင်း ငှါကြွလာတော်မူသောနေ့
ရက်၌ထို သူတို့သည်သခင်ဘုရား ၏မျက်နှာတော် နှင့် ငင် တန်ခိုးရှိ
သောဘုန်းတော်နှင့်ငင်ကွာ၍ထာဝရပျက်စီးခြင်းတည်း ဟူသောမိမိ
၁၁ အပြစ်ဒါဏ်ကိုခံရကြလတံ့။ ။ထိုကြောင့်ငါတို့ဘုရားသ
၁၂ ခင်တည်း ဟူသောသခင်ယေရှုခရစ် ၏ကျေးဇူးတော်အတိုင်းငါတို့သ
ခင်ယေရှုခရစ်၏နာမတော်ကိုသင်တို့အားဖြင့်ဘုန်းထင်ရှား စေခြင်း
ငှါငင် သင်တို့ကို ထို သခင်အား ဖြင့်ဘုန်း ထင်ရှား စေခြင်း ငှါငင်ခေါ်
တော်မူခြင်းကျေးဇူးနှင့်သင်တို့ကိုထိုက် စေတော်၍ကောင်းမြတ်ခြင်း
စေတနာအပေါင်းတို့ကိုငင်တန်ခိုးတော်ဖြင့်ရုံကြည်ခြင်း ၏အမှုကိုငင်
ပြည့်စုံစေတော်မူမည် အကြောင်း။ သင်တို့အဖို့ ငါတို့သည် အစဉ်ဆု
တောင်းပဌနာပြုကြ၏။ **

၁ ညီအစ်ကိုတို့။ ငါတို့သခင်ယေရှုခရစ်ကြွလာတော်မူ၍ ငါတို့သည်အ
၂ ထံတော်၌စည်းဝေးခြင်းအရာမှာ သခင်ဘုရား၏နေ့ရက်သည်ချက်
ချင်းရောက်မည်ဟူ၍စိတ်ဝိညာဉ် အားဖြင့်ဖြစ် စေ။ နှုတ်ထွက်စကား

အားဖြင့်ဖြစ်စေ။ ငါတို့စာကဲ့သို့သောစာအားဖြင့် ဖြစ်စေ။ သင်တို့
သည်စိတ်ရွေလျော့ခြင်း။စိုးရိမ်တုန်လှုပ်ခြင်းအလျင်တဆောမရှိမည်အ
၃ ကြောင်း။ငါတို့သည်တောင်းပန်ကြ၏။ အဘယ်သူမျှသင်တို့ကိုအဘယ်
သို့သောအားဖြင့်မလှည့်စားစေနှင့်။ထိုနေ့ရက်မရောက်မှီဖောက်ပြန်
သင်းခွဲခြင်းသည်အရင်ဖြစ်၍ဒုစရိုက်လူတည်းဟူသောပျက်စီးခြင်း၏
၄ သားသည်ပေါ်လာရလိမ့်မည်။ ထိုသူသည်ဘုရားသခင်ဟူ၍၎င်ဘု
ရားဟူ၍၎င်ခေါ်ဝေါ်သမျှသောအရာတို့ကိုရန်ဘက်ပြု၍ကိုယ်ကိုကိုယ်
ချီးမြှောက်သောအားဖြင့် ဘုရားသခင်၏ဗိတ်မာန်တော်၌ထိုင်လျက်
ဘုရားသခင်ဖြစ်ရောင်ဆောင်သည်နှင့် ကိုယ်ကိုကိုယ်ပြသောသူ
၅ ဖြစ်သတည်း ။သင်တို့ဆီမှာငါရှိဘုန်းခါ၌အကြောင်းအ
၆ ရာများကိုငါပြောပြီးဟုသင်တို့သတိမရသလော။ ထိုသူသည်မိမိ
ကာလအချိန်၌ထင်ရှားစေခြင်းငှါယခုဆီးတားသောအကြောင်းကို
၇ လည်းသင်တို့သိကြ၏။ အဘယ်သို့နည်းဟူမူကား။ ဖွက်ထားသော
ထိုအဓမ္မအရာသည်ယခုပင်ပြုပြင်လျက်ရှိ၏။သို့သော်လည်းဆီးတား
သေးသောသူသည်ကိုယ်မပယ်ရှင်းမှီတိုင်အောင်ဆီးတားခြင်းကိုပြု
၈ လိမ့်မည်။ပယ်သောအခါထိုအဓမ္မသူသည်ထင်ရှားပေါ်လိမ့်မည်။ထိုအ
ဓမ္မသူကိုသခင်ယေရှုသည်နှုတ်ထွက်ဝိညာဉ်တော်အားဖြင့်ဖျက်ဆီး၍
ကြွလာတော်မူခြင်း၏ရောင်ခြည်အားကြောင့်ပယ်ရှင်းတော်မူလိမ့်မည်။
၉ ထိုအဓမ္မသူ၏လာခြင်းအကြောင်းဟူမူကား။မာရ်နတ်စာတန်ပြုပြင်
သောအားဖြင့်မုသာနှင့်စပ်ဆိုင်သောထူးဆန်းသောတန်ခိုး။နိမိတ်
၁၀ လက္ခဏာ။အံ့ဘွယ်သရဲအမျိုးမျိုးနှင့်၎င် ပျက်စီးခြင်းသို့ရောက်သော
သူတို့တွင်မတရားသောလှည့်စားခြင်းအမျိုးမျိုးနှင့်၎င်လာလိမ့်မည်။
အဘယ်ကြောင့်နည်းဟူမူကား။ ထိုသူတို့သည် ကယ်တင်ခြင်းသို့
၁၁ ရောက်ရအောင်သမ္မာတရားကိုချစ်သောစိတ်နှင့်မခံမယူကြ။ ထို
၁၂ ကြောင့်သမ္မာတရားကိုမရုံဘဲမတရားသောအမှု၌မွေ့လျော်သောသူ
အားလုံးတို့သည်တရားရှုံးခြင်းသို့ရောက်ရအောင်မုသာစကားကိုရုံ
စိမ့်သောငှါမိစ္ဆာဒိဋ္ဌိပြုပြင်အားထုတ်ခြင်းအခွင့်ကိုသူတို့၌ဘုရားသ
၁၃ ခင်လွှတ်တော်မူလိမ့်မည်။ ။သို့သော်လည်းသခင်ဘုရား
ချစ်တော်မူသောညီအစ်ကိုတို့။သင်တို့သည်ဝိတ်သန့်ရှင်းခြင်း။သမ္မာ
တရားကိုရုံကြည်ခြင်းအားဖြင့်ကယ်တင်ခြင်းသို့ရောက်စိမ့်သောငှါ
ဘုရားသခင်သည်ရှေ့ဦးစွာမှစ၍သင်တို့ကိုရွေးကောက်တော်မူသည်

ဖြစ်၍ငါတို့သည် သင်တို့ကြောင့် ဘုရားသခင် ၏ကျေးဇူး တော်ကိုအ
၁၄ စဉ်မပြတ်ချီးမွမ်းရကြ၏။ ထိုသို့အလို၌ငါတို့ဧဝံဂေလိတရားအား
ဖြင့်သင်တို့ကိုခေါ်တော်မူပြီး။အကြောင်းမူကား သင်တို့သည်ငါတို့သ
၁၅ ခင်ယေရှုခရစ်၏ဘုန်းကိုပိုင်ထိုက်မည်အကြောင်းတည်း။ ထိုကြောင့်
ညီအစ်ကို တို့။ နှုတ်ထွက်စကားအားဖြင့် ၎င် ငါတို့စာအားဖြင့်၎င်ငါ
တို့အပ်ပေး၍ သင် တို့သင် ခဲ့ပြီး သောအရာများကိုတည်ကြည် လျက်
၁၆ ကိုင်ယူစွဲလမ်ကြလော့။ ငါတို့ကိုချစ်တော်မူ၍ထာဝရသက်သာခြင်း
အကြောင်းကို၎င်ကျေးဇူးတော်အားဖြင့်ကောင်း သောမျှော်လင့်ခြင်း
အကြောင်းကို၎င်ပေးတော်မူသောငါတို့အဖတည်းဟူသောဘုရားသ
၁၇ ခင်နှင့်ငါတို့သခင်ယေရှုခရစ်ကိုယ် တိုင် သည် သင် တို့စိတ်နှလုံး
ကိုသက် သာစေ ၍ ကောင်း သောကာယကံဝစီကံအကျင့် အမျိုးမျိုး၌
သင်တို့ကိုမြဲမြဲစေတော်မူပါစေသော။

**

၁ ကြွင်းသေးသောစကားဟူမူကား။ညီအစ်ကိုတို့။သခင်ဘုရား၏နှုတ်
ကပတ် တရား သည် သင် တို့ဆီမှာ နှံ့ပြား ၍ ဘုန်း ထင်ရှား ခြင်းရှိသ
၂ ကဲ့သို့အရပ်ရပ်ထင်ရှားမည် အကြောင်း နှင့် အကျိုး အကြောင်း ကို
မသိမမှတ်။ဆိုးညစ်သော သူတို့လက် မှငါတို့သည် ကယ်လွှတ် မည်အ
၃ ကြောင်း။ ငါတို့အဖို့ဆု တောင်း ကြလော့။ လူတိုင်း သစ္စာ ရှိ သည် မ
ဟုတ်။သို့သော်လည်းသခင်ဘုရား သည်သစ္စာ ရှိတော်မူ၏။သင်တို့ကို
မြဲမြဲစေ၍ မကောင်း သောအမှုအရာနှင့်ကင်းလွတ်အောင်စောင့်ရှော
၄ က်တော်မူ လိမ့် မည်။ ငါတို့ပညတ် သည် အတိုင်း သင် တို့သည် ယခု
ကျင့်၏။ နောင် ၌ လည်းကျင့်လိမ့်မည် ဟုသခင်ဘုရား ကိုအမှီပြု၍ငါ
၅ တို့သည် ရုံမှား ခြင်း မရှိ။ ဘုရား သခင်ကိုချစ်စေခြင်း ၌၎င် ခရစ်
တော်ခုနည်း တူသည်း ခံစေခြင်း ၌၎င်သခင် ဘုရား သည် သင် တို့စိတ်
၆ နှလုံးကိုပြင်ဆင်တော်မူပါစေသော။ ။တနည်းကား။ညီ
အစ်ကိုတို့။ ငါတို့ထံခံရသောပညတ် အတိုင်းမကျင့်ဘဲမတရားစွာပြု
သော ညီအစ် ကို ရှိသမျှတို့ကို ရှောင် ကြလော့ဟု ငါတို့သခင် ယေရှုခ
၇ ရစ်၏အခွင့်တော်နှင့်ငါတို့သည်ပညတ်ထားကြ၏။ အဘယ်ကြောင့်
နည်းဟူမူကား။ငါတို့ပေးသောပုံသက်သေကိုလိုက် ၍သင်တို့သည်အ
ဘယ်သို့ကျင့်ရမည် ဟုသင် တို့သည် ကိုယ်တိုင်သိကြ၏။ ငါတို့သည်
၈ သင် တို့တွင် မတရား စွာပြု ကြသည် မဟုတ်။ အဘယ် သူ၏အစား

ကိုအလကားမစား။သင်တို့တွင်တယောက်ကိုမျှမနှောင့်ရှက်ရအောင်
၉ ပင်ပန်းစွာကျိုးစားအားထုတ်၍နေ့ညဥ့်လုပ်ဆောင်ကြ၏။ ထိုသို့ပြု
သော်မခံမယူပိုင် သော့ကြောင့် ပြုသည် မဟုတ်။ ငါတို့သည် သင် တို့
၁၀ လိုက် စရာ ဘို့ ပုံသက် သေဖြစ်စေခြင်း ငှါပြုသ တည်း။ အဘယ် သို့
နည်းဟူမူကား။ သင် တို့ဆီမှာ ရှိသောအခါအလုပ် မလုပ် ချင် သော သူ
မည်သည်ကားအစားကိုလည်း မစားစေနှင့် ဟုပညတ်ထားကြပြီး။
၁၁ ယခုတွင် မတရားစွာပြု ၍ အဘယ် အလုပ်မလုပ် ဘဲသူတပါးအမှု၌
၁၂ ရောနှောသောသူအချို့သင်တို့တွင်ရှိကြောင်းကိုငါတို့ကြားရ၏။ ထို
သို့သောသူတို့သည် ညိမ်ညိမ် လုပ်ဆောင်၍ ကိုယ် အစားကို ကိုယ်
စားခဲ့အကြောင်းငါတို့သခင်ယေရှုခရစ်အားဖြင့်ငါတို့သည်ပညတ်
၁၃ ထား၍တိုက်တွန်းသွေးဆောင်ကြ၏။ ညီအစ်ကိုတို့။ကောင်းမွန်စွာ
၁၄ ကျင့်၍အားလျော့ဖိတ်ပျက်ခြင်းမရှိကြနှင့်။ ။ဤစာ၌ငါတို့
ရေးထားသောပညတ်စကား ကိုမည် သောသူသည်နားမထောင်ဘဲ
နေလျှင် ထို သူ ကို မှတ် ကြလော့။ သူသည် ရှက် ကြောက် ရအောင်အ
၁၅ ပေါင်းအဖော်မလုပ်ကြနှင့်။ သို့သော်လည်း ရန် သူကဲ့သို့မမှတ်။ညီ
၁၆ အစ်ကို၌ပြုသကဲ့သို့သတိပေးကြလော့။ ညိမ်သက်ခြင်းသခင်ကိုယ်
တိုင်သည်ခပ်သိမ်းသောအရာအား ဖြင့်အစဉ်မပြတ် သင်တို့၌ညိမ်
သက်ခြင်းကို ပေး သနားတော်မူပါစေသော။သခင်ဘုရားသည်သင်
၁၇ တို့အားလုံးဆီမှာရှိတော်မူပါစေသော။ ။ငါပေါလုသည်
သင်တို့ကို နှုတ်ဆက်ခြင်းအချက်ကိုကိုယ်လက်ဖြင့်ရေးထား၏။ဤသို့
ရေးထားလေ့ရှိ၍ငါရေးသမျှသော ဩဝါဒစာ၏လက္ခဏာဖြစ်၏။
၁၈ ငါတို့သခင်ယေရှုခရစ် ၏ကျေးဇူးတော်သင်တို့အားလုံး ၌ ဖြစ်စေသ
တည်း။အာမင်။

။သက်သာလောနိတ်ဩဝါဒစာဒုတိယစောင်ပြီး၏။

---

။တိမောသေဩဝါဒစာပဌမစောင်။

၁ ငါတို့ကိုကယ်တင် တော်မူသောဘုရားသခင် နှင့်ငါတို့မျှော်လင့်ခြင်း
အကြောင်းဖြစ်သောယေရှုခရစ်၏ပညတ်တော်အားဖြင့်ယေရှုခရစ်
၂ ၏တမန်တော်ဖြစ်သောငါပေါလုက ရိုကြည် ခြင်းအား ဖြင့်ငါသား

စစ်ဖြစ်သောတိမောသေကိုကြားလိုက် ပါ၏။ငါတို့သခင်ယေရှုခရစ်
နှင့်ငါတို့အဖတည်းဟူသောဘုရားသခင်အထံတော်ကကျေးဇူး။ကရု
၃။၄ ဏာ။ညိမ်သက်ခြင်းဖြစ်ပါစေသော။ ။ချွားနားသောအယု
ဝါဒသစ်ကိုမသွန်သင်ကြနှင့်ဟူ၍ ၎င်ဒဏ္ဍာရီစကားကိုနားမထောင်
ကြနှင့်ဟူ၍၎င်ရုံကြည်ခြင်း၌တည်သောဘုရားသခင်သာသနာတော်
ကိုမပြုရဘဲအချင်းချင်း ညင်း ခုံခြင်း ကိုသာ ပြုရတတ်သော။ပြင်ဆင်
၍မကုန်နိုင်သောဆွေစဉ်မျိုးဆက်စာရင်းများ ကိုပမာဏမပြုကြနှင့်
ဟူ၍ ၎င် သင်သည် အချို့သော သူတို့ကို ပညတ် ထား ၍ ဧဖက်မြို့၌နေ
ရစ် စေခြင်း ၌ငါသည် မာကေဒေါနိပြည် သို့သွား သောအခါတောင်း
၅ ပန်သည်အတိုင်းပြု၍နေရစ်လော့။ ။ထိုသို့ပညတ်ထား
ခြင်း၏အချုပ်အချာမှုကား။ စင်ကြယ်သောစိတ်နှစ်လုံး နှင့်၎င်ကိုယ်
ကိုကိုယ်သိသောစိတ်ကြည် လင်ခြင်း နှင့်၎င်မှန် သောရုံကြည် ခြင်းနှင့်
၆ ၎င်စပ်ဆိုင်သောချစ်ခြင်းမေတ္တာဖြစ်သတည်း။ ထိုသို့သောအကျင့်
ကိုလူအချို့တို့သည်အမြဲမကျင့်ဘဲအချည်းနှီးသောစကားပြောခြင်းသို့
၇ လွဲသွားကြပြီး။ ထိုသူတို့သည်မိမိပြောသောအရာကိုမိမိနားမလည်၊
အဘယ်သို့သောတရားဘက်၌မိမိခိုင်မာသည်ကိုမိမိမသိဘဲလျှက်နှ
၈။၉ သသရည်းဆရာလုပ်ချင်သည်တကား။ ပညတ်တရားကိုတရားသဖြင့်
ကျင့်သော သူမှာမထား။မတရားသဖြင့်ကျင့်သေါသူ။နားမထောင်သေါ
သူ။ဘုရားကိုမကိုးကွယ်သော သူ။အပြစ်ထင်ရှားသေါသူ။မသန့်ရှင်း
သော သူ။ဘုရားတရားကိုမရိုမသေပြုသော သူ။မိဘကိုရိုက်ပုတ်သေါ
၁၀ သူ။လူအသက်ကိုသတ်သော သူ။ မတရားသောမေရန်၌မှီဝဲသောသူ၊
ယောကျ်ားချင်း မေရန် ပြု သောသူ။ လူကို ခိုး သွား သော သူ။ မုသာစ
ကားကိုသုံးသော သူ။မဟုတ်မမှန်ဘဲကျိန်ဆိုခြင်းကိုပြုသောသူမှစ၍
စင်ကြယ် သောဩဝါဒနှင့် ဆန့်ကျင် ဘက်ဖြစ် သမျှတို့အဖို့ပညတ်တ
ရားထားသည်ဟုအကြင်သူသည်သိမှတ် ၍ထိုတရားကိုတရားသဖြင့်
သုံး၏။ထိုသူ၌ပညတ်တရား သည်အကျိုးကိုပေး တတ်သည် ဟုငါတို့
၁၁ သိကြ၏။ ထိုသို့ဆိုသော်မင်္ဂလာရှိတော်မူသောဘုရားသခင်၏ဘုန်း
၁၂ ကြီးသောဧဝံဂေလိတရားနှင့်ညီသတည်း။ ။ထိုတရားကို
ငါ၌အပ်ပေးတော်မူသည် ဖြစ်၍ ငါကိုခွန်အားနှင့်ပြည့် စုံစေတော်မူ
၁၃ သောငါတို့သခင်ယေရှုခရစ်၏ကျေးဇူးတော်ကိုငါချီးမွမ်း၏။ ငါသည်
ကဲ့ရဲ့သော သူ။ ညှဉ်းဆဲသော သူ။ ကြမ်း ကြုတ် သော သူဖြစ် ဘူးသော်

လည်းသစ္စာရှိသောသူဟုထိုသခင်သည်မှတ်၍ဆရာအရာ၌ခန့်ထား
တော်မူ၏။ ထို သို့ငါပြုသော အခါရုံခြင်း မရှိ။ အမှန် မသိဘဲပြုသော
၁၄ ကြောင့်ကရုဏာတော် ကို ငါခံရပြီး။ ငါတို့သခင် ဘုရား၏ ကျေးဇူး
တော်သည်လည်းယေရှုခရစ်၌ရုံကြည်ခြင်း။ချစ်ခြင်းနှင့်တကွအတိုင်း
၁၅ ထက်အလွန်ကြွယ်ဝပါပြီး။ ယေရှုခရစ်သည်အပြစ်ရှိသောသူတို့ကို
ကယ်တင်ခြင်း ငှါ ဤ လောကသို့ ကြွလာတော်မူသည် ဟူသောစကား
သည် သမ္မာ စကား ဖြစ် ၏။ လူအား လုံး ခံယူအပ်သောစကား လည်း
၁၆ ဖြစ်၏။အပြစ်ရှိသောသူတို့တွင်ငါသည်အကြီးဆုံးဖြစ်၏။ သို့သော်
လည်း ထာဝရ အသက် အလို ငှါ ရုံ ကြည် လတ့ံသောသူတို့လိုက်စရာပုံ
သက်သေဖြစ် ရအောင်အကြီးဆုံးသောအပြစ်ရှိသောသူ။ငါ ၌ ယေရှု
ခရစ်သည်ခပ်သိမ်းသောခန္တီတော်ကိုပြတော်မူမည်အကြောင်း။ကရု
၁၇ ဏာတော်ကိုငါခံရပြီး။ လောကဓာတ်တို့၏ဘုရင်တဦးဟူသောဖော
က်ပြန်ပျက်စီးခြင်းနှင့်ကင်းလွတ်တော်မူထသော။မျက်မြင်မရ။အရူပ
ဖြစ်တော်မူထသော။တဆူတည်း သောဘုရားသခင်၌ကမ္ဘာအဆက်
ဆက်ဂုဏ်အသရေဘုန်းအာနုဘော်ဖြစ်စေသတည်း။အာမင်။
၁၈ ။ငါ့သား တိမောသေ။သင်ကိုရည်မှတ်၍ဟောပြောခဲ့ပြီးသောအ
နာဂတ္တိစကား ကို သင်သည် အမှီပြု၍ရုံကြည် ခြင်း ကိုဒင် ကိုယ် ကို
ကိုယ်သိသောစိတ်ကြည်လင်ခြင်းကိုဒင်ကိုင်ယူစွဲလမ်း၍ကောင်းသော
စစ်ကိုတိုက်စေခြင်းငှါထား ခဲ့ပြီး သောထိုအနာဂတ္တိစကားနှင့် အညီ
အထက်ငါဆိုခဲ့ပြီးသောပညတ်ထားခြင်းအ ခွင့်ကို သင် ၌ ငါအပ်ပေး
၁၉ ၏။ ထိုရုံကြည်ခြင်းမှစသည်တို့ကိုအချို့တို့သည်ပယ်ပြီးလျှောင်ရုံကြည်
ခြင်း သင်္ဘောပျက် ခြင်းကို ခံကြပြီး။ထိုသူတို့တွင်ဟုမေနဲ နှင့် အာလေ
ဇန္ဒြုပါသတည်း။ ထိုသူတို့သည် ကဲ့ရဲ့သောစကား ကို ကြည် ရှောင်ရ
အောင် ဆုံးမခြင်း ကို ခံစေခြင်း ငှါမာရ်နတ်စာတန် လက် သို့ ငါအပ်
လိုက်ခဲ့ပြီး။

✻✻

၁ ရှေဦးစွာ ၌ လူအမျိုးမျိုး တို့အဖို့ဆုတောင်း ပဌနာပြုခြင်း။ မေတ္တာပို့
ခြင်း။ကျေးဇူးတော်ကိုချီးမွမ်းခြင်းကို ပြုမည်အကြောင်းငါတိုက်တွန်း
၂ သွေး ဆောင် ၏။ ငါတို့သည် ဘုရားဝတ် ၌မွေ့လျော်ခြင်း။လျောက်
ပတ်စွာကျင့်ခြင်းအမျိုးမျိုး ကိုပြု၍ ညီမ်ဝတ်ဆိတ်ညံ့စွာနေရမည်အ
ကြောင်း။ရှင်ဘုရင်မှစ၍ မင်းအာဏာရှိသောသူအားလုံး တို့အဖို့ထို

၃။၄ သို့ပြုရမည်။ အဘယ်ကြောင့်နည်းဟူမူကား။ထိုသို့သောအမှုသည်
ကောင်းသောအမှုဖြစ်၏။ငါတို့ကို ကယ်တင်တော်မူသောဘုရားသ
ခင်နှစ်သက်တော်မူသောအမှုလည်းဖြစ်၏။လူအမျိုးမျိုး တို့သည်ကယ်
တင်ခြင်းသို့ရောက်၍ သမ္မာတရားကိုသိစေခြင်း ငှါဘုရားသခင်အ
၅ လိုတော်ရှိ၏။ ဘုရားသခင်တဆူတည်း ရှိတော်မူ၏။ ဘုရားသခင်
၆ နှင့်လူစပ်ကြားမှာယေရှုခရစ်တည်းဟူသောအာမခံလူတဦးရှိ၏။ ထို
အာမခံလူသည်လူအမျိုးမျိုးကိုရွေးနှုတ်ခြင်းငှါကိုယ်ကိုကိုယ်စွန့်တော်
၇ မူပြီး။ကာလအချိန်တန်မှသက်သေခံခြင်းရှိ၏။ ငါသည်ထိုသက်သေခံ
သောသူအရာနှင့်ရှင်တမန်တော်အရာနှင့်ယုံကြည်ခြင်းတရား။သမ္မာတ
ရားကိုတပါးအမျိုးသားတို့အား ဟောပြောသောဆရာအရာနှင့်ခန့်
ထားတော်မူသောသူဖြစ်သည်ဟုငါဆိုသော်မုသာစကားကိုမဆို။မှန်
၈ သောစကားကိုဆို၏။ ။သို့ဖြစ်၍အရပ်ရပ်၌ယောကျ်ားတို့
သည်အမျက်ထွက်ခြင်း။ညင်းခုံခြင်းမရှိဘဲသန့်ရှင်းသောလက်ကိုချီ၍
၉ ဆုတောင်းစေခြင်းငှါငါအလိုရှိ၏။ ထိုနည်းတူ။မိန်းမတို့သည်ကျစ်သော
ဆံပင်။ရွှေတန်ဆာ။ ကျောက်ပုလဲ။အဖိုးထိုက် သောအဝတ်နှင့်မဆင်
ဘဲရှက်ကြောက်ခြင်း။ဆင်ခြင်စောင့်ခြင်းအားဖြင့်လျောက်ပတ်သောအ
၁၀ ဝတ်နှင့်ရှင် ဘုရားသခင်ကိုရိုသေလေးမြတ်ခြင်းကိုဝန်ခံပြုရသောမိ
န်းမပြုသင့်သည်အတိုင်းကောင်းသောအကျင့်နှင့်ရှင်ကိုယ်ကိုကိုယ်ဆင်
၁၁ ပြင်စေခြင်းငှါငါအလိုရှိ၏။ မိန်းမသည် အုပ်စိုး ခြင်း ကိုအစည် ဝန်ခံ
၁၂ ၍တိတ်ဆိတ်စွာသင် ပါလေစေ။ မိန်းမသည် ဆုံးမဩဝါဒပေး ၍ယော
ကျ်ားကိုအစိုးတရပြုစေခြင်းငှါငါအခွင့်မပေး။သူသည်တိတ်ဆိတ်စွာ
၁၃ နေအပ်၏။ အဘယ်ကြောင့်နည်း ဟူမူကား။အာဒံကို ရှေဦး စွာဖန်
၁၄ ဆင်းသည်ဖြစ်၍နောက်မှာဧဝကိုဖန်ဆင်း တော်မူ၏။ ထိုမှတပါး။
အာဒံသည် လှည့်စား ခြင်း ကို မခံဘဲမိန်းမသည် လှည့်စားခြင်းကိုခံ၍
၁၅ သွန်ကျူး၏။ သို့သော်လည်းဆင်ခြင်စောင့်ခြင်းနှင့်တကွယုံကြည်ခြင်း။
ချစ်ခြင်း။သန့်ရှင်းခြင်းနှင့်တည်နေလျှင်သားဖွားခြင်းအမှုနှင့်ကယ်တင်
၁ ခြင်းသို့ရောက်လိမ့်မည်။ ။သင်းအုပ်အရာကိုတောင့်တသော
သူသည် ကောင်း သောအမှု အရာ ကို တောင့် တသည် ဟူသောစကား
၂ သည် မှန် သော စကား ဖြစ် ၏။ သို့ဖြစ်လျှင်သင်း အုပ် သည် အပြစ်
တင် ခွင့်နှင့်ကင်း လွတ်သော သူ။ မယားတယောက်တည်းရှိသော သူ။
သမ္မာသတိ ရှိ သော သူ။ ဆင်ခြင်စောင့် သော သူ။ လျောက် ပတ် စွာကျင့်

သောသူ။ ငြိမ့်သည် ဝတ်ကိုပြုတတ် သောသူ။ ဆုမ္ဗဩဝါဒပေး တတ်
၃ သောသူဖြစ်ရမည်။ စပျစ်ရည်ကိုသောက်ကျူးခြင်း။သူတပါးကို
ရိုက်ပုတ်ခြင်းကိုမပြုဘဲစိတ်ဖြည်းသွင်းသောသူ။ရန်မတွေ့တတ်သော
၄ သူ။ငွေကိုမတပ်မက်သောသူဖြစ်ရမည်။ မိမိအိမ်ကိုကောင်းကောင်း
အုပ်စိုး၍သမ္မာသမာဓိပြည့်စုံသည်နှင့်မိမိသားသမီးကိုဆုမ္မနိုင်သော
၅ သူဖြစ်ရမည်။ မိမိအိမ်ကို မအုပ်စိုး တတ်လျှင်ဘုရားသခင်၏အ
၆ သင်းတော်ကို အဘယ်သို့ပြုစုလိမ့်မည် နည်း။ မာနနှင့်ရစ်မူးလျက်
မာရ်နတ်၏အပြစ်ရောက်မည်ဟုစိုး ရိမ်စရာရှိ၍ဘာသာဝင်လူသစ်
၇ မဖြစ်ရ။ ကဲ့ရဲ့ပြစ်တင် ခြင်း။ မာရ်နတ်ဖမ်းမိခြင်းနှင့်ကင်းလွတ်ရ
အောင်သာသနာပလူတို့တွင်အသရေရှိသောသူဖြစ်ရမည်။
၈ ။ထိုနည်းတူ။သင်းထောက်တို့သည်တည်ကြည်သောသူဖြစ်ရ
မည်။လျှာနှစ်ခွနှင့်ပြောသောသူ။စပျစ်ရည်သောက်ကျူးသောသူ။မ
၉ ကောင်း သောအသက် မွေး ခြင်းကို ပြုသောသူမဖြစ်ရ။ ကိုယ်ကို
ကိုယ်သိသောစိတ်စင်ကြယ်သည်နှင့် ယုံကြည်ခြင်း၏နက်နဲသောအ
၁၀ ရာကိုကိုင်ယူစွဲလမ်းသောသူဖြစ်ရမည်။ သူတို့သည်လည်း ရှေ့မဆွ
ကစုံစမ်းခြင်းကိုခံရမည်။နောက်မှာအပြစ်တင်ခွင့်နှင့်ကင်းလွတ်လျှင်
၁၁ သင်းထောက်လုပ်စေ။ ထိုနည်းတူ။သင်း ထောက်မိမ္မတို့သည်တည်
ကြည်သောသူဖြစ်ရမည်။ ဆဲရေးတတ်သောသူမဟုတ်။ သမ္မာသတိ
၁၂ ရှိသောသူ။အရာရာ၌သစ္စာရှိသောသူဖြစ်ရမည်။ သင်းထောက်တို့
သည်မယားတယောက်တည်း ရှိရမည်။ မိမိသားသမီးနှင့်အိမ်သူအိမ်
၁၃ သားတို့ကိုကောင်း ကောင်းအုပ်သောသူဖြစ်ရမည်။ အကြောင်းမူ
ကား။သင်း ထောက်အမှုကိုကောင်း ကောင်း ရွက်ဆောင်သောသူတို့
သည်မိမိတို့အဖို့ကောင်းသောအရာကိုဝင်ယောရှုခရစ်၏ယုံကြည်ခြင်း
၌ရဲရင့်ခြင်းသတ္တိကိုရင်ပိုင်ထိုက်ကြ၏။
❋❋
၁၄ သင်ဆီသို့ငါမြန်မြန်လာမည်ဟုမျှော်လင့်ခြင်းရှိသော်လည်း တာရှည်
၁၅ စွာနေလျှင်သင်သည်ဘုရားသခင်၏အိမ်တော်၌ အဘယ်သို့ကျင့်ကြံ
ပြုမူရမည် ကို သိရအောင် ဤသို့ငါရေး၍ပေးလိုက်၏။ထိုအိမ်တော်
ကားအသက်ရှင်တော်မူသောဘုရားသခင်၏ အသင်းတော်ဖြစ်၏။
ထိုအသင်းတော်ကားသမ္မာတရား၏မှန် တိုင်ဖြစ်၏။ တည်ရာလည်း
၁၆ ဖြစ်၏။ မှန်သောကိုးကွယ်ခြင်း၏နက်နဲသောအရာကားကြီးစွာ

သော်အရာဖြစ်သည်ဟုညင်းခုံရန်မရှိ။ဘုရားသခင်သည်ကိုယ်ခန္ဓာ
၌ပေါ်ထွန်းတော်မူပြီ။ ဝိညာဉ်တော်အားဖြင့်ဟုတ်မှန်ကြောင်းထင်
ရှားတော်မူပြီ။ တမန်တော်တို့သည် ကိုယ်တော်ကိုမြင်ရပြီ။ တပါး
အမျိုးသားတို့သည်သိတင်းတော်ကိုကြားရပြီ။ လောကီသားတို့သည်
ယုံကြည်ရပြီ။ဘုန်းအသရေနှင့်အထက်သို့ချီတက်ကြွတော်မူပြီ။
၁။၂ ။ဝိညာဉ်တော်သည်အတည့်အလင်းဖျာဒိတ်ထားတော်မူသည်ကား
နောင်ကာလ၌ ဩတ္တပ္ပစိတ်တွင် သံပူထိုးလျက် နှင့် မုသာစကားကို
ပြောတတ်သောသူတို့၏လှည့်ဖြားခြင်းအားဖြင့်လူအချို့တို့သည်ယုံကြည်
ခြင်းကိုစွန့်ပယ်၍လှည့်စားတတ်သောစိတ်ဝိညာဉ်တို့၌ရင်နတ်ဘုရား
၃ တို့နှင့်စပ်ဆိုင်သောဩဝါဒကို၎င်း မှီဝဲဆည်းကပ်လိမ့်မည်။ ထိုသူတို့
သည်အိမ်ထောင်ခြင်းအမှုကို မပြုရဟူ၍၎င် ယုံကြည်၍သမ္မာတရား
ကိုသိသောသူတို့သည် ကျေးဇူးတော်ကိုသိသောစိတ်နှင့်တကွသုံးဖို့
ရာဘုရားသခင်ဖန်ဆင်းတော်မူသောအစားမျိုးကိုရှောင်ရမည်ဟူ၍
၄။၅ ၎င်ပညတ်ထားကြလိမ့်မည်။ ဘုရားသခင်ဖန်ဆင်းတော်မူသမျှတို့
သည်သုံးစရာကောင်း၏။ကျေးဇူးတော်ကိုသိသောစိတ်နှင့်ခံယူလျှင်
အဘယ်မျှကိုမပယ်မရှောင်ရ။အဘယ်ကြောင့်နည်းဟူမူကား။ဘုရား
သခင်၏နှုတ်ကပတ်တရားတော်အားဖြင့်၎င် ဆုတောင်းခြင်းအား
၆ ဖြင့်၎င်အရာရာတို့သည်စင်ကြယ်လျက်ရှိ၏။ ။ဤစကားများ
ကိုသင်သည်ညီအစ်ကိုတို့အားကြားပြောလျှင် ယုံကြည်ချက်စကား၊
ကိုယ်ရှာဖွေလေ့ကျက်သောသမ္မာဩဝါဒစကားနှင့်မွေးမြူအပ်သော
၇ ယေရှုခရစ်ထံဆရာကောင်းဖြစ်လိမ့်မည်။ မိမ္မအိုများပြောတတ်
သော။တရားမဲ့ဖြစ်သောဒဏ္ဍာရီစကားကိုပယ်ရှား၍ဘုရားဝတ်၌
၈ မွေ့လျော်ခြင်းအားဖြင့်ကိုယ်ကိုကိုယ်ဆုံးမလော့။ ကိုယ်ကာယကိုဆုံးမ
ခြင်းသည်အကျိုးမဲ့ဖြစ်၏။ဘုရားဝတ်၌မွေ့လျော်ခြင်းမူကား ယခုဘ
၉ ဝနောင်ဘဝနှင့်စပ်ဆိုင်သောဂတိတော်ကိုရသည်ဖြစ်၍အရာရာ၌အ
ကျိုးကိုပေးတတ်သည်ဟူသောစကားသည်သစ္စာစကားဖြစ်၏။လူအါး
၁၀ လုံးခံယူအပ်သောစကားလည်းဖြစ်၏။ ထိုကြောင့်အသက်ရှင်တော်မူထ
သော။လူအပေါင်းတို့ကိုစောင့်မတော်မူ၍ယုံကြည်သောသူတို့ကိုအထူး
သဖြင့်စောင့်မတော်မူသောဘုရား သခင်၌ငါတို့သည်ကိုးစားသည်
၁၁ နှင့်အညီပင်ပန်းစွာအမှုဆောင်ရွက်၍ကဲ့ရဲ့ခြင်းကိုခံကြ၏။ ယခုဆို
ခဲ့ပြီးသည်အတိုင်းပညတ်ထားခြင်း။ဆုံးမဩဝါဒပေးခြင်းကိုပြုလော့

၁၂ ။သင်၏အသက်အရွယ်နုပျိုသည်ကိုအဘယ်သူမျှမထီမဲ့မြင်မ
ပြုစေနှင့်။စကားပြောခြင်း။ကျင့်ကြံပြုမူခြင်း။သူတပါးကိုချစ်ခြင်း။
သစ္စာစောင့်ခြင်း။ စင်ကြယ်ခြင်းအရာမှာရုံကြည်သောသူတို့အားပုံ
၁၃ သက်သေကိုပြလော့။ ငါမလာမှီတိုင်အောင်ကျမ်းစာကိုဖတ်ခြင်း။
တိုက်တွန်းသွေးဆောင်ခြင်း။ဆုံးမဩဝါဒပေးခြင်းကိုကျိုးစား၍ပြု
၁၄ လော့။ ဗျာဒိတ်တော်ကိုခံ၍သင်းအုပ်များတို့သည်လက်တင်ခြင်းနှင့်
၁၅ တကွသင်၌အပ်ပေးသောဆုကျေးဇူးကိုမပြုစုဘဲမနေနှင့်။ သင်၏
တိုးပွားကြွေင်းကိုလူအပေါင်းတို့အားထင်ရှားစေခြင်းငှါ၍အရာ
၁၆ များကိုစိတ်စွဲလမ်း၍ကျိုးစားအားထုတ်လော့။ ကိုယ်ကိုယ်ကိုဆု
ံးမဩဝါဒကိုလည်းသတိပြု၍အမြဲတည်နေလော့။ထိုသို့ပြုလျှင်ကိုယ်ကို
၎င်နားထောင်သောသူတို့ကို၎င်ကယ်တင်လိမ့်မည်။

**

၁ အသက်ကြီးသောသူကိုကြပ်တည်းစွာမဆုံးမနှင့်။အဖကဲ့သို့မှတ်၍
၂ တောင်းပန်လော့။လူပျိုတို့ကိုညီအစ်ကိုကဲ့သို့၎င် အသက်ကြီးသော
မိန်းမတို့ကိုအမိကဲ့သို့၎င်မိန်းမပျိုတို့ကိုစင်ကြယ်သောစိတ်နှင့်တကွနှစ်
၃ မကဲ့သို့၎င်မှတ်၍ကျင့်လော့။ မုတ်ဆိုးမအမှန်ဖြစ်သောမိန်းမတို့ကိုမ
၄ စလှယ်ကျွေးလော့။ မည်သောမုတ်ဆိုးမသည်သားမြေးရှိလျှင်ထို
သားမြေးတို့သည်ရှေ့ဦးစွာဘုရားဝတ်ကိုရည်၍မိမိအိမ်ကိုပြုစုသ
ဖြင့်မိဘဘိုးဘွားတို့ကျေးဇူးဆပ်ရအောင်သင်ပါလေစေ။ ထိုအမှု
၅ သည်ဘုရားသခင်နှစ်သက်တော်မူသောအမှုဖြစ်၏။ မုတ်ဆိုးမအ
မှန်ဖြစ်၍တယောက်တည်းကျန်ရစ်သောမိန်းမသည်ဘုရားသခင်ကို
ကိုးစား၍ဆုတောင်းပဌနာပြုခြင်း၌နေ့ညဉ့်မပြတ်တည်နေတတ်၏။
၆ ကာမဂုဏ်စည်းစိမ်၌ပျော်မွေ့သောမုတ်ဆိုးမမူကားအသက်ရှင်တုန်း
၇ ခါသေလျက်နေ၏။ အားလုံးတို့သည်အပြစ်တင်ခွင့်နှင့်ကင်းလွတ်ရ
၈ အောင်ဤသို့ပညတ်ထားလော့။ မိမိအိမ်သူအိမ်သားကိုမပြုစုသော
သူမဆိုဘဲမိမိလူတို့ကိုမပြုစုသောသူမည်သည်ကားရုံကြည်ခြင်းတ
ရားကိုငြင်းပယ်၏။မရုံကြည်ဘူးသောသူထက်သာ၍ယုတ်မာ၏။
၉ ။မုတ်ဆိုးမသည်အသက်ခြောက်ဆယ်အောက်ရှိလျှင်စာရင်းအ
၁၀ င်းမဝင်စေနှင့်။လင်တယောက်တည်းရှိဘူးသောသူ။ ကောင်းသောအ
ကျင့်ကိုကျင့်၍အသရေရှိသောသူ။သူငယ်တို့ကိုကျွေးမွေးခြင်း။ဧည့်
သည်ဝတ်ကိုပြုခြင်း။သန့်ရှင်းသူတို့၏ခြေကိုဆေးခြင်း။ဆင်းရဲသော

သူတို့ကိုလုပ်ကျွေးခြင်းကောင်းသောအမှုအရာရာကိုကျိုးစားအားထု
၁၁ တ်ခြင်းကိုပြုဘူးသော်သူဖြစ်လျှင်စာရင်းအင်းဝင်ပါလေစေ။ အသက်
အရွယ်ပျိုသေးသောမုတ်ဆိုးမတို့ကိုပယ်လော့။အကြောင်းမူကား။သူ
တို့သည်ခရစ်တော်၏ဆုံမခြင်းကိုသည်းမခံသောအခါအိမ်ထောင်ခြင်း
၁၂ ၌အလိုရှိလျှင်အရင်သစ္စာကိုဖျက်၍အပြစ်သင့်ခြင်းသို့ရောက်ရလိမ့်
၁၃ မည်။ ထိုမှတပါး။တအိမ်မှတအိမ်သို့လည်၍ပျင်းရိတတ်၏။ပျင်းရိသ
ည်သာမကစကားများ၍ မပြောအပ်သောအရာကိုပြောသဖြင့် သူတ
၁၄ ပါးအမှု၌ရောနှောသောသူဖြစ်တတ်၏။ ထိုကြောင့်အသက်အရွယ်ပျို
သေးသော်မုတ်ဆိုးမတို့သည် အိမ်ထောင်ခြင်း။သား ဖွားခြင်း။ အိမ်မှု
ကိုကြည့်ရှုပြုစုခြင်း။ကဲ့ရဲ့စရာအ ခွင့် ကို ရန်သူအား မပေး ဘဲနေခြင်း
၁၅ အမှုများကိုပြုစေခြင်း၌ငါအလိုရှိ၏။ အဘယ်ကြောင့်နည်းဟူမူကား။
ယခုပင်အချို့တို့သည်လမ်းလွှဲ၍မာရ်နတ်စာတန်နောက် သို့လိုက်သွား
၁၆ ကြပြီး။ယုံကြည်သောယောကျ်ားမိမ္မ၌မုတ်ဆိုးမရှိလျှင်ကိုယ်တိုင်လုပ်
ကျွေးပါလေစေ။ သို့ပြုလျှင်အမှန် ဖြစ် သောမုတ် ဆိုး မတို့ကိုအသင်း
၁၇ တော်သည်လုပ်ကျွေးအားလိမ့်မည်။ ။ကောင်းမွန်စွာအုပ်သော
သင်းအုပ်တို့သည်အလှူနှစ်ဆကိုခံထိုက်သောသူဟူ၍ ဒင်တရားဟော
ခြင်း။ဆုံမဩဝါဒပေးခြင်း အမှု ကို ကျိုး စားအား ထုတ် သောသူတို့
၁၈ သည် ထိုသို့အထူး သဖြင့် ခံထိုက် သော သူဟူ ၍ဒင်မှတ် ရမည်။ အ
ဘယ်ကြောင့်နည်းဟူမူကား။စပါးကိုနယ်သောနွား၏နှုတ်ကိုမချည်
နှောင်နှင့်ဟုကျမ်းစာလာ၏။တချက်မူကား။အလုပ်လုပ်သောသူသည်
၁၉ အခကိုခံထိုက်သည် ဟုလာပြန်၏။ သက်သေနှစ်ဦး။ သုံးဦး မရှိလျှင်
၂၀ သင်းအုပ်၌အပြစ်တင်သောစကားကိုနားမထောင်နှင့်။ ကြွင်းသော
သူတို့သည် ကြောက်ရအောင်အပြစ် ရှိသောသူကိုလူအပေါင်းတို့ရှေ့
၂၁ မှာအပြစ်တင် ၍ ဆုံမလော့။ ရှေ့မဆွကမစီရင် ဘဲငဲ့ကွက် သောစိတ်
နှင့်အလျှင်းမပြုဘဲ ဤပညတ်များ ကိုစောင့်ရှောက် မည် အကြောင်း။
ဘုရားသခင်တည်းဟူသောသခင်ယေရှုခရစ်ရှေ့မှာဒင်ရွေးကောက်
သောကောင်းကင်တမန်တို့ရှေ့မှာဒင်ငါသည်သင်ကိုသစ္စာပေး၏။
၂၂ အဘယ်သူ၏အပေါ်၌လက်ကိုအလျှင်တဆော၊မတင်နှင့်။သူတ
ပါးအပြစ်၌မဆက်ဆံနှင့်။ကိုယ်ကိုကိုယ်စင်ကြယ်စေလော့။ သင်၏
၂၃ ရင်ထဲ၌မကြာမကြာစွဲသောအနာရောဂါကြောင့်ရေကိုသာမသောက်
နှင့်ဦး။စပျစ်ရည်အနည်းငယ်ကိုသုံးလော့။အချို့သောသူတို့၏ဒုစရိုက်

သည် ထင်ရှား နှင့်သည် ဖြစ်၍ အပြစ်စီရင်ခြင်း သို့အရင်အဦး သွား
၂၄ တတ်၏။ အချို့သောသူတို့၏ ဒုစရိုက် သည် နောက် လိုက်တတ်၏။
၂၅ ထိုနည်းတူ၊ အချို့သောသူတို့၏သုစရိုက် သည် ထင်ရှား နှင့် တတ်၏။
မထင်ရှားသောအကျင့်သည်လည်း ဖွက်ထား၍မနေနိုင်ရာ။

❋❋

၁ ဘုရားသခင်၏နာမတော်နှင့်တရားတော်သည်ကဲ့ရဲ့ခြင်း မှကင်းလွတ်
ရအောင်အစေခံကျွန် မည်သည် ကား မိမိသခင်ကိုအလွှန်ရိုသေထိုက်
၂ သောသူဟူ၍မှတ်ပါလေစေ။ သခင်သည်ရုံကြည် သောသူဖြစ်လျှင်
ညီအစ်ကို ဖြစ်သည်ဟု စိတ်ထင်နှင့် မခန့်မညားမပြု စေနှင့်။ အစေခံ
ခြင်း အကျိုး ကိုခံသော သူသည် ရုံကြည် သော သူ။ ချစ်တော် မူသော သူ
ဖြစ်သောကြောင့်သာ ၍ အစေခံပါလေစေ။ ဤ သို့ဆုံးမဩဝါဒပေး ၍
၃ တိုက်တွန်းသွေးဆောင်လော့။ ။ချားနားသောဩဝါဒကို
သင်ပေး ၍ ငါတို့သခင်ယေရှုခရစ်၏ စကားတည်းဟူသော စင်ကြယ်
သော စကား ကိုငင် ဘုရားဝတ် ၌ မွေ့လျော်ခြင်း နှင့် အညီဖြစ် သော
၄ ဩဝါဒကိုငင် ဝန်မခံသော သူမည် သည်ကား။ မာနနှင့်ရစ်မူး၍အ
ဘယ် မျှကို နားမလည်ဘဲပုစ္ဆာအမေးကို ဆွေး နွေး၍ စကား ကိုသာ
ညင်းခုံသောအား ဖြင့်မိုက်သော သူဖြစ် ၏။ ထိုသို့ပြုလျှင် ညူစူခြင်း။
ရန် တွေ့ခြင်း။ သူအသရေကို ရှုတ်ချခြင်း။ မနာလိုသောကြံစည် ခြင်း။
၅ စိတ်နှစ် လုံး ရို ရှင်း ၍ သမ္မာတရားနှင့် ကင်း သော သူတို့၏အချည်းနှီး
ညင်းခုံခြင်းဖြစ်တတ်သတည်း။အကျိုးစီး ပွားရလျှင်ဘုရားဝတ်၌မွေ့
လျော်ရာရောက်သည်ဟုသူတို့သည်စိတ်ထင်ကြ၏။ထိုသို့သော သူတို့
၆ ကိုရှောင်လော့။ ရောင့်ရဲသောစိတ် နှင့် တကွဘုရား ဝတ် ၌ မွေ့လျော်
၇ ခြင်း မှုကား ကြီး စွာသော အကျိုး စီး ပွား ဖြစ် သတည်း။ အဘယ်
ကြောင့် နည်း ဟူ မူ ကား။ ငါတို့သည် ဤ လောကထဲသို့ဘာ မျှမပါဘဲ
လာသည် ဖြစ် ၍ ထွက် သွား လျှင် လည်း ဘာမျှ ကို ယူမသွားနိုင်ဟု
၈ ထင်ရှား သည်ချည်း တည်း။ သို့ဖြစ် ၍ စားရန်ဝတ်ရန်ရှိသမျှ နှင့်
၉ ရောင့်ရဲလျက်နေကြစို့။ ငွေရတတ် ခြင်း ငှါအလိုရှိသော သူတို့သည်အ
ပြစ်သွေးဆောင်ခြင်း။ဖမ်းမိခြင်း။မိုက်မဲဖျက်ဆီး တတ်သောတပ် မက်
ခြင်းများထဲသို့ကျရောက်တတ်ကြ၏။ ထိုသို့သောအားဖြင့်လူတို့သည်
၁၀ အကျိုးနည်းခြင်း။ပျက်စီးခြင်း၌စုံမွန်းတတ်ကြ၏။ အဘယ် ကြောင့်
နည်းဟူမူကား။ငွေကိုတပ်မက်ခြင်းသည်မကောင်းသောအကျင့်အား

လုံးတို့တွင်မူလအမြစ်ဖြစ်သတည်း။ လူအချို့တို့သည်ငွေကိုတပ်မက်
သောအားဖြင့်ရုံကြည်ခြင်းတရားလမ်းမှလွဲသွား၍ ကြင်နာခြင်းဝေဒ
၁၁ နာအများနှင့်ကိုယ်ကိုကိုယ်ထိုးချင်းကြပြီ။ ။သို့ဖြစ်၍အို
ဘုရားသခင်၏လူ၊ သင်သည်ထိုအပြစ်များကိုကြည်ရှောင်လော့၊
ဖြောင့်မတ်စွာကျင့်ခြင်း၊ ဘုရားဝတ်၌မွေ့လျော်ခြင်း၊ရုံကြည်ခြင်း၊
၁၂ ချစ်ခြင်း၊ သည်းခံခြင်း၊နူးညံ့သိမ်မွေ့ခြင်းတို့ကိုလိုက်ရှာလော့။ ရုံ
ကြည်ခြင်းနှင့်ဆိုင်၍ကောင်းမြတ်သောတိုက်လံခြင်းကိုပြုလော့။အ
ကြင်အသက်ရခြင်းအလို့ငှါသင်ကိုခေါ်တော်မူ၍ ငင်သင်သည်သက်
သေအများတို့ရှေ့၌ကောင်းမွန်စွာဝန်ခံ၏။ထိုထာဝရအသက်ကိုကိုင်
၁၃ ယူလော့။ ငါတို့သခင်ယေရှုခရစ်ထင်ရှားပေါ်ထွန်းတော်မူသည်တိုင်
အောင်သင်သည်အညစ်အကြေးနှင့်ကင်းစင်၍အပြစ်တင်ခွင့်မရှိဘဲ
၁၄ လျှက်ပညတ်တော်ကိုစောင့်ရှောက်မည်အကြောင်း။ အလုံးစုံတို့ကို
အသက်ရှင်စေတော်မူသောဘုရားသခင်ရှေ့မှာ၎င်ပုန္တိပိလတ်မင်း
ထံကောင်းသောဝန်ခံခြင်းဘက်၌သက်သေခံတော်မူသောယေရှု
၁၅ ခရစ်ရှေ့မှာ၎င်ငါသည်သင်ကိုပညတ်ထား၏။ မရဏာကင်းလွတ်
၁၆ သောသူတပါးတည်းဖြစ်တော်မူထသော။ အဘယ်သူမျှမချဉ်း
ကပ်နိုင်သောအလင်းထဲ၌နေတော်မူထသော။ အဘယ်လူမျှမမြင်
ဘူး။ မမြင်နိုင်ရာဖြစ်တော်မူထသော။ မင်္ဂလာရှိသောတပါးတည်း
သောအရှင်ဖြစ်တော်မူထသော။ ဘုရင်တကာတို့၏ဘုရင်။ သခင်တ
ကာတို့၏သခင်သည်ကာလအချိန်ရောက်သောအခါသခင်ယေရှုခရစ်
၏ထင်ရှားပေါ်ထွန်းခြင်းကိုပြုတော်မူလိမ့်မည်။ထိုသူ၌ထာဝရဂုဏ်
၁၇ အသရေအစွမ်းသတ္တိဖြစ်စေသတည်း။အာမင်။ ။ဤဘဝ၌
ငွေရတတ်သောသူတို့သည်မာနမာနစိတ်မရှိဘဲ၊ မမြဲသောစည်းစိမ်
ကိုမကိုးစားဘဲငါတို့ခံစားစေခြင်းငှါအလုံးစုံတို့ကိုကြွယ်ဝစွာပေး
သနားတော်မူသော။ အသက်ရှင်တော်မူသောဘုရားသခင်ကိုကိုး
၁၈ စားမည်အကြောင်း။ သူတို့သည်ကျေးဇူးပြုခြင်း၊ကောင်းသောအ
ကျင့်၌ကြွယ်ဝပြည့်စုံခြင်း၊စွန့်ကြဲချင်သောစေတနာစိတ်ရှိခြင်း၊အ
၁၉ ချင်းချင်းဆက်ဆံခြင်း။ မှန်သောအသက်ကိုဝင်စားရအောင်နောင်
၂၀ ဘဝ၌ကောင်းသောဘဏ္ဍာကိုမိမိတို့အဖို့ဆည်းဘူးခြင်းတို့ကိုပြု
မည်အကြောင်းပညတ်ထားလော့။ ။အိုတိမောသေ။သင်
၌အပ်ထားသောအရာကိုစောင့်ရှောက်လော့။တရားမဲ့ဖြစ်သောအ

ချည်းနှီးစကားပြောခြင်းကိုရင်သိပ္ပံအတတ်ဟူ၍မမှန်သောအားဖြင့် ခေါ်ဝေါ်သောသိပ္ပံအတတ်ဆီးတားနှောင့်ရှက်ခြင်းကိုရင်ရှောင်လော့။
၂၁ ထိုသိပ္ပံအတတ်ကို လူအချို့တို့သည် ဝန် ခံပြုရသောအား ဖြင့် ရုံကြည်ခြင်း တရား လမ်းမှလွဲသွားကြပြီ။ သင် ၌ ကျေးဇူး တော်ဖြစ် စေသတည်း။အာမင်။

။တိမောသေသြဝါဒစာပဌမစောင်ပြီး၏။

---

## ။တိမောသေသြဝါဒစာဒုတိယစောင်။

---

၁ ယေရှုခရစ်၌တည်သောအသက်ကို ပေးမည်ဟုဂတိတော်နှင့်အညီဘုရားသခင်၏အလိုတော်အားဖြင့်ယေရှုခရစ်၏တမန်တော်ဖြစ်သော
၂ ငါပေါလုက ငါချစ်သားတိမောသေကိုကြားလိုက်ပါ၏။ငါတို့သခင်ယေရှုခရစ်နှင့်ခမည်းတော်ဘုရားသခင် အထံတော်ကကျေးဇူး။ကရု
၃။၅ ဏာ။ညိမ်သက်ခြင်းဖြစ်ပါစေသော။ သင်၏မျက်ရည်ကိုငါအောင်းမေ့သောအခါဝမ်း မြောက်ခြင်း နှင့်ပြည့်စုံရအောင်သင်ကိုမြင်ခြင်းငှါအလွန်လွမ်းသောစိတ်ရှိ၍ရင်သင်၏အဖွားလောဣ။အမိဥနိတ်၌အရင်စွဲလမ်းသောရုံကြည်ခြင်း။ငါသဘောကျသည်အတိုင်းသင်၌လည်းစွဲလမ်းသောရုံကြည်ခြင်းစစ်ကိုမှတ်မိ၍ငါနေ့ညဆုတောင်းပဌနာပြုသည်တွင်သင်ကိုမချားမလပ်အောင်းမေ့ရသည်ဖြစ်၍ငါဘိုးဘေးကိုးကွယ်သည်အတိုင်းကိုယ်ကိုကိုယ်သိသောစိတ်စင်ကြယ်ခြင်းနှင့်တကွငါကိုးကွယ်သောဘုရားသခင်၏ကျေးဇူးတော်ကိုငါချီးမွမ်း၏။
၆ ။ထိုသို့ဖြစ်၍ငါလက်တင်သောအားဖြင့်သင်၌ဘုရားသခင်ပေးတော်မူသောဆုကိုနှိုးဆော်မည်အကြောင်း။ငါသည်သင်ကိုသတိပေး
၇ ၏။အဘယ်ကြောင့်နည်း ဟူမူကား။ဘုရားသခင်သည်ကြောက် တတ်သောစိတ်သဘောကို ငါတို့အား ပေးတော်မူသည် မဟုတ်။တန်ခိုးပါသောစိတ်။ ချစ် တတ်သောစိတ်။ ရှင်းသင်းသောစိတ် သဘောကို ပေး
၈ တော်မူ၏။ ထိုကြောင့်ငါတို့သခင်ဘုရား ၏ သက်သေ ကိုရင်ထိုသခင်ကြောင့်အကျဉ်းခံရသော သူဖြစ်သောငါကိုရင်ရှက်ကြောက်ခြင်းမရှိ နှင့်။ ဘုရား သခင်ပေးတော်မူသောတန်ခိုးကိုရသည်အတိုင်းဧဝံ
၉ ဂေလိတရားနှင့်ဆက်ဆံ၍ဆင်းရဲဒုက္ခကိုခံလော့။ ငါတို့ကျင့်သောအ

ကျင့်ကြောင့် မဟုတ်။ ရှေးကပ် ကာလမရောက်မှီယေရှုခရစ် အား ဖြင့်
ငါတို့အမှို့ကိုယ် တော်တိုင်ကြံစည် တော်မူသောကျေးဇူး တော် နှင့်အ
ညီဘုရားသခင်သည်ငါတို့ကို ကယ်တင်၍သန့်ရှင်းသောအရာ၌ခေါ်
၁၀ သွင်းတော်မူ၏။ ထိုကျေးဇူးတော်ကားငါတို့ကိုကယ်တင်သောသခင်
ယေရှုခရစ် ပေါ်ထွန်းတော်မူသည် အရာမှာယခုထင်ရှားလျက် ရှိ၏၊
ထိုသခင်သည်သေခြင်းတရားကိုပယ်ရှား၍အသက်ရှင်ခြင်းတရား၊
မဖောက်ပြန် နိုင်ခြင်းတရားကိုဧဝံဂေလိတရား အားဖြင့်ထင်ရှားစေ
၁၁ တော်မူပြီး။ ထိုတရားကိုဟောပြောသောသူအရာ ၌ ငါတမန်တော်
အရာ၌ငါတပါးအမျိုးသားတို့၏ဆရာအရာ၌ငါ ငါကိုခန့်ထားတော်
၁၂ မူပြီး။ ထိုအကြောင်းကြောင့်၍ဆင်းရဲဒုက္ခကိုငါခံရ၏။သို့သော်လည်း
ရှက်ကြောက်ခြင်းမရှိ။အဘယ်သူ ၌ ငါရုံကြည် သည် ကိုငါသိ၏။သူ၌
ငါအပ်ထားသောအရာကိုလည်းထိုနေ့ရက်တိုင်အောင်စောင့်နိုင်တော်
၁၃ မူသည်ဟုငါသဘောကျ၏။ ။ငါ့ထံ၌ကြားရပြီးသော။စင်
ကြယ်သောတရား စကားကို ယေရှုခရစ် ၌ ရုံကြည်ခြင်း။ ချစ်ခြင်းနှင့်
၁၄ တကွကိုင်ယူစွဲလမ်လော့။ သင်၌အပ်ထားသောအရာမြတ်ကိုငါတို့၌
ကျိန်း ဝပ် တော်မူသော။ သန့်ရှင်းသောဝိညာဉ် တော်အားဖြင့် စောင့်
၁၅ ရှောက်လော့။ ။အာရှိပြည်၌နေသောသူအပေါင်းတို့သည်
ငါကို ပယ်ကြပြီး ဟုသင်သည်ကြားသိ၏။ ထိုသူတို့တွင်ဖုဂေလု နှင့်
၁၆ ဟေရမောဂင်ပါသတည်း။ ထာဝရဘုရား ၏ ကရုဏာ တော်သည်
ဩနေသိဖော်၏ အိမ် ၌သက်ရောက်ပါစေသော။သူသည်ငါကိုအဖန်
ဖန်သက်သာစေပြီး။ ငါ၌သံကြိုး ချည် နှောင် လျက် ရှိသော်လည်း သူ
၁၇ သည်ရှက်ကြောက်ခြင်းမရှိဘဲ ရောမမြို့သို့ရောက်သောအခါသာ၍
၁၈ ကြိုးစားသည်နှင့်ငါကိုရှာ၍ တွေ့၏။ သူသည်ထိုနေ့ရက် ၌ သခင်ဘု
ရား၏လက်မှကရုဏာတော်ကိုခံမည်အကြောင်း။ထာဝရဘုရားသည်
ပေး သနား တော်မူပါစေသော။ သူသည် ဧဖက် မြို့ ၌ လည်း ငါကိုအ
ဘယ်မျှလောက်ပြုစုသည်ကိုသင်သည်အမှန်သိ၏။

❋❋

၁ ငါ့သား။သင် သည် ယေရှုခရစ် ၌ ရှိသောကျေးဇူး တော်အားဖြင့်ခွန်
၂ အားနှင့်ပြည့်စုံခြင်းရှိလော့။ သက်သေခံအများ ရှိသည်နှင့်ငါ့ထံ၌
ကြား ရပြီးသောအရာတို့ကိုသစ္စာနှင့်ပြည့်စုံ ၍ သူတပါး တို့ကို သွန်
၃ သင်ခြင်ငှါတတ်စွမ်လိမ့် သောလူတို့ ၌ အပ်ပေးလော့။ ထိုသို့အထို

ဌါသင်သည်ယေရှုခရစ်၌ကောင်းသောစစ်သူရဲကဲ့သို့ဆင်းရဲဒုက္ခကို
၄ သည်းခံလော့။ စစ်သူရဲမည်သည်ကားမိမိကို စစ်သူရဲအရာ၌ခန့်
ထားသောသူကိုနှစ်သက်စေရအောင်လောကီမှုရေးဖြွမ်နှောရှုပ်
၅ ထွေးခြင်းကိုပယ်ရှားတတ်၏။ ပွဲ၌လုချင်းတိုက်သောသူမည်သည်
၆ ကားထုံးတမ်းအတိုင်းမတိုက်လျှင်ပန်းဦးရစ်ကိုမရ။ လယ်လုပ်သော
၇ သူသည်လည်းအရင်လုပ်၍နောက်မှအသီးအနှံကိုခံရမည်။ ငါစကား
ကိုဆင်ခြင်လော့။ထာဝရဘုရားသည်အရာရာတို့၌ဥာဏ်ကိုသင်
၈ အားပေးသနားတော်မူပါစေသော။ ။ဒါဝိဒ်အမျိုးဖြစ်သော
ယေရှုခရစ်သည်ငါဟောသောဧဝံဂေလိတရားအတိုင်းသေခြင်းမှထ
၉ မြောက်တော်မူသည်ဟုအောက်မေ့လော့။ ထိုတရားကြောင့်ငါသည်
လူဆိုးကဲ့သို့ချည်နှောင်ခြင်းတိုင်အောင်ဆင်းရဲဒုက္ခကိုခံရ၏။သို့
သော်လည်းဘုရားသခင်၏နှုတ်ကပတ်တရားတော်သည်ချည်နှောင်
၁၀ ခြင်းနှင့်ကင်းလွတ်၏။ ထိုကြောင့်ရွေးကောက်တော်မူသောသူတို့
သည်ထာဝရဘုန်းအသရေနှင့်တကွယေရှုခရစ်အားဖြင့်ကယ်တင်
ခြင်းသို့ရောက်စိမ့်သောငှါသူတို့အဖို့အရာရာကိုငါသည်းခံရ၏။
၁၁ သစ္စာစကားဟူမူကား။ထိုသခင်နှင့်အတူသေလျှင်အတူရှင်လိမ့်မည်။
၁၂ သည်းခံလျှင်ထိုသခင်နှင့်အတူစိုးစံလိမ့်မည်။ထိုသခင်ကိုငါတို့သည်
၁၃ ညှင်းပယ်လျှင်ငါတို့ကိုညှင်းပယ်တော်မူလိမ့်မည်။ ငါတို့သည်မရုံ
ကြည်သော်လည်းထိုသခင်သည်သစ္စာတည်၍ကိုယ်ကိုကိုယ်ညှင်း
၁၄ ပယ်တော်မမူနိုင်။ ။သူတပါးတို့သည်ဤအကြောင်းအရာ
များကိုမှတ်မိစေလော့။ကြားနာသောသူအကျိုးကိုမပြုရ။သူစိတ်ကို
မှောက်လှန်တတ်သောစကားညှင်းချုံခြင်းကိုမပြုမည်အကြောင်း။သ
၁၅ ခင်ဘုရားရှေ့၌သစ္စာပေးလော့။ သင်မူကားဝန်ခံတော်မူသောသူ။
ရှက်ကြောက်စရာအကြောင်းမရှိဘဲအလုပ်လုပ်၍သစ္စာတရားစကား
ကိုမှန်မှန်ပိုင်းချားတတ်သောသူဖြစ်လျက်ဘုရားသခင်ရှေ့၌ကိုယ်ကို
၁၆ ကိုယ်ဆက်သရအောင်ကျိုးစားအားထုတ်လော့။ တရားမဲ့သောအ
ချည်းနှီးစကားကိုရှောင်လော့။ အကြောင်းမူကား။ ထိုစကားသည်မ
၁၇ တရားသောအမှုတို့ကိုပွားများစေလိမ့်မည်။ သူတို့၏စကားသည်
ကျူးနာကဲ့သို့စားလိမ့်မည်။ ထိုသူတို့တွင်ဟုမေနဲနှင့်ဖိလက်ပါသ
၁၈ တည်း။ သူတို့သည်သစ္စာတရားလမ်းမှလွဲသွား၍သေလွန်သောသူ
တို့သည်ထမြောက်ခဲ့ပြီးဟုပြောသဖြင့်အချို့သောသူတို့၏ယုံကြည်

၁၉ ခြင်းကိုမှောက်လှန်ကြ၏။ သို့သော်လည်းသခင်ဘုရားသည်မိမိလူ
တို့ကိုသိတော်မူ၏ ဟူ၍ ၎င်သခင်ဘုရား၏နာမတော်ကိုဝန်ခံသော
သူမည်သည် ကား မတရား သောအမှု ကိုရှောင်ပါလေစေဟူ၍ ၎င်တံ
ဆိပ် ခတ်လျက် ရှိသောဘုရားသခင်၏တိုက်မြစ်သည် ခိုင်ခံ့၍ တည်
၂၀ ၏။ ကြီးစွာသောအိမ်၌ရွှေတန်ဆာ။ငွေတန်ဆာသာရှိသည်မဟုတ်၊
သစ်သားတန်ဆာ။မြေတန်ဆာရှိ၏။အသရေရှိသောတန်ဆာ။အသ
၂၁ ရေမရှိသောတန်ဆာရှိ၏။ သို့ဖြစ်၍အထက်ဆိုခဲ့ပြီးသောအကျင့်တို့
ကိုပယ်၍မိမိကိုစင်ကြယ်စေသောသူမည်သည်ကားအသရေရှိသော
တန်ဆာ။သန့်ရှင်း၍အိမ်ရှင်သုံးစရာကောင်းသောတန်ဆာ။ကောင်း
သောအမှုများအဖို့အလို၌ပြင်ဆင်သောတန်ဆာဖြစ်လိမ့်မည်။
၂၂ ။လူပျို့တို့၏တပ်မက်ခြင်းကိုဆောင်သောစိတ်ကိုကြဉ်ရှောင်
လော့။ဖြောင့်မတ်ခြင်း။သစ္စာရှိခြင်း။ချစ်ခြင်း။စင်ကြယ်သောစိတ်ရှိ
၍သခင်ဘုရားကိုပဌနာပြုသောသူတို့ နှင့် အသင့်အတင့်နေခြင်းတို့
၂၃ ကိုလိုက်ရှာလော့။ မိုက်မဲ၍ပညာကင်းသောပုစ္ဆာအမေးတို့သည်ရန်
၂၄ ပွားစေတတ်သည်ဟုသိမှတ်၍ပယ်ရှားလော့။ သခင်ဘုရား၏ကျွန်
သည်ရန်မတွေ့ရ။ခပ်သိမ်းသောသူတို့၌ ဖြည်းညှင်းစွာပြုသောသူ။
၂၅ ဆုံးမဩဝါဒပေးခြင်းအမှု၌လိမ္မာသောသူ။ သည်းခံနိုင်သောသူဖြစ်
ရမည်။ဆီးတားညှင်း ခံသောသူတို့ကို နူးညံ့သိမ်မွေ့စွာဆုံးမရမည်။
သမ္မာတရားကိုဝန်ခံခြင်းအလို၌နောင်တကိုဘုရားသခင်ပေးကောင်း
၂၆ ပေးတော်မူ၍ မာရ်နတ်၏အလိုအတိုင်းဖမ်းမိသောထိုသူတို့သည်သ
တိရ၍ထိုဖမ်းမိရာမှလွတ်ခြင်းသို့ရောက်ကောင်းရောက်ကြလိမ့်မည်။

❋❋

၁ နောင်ကာလသည် ခဲယဉ်း သောကာလဖြစ်မည် ဟုသိမှတ်လော့။ အ
၂ ဘယ်သို့နည်း ဟူမူကား။ လူတို့သည်ကိုယ် ကိုကိုယ်ချစ်သောသူ။ငွေ
ကိုတပ် မက် သောသူ။ကြွားဝါသောသူ။ ထောင်လွှားစော်ကား သော
သူ။သူ့အသရေ ကို ရှုတ် ချသောသူ။မိဘစကားကို နားမထောင်သော
၃ သူ။ကျေးဇူးကိုမသိသောသူ။သန့်ရှင်းခြင်းကင်းသောသူ။ မိဘသား
မယားစသည်တို့ကိုမချစ်သောသူ။ရန်ငြိုးထားသောသူ။ဆဲရေးသော
သူ။ကိုယ်ဣန္ဒြေကိုမချုပ်တည်းနိုင်သောသူ။ပြင်းထံသောသူ။သူတော်
၄ ကောင်းကိုမုန်းသောသူ။ သစ္စာဖျက်တတ်သောသူ။မဆုမ္မနိုင် သော
သူ။မာန်မာန နှင့် ရစ်မူးသောသူ။ဘုရားသခင်ကို အလိုမရှိဘဲကာမ

ဂုဏ်ခံစားခြင်း ဥါသာအလိုရှိသောသူ။ ဘုရားဝတ်၌မွေ့လျော်ရောင်
၅ ဆောင်၍ ဘုရားဝတ်၌မွေ့လျော်ခြင်းတန်ခိုးကိုညင်းပယ်သောသူ
၆။၇ ဖြစ်ကြလိမ့်မည်။ ထိုသူတို့ကိုရှောင်လော့။ ဒုစရိုက်အပြစ်ဝန်ကိုထမ်
ရွက်၍ အထူးထူးအပြားပြားသောလောဘကိလေသာအလိုသို့လိုက်
သွား၍အစဉ်သင်သော်လည်းသမ္မာတရားကို လွှကျက်ခြင်းသို့အ
လျှင်းမရောက်နိုင်သောမိမ္မမိုက်တို့ကိုအိမ်ထဲသို့ဝင်၍ ဖမ်သွားချုပ်
၈ ထားသောသူတို့သည်ကားထိုသို့သောသူတို့အဝင်ဖြစ်သတည်း။ ယ
န္နေနှင့် ယံဗြေသည် မောရှေကိုဆီးတားသကဲ့သို့ သူတို့သည်သမ္မာတ
ရားကိုဆီးတားကြ၏။ စိတ်နှလုံးဖောက်ပြန်ပုပ်စပ်၍ ယုံကြည်ရောင်
၉ ဆောင်သောသူဖြစ်ကြ၏။ ထိုလူနှစ်ယောက်တို့၏မိုက်မဲခြင်းသည်လူ
အပေါင်းတို့ရှေ့မှာထင်ရှားသကဲ့သို့ ဤလူတို့၏ မိုက်မဲခြင်းလည်းထင်
၁၀ ရှားရှိလိမ့်မည်။ သို့ဖြစ်၍သူတို့သည်တိုး၍မလွန်မသွားရ။ ။
ငါဆုံးမဩဝါဒပေးခြင်း။ ပြုမူခြင်း။ ကြံစည်ခြင်း။ သစ္စာစောင့်ခြင်း။ စိတ်
၁၁ ရှည်ခြင်း။ ချစ်ခြင်း။ သည်းခံခြင်းတို့ကိုဧင်အန္တိအုတ်မြို့၊ ဣကောနိမြို့၊
လုတ္တြာမြို့၌ ငါခံသကဲ့သို့အရပ်ရပ် ခံရသောညှဉ်းဆဲခြင်း။ ဆင်းရဲ
ခြင်းတို့ကို ဧင်သင်သည်ရှာဖွေနားလည်ပြီ။ ထိုသို့သောညှဉ်းဆဲ
ခြင်းကိုငါခံသော်လည်းအားလုံးတို့မှသခင်ဘုရားသည်ငါ့ကိုကယ်
၁၂ နုတ်တော်မူပြီ။ ယေရှုခရစ်၏တရားတော်နှင့်အညီဘုရားဝတ်၌မွေ့
လျော်နေခြင်း ဥါအလိုရှိသောသူအားလုံးတို့သည်ညှဉ်းဆဲခြင်းကိုခံ
၁၃ ရကြလိမ့်မည်။ ဆိုးညစ်သောသူ။ လှည့်စားသောသူမူကားသူတပါး
ကိုဧင်ကိုယ်ကိုဧင်လှည့်စား၍ဆိုးညစ်သောအပြစ်တရွေ့ရွေ့ကြီးပွား
၁၄ လိမ့်မည်။ ။သင်သည်အဘယ်သူထံ၌နည်းခံခဲ့ပြီးသည်ကို
၁၅ ဧင် ယေရှုခရစ်ကိုယုံကြည်ခြင်းအားဖြင့်ကယ်တင်ခြင်းအလိုဥါပညာ
ကိုပေးနိုင်သောဓမ္မကျမ်းစာကိုငယ်သောအရွယ်မှစ၍လွှကျက်သည်
ကိုဧင်သိမှတ်သည်နှင့်အထက်ကသင်၍နှစ်လုံးသွင်းမိသောအယူဝါ
၁၆ ဒ၌တည်နေလော့။ ကျမ်းစာအားလုံးမူကားဘုရားသခင်ပေးတော်မူ
၁၇ သောဉာဏ်အားဖြင့်စီရင်ရေးထားလျက်ဖြစ်၍ ဘုရားသခင်၏
လူသည်စုံလင်သောသူ။ ကောင်းသောအမှုအမျိုးမျိုးတို့ကိုပြုခြင်းအ
လို ဥါပြင်ဆင်သောသူဖြစ်ရအောင်ဩဝါဒပေးခြင်း။ မိစ္ဆာဒိဋ္ဌိကို
ထင်ရှားစေခြင်း။ မှန်မှန်စီရင်ပြုပြင်ခြင်း။ တရားကိုသင်ပေးခြင်း
စသည်းမှုသောအကျိုးများကိုပေးတတ်၏။

**

၁ အကြင်သခင်သည် ကိုယ်ပေါ်ထွန်း၍ နိုင်ငံတော်ထင်ရှားသောကာလ
အသက်ရှင်သောသူ။ သေသောသူတို့ကိုစစ်ကြောစီရင် တော်မူအံ့။ ထို
သခင်ယေရှုခရစ် ရှေ့မှာငင် ဘုရားသခင် ရှေ့မှာငင် ငါသည် သင် ကို
၂ သစ္စာပေးသည်ကား။ နှုတ်ကပတ်တရား တော်ကိုဟောပြောလော့။
အချိန် ရှိသည် ဖြစ်စေ။ မရှိသည် ဖြစ် စေ။ကျိုး စားအားထုတ်လော့။ အ
ပြစ်ကိုဖော်ပြလော့။ဆုံးမခြင်းကို ပြုလော့။အလွန်ရှည်သောစိတ်နှင့်သြ
၃ ဝါဒမျိုးကိုပေး၍ တိုက်တွန်းသွေးဆောင်လော့။ အကြောင်း မူကား။
နောင်ကာလ၌လူတို့သည်ဂင်ကြယ်သောသြဝါဒကိုနားမခံနိုင်ဘဲယား
တတ်သောနားရှိလျှင်မိမိတို့တပ်မက်ခြင်း အတိုင်းများပြားသောဆ
၄ ရာတို့နောက်၌လိုက်ကြလိမ့်မည်။ သမ္မာတရားကိုနားမထောင်ဘဲဒ
၅ ဏ္ဍာရီစကားကိုနားထောင်၍ လွဲသွားကြလိမ့်မည်။သင်မူကား အရာရာ
၌သမ္မာသတိရှိနေလော့။ဆင်းရဲဒုက္ခကိုသည်းခံလော့။သာသနာပြုဆ
ရာဆောင်ရွက်ရသောအမှုကိုဆောင်ရွက်လော့။ဆရာအရာ၌ခန့်ထား
၆ ၍ပြုရသောဝတ်များကိုအကုန်အစင်ပြုလော့။ အကြောင်း
မူကား။ငါကိုယ်၏ ပေါ်မှာလောင်း ရသော အချိန် ရှိပြီ။ စုတေ့ရ သော
၇ အချိန် ရောက်လေပြီ။ ကောင်း မြတ်သောတိုက်လံခြင်း ကိုငါပြုပြီ။
၈ ပြေးခြင်းကိုပြီးစီးပြီ။ ယုံကြည်ခြင်းတရားကိုစောင့်ရှောက်ပြီ။ ယခု
မှစ၍ ဖြောင့်မတ်ခြင်းဆုလိုတည်းဟူသောဦးရစ်သရဖူ
မှစ ၍ မွေ့သရဖူသည် ငါအဖို့ သိုထားလျက် ရှိ၏။ ထိုနေ့ရက် ၌တရား
သဖြင့်စီရင် သောသူတည်း ဟူသောသခင်ဘုရား သည် ထိုသရဖူကို
ငါ၌အပ်ပေးတော်မူမည်။ ထိုမျှမက။ ပေါ်ထွန်း တော်မူခြင်းကိုတောင့်
တသောသူအားလုံးတို့၌လည်းအပ်ပေးတော်မူမည်။ ။
၉။၁၀ ငါ့ဆီသို့မြန်မြန်လာအောင်ကျိုး စားပါ။ အကြောင်းမူကား။ဒေမသည်
ယခုဘဝကိုနှစ်သက်သောစိတ် ရှိသည် နှင့် ငါ့ကိုစွန့်ပြစ် ၍ သက် သာ
လောနိတ် မြို့ သို့သွား ပြီ။ ကရေ့ဇ္ကေသည် ဂလာတိပြည် သို့ ဒင် တိဘု
၁၁ သည်ဒလမာတိပြည်သို့ဒင်သွားပြီ။ လုကာတယောက်တည်းငါ့ဆီမှာ
ရှိ၏။မာကုကိုသင်နှင့်အတူခေါ် ခဲ့ပါ။သူသည်ဆရာအမှုကိုပြုရာမှာ
၁၂ ငါ့အကျိုးရှိ၏။ တုခိတ်ကိုလည်းဧဖက် မြို့သို့ငါလွှတ်လိုက်ခဲ့ပြီ။ တ
၁၃ ရောမြို့တွင်ကာပုလက် ၌ငါထားရစ်သောဝတ်လုံကိုင်စာစောင် ကိုင်
၁၄ အထူးသဖြင့်သားရေစာကိုဒင်သင်သည်လာသောအခါယူခဲ့ပါ။ ပန်း
တိမ်သမားအာလေဇန္ဒြုသည်ငါ ၌မကောင်း သောအမှုအများကိုပြု

လေပြီး။အမှုကျင့်သောအကျင့်တို့၏အကျိုးအဖြစ် ကိုသခင်ဘုရားအမြဲ
၁၅ ပေးတော်မူလိမ့်မည်။ သူ့ကိုသတိပြုပါ။ငါတို့စကားကိုအလွန်ညှင်းလေ
၁၆ ပြီး။ ပဌမအချိန် ၌အပြစ်တင်ခွင့်ကိုဖြေ၍ငါသည်အစီရင်ခံသောအခါ
ငါဘက် ၌ အဘယ် သူမျှမနေ။ အားလုံးတို့သည် ငါကို စွန့် ပြစ်ကြ ၏။
၁၇ သူတို့ ၌ အပြစ် တင်တော်မမူ ပါစေ နှင့်။ အားလုံးတို့သည် စွန့်ပြစ်ကြ
သော်လည်း ဧဝံ ဂေလိ တော် ကို အကုန် အစင် ဟောပြော ၍ ခပ် သိမ်း
သောလူမျိုးတို့သည်ကြားရစေခြင်း ငှါသခင်ဘုရား သည်ငါဘက်မှာ
နေ ၍ ငါ ၌ ခွန်အား ကို ပေး တော်မူသော အားဖြင့် ချင် ဖုသခံတွင်းမှ
၁၈ ကယ် နှုတ်ခြင်း ရှိ သာ ကိုငါရ ၏။ ထိုမှမက။သခင် ဘုရား သည်မ
ကောင်းသောအမှုအားလုံးတို့မှငါကိုကယ်နှုတ်၍မိမိကောင်းကင်နိုင်ငံ
တော် သို့တိုင် အောင်မစပို့ဆောင်တော်မူလိမ့်မည်။ ထိုသခင်သည်က
မ္ဘာအဆက်ဆက်ဘုန်းကြီးတော်မူစေသတည်း။အာမင်။ ။
၁၉ ပြစ်ကိလနှင့်အာကုလမှစ၍ဩနေသိပေါ်၏ အိမ် သူများကိုနှုတ်ဆက်
၂၀ ပါ။ ဧရတ္တုသည်ကောရိန္တုမြို့ ၌နေ၏။တရောဖိမ်သည်နာ၍ မိလက်
၂၁ မြို့၌ငါထားရစ်၏။ ဆောင်းကာလမရောက်မှီလာရအောင်ကြိုးစား
ပါ။ ဥဗုလု။ပုဒေ။လိနု။ကလောဒိမှစ၍ ညီအစ်ကိုအားလုံးတို့သည် သင်
၂၂ ကိုနှုတ် ဆက် ကြ၏။ သခင်ယေရှုခရစ်သည်သင်၏ဝိညာဉ်နှင့်
အတူ ရှိတော်မူ ပါစေသော။ သင် ၌ ကျေးဇူး တော်ဖြစ် စေသတည်း။
အာမင်။

။တိမောသေဩဝါဒစာဒုတိယစောင်ပြီး၏။

---

## ။ တိတုဩဝါဒစာ ။

---

၁။၃ မှုသာနှင့်ကင်း စင် တော် မူသောဘုရား သခင်သည် ရှေးကပ်ကာလမ
ရောက်မှီဂတိထားတော်မူ၍ငါတို့ကိုကယ်တင်သောဘုရားသခင်၏ပ
ညတ်တော်အတိုင်းငါ ၌ အပ်ထား သော ဧဝံဂေလိဟောခြင်း အား ဖြင့်
တော်လျော်သောအချိန် ၌နှုတ်ကပတ်တရားတော်ကိုထင်ရှားစေတော်
မူသည်အရာနှင့်စပ် ဆိုင် သောထာဝရအသက်ကိုမျှော်လင့်သည်ဖြစ်၍
ဘုရားဝတ်၌မွေ့လျော်ခြင်းနှင့် ဆိုင်သောသမ္မာတရားကိုဝန်ခံခြင်းအ
လို ငှါငင်ဘုရားသခင် ရွေး ကောက်တော်မူသော သူတို့၏ ယုံကြည် ခြင်း

အလို၌ါရှင်ဘုရားသခင်၏ကျွန်တည်းဟူသော ယေရှုခရစ်၏ တမန်
၄ တော်ဖြစ်သောငါပေါလုက ဆက်ဆံသောရုံကြည်ခြင်းအားဖြင့်ငါ့သား
စစ်ဖြစ်သောတိတုကိုကြားလိုက်ပါ၏။ငါတို့ကိုကယ်တင်တော်မူသော
သခင်ယေရှုခရစ်နှင့်ခမည်းတော်ဘုရားသခင်အထံတော်ကကျေးဇူး၊
၅ ကရုဏာ၊ငြိမ်သက်ခြင်းဖြစ်ပါစေသော။ ။ငါသည်သင်ကို
မှာထားခဲ့ နှင့်သည်အတိုင်းကရက်ကျွန်း၌မစုံလင်သမျှတို့ကိုပြင်ဆင်
၍ မြို့ရွာများ၌ သင်းအုပ်တို့ကို ခန့်ထားစေခြင်း ငှါထိုကျွန်း၌သင်ကို
၆ ငါထားရစ်သတည်း။ အပြစ်တင်ခွင့်နှင့်ကင်းလွတ်သော သူ။မယားတ
ယောက်တည်းရှိသောသူဖြစ်လျှင် ရှင်ကာမဂုဏ်၌လွန်ကျူးသည်ဟု
အပြစ်တင်ခြင်း။နားမထောင်ခြင်းနှင့်လွတ်၍ ရုံကြည်သောသားသမီး
၇ ရှိသောသူဖြစ်လျှင်ရှင်ထိုအရာ၌ ခန့်ထားအပ်၏။ အဘယ်ကြောင့်
နည်းဟူမူကား။ သင်းအုပ်သည် ဘုရားသခင်၏ဘဏ္ဍာစိုးကဲ့သို့အ
ပြစ်တင်ခွင့် နှင့်ကင်းလွတ်သောသူဖြစ်ရမည်။ ကိုယ်အလိုကိုလိုက်
တတ်သောသူ။စိတ်တိုသောသူ။စပျစ်ရည်ကိုသောက်ကျူးသောသူ၊
သူတပါးကိုရိုက်ပုတ်သောသူ။မကောင်းသောအသက်မွေးခြင်းကိုပြု
၈ သောသူမဖြစ်ရဘဲ ဧည့်သည်ဝတ်ကိုပြုတတ်သောသူ။ သူတော်
ကောင်းနှင့်အဆွေဖွဲ့သောသူ။ဣန္ဒြေစောင့်သောသူ။ဖြောင့်မတ်သော
၉ သူ။သန့်ရှင်းသောသူ။ကာမဂုဏ်ချုပ်တည်းသောသူဖြစ်ရမည်။ စင်
ကြယ်သောသြဝါဒအားဖြင့် တိုက်တွန်းသွေးဆောင်ခြင်းငှါရှင်ညင်း
ခုံသောသူတို့၏ စကားကို ချေခြင်းငှါရှင်တတ်နိုင်မည်အကြောင်း၊
ကိုယ်တိုင်သင်ပြီးသောသမ္မာနှုတ်ကပတ်တော်ကိုစွဲလမ်းသောသူဖြစ်
၁၀ ရမည်။ အဘယ်ကြောင့်နည်းဟူမူကား။နားမထောင်
ဘဲအချည်းနှီးစကားကိုပြော၍လှည့်စားတတ်သောသူအများရှိကြ
၁၁ ၏။အာတ်သွင်းမင်္ဂလာခံသူတို့တွင်လည်းအထူးသဖြင့်ရှိကြ၏။ သူတို့
၏နှုတ်ကိုပိတ်ရမည်။သူတို့သည် မကောင်းသောအသက်မွေးခြင်းကို
ပြုလျက်မပေးအပ်သောသြဝါဒကိုပေး၍အိမ်ထောင်လုံးတို့ကိုဖျောက်
၁၂ လှန်တတ်ကြ၏။ သူတို့အပါအဝင်။အမျိုးသားချင်း ပရောဖက်ဆရာ
တယောက်ကကရက်သားအမြဲ။မုသာစွဲလမ်း။သားရဲကြမ်းကြုတ်။စား
၁၃ ကျူးဟုပ်တုပ်။လူယုတ်ပေဟုစပ် ဆိုသတည်း။ ဤသက်သေမှန်၏။
၁၄ ထိုကြောင့်သူတို့သည်ယုဒဒဏ္ဍာရီစကားကိုရှင်သမ္မာတရားကိုစွန့်
သောသူတို့၏ ပညတ်တို့ကိုရှင်အမှုမထားဘဲရုံကြည်ခြင်းစင်ကြယ်

၁၅ ရအောင်သူတို့ကိုကြွပ်တည်းစွာဆုမ္မပြစ်တင်လော့။ စင်ကြယ်သော
သူတို့အားခပ် သိမ်း သောအရာတို့သည် စင်ကြယ်လျက် ရှိ၏။မစင်
ကြယ်။မရုံကြည်သောသူတို့အားအဘယ်အရာမျှမစင်ကြယ်။သူတို့၏
နှလုံး လည်း မစင်ကြယ်။ ကိုယ် ကိုကိုယ် သိသောစိတ် လည်း မစင်
၁၆ ကြယ်။ သူတို့သည် ဘုရားသခင်ကိုသိရောင်ဆောင်သော်လည်းအ
ကျင့်အားဖြင့် ဘုရားသခင် ကို ညင်းပယ်ကြ၏။စက်ဆုတ်ရွံရှာ ဖွယ်
သောသူ။နားမထောင်သောသူ။ ကောင်းသော အမှုတခုကို မျှပြုတတ်
သောညာဏ်မရှိသောသူဖြစ်ကြ၏။



၁ သင်မူကား။စင်ကြယ်သောဩဝါဒနှင့်ထိုက်တန်သမျှတို့ကိုဟောပြော
၂ လော့။ အသက်ကြီးရင့်သောယောကျ်ားတို့သည်သမ္မာသတိရှိသော
သူ။တည်ကြည်သောသူ။ဍာမြဲစောင့်သောသူ။ရုံကြည်ခြင်း။ချစ်ခြင်း။
၃ သည်းခံခြင်း၌စိတ်သန်သောသူဖြစ်ရမည်အကြောင်း။ ထိုနည်းတူ။
အသက် ကြီး ရင့်သောမိန္မတို့သည် ကျင့်ကြံပြု မူရာတွင် ဓမ္မအမှုနှင့်
ထိုက်တန် သောသူ။မဆဲရေးတတ်သောသူ။စပျစ် ရည်ကို မသောက်
ကျူးတတ် သောသူ။ကောင်း သောအတတ် ကို သင်း ပေး တတ်သော
၄ သူ။ကိုယ်တိုင် ဖြစ်၍ ,ဘုရားသခင်၏နှုတ်ကပတ်တရား တော်သည်
ကဲ့ရဲ့ခြင်း နှင့် ကင်း လွတ်ရအောင်အသက်ပျိုသောမိန္မတို့သည်ကိုယ်
၅ ခင်ပွန်းကိုချစ်သောသူ။သားသမီးကိုချစ်သောသူ။ ဍာမြဲစောင့်သော
သူ။စင်ကြယ်သောသူ။ မိမိအိမ် ကို ပြုစုသောသူ။ ကောင်းမွန် သော
သူ။ ခင်ပွန်း ၏ အုပ်စိုး ခြင်း ကို ဝန်ခံ သော သူ ဖြစ် စေခြင်း ငှါ အ
၆ သက်ကြီးရင့်သောမိန္မတို့သည်ဆုမ္မပေးရမည်အကြောင်း။ ထိုနည်း
တူ။ အသက် ပျိုသောယောကျ်ားတို့သည် လည်း ဍာမြဲစောင့် ရ မည်
၇ အကြောင်းတိုက်တွန်းသွေးဆောင်လော့။ ။အရာရာ၌
ကောင်းသေါအကျင့်တို့၏ပုံသက်သေကိုကိုယ်တိုင်ပြလော့။ဆုမ္မဩဝါ
၈ ဒပေးသောအခါမိစ္ဆာဒိဋ္ဌိကင်း ခြင်း။ တည်ကြည် ခြင်း။ အပြစ်တင်
ဘွယ်မရှိ။စင်ကြယ်သောတရားစကားကိုဟောပြောခြင်း တို့ ကို ပြု
လော့။သို့ပြု၍ တဖက်နေသောသူသည် ငါတို့ကိုကဲ့ရဲ့စရာအခွင့်မရနို
၉ င်သည်နှင့်ရှက်ကြောက်ခြင်းသို့ရောက်လိမ့်မည်။ ။အစေ
ခံကျွန် တို့သည်ငါတို့ကိုကယ်တင်တော်မူသောဘုရား သခင်၏ဩဝါ
ဒကိုအရာရာ၌တန်ဆာဆင်ရအောင် မိမိတို့သခင် ၏အုပ်စိုး ခြင်းကို

နှံခံ၍ညဉ်းခံခြင်း မရှိဘဲအရာရာ၌ သခင်၏အလိုသို့လိုက် မည်အ
၁၀ ကြောင်းနှင့် တိတ်ဆိတ်စွာခိုးယူခြင်းကိုမပြုဘဲခပ်သိမ်းသောသစ္စာ
ကိုထင်ရှားပြမည်အကြောင်းတိုက်တွန်းသွေးဆောင်လော့။
၁၁ အကြောင်းမူကား။ မင်္ဂလာရှိ သော မျှော်လင့် ခြင်းအကြောင်းနှင့်ကြီး
၁၂ စွာသောဘုရားသခင် တည်းဟူသော ငါတို့ကိုကယ်တင်သောသခင်
ယေရှုခရစ်၏ဘုန်းအသရေထင်ရှားပေါ်ထွန်းတော်မူခြင်း ကို ငါတို့
သည်မျှော်လင့်၍ဒုင်ဘုရားမဲ့တရားမဲ့နေခြင်း။ လောကီတပ်မက်ခြင်း
ကိုပယ်ရှား၍ ဒုင် ယခုဘဝ ၌ ရှူးချွေစောင့်ခြင်း။ တရားသဖြင့်ကျင့်
ခြင်း။ဘုရားဝတ်၌မွေ့လျော်ခြင်းတို့ကိုပြုနေပါမည်အကြောင်း။ ငါတို့
ကိုဆုမွှသွန်သင်၍ကယ်တင်တတ်သောဘုရားသခင်၏ကျေးဇူးတော်
၁၄ သည်လူအပေါင်းတို့အားထင်ရှားပေါ်ထွန်းလျက်ရှိ၏။ ထိုသခင်ယေ
ရှုခရစ်သည်ခပ်သိမ်း သော ဒုစရိုက်မှ ငါတို့ ကို ရွေး နှုတ် ခြင်း၌ ဒုင်
ကောင်းသောအကျင့်ဘက်စိတ်အားကြီး၍ထူးဆန်းသောအမျိုးကိုမိ
၁၅ မိအဖို့စင်ကြယ်စေခြင်း၌ဒုင်ကိုယ်ကိုကိုယ် စွန့်ကြဲ တော်မူပြီ။ ဤ
တရားစကားကိုဟောပြောခြင်း။ တိုက်တွန်းသွေးဆောင်ခြင်း။ ဆုမွ
ပြစ်တင်ခြင်းတို့ကိုခပ်သိမ်းသောအာဏာနှင့်တကွပြုလော့။ အဘယ်
သူမျှသင်ကိုမထီမဲ့မြင်မပြုစေနှင့်။



၁ လူတို့သည်အထွဋ်အမြတ်အာဏာစက်၏အုပ်စိုးခြင်းကိုဝန်ခံရအော
င်ဒုင်မင်းစကားကိုနားထောင်ရအောင်ဒုင်ကောင်းသောအမှုအမျိုးမျိုး
၂ တို့ကိုပြုခြင်း၌အသင့်ဖြစ်ရအောင်ဒုင် အဘယ်သူကိုမျှမကဲ့ရဲ့။ ရန်
မတွေ့။ဖြည်းညှင်းသောသဘောရှိ၍ ခပ်သိမ်းသောသူတို့၌အလွန်နူး
၃ ညွှတ်သိမ်မွေ့စွာပြုရအောင်ဒုင်သတိပေးလော့။ အကြောင်းမူကား။ အ
ထက်ကငါတို့သည် ပညာမဲ့သောသူ။ နားမထောင်သောသူ။ မှားရွင်း
သောသူ။အထူးထူးအပြားပြားသောတပ်မက်ခြင်းကာမဂုဏ်ခံစား
ခြင်း၏အမှုတို့ကိုဆောင်ရွက်သောသူ။မနာလိုသောစိတ်။ညူစူသော
စိတ်နှင့် ပြည့်စုံ၍နေသောသူ။ စက်ဆုတ်ရွံရှာဖွယ် သောသူ။ အချင်း
၄ ချင်းမုန်းသောသူဖြစ်ကြ၏။ ငါတို့ကိုကယ်တင်တော်မူသောဘုရား
သခင် ကျေးဇူးပြုချင်သောစေတနာတော်။ လူတို့ကိုချစ်သောမေတ္တာ
၅ တော်သည် ပေါ်ထွန်းသောအခါ ငါတို့ကျင့် သော ကုသိုလ်အကျင့်
အားဖြင့်မဟုတ်ဘဲမိမိသနားခြင်းကရုဏာတော်နှင့်အညီတဖန်မွေး

ခြင်းနှင့်ဆိုင်သောဆေးကြောခြင်းအားဖြင့်၎င်သန့်ရှင်းသောဝိညာဉ်
တော်၏အသစ်ပြုပြင်ခြင်းအားဖြင့်၎င်ငါတို့ကိုကယ်တင်တော်မူ၏။
၆ ငါတို့ကိုကယ်တင်သောသခင်ယေရှုခရစ်အားဖြင့်ငါတို့အပေါ်၌ထိုဝိ
၇ ညာဉ်တော်ကိုကြွယ်ဝစွာသွန်းလောင်းတော်မူ၏။ အကြောင်းကား။
ဘုရားသခင်၏ကျေးဇူးတော်အားဖြင့်ကျသိလ်ရှိရာသို့ရောက်၍ ငါ
တို့သည်ထာဝရအသက်ကိုမျှော်လင့်သည် နှင့်အညီ အမွေခံဖြစ်ကြ
၈ မည်အကြောင်းတည်း။ ။ဤစကားသည်သမ္မာစကားဖြစ်၏။
ဘုရားသခင်ကိုရုံကြည်သောသူတို့သည် ကောင်းသောအကျင့်တို့ကို
ကျိုးစားအားထုတ်ရအောင်သတိပြုမည်အကြောင်းသင်သည် ဤအ
ရာများကိုကြပ်ကြပ်ဟောပြောခြင်းငှါငါအလိုရှိ၏။ ထိုအကျင့်တို့
သည်ကောင်းသည်သာမကလူတို့၏အကျိုးကိုပြုတတ်သောအကျင့်
၉ ဖြစ်၏။ မိုက်မဲသောပုစ္ဆာအမေးတို့ကို၎င်ဆွေစဉ်မျိုးဆက်စာရင်း
တို့ကို၎င်ပညတ်တရားကြောင့်ရန်တွေ့ခြင်း။ တိုက်လှံခြင်းတို့ကို၎င်
ရှောင်လော့။အကြောင်းမူကား။ထိုအရာတို့သည်အကျိုးမရှိ။အချည်း
၁၀ နှီးသက်သက်ဖြစ်ကြ၏။ သင်းခွဲသောသူကိုနှစ်ကြိမ် တိုင်အောင်
၁၁ ဆုံးမပြီးမှပယ်ရှားနှင်ထုတ်လော့။ ထိုသို့သောသူသည်ကိုယ်အပြစ်
ကိုကိုယ်သိလျက်ပင်အပြစ်ပြု၍မှောက်လှန်သောစိတ်ရှိသောသူဖြစ်
၁၂ သတည်း။ ။အာတေမကိုသော်၎င်တုခိတ်ကိုသော်၎င်
သင်ဆီသို့ငါစေလိုက်သောအခါ နိကောပေါလိမြို့တိုင်အောင်ငါဆီ
သို့လာခြင်းငှါကျိုးစားပါ။ဆောင်းကာလပက်လုံးထိုမြို့၌ငါနေမည်အ
၁၃ ကြံရှိ၏။ ကျမ်းဆရာဇေနနှင့်အာပေါလုသည် ဘာမျှမလိုရအောင်ကျိုး
၁၄ စား၍လမ်း၌ပို့ပါ။ ငါတို့လူများသည်လည်းအသီးမဲ့သောသူမဖြစ်ရ
အောင်ကိုယ်သုံးစရာအိုရှိမည် အကြောင်း။ကောင်းသောအကျင့်ကို
၁၅ ကျိုးစားအားထုတ်ခြင်းငှါသင်ကြပါလေစေ။ ငါဆီမှာရှိသောသူ
အားလုံးတို့သည်သင်ကိုနှုတ်ဆက်ကြ၏။ရုံကြည်ခြင်းနှင့်တကွငါတို့
ကိုချစ်သောသူများကိုနှုတ်ဆက်ပါ။ သင်တို့အားလုံး၌ကျေးဇူးတော်
ဖြစ်စေသတည်း။အာမင်။

။တိတုဩဝါဒစာပြီး၏။

# ။ဖိလေမုန်မေတ္တာစာ။

၁ ယေရှုခရစ်၏အကျဉ်းခံရသောသူငါပေါလုနှင့်ငါညီတိမောသေ
၂ ငါတို့ချစ်သောလုပ်ဖော်ဆောင်ဖက်ချင်းဖိလေမုန်။ ငါတို့ချစ်သော
နှစ်မအပ္ပိ။ ငါတို့စစ်သူရဲချင်းအာခိပ္ပုမှစ၍ သင်အိမ်၌ရှိသောသင်း
၃ ဝင်သူတို့ကိုကြားလိုက်ပါ၏။ ငါတို့သခင်ယေရှုခရစ်နှင့်ငါတို့အဖ
တည်းဟူသောဘုရားသခင်အထံတော်ကကျေးဇူးတော်နှင့်ငြိမ်သက်
၄။၅ ခြင်းသင်တို့အားဖြစ်ပါစေသော။ ။သင်သည်သခင်ယေ
ရှုကိုယုံကြည်ခြင်း။သန့်ရှင်းသူအားလုံးတို့ကိုချစ်ခြင်းအကြောင်းကိုငါ
ကြားသိလျှင်ငါ၏ ဘုရားသခင်၏ကျေးဇူးတော်ကိုအစဉ်ချီးမွမ်း၍
၆ သင်အဖို့အလို့ငှါဆုတောင်းပဌနာပြုလျက်နေ၏။ ဆုတောင်းသော
အချက်ဟူမူကား။သင်၏ယုံကြည်ခြင်းကိုဆက်ဆံဝေငှခြင်းအရာမှာ
ယေရှုခရစ်အလို့ငှါငါတို့၌ရှိသမျှသောအကောင်းအမြတ်ကိုသူတပါး
၇ ဝန်ခံစေနိုင်မည်အကြောင်း။ဆုတောင်းပဌနာပြု၏။ သန့်ရှင်းသူတို့
၏စိတ်နှစ်လုံးကိုသင်သည်သက်သာစေသောကြောင့်ငါညီ။ သင်၏
မေတ္တာကိုထောက်၍ငါတို့သည်အလွန်ဝမ်းမြောက်ချမ်းသာခြင်းရှိ၏
၈ ။ထိုကြောင့်သင်သည်ပြုသင့်ရာကိုပညတ်ထားခြင်းငှါ
ငါသည်ခရစ်တော်အားဖြင့်အလွန်ရဲရင့်စရာအခွင့်ရှိသော်လည်း
၉ အသက်ကြီးသောပေါလုတည်းဟူသောယေရှုခရစ်ကြောင့်အကျဉ်း
ခံရသောသူဖြစ်လျက်ပင်မေတ္တာအားဖြင့်သာသင်ကိုတောင်းပန်ပါ
၁၀ ၏။ ချည်နှောင်ခြင်းကိုခံစဉ် ငါဖြစ်ဘွားစေသောသား တည်းဟူ
၁၁ သော အထက်ကသင်သည် အသုံးမရသောသူ။ ယခုတွင်ငါနှင့်သင်
၁၂ သည်အသုံးရသောသူ။ ဩနေသိမ် အဖို့ငါတောင်းပန်ပါ၏။ သူကို
သင်ဆီသို့ငါပြန်စေသည်ဖြစ်၍ငါနှစ်လုံးကဲ့သို့မှတ်သဖြင့်သူကိုလက်
၁၃ ခံပါ။ ဧဝံဂေလိတရားကြောင့်ချည်နှောင်ခြင်းကိုငါခံစဉ်တွင်သူသည်
သင်၏ကိုယ်စား၌ ငါကိုပြုစုရအောင်သူကိုငါထားချင်သော်လည်း
၁၄ သင်သည်ငါ၌ကျေးဇူးပြုရာတွင်အနိုင်ပြုရသည် မဟုတ်။အလိုလိုပြု
၁၅ စေချင်သောစိတ်ရှိသည်ဖြစ်၍သင်၏အခွင့်မရဘဲအလျှင်းမပြုလို။
ထိုမှတပါး။သင်သည်သူကိုအစဉ်ရခြင်းငှါသူသည်သင်နှင့်ခဏကွာ

၁၆ သွားသည်ဟုဆိုစရာရှိ၏။ ယခုမှာအစေခံကျွန်ကဲ့သို့မက။ ငါ၌အ
ထူးသဖြင့်ချစ်သောညီ။သင်၌ကားဇာတိအားဖြင့် ၎င်သခင်ဘုရား
၁၇ အားဖြင့်၎င်သာ၍ချစ်သောညီကဲ့သို့မှတ်အပ်၏။ သို့ဖြစ်၍သင်
သည်ငါကိုအပေါင်းအဖော်ကဲ့သို့မှတ်လျှင်သူကိုငါကဲ့သို့ပင်လက်ခံ
၁၈ ပါ။ သူသည်သင်၌ပြစ်မှားခြင်း။ကျွေးတင်ခြင်းတစုံတခုရှိလျှင်ငါ့အ
၁၉ တွက်အတာမှတ်ပါ။ ငါဆပ်ပေးမည်ဟုငါပေါလုသည်ကိုယ်လက်နှင့်
ရေးထါး၏။သို့ရာတွင်သင်သည်သင်ကိုယ်တးဥပဟူသောကြွေးကိုပင်
၂၀ ငါအားဆပ်ပေးရသောအကြောင်းရှိသည်ဟုငါမဆို။ ငါ့ညီ။သခင်
ဘုရားကိုထောက်၍ငါ၌ကျေးဇူးပြုပါ။ ခရစ်တော်ကိုထောက်၍ငါ
၂၁ စိတ်နှစ်လုံးကိုသက်သာပါစေ။ သင်သည်နားထောင်မည်ဟုရုံမှား
ခြင်းမရှိသည်သာမက။ငါပြောသည်ထက်သင်သည်သာ၍ပြုမည်ဟု
၂၂ အမှန်သိလျက်ငါရေးထား၏။ ။ထိုမှတပါး။ငါတည်းခိုစ
ရာအရပ်ကိုပြင်ပါ။အကြောင်းမူကား။သင်တို့သည်ဆုတောင်းပဋ္ဌနာ
ပြုသောအားဖြင့်သင်တို့ဆီသို့ငါရောက်သောအခွင့်ကိုပေးတော်မူ
၂၃ မည်ဟုငါမျှော်လင့်ခြင်းရှိ၏။ ယေရှုခရစ်ကြောင့်ငါနှင့်အတူအကျဉ်း
၂၄ ခံရသောသူဧပဖြမှစ၍ ငါ၏လုပ်ဖော်ဆောင်ဖက်ဖြစ်သောမာကု။
၂၅ အာရိတ္တာခု။ဒေမ။လုကာတို့သည်သင်ကိုနှုတ်ဆက်ကြ၏။ ငါတို့သ
ခင်ယေရှုခရစ်၏ကျေးဇူးတော်သင်တို့၏စိတ်ဝိညာဉ်နှင့်အတူရှိ
တော်မူစေသတည်း။အာမင်။

။ဖိလေမုန်မေတ္တာစာပြီး၏။

---

## ။ဟေဗြဲဩဝါဒစာ။

---

၁ ရှေးလွန်လေပြီးသောအခါပရောဖက်ဆရာတို့အားဖြင့်ဘိုးဘေးများ
၌အထပ်ထပ်အနည်းနည်းဗျာဒိတ်ပေးတော်မူသောဘုရားသခင်သည်
၂ ဤနောက်ဆုံးကာလအခါမိမိသားတော်အားဖြင့်ငါတို့၌ဗျာဒိတ်ပေး
တော်မူပြီ။ ထိုသားတော်ကိုအလုံးစုံတို့၏အရှင်ခန့်ထားတော်မူ၏။
၃ သူ့အားဖြင့်လည်းလောကဓာတ်တို့ကိုတည်တော်မူ၏။ ထိုသားတော်
သည်ဘုရားသခင်ဘုန်းတော်၏ရောင်ခြည်တော်၎င်ဇာတိအဖြစ်
တော်၏ပုံသဏ္ဌာန်တော်၎င်ဖြစ်၍တန်ခိုးနှင့်ပြည့်စုံသောမိမိအမိန့်

တော်အားဖြင့် ခပ်သိမ်း သောအရာတို့ ကို မစ တော်မူသောသူဖြစ်
လျက်ငါတို့အပြစ်များကိုကိုယ်တော်တိုင်အားဖြင့်သုတ်သင်သန့်ရှင်း
စေပြီးလျှင် မြင့်ရာအရပ်မှာတန် ခိုး အာနုဘော်တော်၏ လက်ျာဘက်
၄ ၌ထိုင်နေတော်မူ၏။ ကောင်းကင်တမန်တို့သည်ရသောဘွဲ့နာမထက်
ထူး မြတ် သောဘွဲ့နာမတော်ကိုခံရသည် နှင့်အညီကောင်းကင်တမန်
၅ တို့ထက်ကြီးမြတ်သောသူဖြစ်တော်မူ၏။ ။အဘယ်
ကြောင့်နည်းဟူမူကား။သင်သည် ငါသားဖြစ်၏။ယနေ့ ပင်သင်ကိုငါ
ဖြစ်ဖွားစေပြီးဟူ၍ ရင်ငါသည် သူ၏အဖဖြစ်မည်။သူသည်လည်းငါ
၏သားဖြစ်လိမ့်မည်ဟူ၍ ၎င်အဘယ်မည်သောကောင်းကင်တမန်ကို
၆ တခါမျှမိန့် တော်မူသနည်း။ သားဦးကို ဤလောကသို့သွင်းတော်မူ
သောအခါဘုရားသခင်၏ကောင်းကင်တမန် အားလုံး တို့သည် ကိုယ်
၇ တော်ကို ပျပ် ဝပ်ကိုးကွယ်စေတော့ဟုတဖန်လာသတည်း။ တနည်း
ကား။ဘုရားသခင်သည် မိမိတမန် တို့ကို လေကဲ့သို့ရင် မိမိအစေအပါ
တို့ကိုမီး လျှံကဲ့သို့ရင်ဖန်ဆင်း တော်မူ၏ ဟုကောင်း ကင်တမန်တို့ကို
၈ ရည်မှတ်၍ဆိုသတည်း။ သားတော်ကိုကား။အိုဘုရားသခင်။ကိုယ်
တော်၏ပလ္လင်သည်နိစ္စထာဝရပလ္လင်ဖြစ်၏။ကိုယ်တော်၏နိုင်ငံသည်
၉ တရားသဖြင့်စီရင်သောနိုင်ငံဖြစ်၏။ ကိုယ်တော်သည်ဖြောင့်မတ်ခြင်း
တရားကိုနှစ်သက်၍မတရား သောအမှုကိုမုန်းတော်မူ၏။ ထိုကြောင့်
အိုဘုရား သခင်။ကိုယ် တော်၏ဘုရားသခင် သည် ကိုယ် တော်၏အ
ပေါင်းအဖော်တို့ထက်ကိုယ်တော်ကိုချီး မြှောက် ၍ဝမ်းသာခြင်းဆီနှင့်
၁၀ ဘိသိက်ပေးတော်မူပြီးဟုလာသတည်း။ ။တဖန်ကျမ်း
စာလာသည်ကားထာဝရဘုရား။ကိုယ်တော်သည်ရှေးဦးစွာ၌မြေကြီး
ကိုတည် တော်မူပြီ။ကောင်းကင်တန်ဆာများကိုလည်းစီရင်ဖန်ဆင်း
၁၁ တော်မူပြီ။ ထိုအရာတို့သည်ပျက်စီး ခြင်းသို့ရောက်သော်လည်းကိုယ်
တော်သည် အမြဲတည် တော်မူ၏။ ထိုအရာအားလုံးတို့သည် အဝတ်ကဲ့
၁၂ သို့ဟောင်းနွမ်းခြင်းသို့ရောက်လိမ့်မည်။ ထိုအရာတို့ကိုလည်းဝတ်လုံး
ကဲ့သို့ကိုယ်တော်သည်လိပ်တော်မူသဖြင့်သူတို့သည် ပြောင်းလဲခြင်း
သို့ရောက် သော်လည်းကိုယ် တော်သည်ပြောင်းလဲတော်မမူ။အသက်
၁၃ တော်မကုန်မဆုံး နိုင်ရာဟုလာသတည်း။ ထို မှတပါး။သင်၏ရန်သူ
တို့ကိုသင် ၏ခြေတင်ရာငါမချမထား မှီတိုင်အောင်ငါလက်ျာဘက် ၌
ထိုင် နေလော့ဟုအဘယ် မည်သော ကောင်း ကင် တမန် ကို တခါမျှမိန့်

၁၄ တော်မူသနည်း။ အောင်းကင်တမန်များတို့ကား။ကယ်တင်တော်မူခြင်းကျေးဇူးကိုအမွေခံလတံ့သောသူတို့ကိုဖြုစုစေခြင်းငှါစေလွှတ်တော်မူသောအစေခံနံ့ဝိညည်ဖြစ်ကြသည်မဟုတ်လော။



၁ အထက်ဆိုခဲ့ပြီးသောအကြောင်းကြောင့်ငါတို့သည်ကြားရသောဒေ
သနာတော်ကိုမမေ့လျော့မူအောင်စိတ်နှစ်လုံးမှတ်မိစွဲလမ်းခြင်းကို
၂ သာ၍ပြုရ၏။ ကောင်းကင်တမန်များအားဖြင့်ထားတော်မူသောဗျာ
ဒိတ်တော်သည်တည်၍ပြစ်မှားလွန်ကျူးခြင်းအမှုအမျိုးမျိုးတို့သည်ခံ
၃ ထိုက်သောအပြစ်ဒါဏ်ကိုခံရသည်မှန်လျှင် အစအဦး၌သခင်ဘုရားဟောတော်မူ၍ဒေသနာစကားတော်ကိုကြားသောသူတို့သည်ရှုံ
လောက်သောသက်သေအားဖြင့်ငါတို့အားဆင့်ဆို၍ဟောပြောသော
ဤမျှလောက်မြတ်သောကယ်တင်တော်မူခြင်းတရားကိုငါတို့သည်နား
၄ မထောင်ဘဲနေလျှင်အပြစ်နှင့်အဘယ်သို့လွတ်ပါလိမ့်မည်နည်း။ ထိုသက်သေခံသောသူတို့နှင့်အတူဘုရားသခင်သည်နိမိတ်လက္ခဏာ
အံ့ဘွယ်သရဲအားဖြင့်၎င်ထူးဆန်းသောတန်ခိုးအထူးထူးအပြား
ပြားအားဖြင့်၎င်သန့်ရှင်းသောဝိညည်တော်သည်မိမိအလိုတော်အ
တိုင်းဝေငှသောဆုကျေးဇူးအားဖြင့်၎င်သက်သေခံတော်မူလေပြီ။
၅ ။ငါတို့ပြောဆိုသောနောင်ကပ်ကမ္ဘာကိုအုပ်စိုးသော
၆ အခွင့်ကိုကောင်းကင်တမန်တို့၌အပ်ပေးတော်မူသည်မဟုတ်။ ကျမ်း
စာတချက်၌မည်သူတယောက်ကသက်သေခံသည်မှာ။ လူသည်အ
ဘယ်သို့သောသူဖြစ်၍ကိုယ်တော်သည်အောင်းမေ့တော်မူရသ
နည်း။ လူသားသည်အဘယ်သို့သောသူဖြစ်၍အကြည့်အရှုကြွလာ
၇ တော်မူရသနည်း။ သူကိုကောင်းကင်တမန်တို့အောက်အနည်းငယ်
နှိမ့်တော်မူပြီ။ သူ၏ခေါင်းကိုဘုန်းအသရေနှင့်ပတ်ရစ်တော်မူပြီ။
၈ သူ၏ခြေအောက်၌ခပ်သိမ်းသောအရာတို့ကိုချထားတော်မူပြီးဟူ
လာသတည်း။ခပ်သိမ်းသောအရာတို့ကိုချထားတော်မူ၏ဟုဆိုသော်
ချမထားဘဲကျန်ရစ်သောအရာတစုံတခုမျှမရှိရာ။ ယခုမူကား ခပ်
သိမ်းသောအရာတို့သည်ချထားလျက်ရှိသည်ကိုငါတို့မမြင်သေး။
၉ ယေရှုသည်ဘုရားသခင်၏ကျေးဇူးတော်အားဖြင့်အားလုံးတို့အ
တွက်အသေခံရသောအခွင့်ရှိစေခြင်းငှါကောင်းကင်တမန်တို့အောက်
အနည်းငယ်နှိမ့်ပြီးမှအသေခံရသောကြောင့်ခေါင်းတော်၌ဘုန်းအသ

၁၀ ရေပတ်ရစ်လျက်ရှိသည်ကိုငါတို့မြင်၏။ ။ခပ်သိမ်းသော
အရာတို့ကိုဖန်ဆင်း အုပ်စိုးတော်မူသောသူသည် သားအများတို့ကို
ဘုန်းစည်းစိမ်ခံစားရာသို့ ပို့ဆောင်၍သူတို့ကိုကယ်တင်သောအရှင်
၁၁ ကိုဒုက္ခဝေဒနာအားဖြင့်စုံလင်စေတော်မူအပ်၏။ သန့်ရှင်းစေတတ်
သောသူ။သန့်ရှင်းစေအပ်သောသူများတို့သည် တပါးတည်း သော
ကတိရှိကြ၏။ထိုကြောင့်သန့်ရှင်းစေတတ်သောသူသည်သန့်ရှင်းစေ
အပ်သောသူတို့ကိုညီအစ်ကိုဟူ၍ ခေါ်ခြင်းငှါရှက်ကြောက်တော်မမူ
၁၂ ထိုသို့ခေါ်သောအချက် ဟူမူကား။ ကိုယ်တော်၏နာမကိုအကျွန်ုပ်ညီ
အစ်ကိုတို့အားအကျွန်ုပ်ဖော်ပြမည်။ပရိသတ်အလယ်မှာကိုယ်တော်
၁၃ ကိုချီးမွမ်းပါမည် ဟုလာသတည်း။ တချက်ကား။ငါသည်ဘုရားသ
ခင်ကိုကိုးစားမည် ဟုလာသတည်း။ တဖန်ကား။ငါမှစ၍ ငါ့အားဘု
ရားသခင်ပေးတော်မူသောသူငယ်တို့သည် ရှိကြ၏ဟုလာသတည်း။
၁၄ ။ထိုသူငယ်တို့သည်အသွေးအသားနှင့်ဆက်ဆံကြသော
၁၅ ကြောင့်ခရစ်တော်သည် အသေခံတော်မူသောအားဖြင့် သေခြင်း တ
ရားကို အစိုးရသောသူတည်း ဟူသောမာရ်နတ်၏တန်ခိုးကိုချိုးဖ
ဖျက်ဆီးခြင်းငှါ၎င် သေဘေးကိုကြောက်သည်နှင့်တသက်လုံးကျွန်ခံ
သောသူတို့ကို ကယ်လွှတ်ခြင်း ငှါ၎င်ထိုသူငယ်ခန္ဓာ၊ တူ။ အသွေးအ
၁၆ သားကို ဆောင်ယူတော်မူ၏။ အဘယ်ကြောင့်ခန္ဓာ ဟူမူကား။ခရစ်
တော်သည်ကောင်းကင်တမန်တို့ကိုမတော်မူသည်မဟုတ်။ အာဗြဟံ
၁၇ အမျိုး လူတို့ကိုမတော်မူ၏။ ထိုကြောင့်ခရစ်တော်သည် လူတို့၏အ
ပြစ်ဖြေရာလမ်ကို ဖွင့်ရအောင်ဘုရားသခင်နှင့်စပ်ဆိုင်သောအရာ
တို့၌ကရုဏာနှင့်ရင်သစ္စာနှင့်ငင်ပြည့်စုံသောယဇ်ပရောဟိတ်အကြီး
ဖြစ်ရအောင်မိမိညီအစ်ကိုတို့နှင့်လုံးလုံး တူရသောအကြောင်းရှိ၏။
၁၈ ထိုသို့ကိုယ်တော်တိုင်စုံစမ်းနှောင့်ရှက်ခြင်းကိုခံ၍ဒုက္ခဆင်းရဲခြင်း၌
ကျင်လည်သောအားဖြင့် စုံစမ်းနှောင့်ရှက်ခြင်း ခံသောသူတို့ကိုမစ
ခြင်းငှါတတ်နိုင်တော်မူ၏။

❋❋

၁ ထိုသို့ဖြစ်လျှင်ကောင်းကင်ဘုံနှင့်စပ်ဆိုင်သောခေါ်ဗိတ်တော်မူခြင်း
ကျေးဇူးကိုခံရသောသူ။သန့်ရှင်းသောညီအစ်ကိုတို့။ငါတို့ဝန်ခံသော
ဘာသာ၌တမန်တော်အရာ။ယဇ်ပရောဟိတ်မင်းအရာရှိသောယေ
၂ ရှု၏အကြောင်းကိုစေ့စေ့ဆင်ချင်ကြလော့။ မောရှေသည်ဘုရားသ

ခင်၏အိမ်တော်တအိမ်လုံး၌သစ္စာစောင့်သကဲ့သို့ယေရှုသည် မိမိကို
၃ ခန့်ထားတော်မူသောသူ၏အမှုတော်၌သစ္စာစောင့်တော်မူ၏။ အိမ်
ကိုဆောက်သောသူသည်အိမ်ထက်သာ၍ကြီး သောအသရေရှိသကဲ့
သို့ယေရှုသည်မောရှေထက်သာ၍ကြီးသောအသရေကိုခံထိုက်သည်
၄ ဟုထင်မှတ်စရာအကြောင်းရှိ၏။ အိမ်မည်သည်ကား။တစုံတယောက်
သောသူဆောက်၍ အိမ်ဖြစ်၏။ အလုံး စုံတို့ ကို တည် ဆောက်သော
၅ သူကားဘုရားသခင်ပေတည်း။ မောရှေသည်နောက် ဟောပြောလ
တံ့သောအရာတို့ကိုသက် သေခံခြင်းအလို၌အစေခံကဲ့သို့ အိမ်တော်
၆ တအိမ်လုံး၌သစ္စာစောင့်၏။ ခရစ်တော်မူကားသားကဲ့သို့အိမ်တော်
ကိုအုပ်စိုး၍သစ္စာစောင့်တော်မူ၏။ငါတို့သည်ကားရဲရင့်ခြင်း၌၎င်
မျှော်လင့်ခြင်းနှင့်စပ်ဆိုင်သောကြွားဝါဝမ်းမြောက်ခြင်း၌၎င်အဆုံး
တိုင်အောင်တည်ကြည်လျှင်ထိုအိမ်တော်ဖြစ်သတည်း။ ။
၇ ထိုကြောင့်သန့်ရှင်းသောဝိညာဉ်တော်သည်မိန့်တော်မူသည်ကား။
၈။၉ ယနေ့တွင် ဗျာဒိတ်တော်အသံ ကို သင် တို့သည် ကြား သော် ခိုင်မာ
သောစိတ် နှစ်လုံး မရှိစေနှင့်။သင် တို့အဘများ သည်အ နှစ်လေးဆယ်
ပတ်လုံးငါကိုအခုည်းခုည်းစုံစမ်း၍ငါ့အမှုတို့ကိုမြင်ရာတောတွင်ငါကို
၁၀ ပုန်ကန်၍စုံစမ်းရာကာလ၌ရှိသကဲ့သို့မရှိစေနှင့်။ ထိုလူမျိုးကိုငါမနှစ်
သက်သည်ဖြစ်၍သူတို့သည်အစဉ်စိတ်သဘောမှား ရှင်းတတ်၏။ငါ
၁၁ အလွှဲအလာတို့ကိုနားမလည်ကြဟုငါဆို၏။ ထိုကြောင့်သူတို့သည်
ငါ့ချမ်းသာထဲသို့မဝင်ရဟုအမျက်ထွက်၍ငါကျိန်ဆိုသည်ဟုမိန့်တော်
၁၂ မူချက်လာသည်နှင့်အညီ။ ညီအစ်ကိုတို့။သင် တို့သည် အသက်ရှင်
တော်မူသောဘုရားသခင် ထံမှထွက် သွား သောအားဖြင့် မရုံကြည်
၁၃ တတ်။ဆိုးညစ်သောစိတ်နှစ်လုံးမရှိစေခြင်းငှါသတိပြုကြလော့။ ဒုစ
ရိုက်၏လှည့်စားခြင်းအားဖြင့်သင်တို့စိတ်မခိုင်မာစေခြင်းငှါယနေ့
ဟူ၍ခေါ်ဝေါ်သောအချိန်။နေ့တိုင်းအစဉ် အချင်းချင်းတယောက်ကို
၁၄ တယောက်နှိုးဆော်တိုက်တွန်းကြလော့။ ။ငါတို့သည်စိတ်
စွဲလမ်းခြင်းအစ ပြုသကဲ့သို့အဆုံးတိုင်အောင်တည်ကြည်လျှင်ခရစ်
၁၅ တော်နှင့်ဆက်ဆံသောသူဖြစ်ကြ၏။ ယနေ့တွင်ဗျာဒိတ်တော်အသံ
ကိုကြားသော်ပုန်ကန်ရာကာလ၌ရှိသကဲ့သို့ခိုင်မာသောစိတ်နှစ်လုံး
၁၆ မရှိစေနှင့်ဟုချမ်းစာလာသည်အရာမှာ။ ကြားပြီးမှပုန်ကန်ခြင်းကို
ပြုသောသူတို့ကား အဘယ်သူနည်း။ မောရှေနောက်ကသို့ပုက်၍ မရ

ဣဂျိပ်ပြည် မှထွက်လာသောသူအားလုံး တို့သည် ထိုသို့ ပြု ကြသည်မ
၁၇ ဟုတ်လော။ အနှစ်လေးဆယ်ပတ်လုံး နှစ်သက်တော်မမူသောသူတို့
ကားအဘယ် သူနည်း။ ဒုစရိုက်အပြစ်ကို ပြု ၍ တော ၌လဲသေသောသူ
၁၈ ပင် မဟုတ် လော။ သင်တို့သည် ငါ့ချမ်းသာထဲသို့မဝင်ရဟုကျိန် ဆို
၁၉ တော်မူသောသူတို့ကား မရုံသောသူ မှတပါး အဘယ် သူနည်း။ သို့
ဖြစ် ၍ သူ တို့သည် မရုံသော့ကြောင့် သာမဝင် နိုင် သည် ကို ငါတို့ သိ
မြင်၏။

❋❋

၁ ထိုကြောင့်ဘုရား သခင်၏ ချမ်းသာထဲသို့ဝင်ရ အောင်အ ခွင့်ကိုပေး
သော ဂတိတော်သည်ငါတို့၌ရှိရစ်လျက် နှင့်သင်တို့တွင်အချို့တို့သည်
၂ မမှီဘဲနေမည်စိုးရိမ်ကြစို့။ ထိုသူတို့သည်ဝမ်းမြောက် စရာသိတင်းကို
ကြားသကဲ့သို့ငါတို့သည်လည်းကြားရပြီး။သို့သော်လည်းသူတို့ကြား
ရသောတရားစကားသည်ကြားရသောသူတို့အထဲ၌ ရုံကြည်ခြင်းနှင့်
၃ မရောနှောသော့ကြောင့် အကျိုး ကိုမပေး။ ငါတို့သည်ရုံကြည်သော
သူဖြစ် ၍ ဘုရား သခင် ၏ ချမ်း သာထဲသို့ဝင်ရ၏။ ထိုသို့ နှင့် အညီ
ဗျာဒိတ် တော် အချက် ဟူမူကား။ သူတို့သည် ငါ့ချမ်း သာထဲ သို့မဝင်
ရဟုအမျက်ထွက်၍ငါကျိန် ဆို၏ဟုဖန် ဆင်း တော်မူရာအမှုအရာတို့
သည်ကမ္ဘာဦး မှစ ၍ ပြီးစီးလျက်ရှိသော်လည်းဘုရားသခင်မိန့်တော်
၄ မူ၏။ ခု နှစ်ရက်မြောက်သောနေ့ကို အကြောင်းပြု ၍ လာ သောကျမ်း
စာတချက်ဟူမူကား။ဘုရားသခင်သည်မိမိအမှုအရာအားလုံးတို့ကို
ပြီးစီး၍ခုနှစ်ရက်မြောက်သောနေ့၌ငြိမ်နေတော်မူ၏ဟုဆိုသတည်း။
၅ ထိုကျမ်းစာ၌တဖန်လာသည်ကား။ သူတို့သည်ငါ့ချမ်းသာထဲသို့မဝင်
၆ ရဟုလာသတည်း။ သို့ဖြစ်လျှင်အချို့တို့သည်ဝင်ရ၏။ဝမ်းမြောက်စ
ရာသိတင်းကိုရှေးဦး စွာကြားသော သူတို့ သည်မရုံသော့ကြောင့်မဝင်
၇ ကြပြီး။ ။တဖန်တုံ။ယနေ့တွင်ဗျာဒိတ်တော်အသံကိုကြားသော်
ခိုင်မာသောစိတ်နှစ်လုံးမရှိစေနှင့်ဟုဆိုသည် ဖြစ် ၍ ဤမျှလောက်ကာ
လကြာပြီးမှယနေ့ဟူသောစကားကိုဒါဝိဒ်အားဖြင့်ပြောသောအခါတ
၈ ရုံတခုသောနေ့ရက် ကိုသေချာ စွာမှတ်သား သတည်း။ ယောရှုသည်
ထိုသူတို့ကိုချမ်းသာပေးသည်မှန်လျှင်ထိုနောက်အခြားသောနေ့ရက်
၉ ကိုအဘယ်ဆိုဘွယ် ရှိသနည်း။ ထိုကြောင့်ဘုရားသခင်၏လူတို့အ
၁၀ မို့အလို့ငှါငြိမ် ဝပ်ခြင်း ချမ်းသာတမျိုးကျန် ရစ်သေး၏။ ဘုရားသ

ခင်သည်မိမိအမှုအရာတို့ကိုပြီးစီး၍ညိမ်နေတော်မူသည်နည်းတူထို
ချမ်းသာထဲသို့ဝင်သောသူသည် လည်း မိမိအမှုအရာတို့ကို ပြီးစီး၍
၁၁ ညိမ်နေရ၏။ ။သို့ဖြစ်၍ဇာသရေလလူတို့သည်မရုံသော
စိတ် ရှိသဖြင့်လဲသကဲ့သို့ငါတို့သည် မလဲ။ ထိုချမ်းသာထဲသို့ဝင်မည်အ
၁၂ ကြောင်းကျိုးစားအားထုတ်ကြစို့။ ဘုရားသခင်၏နှုတ်ကပတ်တရား
တော်သည်အသက်ရှင်ခြင်း။တန်ခိုးနှင့်ပြည့်စုံခြင်း။သန်လျက်တကာထ
က်ထက်ခြင်းနှင့်ပြည့်စုံသည်ဖြစ်၍အသက်နှင့်ဝိညာဉ်ကိုင်အရိုးဆစ်
၁၃ နှင့်ချင်ဆီကိုငင်ပိုင်းခြား၍ထုတ်ချင်း ခွင်းတတ်၏။ စိတ်နှလုံးအ
ကြံအစည်များကိုလည်းသိမြင်တတ်၏။ငါတို့ကိုစစ်ကြောစီရင်တော်
မူသောသူရှေ့၌မထင်ရှားသောအရာတစုံကခုမျှမရှိ။မျက်စိတော်၌
ခပ်သိမ်းသောအရာတို့သည်အကွယ်အကာမရှိ။လှန်ထားလျက်ရှိကြ
၁၄ ၏။ ။ယခုမှုကားကောင်းကင်ဘုံထဲသို့ကြွဝင်သောယဇ်ပ
ရောဟိတ်မင်းအကြီးတည်းဟူသောဘုရားသခင်၏သားတော်ယေ
ရှုသည်ငါတို့၌ယဇ်ပရောဟိတ်မင်းဖြစ်တော်မူသောကြောင့်ငါတို့ဝန်
၁၅ ခံခဲ့ပြီးသောဘာသာ၌တည်ကြည်ကြစို့။ ငါတို့ယဇ်ပရောဟိတ်မင်း
သည်ငါတို့ဆင်းရဲဒုက္ခများကြောင့်မကြင်နာနိုင်သောသူမဟုတ်။ငါတို့
ခံသကဲ့သို့အမျိုးမျိုးသောစုံစမ်းနှောင့်ရှက်ခြင်းတို့ကိုခံဘူးသောသူဖြစ်
၁၆ တော်မူ၏။ သို့ရာတွင်ဒုစရိုက်အပြစ်နှင့်ကင်းလွတ်တော်မူ၏။သို့ဖြစ်
လျှင်ငါတို့သည်သနားခြင်းကရုဏာကိုရင်တော်လျော်သောမစခြင်း
ကျေးဇူးတော်ကို ရင် ခံရအောင်ရဲရင့်သောစိတ် နှင့် ကျေးဇူး ပလ္လင်
၁ တော်ဆီသို့တိုးဝင်ချည်းကပ်ကြစို့။ ။လူတို့ထဲကရွေးကော
က်သောယဇ်ပရောဟိတ်မင်းမည်သည်ကား။ပူဇော်သကာကိုရင်အ
ပြစ်ဖြေရာယဇ်ကိုရင် ပူဇော်၍ လူတို့ကိုယ်စားဘုရားဝတ်ကို ပြုစေ
၂ ခြင်းငှါခန့်ထားသောသူဖြစ်၏။ သူသည်ကိုယ်တိုင်နွမ်းရိအားနည်း
ခြင်းရှိသည်ဖြစ်၍မိုက်သောသူ။မှားရှင်းသောသူတို့ကိုသည်းခံခြင်း
၃ ငှါတတ်နိုင်၏။ ထိုအကြောင်းကြောင့်လည်းလူများအပြစ်ကိုရင်မိမိ
၄ အပြစ်ကိုရင် ဖြေရအောင်ပူဇော်ရ၏။ ဘုရားသခင်သည်အာရုန်
ကိုခေါ်တော်မူသကဲ့သို့ခေါ်တော်မူသောသူမှတပါးအဘယ်သူမျှထို
၅ အရာမြတ်ကိုမသိမ်းမယူရ။ ထိုနည်းတူ။ခရစ်တော်သည်ယဇ်ပ
ရောဟိတ်မင်းအရာ၌မိမိကိုမိမိချီးမြှောက်သည်မဟုတ်။သင်သည်ငါ
သားဖြစ်၏။ယနေ့ပင်သင်ကိုငါဖြစ်ဖွားစေပြီးဟုမိန့်တော်မူသော

၆ သူသည်ခရစ်တော်ကို ချီးမြှောက်တော်မူ၏။ ထိုသို့နှင့်အညီကျမ်းစာ
တချက်လာသည်ကား။သင်သည်မေလခိဇေဒက်နည်းတူထာဝရယဇ်
ပရောဟိတ်ဖြစ်၏ဟုလာသတည်း။

❋❋

၇ ထိုခရစ်တော်သည်လူဇာတိအဖြစ် ၌နေစဉ်ကာလသေခြင်းမှကယ်
သွတ်နိုင်တော်မူသောသူကို ကြီးစွာသောကျေးကျော်ခြင်း။မျက်ရည်
ကျခြင်းနှင့်ဆုတောင်း ပဌနာပြုသဖြင့် ကြောက်ရွံ့ရာတွင် ချမ်းသာရ
၈ သည်ဖြစ်၍ ဘုရားသခင်၏သားတော်မှန် သော်လည်းဆင်းရဲဒုက္ခ
ကိုခံသောအားဖြင့်နားထောင်ခြင်း အကျိုးအကြောင်း ကိုသင်တော်မူ
● ၏။ ထိုသို့စုံလင်ခြင်းသို့ရောက် ပြီး မှရိုကြည်နား ထောင် သောသူအ
ပေါင်းတို့အားထာဝရကယ်တင်ခြင်းကျေးဇူးကိုပြုသောသူဖြစ်တော်
၁၀ မူ၍ မေလခိဇေဒက်ကဲ့သို့သောယဇ်ပရောဟိတ်မင်းဟုဘုရားသခင်
၁၁ သမုတ်တော်မူခြင်းကိုခံရ၏။ ။ထိုမေလခိဇေဒက်အကြောင်း
ကိုငါတို့ပြောစရာစကားအများရှိ၏။သို့သော်လည်း သင်တို့သည်ညာ
၁၂ ဏ်ထိုင်းသောကြောင့်အပြောခက်လှ၏။ သင်တို့သည်ကာလကြာသော
ကြောင့်ဆရာအဖြစ်သို့ရောက်သင့်သော်လည်းဘုရားသခင်၏ဗျာဒိတ်
နှုတ်ကပတ်တော်၏အစအဦးဖြစ်သောအကြောင်းအရာအချို့တို့ကိုသူတပါးတို့သည်
သင်တို့အားတဖန်သင်ချရသောအကြောင်းရှိ၏။ သင်တို့သည်ကျော
၁၃ သောအစာကိုမသုံးရဘဲနို့ကိုသာသုံးရသောသူဖြစ်ကြ၏။ နို့ကိုသာ
သုံးသောသူမည်သည်ကားသူငယ်ဖြစ်သောကြောင့်ဖြောင့်မတ်ခြင်းတရား
၁၄ ၌လေ့လာခြင်းမရှိ။ ကောင်းကျိုးမကောင်းကျိုး ကိုပိုင်းခြား၍သိနိုင်
သောညာဏ်ပေးတတ်သောအကြားအမြင်အတွေ့အစမ်းများသော်သူ
တည်းဟူသောအ ရွယ်ရှိသောသူတို့သည်ကားကျော့သောအစာအာ
၁။၂ ဟာရကိုသုံးရ၏။ ။ထိုကြောင့်သေခြင်းနှင့်စပ်ဆိုင်သော
အကျင့်ကိုနောင်တရခြင်း။ ဘုရားသခင်ကို ရိုကြည်ခြင်း ရေနှစ်မင်္ဂ
လာတရားကိုသွန်သင်ခြင်း။လက်ကိုတင်ခြင်း။ သေလွန်သောသူတို့၏
ထမြောက်ခြင်း။ ထာဝရစီရင်ဆုံးဖြတ်ခြင်းတို့၏မူလအမြစ်ကိုပြန်၍
မတည်ဘဲခရစ်ဘာသာ၌ အစအဦး ဖြစ်သောအကြောင်း အရာတို့ကို
၃ ထား၍စုံလင်သောအဖြစ်သို့ဘက်ကြစို့။ဘုရားသခင်အခွင့်ပေးတော်
၄ မူလျှင်ထိုသို့ တို့ပြုကြမည်။ ။ သင်းသွတခါ ရောက်
၍ ကောင်းကင်ဆုကျေးဇူးကို မြည်းစမ်း ဖူး။ သန့်ရှင်း သောဝိညာဉ်

၅ ကိုခံယူခြင်း။ ဘုရားသခင်၏ကောင်းမြတ်သောတရားစကားကိုဍင်
၆ နောက်ကပ်ကာလ၏တန်ခိုးများကိုဍင်မြည်းစမ်းခြင်းရှိပြီးမှ ရွေ့
လျော့ဖောက်ပြန်၍မိမိတို့တွင်ဘုရားသခင်၏သားတော်ကိုလက်ဝါး
ကပ်တိုင်မှာကွပ်မျက်၍အသရေတော်ကိုရှုတ်ချသောသူတို့သည်တ
၇ ဖန်နောင်တတရားရအောင်အသစ်ပြုပြင်ခြင်းသို့မရောက်နိုင်ရာ။ ဥ
ပမာကား။အကြင်မြေသည်မိမိအပေါ်၌အဖန်ဖန်ကျသောမိုဃ်းရေကို
သောက်၍လုပ်သောသူသုံးဘို့ဟင်းသီးဟင်းရွက်ကိုဖြစ်စေတတ်၏။
၈ ထိုမြေသည်ဘုရားသခင်၏ကောင်းကြီးမင်္ဂလာကိုခံတတ်၏။ အကြင်
မြေသည်ဆူးပင်အမျိုးမျိုးကိုဖြစ်စေတတ်၏။ ထိုမြေသည်ပြုစုခြင်း
ကိုမခံထိုက်။ကျိန်ဆဲခြင်းကိုခံလုသည်ဖြစ်၍နောက်ဆုံး၌မီးရှို့ခြင်း
သို့ရောက်တတ်၏။

❋❋

၉ ထိုသို့ငါတို့ပြောသော်လည်းချစ်သူတို့။ သင်တို့သည်ကယ်တင်ခြင်း
နှင့်ဆိုင်သောအရာ။သာ၍ကောင်းသောအရာနှင့်ဆိုင်သည်ကိုငါတို့
၁၀ သဘောကျလျက်ရှိ၏။ အဘယ်ကြောင့်နည်းဟူမူကား။သင်တို့သည်
သန့်ရှင်းသူတို့ကိုအထက်ကလုပ်ကျွေးသည်သာမကယခုပင်လုပ်
ကျွေးခြင်းအမှုကိုဍ်ထိုသို့ပြုရာတွင်သင်တို့သည်နာမတော်ကိုထောက်
၍ပြသောမေတ္တာကိုဍင်ဘုရားသခင်သည်မေ့လျော့ခြင်း၌အစမ္မကို
၁၁ ပြုတော်မမူ။ သင်တို့သည်ပျင်းရိခြင်းမရှိဘဲရုံကြည်ခြင်းနှင့်သည်း
၁၂ ခံခြင်းအားဖြင့်ဂတိတော်တို့ကိုအမွေခံသောသူတို့နည်းတူကျင့်စေ
ခြင်း၌အဆုံးတိုင်အောင်ရုံမှားခြင်းနှင့်ကင်းသောမျှော်လင့်ခြင်းရှိ
မည်အကြောင်း။သင်တို့အားလုံးသည်ထိုသို့သောလုလ္လဝိရိယကိုထုတ်
၁၃ စေခြင်း၌ငါတို့အလိုရှိ၏။ ။ဘုရားသခင်သည်အာဗြဟံ
၌ဂတိထားတော်မူသောအခါကိုယ်တော်ထက်သာ၍ကြီးမြတ်သော
၁၄ သူကိုတိုင်တည်၍ ကျိန်ဆိုနိုင်သောသူမရှိသောကြောင့်ကိုယ်
တော်ကိုကိုင်တည်၍ကျိန်ဆိုတော်မူသည်ကား။ ငါသည်သင်အားအ
စည်အမြဲကောင်းကြီးပေးမည်။သင်ကိုအစည်အမြဲပွားများစေမည်
၁၅ ဟုမိန့်တော်မူ၏။ ထိုသို့နှင့်အညီအာဗြဟံသည်သည်းခံလျက်စောင့်
၁၆ နေပြီးမှဂတိတော်ကိုဝင်စားလေ၏။ လူတို့သည်မိမိထက်ကြီးမြတ်
သောသူကိုတိုင်တည်၍ကျိန်ဆိုလေ့ရှိကြ၏၊ မြဲမြံစေတတ်သောအ
၁၇ ကျိန်သည်ညင်းခုံခြင်းရှိသမျှကိုဖြေတတ်၏။ ထိုကြောင့်ဂတိတော်

ကိုအမွေခံသောသူတို့သည်ဘုရားသခင်၏အကြံအစည်မဖောက်ပြန်
နိုင်ကြောင်းကိုအဘပ်သိစေခြင်းငှါဘုရားသခင်သည်အကျိန်အား
၁၈ ဖြင့်မြဲမြံစေတော်မူ၏။ အကြောင်းကား။ငါတို့သည်ကိုယ်ရှေ့၌ထား
သောမျှော်လင့်ရာကိုနိုလှုံခြင်းငှါပြေးကြသောအခါဘုရားသခင်
သည်မုသာမသုံးနိုင်သောအရာတည်းဟူသောမဖောက်ပြန်မပြောင်း
လဲနိုင်သောအရာနှစ်ပါးကိုအမှီပြု၍သက်သာအားကြီးမည်အကြော
၁၉ င်းပေကြည်း။ ထိုမျှော်လင့်ခြင်းမှုကားကုလားကာအတွင်း၌ချ၍မြဲမြံ
၂၀ ခိုင်ခံ့သောကိက်နှက်လုံး၏ကျောက်ဆူးကဲ့သို့ငါတို့၌ရှိသတည်း။ မေလ
ခိဇေဒက်နည်းတူထာဝရယဇ်ပရောဟိတ်မင်းဖြစ်သောယေရှုသည်ငါ
တို့အတွက်ထိုအတွင်းအရပ်ထဲသို့ရှေ့ဆောင်၍ဝင်သောသူဖြစ်တော်
၁ မူ၏။ ။ထိုမေလခိဇေဒက်သည်ရှလင်မင်းဖြစ်၏။အမြတ်ဆုံး
သောဘုရားသခင်၏ယဇ်ပရောဟိတ်လည်းဖြစ်၏။အာဗြဟံသည်မင်း
ကြီးများကိုလုပ်ကြံ၍ပြန်လာသောအခါထိုယဇ်ပရောဟိတ်သည်သူ
၂ နှင့်တွေ့၍သူအားကောင်းကြီးပေး၏။ အာဗြဟံသည်သူအားမိမိဥစ္စာ
အားလုံးကိုဆယ်ဖို့ကဖို့လှူ၏။ထိုသူကားပဌမခနာမအနက်အားဖြင့်တ
ရားမင်းဖြစ်၏။ထိုမှတပါး။ညိမ်သက်ခြင်းမင်းဟုဆိုလိုသောရှလင်
၃ မင်းဖြစ်၏။ ထိုသူသည်အဖမရှိ။အမိမရှိ။ရှေ့မျိုးစည်မရှိ။အသက်အ
ပိုင်းအချားမရှိဘဲဘုရားသခင်၏သားတော်နှင့်တူ၍တသက်လုံးယ
၄ ဇ်ပရောဟိတ်အရာ၌တည်၏။ အမျိုး၏အဖအာဗြဟံသည်လက်ရဥစ္စာ
များကိုဆယ်ဖို့ကဖို့လှူသောထိုသူသည် အဘယ်မျှလောက်ကြီးမြတ်
၅ သည်ကိုဆင်ချင်ကြလော့။ ယဇ်ပရောဟိတ်အရာကိုခံသောလေဝိသား
တို့သည်အာဗြဟံအမျိုးဖြစ်သောသူတည်းဟူသောမိမိတို့ညီအစ်ကို
များလက်မှပညတ်တရားအတိုင်းဆယ်ဖို့တဖို့ခံရသောအခွင့်ရှိ၏။
၆ သူတို့အမျိုးမဟုတ်သောထိုသူမူကားအာဗြဟံလက်မှဆယ်ဖို့တဖို့ခံ
ရ၏။ဂတိတော်တို့ကိုခံသောသူကိုလည်းကောင်းကြီးပေးလေ၏။
၇ ကြီးသောသူသည်ငယ်သောသူကိုကောင်းကြီးပေးတတ်သည်ကို
၈ ငြင်းခုံဘွယ်မရှိ။ ထိုမှတပါး။ယခုအခါမူကားသေတတ်သောသူတို့
သည်ဆယ်ဖို့တဖို့ခံလေ့ရှိ၏။ထိုအခါမူကားအသက်ရှင်သည်ဟုသက်
၉ သေခံခြင်းကိုရသောသူသည်ဆယ်ဖို့တဖို့ခံရ၏။ ထိုမှတပါး။ဆယ်
ဖို့တဖို့ခံတတ်သောလေဝိသည်အာဗြဟံအားဖြင့်ဆယ်ဖို့တဖို့ပေးပြီး
၁၀ ဟုဆိုစရာအကြောင်းရှိ၏။ အဘယ်ကြောင့်နည်းဟူမူကား။ မေလ

ဒိဇေဒက်သည် အာဗြဟံနှင့် တွေ့သောအခါလေဝိသည်မိမိအဘ၏ကိုယ်၌ရှိပါသတည်း။

✻✻

၁၁ တနည်းကား။လေဝိမှစ၍ယဇ်ပရောဟိတ်တို့အားဖြင့် လူများတို့သည် ပညတ် တရား တော်ကို ခံသောကြောင့်ထို သူတို့အားဖြင့်စုံလင်ခြင်း သို့ရောက် နိုင်သည်မှန် လျှင် အချားသောယဇ်ပရောဟိတ်သည်အာရုန်နည်းတူမဟုတ်ဘဲမေလခိဇေဒက် နည်း တူပေါ်ထွန်း ရသောအ
၁၂ ကြောင်းအဘယ်သို့ ရှိသေးသနည်း။ ယဇ်ပရောဟိတ်အမျိုးပြောင်း
၁၃ လဲသည်မှန်လျှင်ပညတ်တရားသည်မပြောင်းလဲဘဲမနေနိုင်ရာ။ ထို ဗျာဒိတ်တော်ကိုခံသောသူသည်ယဇ်ပလ္လင်ဝတ်ကိုတယောက် မျှမပြု
၁၄ ရသောလူမျိုးနှင့်စပ်ဆိုင်ပေ၏။ အဘယ်ကြောင့်နည်းဟူမူကား။ငါ တို့သခင်သည် ယုဒလူမျိုးအထဲ၌ ပေါ်ထွန်းကြောင်း ထင်ရှားရှိ၏။ ထို အမျိုးသည်ယဇ်ပရောဟိတ်အရာနှင့်စပ်ဆိုင်သည်ဟုမောရှေသည်တ
၁၅ ခွန်း ကို မျှမပြော။ ထိုမှတပါး။ မေလခိဇေဒက် နည်းတူအခြား သော ယဇ်ပရောဟိတ်သည်ပေါ်ထွန်းသည်မှန်လျှင်ယဇ်ပရောဟိတ်အမျိုး
၁၆ ပြောင်းလဲပြီးဟုသာ၍ထင်ရှားရှိ၏။ ထိုယဇ်ပရောဟိတ်သည် ကိုယ် ခန္ဓာနှင့် စပ်ဆိုင်သောတရား အတိုင်းခန့်ထားသည် မဟုတ်။ ထာဝရ အသက် ၏တန်ခိုး အာနုဘော်အတိုင်း ခန့် ထားသတည်း။ အဘယ်
၁၇ ကြောင့်နည်း ဟူမူကား။ သင်သည် မေလခိဇေဒက် နည်း တူ ထာဝရ
၁၈ ယဇ်ပရောဟိတ်ဖြစ်သည်ဟုသက်သေခံတော်မူ၏။ ။သို့ ဖြစ်၍ ရှေ့ပညတ် တရား ဟောင်းသည် အားမရှိ။ အကျိုးမပေးသော
၁၉ ကြောင့်ပယ်ရှင်းခြင်းသို့ရောက် ၏။ ထိုပညတ်တရားသည်အဘယ် သူကိုမျှစုံလင်ရာသို့မပို့နိုင်။သာ၍မြတ်သောမျှော်လင့်ခြင်းအကြောင်း ကိုစီရင်ခြင်း အမှုသည် စုံလင်ရာသို့ပို့နိုင် ၏။ ထိုမျှော်လင့်ခြင်းအား ဖြင့်ငါတို့သည်ဘုရားသခင်အထံတော်သို့တိုးဝင်ချဉ်းကပ်ကြ၏။
၂၀ ထိုသူတို့သည် အကျိန်တော်ကို မခံဘဲယဇ် ပရောဟိတ် အရာကိုရကြ
၂၁ ၏။ ယေရှုသည်အကျိန် တော်ကိုခံ၍ ယဇ်ပရောဟိတ် အရာကိုရ၏။ ထာဝရ ဘုရားက သင်သည် မေလခိဇေဒက် နည်းတူ ထာဝရယဇ်ပ ရောဟိတ်ဖြစ်သည်ဟုကျိန်ဆို၍စိတ်ပြောင်းလဲခြင်းရှိတော် မမူသည် နှင့်အညီယေရှုသည်အကျိန်တော်ကိုခံ၍ယဇ်ပရောဟိတ် အရာ ကို ရ
၂၂ သည်အကိုင်း သာ၍မြတ်သောဝန်ခံခြင်းတရား၏အာမခံဖြစ်၏။

၂၃ ထိုသူတို့သည်လည်းသေရသည်ဖြစ်၍အစဉ်မတည်နိုင်သော့ကြောင့်
၂၄ အများရှိကြ၏။ ယေရှုမူကားနိစ္စထာဝရတည်သော့ကြောင့်မပြောင်း
၂၅ မလဲသောယဇ်ပရောဟိတ်အရာ၌ခန့်ထားလျက်ရှိ၏။ ထိုကြောင့်အ
ကြွင်းသူတို့သည်ယေရှုအားဖြင့်ဘုရားသခင်အထံတော်သို့ချဉ်းကပ်
၏။ထိုသူတို့အမှုကို ကိုယ်တော်စောင့်၍ ကာလအစဉ်အသက်ရှင်
သော့ကြောင့်သူတို့ကိုအစဉ်ကယ်တင်ခြင်းငှါတတ်နိုင်တော်မူ၏။
၂၆ ။ထိုသို့သောယဇ်ပရောဟိတ်မင်းသည်သန့်ရှင်းစင်ကြယ်၍
အညစ်အကြေးမပါ။အပြစ်ရှိသောသူတို့နှင့်မဆက်ဆံ။ ကောင်းကင်
သားအပေါင်းတို့ထက်ကြီးမြင့်သောသူ ဖြစ်၍ ငါတို့ နှင့်တော်သင့်
၂၇ တော်မူ၏။ အခြားသောယဇ်ပရောဟိတ်မင်းတို့သည် ကိုယ်အပြစ်
ကြောင့်ရင်သူများအပြစ်ကြောင့် ရင်နေ့တိုင်း ယဇ်ပူဇော် ရသကဲ့သို့
ထိုသခင်သည် ယဇ်ပူဇော်ရသော အကြောင်းမရှိ။ အဘယ်ကြောင့်
နည်းဟူမူကား။မိမိကိုယ်ကိုတခါတည်းယဇ်ပူဇော်၍ထိုအမှုကိုပြီး
၂၈ စီးတော်မူ၏။ ပညတ်တရားသည် အပြစ်ရှိသောသူတို့ကို ယဇ်ပ
ရောဟိတ်အရာ၌ခန့်ထား၏။ ပညတ်တရားနောက်ကျိန်ဆိုတော်မူ
ခြင်းဗျာဒိတ်တော်သည်အစဉ်အမြဲစုံလင်ခြင်းသို့ရောက်သောသား
တော်ကိုခန့်ထားသတည်း။

❋❋

၁ ယခုဆိုခဲ့ပြီးသောအကြောင်းအရာတို့၏အချုပ်အချာဟူမူကား။ထိုသို့
သောယဇ်ပရောဟိတ်မင်းသည်ငါတို့၌ရှိ၏။ကောင်းကင်ဘုံ၌တန်ခိုး
၂ အာနုဘော်တော်၏ပလ္လင်လက်ျာဘက်မှာထိုင်နေ၏။ လူမဆောက်ဘဲ
ထာဝရဘုရား ဆောက်တော်မူသောတဲတော်စစ်တည်းဟူသောသန့်
၃ ရှင်းရာဌာန၌ဘုရားဝတ်ကိုပြုသောသူဖြစ်၏။ ယဇ်ပရောဟိတ်မင်း
မည်သည်ကားပူဇော်သကာကိုင်ယဇ်ကိုင်ပူဇော်ခြင်းငှါခန့်ထားသည်
ဖြစ်၍ငါတို့ယဇ်ပရောဟိတ်မင်းသည်လည်းပူဇော်စရာယဇ်တစုံတခု
၄ ရှိရ၏။ ပညတ်တရားအတိုင်းပူဇော်သကာကိုဆက်ကပ်သောယဇ်ပ
ရောဟိတ်များရှိကြသည်ဖြစ်၍ ထိုသခင်သည်မြေကြီးပေါ်မှာရှိနေလျှ
၅ င်ယဇ်ပရောဟိတ်မလုပ်ရ။ မောရှေသည်တဲတော်ကိုဆောက်လုပ်အံ့
သောအခါမူကားတောင်ပေါ်မှာသင်အားပြခဲ့ပြီးသောပုံနှင့်ညီအောင်
အရာရာတို့ကိုလုပ်ခြင်းငှါသတိပြုလော့ဟုဗျာဒိတ်တော်ကိုခံရသည်
ဖြစ်၍ထိုပရောဟိတ်တို့သည်ကောင်းကင်အရာတို့၏ပုံပမာအရိပ်နှင့်

၆ သာဆိုင်လျက်ဝတ်ကိုပြုနေကြ၏။ ။ထိုမှတပါး။ယေရှု
သည်သာ၍မြတ်သောဂတိတော်တို့၌ တည် သော။ သာ၍မြတ် သော
ဝန် ခံခြင်း တရား ၏အာမခံဖြစ် သည် နှင့် အညီသာ၍မြတ် သောဝတ်
၇ ပြုရာအခွင့်အရာကိုရတော်မူ၏။ ပဌမဝန်ခံခြင်းတရားသည်အပြစ်
တင် ခွင့်မရှိသည်မှန် လျှင်ဒုတိယဝန်ခံခြင်းတရား တည် သောအခွင့်
၈။၉ ကိုအဘယ် ကြောင့်ရှာရသနည်း။ ပဌမဝန်ခံခြင်း တရားကိုထာဝရ
ဘုရားသည်အပြစ်တင်၍မိန့်တော်မူသည်ကား။ ဤလူမျိုး၏ဘိုးဘေး
တို့ကိုငါလက်ဆွဲ၍ အဲဂုတ္တုပြည်မှဆောင် သွား သောအခါသူတို့ ၌ ငါ
ပေးသောဝန် ခံခြင်း တရား နှင့် ချား နား သောဝန် ခံခြင်း တရား သစ်
ကိုဣသရေလအမျိုးသား။ယုဒအမျိုး သား တို၌ ငါပေး သောအချိန်ကာ
လရောက်လိမ့်မည်။ အရင်ငါပေးသောဝန် ခံခြင်းတရား၌ သူတို့သည်
၁၀ မတည်ကြ။ ငါသည်လည်းသူတို့ကိုမကြည့်ရှုမပြုစုဘဲနေ၏။ နောက်
ကာလအခါဣသရေလအမျိုး သားတို့ ၌ ငါပေး သောဝန်ခံခြင်း တရား
ဟူမူကား။ငါထာဝရဘုရားသည်ငါပညတ် တို့ကိုသူတို့စိတ်ဝိညာဉ်ထဲ
သို့သွင်းမည်။သူတို့နှစ်လုံးပေါ်မှာရေးထားမည်။ ငါသည်သူတို့ဘုရား
၁၁ ဘခင်ဖြစ်မည်။သူတို့သည်လည်းငါလူဖြစ်ကြလိမ့်မည်။ ထိုသူတို့က
ထာဝရဘုရားကိုသိပါဟုအမျိုးသါးချင်း။ညီအစ်ကိုအချင်းချင်းဆုမ္မ
ဩဝါဒမပေးရာ။အဘယ်ကြောင့်နည်းဟူမူကား။ အငယ်ဆုံးသောသူ
မှစ၍အကြီးဆုံးသောသူတိုင်အောင်အားလုံးတို့သည်ငါကိုသိကြလိမ့်
၁၂ မည်။ ထိုအခါသူတို့အပြစ်များကိုငါသည်းခံမည်။သူတို့ပြစ်မှားခြင်း။
သွန်ကျူးခြင်းများကိုငါမအောင်းမေ့ဘဲနေမည် ဟုထာဝရဘုရားမိန့်
၁၃ တော်မူ၏။ ဝန်ခံခြင်းတရားသစ်ဟူ၍မိန့်တော်မူသည်တွင် ပဌမဝန်
ခံခြင်း တရားကို ဟောင်းစေတော်မူ၏။ဆွေးလျော့ ၍ ဟောင်း သောအ
ရာမည်သည်ကားကွယ်ပျောက်ခြင်းသို့ရောက်လုသတည်း။

**

၁ တနည်းကား။ပဌမဝန်ခံခြင်းတရားသည်ဝတ်ပြုရာစီရင်ချက် နှင့် ဧင
၂ လောကီသန့်ရှင်းရာဌာနတော်နှင့်ဧင်စပ်ဆိုင်၏။ အဘယ်သို့နည်း
ဟူမူကား။ဟာချာဟုခေါ်ဝေါ်သောပဌမဘဲတော်သည်ဆီမီးခုံ။စားပွဲ။
၃ ရှေ့တော်မုန့်နှင့်ပြင်ဆင် လျက်ရှိ၏။ ဒုတိယကုလားကာအတွင်း၌ဟာ
၄ ဂျာဟဂျုံဟုခေါ်ဝေါ်သောတဲတော် ရှိ၏။ ထိုတဲတော် ၌ရွှေလင် ပန်း
နှင့် ရွှေအတိမွမ်မံသောဝန်ခံခြင်း တရားသေတ္တာ ရှိ၏။ ထိုသေတ္တာ၌

မန္နကိုထားသောရွှေအိုး။အပွင့်ပွင့်သောအာရုန်၏လှံတံ။ဝန်ခံခြင်း
၅ တရားကိုရေးထားသောကျောက်ပျားတို့ရှိကြ၏။ ထိုသေတ္တာ၏
မှာဘုန်းကြီးသောခေရုဗိမ်တို့သည်အပြစ်ဖြေရာပလ္လင်ကိုလွှမ်းမိုး
လျက်ရှိ၏။ထိုအရာများကိုယခုအစေ့အစပ်ပြောစရာအကြောင်းမရှိ။
၆ ။ထိုသို့အားလုံးတို့သည်ပြင်ဆင်လျက်ရှိပြီးမှယဇ်ပရော
၇ ဟိတ်တို့သည်ဝတ်ပြု၍ပဌမတဲတော်အထဲသို့အစဉ်ဝင်ရကြ၏။ ဒု
တိယတဲတော်အထဲသို့ယဇ်ပရောဟိတ်မင်းတပါးတည်း မိမိအပြစ်
ကြောင့်၎င်လူများအပြစ်ကြောင့်၎င်ပူဇော်သောအသွေးကိုဆောင်၍
၈ တနှစ်တခါတည်းဝင်ရ၏။ ပဌမတဲတော်မပျက်မှီတိုင်အောင်သန့်
ရှင်းရာဌာနသို့သွားသောလမ်းမဖွင့်သေးသောအကြောင်းကိုထိုအ
မှုအရာအားဖြင့်သန့်ရှင်းသောဝိညာဉ်တော်သည်အရိပ်ပေးတော်မူ
၉ ၏။ ထိုတဲတော်ကားပူဇော်သက္ကာနှင့်ယဇ်များကိုပူဇော်သော
ကာလတည်းဟူသောမျက်မှောက်ကာလပတ်လုံးပုံပမာဖြစ်၏။
၁၀ ထိုပူဇော်သက္ကာနှင့်ယဇ်များတို့သည်ကိုယ်ကိုကိုယ်သိသောစိတ်
ကိုထောက်လျှင်လည်းဝတ်ပြုသောသူအားစုံလင်ခြင်းအကျိုးကို
မပေးနိုင်ကြ။ ထိုသို့သောဝတ်ပြုခြင်းမှုကားစားစရာ။ သောက်
စရာ။အမျိုးမျိုးသောရေနှစ်စရာမှစ၍ကိုယ်ခန္ဓာဆိုင်လျက်အသစ်
ပြုပြင်ခြင်းကာလတိုင်အောင်သာတည်ရသောဝိနည်းအထုံးအဖွဲ့
၁၁ တို့နှင့်သာစပ်ဆိုင်သတည်း။ ။ယခုမှာလူလက်ဖြင့်မ
လုပ်။ ဤနိမ္မိတ္တလောကနှင့်မစပ်ဆိုင်သော။သာ၍ကြီးမြတ်စုံလင်
သောတဲတော်၌ နောက်မင်္ဂလာအကျိုးတို့၏ယဇ်ပရောဟိတ်မင်းဖြစ်
၁၂ သောခရစ်တော်သည် ဆိတ်အသွေး။နွားကလေးအသွေးနှင့်မဟုတ်၊
မိမိအသွေးတော်နှင့်သန့်ရှင်းရာဌာနထဲသို့တခါတည်းဝင်၍ငါတို့အ
၁၃ မို့ထာဝရရွေးခြင်းကျေးဇူးကိုခံရတော်မူ၏။ အဘယ်ကြောင့်နည်း
ဟူမူကား။ အညစ်အကြေးရှိသောသူတို့အပေါ်၌ဖျန်းသောနွားအ
သွေး။ဆိတ်အသွေး။ ဖုတ်သောနွားမကလေး၏ပြာသည်သူတို့ကိုယ်
၁၄ ခန္ဓာနှင့်ဆိုင်သောစင်ကြယ်ခြင်းကိုပြုနိုင်သည်မှန်လျှင် ထိုမျှမကအ
ပြစ်ကင်းသောကိုယ်တော်ကိုထာဝရဝိညာဉ်တော်အားဖြင့်ဘုရားသ
ခင်ရှေ့၌တင်လှူပူဇော်သောခရစ်တော်၏အသွေးသည်သေခြင်းနှင့်
စပ်ဆိုင်သောအကျင့်ကိုပယ်၍သင်တို့သည်အသက်ရှင်တော်မူသော
ဘုရားသခင်ကိုဝတ်ပြုမည်အကြောင်း။သင်တို့သည်ကိုယ်ကိုကိုယ်

သိသောစိတ်ကိုစင်ကြယ်စေခြင်းငှါသာ၍ တတ်နိုင်တော်မူသည်မ
၁၅ ဟုတ်လော။ ထိုကြောင့်ပဌမဝန်ခံခြင်းတရားလက်ထက်ပြစ်မှားသော
အပြစ်ကိုလည်းလွှတ်စေခြင်းငှါခရစ်တော်သည်အသေခံတော်မူသည်
ဖြစ်၍ခေါ်တော်မူသောသူတို့သည်ဂတိတော်အတိုင်းထာဝရအမွေကို
ခံမည်အကြောင်း။ထိုသခင်သည်ဝန်ခံခြင်းတရားသစ်၏အာမခံဖြစ်
၁၆ တော်မူ၏။ ဝန် ခံခြင်း အမှုကို ပြုကြသော အခါ ခန့်ထား သောယဇ်
၁၇ ကောင်ကိုထင်ရှားသတ်ရ၏။ ခန့်ထားသောယဇ်ကောင်မသေမှီတိုင်
အောင်ဝန်ခံခြင်းမတည်။ယဇ်ကောင်သေပြီး မှသာဝန်ခံခြင်း တည်၏။
၁၈ ထိုကြောင့်ပဌမဝန် ခံခြင်း တရား ကိုစီရင်သောအခါအသွေးကင်း၍မ
၁၉ စီရင်။ မောရှေသည် ပညတ် ၌ ပါသောတရား အားလုံး တို့ကို လူအ
ပေါင်းတို့အားဟောပြောပြီးမှရေနှင့်ရောနှောသောဆိတ်နွား အသွေး
ကိုယူ၍ အနီဆိုး သောသိုးမွေး တပ် သောဟုဿုပ် ပင်ညွန့်ကျမ်းစာ
၂၀ ကိုရင်လူအပေါင်းကိုရင်ဖျန်းလျက် ဤအသွေးကားသင်တို့၌ဘုရား
သခင်ဝန်ခံတော်မူသောပဋိညာဉ်၏အသွေးဖြစ်သည်ဟုဆိုလေ၏။
၂၁ တဲတော်နှင့်ဝတ်ပြုသောတန်ဆာများကိုလည်းထိုနည်းတူအသွေးနှင့်
၂၂ ဖျန်းလေ၏။ ပညတ်တရားအကိုင်း ခပ် သိမ်းသောအရာတို့ကိုကျန်မ
တတ်အသွေး အားဖြင့်စင်ကြယ်စေ၏။ အသွေးမသွန်း လောင်း ဘဲအ
၂၃ ပြစ်လွှတ်ခြင်းမရှိ။ ထိုကြောင့်ကောင်းကင်ဘုံ၌ရှိသောအရာတို့၏ပုံ
များကိုထိုသို့သောယဇ်ပူဇော်ခြင်းအားဖြင့် စင်ကြယ်စေရသည်ဖြစ်
၍ကောင်းကင်အရာတို့ကိုသာ၍ မြတ်သောယဇ်ပူဇော်ခြင်းအားဖြင့်
စင်ကြယ်စေရ၏။



၂၄ ထိုသို့ နှင့်အညီမှန် သောသန့်ရှင်းရာဌာနတို့၏ ပုံဖြစ် သော။လူလက်
ဖြင့်လုပ်သောသန့်ရှင်းရာဌာနထဲသို့ခရစ်တော်သည် မဝင်ဘဲငါတို့
အတွက် ယခုဘုရား သခင် ၏ ရှေ့တော် ၌ ကိုယ် ကို ကိုယ် ပြခြင်း ငှါ
၂၅ ကောင်းကင် ကိုယ်ထဲသို့ဝင်တော်မူပြီး။ သို့သော်လည်းယဇ်ပရော
ဟိတ် မင်း သည်သန့်ရှင်း ရာဌာနထဲသို့သူတပါး အသွေး နှင့်နှစ်တိုင်း
ဝင်သကဲ့သို့ခရစ် တော်သည် အဖန်များ စွာကိုယ် ကိုကိုယ် ပူဇော်ရ
၂၆ သည်မဟုတ်။ ထိုသို့ပူဇော်ရသည်မှန်လျှင်ကမ္ဘာဦးမှစ၍အဖန်များ
စွာအသေခံတော်မူရ ၏။ယခုမူကားဤကပ်ကာလအဆုံး၌တခါတည်း
ကိုယ်ကိုကိုယ် ပူဇော်သောအားဖြင့်အပြစ်များကိုပယ်ရှင်းသုတ်သင်

၂၇ ခြင်းငှါပေါ်ထွန်းတော်မူ၏။ လူတို့သည်တခါတည်းသေ၍ထိုနောက်
၂၈ မှာတရားစီရင်တော်မူခြင်းကိုခံရသကဲ့သို့ ထိုနည်းတူခရစ်တော်
သည်လူများအပြစ်တို့ကိုခံခြင်းငှါတခါတည်း ကိုယ်ကိုကိုယ်ပူဇော်
ပြီးမှထိုသခင်ကိုမျှော်လင့်လျက်နေသောသူတို့ကိုကယ်တင်ခြင်းအလို
ငှါနောက်တဖန်အပြစ်ဖြေခြင်းအမှုနှင့်မရောဘဲပေါ်ထွန်းတော်မူလ
၁ တံ့။ ။တနည်းကား။ပညတ်တရားသည်နောက်မင်္ဂလာအ
ကျိုးတို့၏သေချာသောပုံသဏ္ဍာန်ကိုမပြ။အရိပ်ကိုသာပြသည်ဖြစ်
၍နှစ်တိုင်းအစဉ်ပူဇော်သောယဇ်အားဖြင့်ပူဇော်လာသောသူတို့ကို
၂ စုံလင်သောအဖြစ်၌မတည်စေနိုင်ရာ။ သို့မဟုတ်။ ဝတ်ပြုသောသူ
တို့သည်တခါတည်းစင်ကြယ်စေပြီးမှနောက်တဖန်သံဝေဂတရားရ
စရာအကြောင်းအလျှင်းမရှိသည်ဖြစ်သောကြောင့်ထိုယဇ်တို့ကိုတ
၃ ခါတည်းပူဇော်၍နောက်၌မပူဇော်ဘဲနေရသည်မဟုတ်လော။ ယခုမူ
ကားယဇ်ပူဇော်သည်တွင်နှစ်တိုင်းအပြစ်များကိုအောက်မေ့ခြင်းရှိ
၄ ၏။ အဘယ်ကြောင့်နည်းဟူမူကား။ဆိတ်နွားအသွေးသည်အပြစ်ကို
၅ မပယ်နိုင်ရာ။ ။ထိုကြောင့်ခရစ်တော်သည်ဤလောက
သို့ကြွလာသောအခါအိုဘုရားသခင်။ကိုယ်တော်သည်ယဇ်နှင့်ပူဇော်
သကာကိုအလိုတော်မရှိသည်ဖြစ်၍အကျွန်ုပ်အဖို့ကိုယ်ခန္ဓာကိုပြင်
၆ ဆင်တော်မူပြီး။ မီးရှို့ရာယဇ်။အပြစ်ဖြေရာယဇ်များကိုအားရနှစ်
၇ သက်တော်မမူသောအခါ ကျမ်းစာလိပ်၌အကျွန်ုပ်ကိုအမှတ်ပြု၍
ရေးထားသည်နှင့်အညီအကျွန်ုပ်သည်ကိုယ်တော်၏အလိုကိုပြုခြင်း
ငှါသွားပါမည်ဟုအကျွန်ုပ်ဝန်ခံလျက်ရှိသည်ဟုလျှောက်ဆို၏။
၈ ပညတ်တရားအတိုင်းပြုသော်လည်းခရစ်တော်ကမီးရှို့ရာယဇ်။အပြစ်
ဖြေရာယဇ်အစရှိသောယဇ်များ။ပူဇော်သကာများတို့ကိုကိုယ်တော်
သည်အလိုမရှိ။အားရနှစ်သက်တော်မမူသည်ဟုအထက်ကဆိုနှင့်
၉ ပြီးမှ တဖန်တုံ။အကျွန်ုပ်သည်ကိုယ်တော်၏အလိုကိုပြုခြင်းငှါသွား
ပါမည်ဟုဆိုသည်တွင်ဒုတိယဝတ်ကိုတည်စေခြင်းငှါပဌမဝတ်ကို
၁၀ ပယ်၏။ ထိုအလိုတော်နှင့်အညီယေရှုခရစ်၏ကိုယ်တော်ကိုတခါ
တည်းပူဇော်သောအားဖြင့်ငါတို့သည်စင်ကြယ်ခြင်းသို့ရောက်သော
၁၁ သူဖြစ်ကြ၏။ ။ယဇ်ပုရောဟိတ်မည်သည်ကားနေ့တိုင်း
ဝတ်ပြုလျက်အပြစ်ကိုမဖြေနိုင်သောယဇ်ကိုအထပ်ထပ်အဖန်ဖန်ပူ
၁၂ ဇော်လျက်ရပ်နေ၏။ ထိုသခင်မူကားအပြစ်ကိုဖြေအောင်ထာဝရ

ယဇ်တခုတည်းကိုပူဇော်ပြီးမှစ၍ ဘုရားသခင်၏လက်ျာတော်ဘက်
၁၃ ၌ထိုင်၍ မိမိရန် သူတို့ ကို မိမိခြေတင်ရာမရှုမထားမှီတိုင် အောင်
၁၄ မျှော်လင့်လျက် နေတော်မူ၏။ အဘယ်ကြောင့်နည်း ဟူမူကား။ စင်
ကြယ်သောသူတို့သည်ထာဝရစုံလင်ခြင်းအကျိုးကိုရစေခြင်းငှါတခါ
၁၅ တည်း ပူဇော်ခြင်းအားဖြင့် ပြုတော်မူ၏။ ထိုသို့ နှင့်အညီသန့်ရှင်း
သောဝိညာဉ်တော်သည်ငါတို့အားသက်သေပေးတော်မူသည်မှာ။
၁၆ နောက် ကာလအခါသူတို့၌ငါပေးသောဝန်ခံခြင်းတရားဟူမူကား။ငါ
ထာဝရဘုရား သည် ငါပညတ်တို့ ကို သူတို့ နှစ် လုံး ထဲမှာပေး သွင်း
မည်။ သူတို့စိတ် ဝိညာဉ် ၏အပေါ်မှာရေးထား မည် ဟုအထက်ကမိန့်
၁၇ တော်မူပြီးမှ တဖန်တုံ။သူတို့ပြစ်မှားခြင်း။ လွန်ကျူး ခြင်းအမျိုးမျိုး
၁၈ ကိုငါမအောင်း မေ့ဘဲနေမည် ဟုလာသတည်း။ အပြစ်လွှတ်ခြင်းသို့
ရောက် လျှင် နောက် တဖန် အပြစ် ဖြေသော ပူဇော် သကာပြုစရာအ
ကြောင်းမရှိ။

❋❋

၁၉ ထိုကြောင့် ညီအစ် ကို တို့။ယေရှု၏ကိုယ်တော်တည်း ဟူသောကုလား
၂၀ ကာအားဖြင့်ထိုသခင်ပြင်ဆင်တော်မူသေါအသက်လမ်းအသစ်တွင်ငါ
တို့သည်သန့်ရှင်းရာဌာနထဲသို့အသွေးတော်ကိုအမှီပြု၍အဆီးအတား
၂၁ မရှိ။ဝင်ရသောအခွင့်ရှိသဖြင့်၎င် ဘုရားသခင်၏အိမ်တော်ကိုအုပ်
၂၂ စိုးသောယဇ်ပရောဟိတ်မင်းရှိသဖြင့်၎င် ငါတို့သည်သစ္စာနှင့်ပြည့်
စုံသောစိတ်နှစ် လုံး ရှိ၍ ဝိဉာဉ်ကိစ္စာနှင့် ကင်းသောရုံကြည် ခြင်း၌တည်
လျက်သိံဝေဂတရား နှင့်စိတ်နှစ်လုံးကင်းစင်လျက် အထံတော်သို့တိုး
ဝင်ချည်း ကပ်ကြစို့။ ကိုယ် ကာယကို လည်း ကြည် သောရေဖြင့်ဆေး
၂၃ ကြောလျက်ရှိသည်နှင့် မျှော်လင့်ခြင်းအကြောင်းကိုဝန်ခံ၍မတိမ်းမ
ယိမ်းမရွေ့မလျော့တည်နေကြစို့။အဘယ်ကြောင့်နည်းဟူမူကား။ဂတိ
၂၄ ထားတော်မူသောသူသည် သစ္စာနှင့်ပြည့်စုံတော်မူ၏။ ထိုမှတပါး။
မေတ္တာစိတ်ရှိ၍ကောင်းသောအကျင့်ကိုကျင့်စေခြင်းငှါတိုက်တွန်းနှိုး
ဆော်ခြင်းအကြောင်းရှိရအောင်အချင်းချင်းတယောက်ကိုတယောက်
၂၅ ထောက်စာကြည့်ရှုကြစို့။ လူအချို့တို့၏ထုံးစံရှိသည်အတိုင်းအချင်းချင်း
စည်းဝေးခြင်းအမှုကိုမရှောင်လွှဲကြနှင့်။အချင်းချင်းတိုက်တွန်းနှိုးဆော်
ကြလော့။ကာလအချိန်ရောက်လုနီးသည်ကိုထောက်သဖြင့် သာ၍ကျိုး

၂၆ စားကြလော့။ အကြောင်းမူကား။သမ္မာတရားကိုသိပြီးမှကိုယ်
အလိုလိုပြစ်မှားပြန်လျှင်နောက်တဖန်အပြစ် ဖြေသောယဇ်ကိုပူဇော်
၂၇ ရာအခွင့်မရှိဘဲ ဒါဏ်စီရင်ခြင်း ကိုကြောက်မက် ဖွယ်သောမျှော်လင့်
ခြင်းအကြောင်း။ညင်းဆံသောသူတို့ကိုဖျက်ဆီးဖို့ရာမီးလောင်သော
၂၈ အမျက်တော်ကို ခံခြင်း အကြောင်း ရှိရ၏။ မောရှေတရား ကိုပယ်
သောသူမည်သည်ကားသက်သေခံနှစ်ယောက်သုံးယောက်ရှိလျှင်သ
၂၉ နားခြင်းကိုမခံဘဲသေရ၏။ ထိုမျှမက။ဘုရားသခင်၏သားတော်ကို
ခြေဖြင့်ကျော်နင်းခြင်း။မိမိကိုစင်ကြယ် စေသောဝန် ခံခြင်း တရား၏
အသွေးကိုအပြစ်တင်ခြင်း။ ဆုကျေးဇူး ကိုပေးသောဝိညာဉ် တော်ကို
ကဲ့ရဲ့ခြင်းကို ပြုသောသူသည်အဘယ်မျှလောက်ကြီးသောဒါဏ်ဖြင့်ခံ
၃၀ ထိုက်သည်ကိုသင်တို့ထင်ကြသနည်း။ ထာဝရဘုရားကဝါသည်အပြစ်တ
ရားစီရင်ပိုင်၏။အပြစ်နှင့်အလျှောက်ငါဆပ်ပေးမည်ဟူ၍ ၎င်းထာဝရဘု
ရားသည်မိမိလူတို့အဖို့တရားစီရင်မည်ဟူ၍၎င်း မိန့်တော်မူသောသူ
၃၁ ကိုအကယ်၍ငါတို့သိကြ၏။ အသက်ရှင်တော်မူသောဘုရားသခင်၏
လက်တော်၌ကျရောက်ခြင်းအမှုသည် ကြောက်မက် ဖွယ် အမှုဖြစ်သ
၃၂ တည်း။ ။သင်တို့သည်အလင်းသို့ရောက်ပြီးမှလူအပေါင်း
၃၃ တို့ရှေ့ကဲ့ရဲ့သူ့ညှဉ်း ဆဲခြင်းကိုခံသဖြင့်၎င် ထိုသို့ခံသောသူတို့နှင့်ဆက်
ဆံသောအပေါင်းအဖော်ဖြစ်သဖြင့်၎င် ကြီးစွာသောဆင်းရဲဒုက္ခဝေ
ဒနာများဆိုင်ပြိုင်တိုက် လံခြင်း နှင့် တွေ့ကြုံသောအထက်ကာလအချိန်
၃၄ ကိုအောင်းမေ့ကြလော့။ ထိုအခါသင်တို့သည်ကောင်းကင်ဘုံ၌ သာ
၍မြတ်သော။တည် မြဲသောဘဏ္ဍာဥစ္စာများကိုယ်သုံးဘို့ရှိသည်ကို
သိရသည်ဖြစ်၍အကျည်းထားသောသူတို့အတွက်သင် တို့သည်ကြွင်
နာ၍ကိုယ်ပစ္စည်းဥစ္စာလုယူဖျက်ဆီး ခြင်းကို ဝမ်းမြောက် သောစိတ်
၃၅ နှင့်ဝန်ခံကြ၏။ ထိုကြောင့်ကြီးသောအကျိုးနှင့်ရှည်သောသင်တို့၏
၃၆ ရဲရင့်ခြင်းစိတ်ကိုမပျောက်စေကြနှင့်။ ဘုရားသခင်၏အလိုတော်ကို
ပြုပြီးမှဂတိတော်အတိုင်းအကျိုးကိုရမည်အကြောင်း။သည်း ခံခြင်းစိ
၃၇ တ် ရှိရ၏။ အဘယ် ကြောင့် နည်း ဟူမူကား။ ကြွလာလတ့ံသောသူ
၃၈ သည်မဆိုင်းလင့်ဘဲခဏချင်းရောက်တော်မူလိမ့်မည်။ ဖြောင့်ကြည်ခြင်း
အားဖြင့်ဖြောင့် မတ်သောသူသည် အသက် ရှင် လိမ့် မည်။ သို့သော်
လည်း တဖန် နောက်လျှော့ပြန် လျှင် ငါ့စိတ်ဝိညာဉ် သည်ထိုသူကိုအားရ

၃၉ နှစ်သက်ခြင်းမရှိဟုဘုရားသခင်အမိန့်တော်ရှိ၏။ ငါတို့မူကားပျက်
စီးခြင်းသို့ရောက်အောင် ရွေ့လျော့သောသူမဟုတ်။စိတ်ဝိညာဉ်သည်
ကယ်တင်ခြင်းသို့ရောက်အောင်ယုံကြည်သောသူဖြစ်ကြ၏။

❋❋

၁ ယုံကြည် ခြင်းပါရမီသည် မျှော်လင့် သောအရာတို့ ကို မျက် မှောက်ပြု
ခြင်းဖြစ်၏။မမြင်သေးသေါအရာတို့ကိုသိမှတ်စွဲလမ်းခြင်းအကြောင်း
၂ ဖြစ်၏။ ထိုပါရမီကြောင့်ရှေးလူဟောင်းတို့သည်ချီးမွမ်းတော်မူခြင်း
၃ ကို ခံကြ ၏။ ယခု မြင် ရသောအရာတို့သည် အရင် ထင်ရှား သော
အရာထဲကမဖြစ်ဘဲလောကဓာတ်တို့သည်ဘုရားသခင်၏အမိန့်တော်
ကြောင့်သာတည်သည်ကိုငါတို့သည် ယုံကြည် ခြင်း အားဖြင့် သိကြ၏။
၄ ကာဣနသည်ဘုရားသခင်ကို ပူဇော်သောယဇ်ထက် သာ၍ မြတ်သော
ယဇ်ကိုအာဗေလသည်ယုံကြည်ခြင်းအားဖြင့် ပူဇော်လေ၏။ထိုသို့သော
ယဇ်ကိုပူဇော်၍မိမိဖြောင့် မတ်ကြောင်းသက် သေခံတော်မူခြင်းကိုရ
လေ၏။အဘယ် သို့နည်း ဟူမူကား။ သူလှူသောအလှူကိုဘုရား သခင်
သည်သက်သေခံတော်မူ၏။ သို့ဖြစ် ၍ အာဗေလသည်သေလွန်သော်
၅ လည်းယခုပင်တရား ဟောသေး၏။ ဧနောက်သည်ယုံကြည်ခြင်းအား
ဖြင့်သေခြင်းတရား နှင့် ကင်းလွတ်၍ဘဝပြောင်း ရ၏။ဘုရားသခင်
သည်သူကို ဘဝပြောင်း စေတော်မူသောကြောင့်သူသည် နောက်တ
ဖန် မပေါ်မရှိ။ သူသည် ဘဝမပြောင်း မှီဘုရား သခင်စိတ်တော် နှင့်
၆ တွေ့သောသူ ဖြစ် ကြောင်း သက် သေခံခြင်း ကို ရလေ ၏။ ယုံကြည်
ခြင်းမရှိလျှင်ဘုရားသခင် စိတ်တော် နှင့် မတွေ့နိုင်။ အဘယ် ကြောင့်
နည်းဟူမူကား။ ဘုရားသခင်အထံတော်သို့ချဉ်းကပ်သောသူသည်
ဘုရား သခင် ရှိတော်မူသည် ကို၎င် ကိုယ်တော်ကို ရှာသောသူအား
၇ အကျိုးပေးတော်မူသည်ကို၎င်ယုံရ၏။ နောဧသည်မမြင်သေး သော
အမှုအရာတို့ ကို ပြသော ဗျာဒိတ် တော် ကို ခံပြီး မှ ယုံ ကြည် ခြင်း အား
ဖြင့်ကြောက်ရွံ့ခြင်းသို့ရောက်၍မိမိအိမ်သူအိမ်သားတို့ကိုကယ်တင်
ခြင်း၌သင်္ဘောကိုတည်လေ၏။ ထိုသို့ပြု၍လောကီသားတို့ကိုအပြစ်
တင်၏။ယုံကြည်ခြင်းအားဖြင့်ရသောကုသိုလ်ကိုလည်းအမွေခံ၏။
၈ ။အာဗြဟံသည်နောက်မှာအမွေခံလတ္တံ့သောပြည်သို့ထွက်
သွားစေခြင်း၌ဘုရားသခင်ခေါ်တော်မူသောအခါမိမိသည်အဘယ်
ဆီသို့သွားသည်ကိုမိမိမသိဘဲလျက်ယုံကြည်ခြင်းအားဖြင့်နားထောင်၍

၉ ထွက်သွားလေ၏။ သူတပါးပိုင်သောပြည်၌ဧည့်သည်နေသကဲ့သို့ဂတိ
တော်နှင့်စပ်ဆိုင်သောပြည်၌ယုံကြည်ခြင်းအားဖြင့်ဧည့်သည်ဖြစ်၍နေ၏၊
ထိုဂတိတော်ကိုအမွေခံရသောအဖော်အဖက်ကည်းဟူသောဣဇာက်၊
၁၀ ယာကုပ်တို့နှင့်အတူတဲ၌နေလေ၏။ အဘယ်ကြောင့်နည်းဟူမူကား။
ဘုရားသခင်တည်ထောင်ပြုစုတော်မူသောအစည်မြဲသောမြို့ကိုမျှော်
၁၁ လင့်သတည်း။ သူ၏ခင်ပွန်းစာရာသည်အရွယ်လွန်သော်လည်းပဋိသ
န္ဓေယူနိုင်သောအခွင့်တန်ခိုးကိုယုံကြည်ခြင်းအားဖြင့်ခံရလေ၏။အ
ဘယ်ကြောင့်နည်းဟူမူကား။ဂတိထားတော်မူသောသူသည်သစ္စာရှိ
၁၂ သည်ဟုစိတ်စွဲလမ်းခြင်းရှိ၏။ သို့ဖြစ်၍ထိုအမှုအရာ၌လူသေနှင့်တူ
သောသူတယောက်သည် အရေအတွက်အားဖြင့် ကောင်းကင်ကြယ်
ကဲ့သို့ရှင်သမုဒ္ဒရာကမ်းနား၌မရေတွက်နိုင်သောသဲလုံးကဲ့သို့ရှင်အ
၁၃ များသောသူတို့၏အဖဖြစ်သတည်း။ ယခုဆိုခဲ့ပြီးသောသူအားလုံး
တို့သည်ဂတိတော်နှင့်စပ်ဆိုင်သောအကျိုးကျေးဇူးကိုမခံဘဲအဝေး
ကမျှော်မြင်လျက်စိတ်နှစ်လုံးဖြင့်ဖက်ရမ်းလျက်မိမိတို့သည်မြေကြီး
ပေါ်မှာတကျွန်းသူတနိုင်ငံသား။ဧည့်သည်အာဂန္တုဖြစ်သည်ကိုထင်
၁၄ ရှားဝန်ခံလျက်ယုံကြည်ခြင်းစိတ်နှင့်သေလွန်ကြ၏။ ထိုသို့ဝန်ခံသော
သူတို့သည်မိမိအဖနေရင်းပြည်ကိုမိမိရှာကြောင်းကိုအတည့်အလင်း
၁၅ ပြောဆိုကြ၏။ ထိုသူတို့သည် အထက်ကထွက်သွားသောပြည်ကို
၁၆ အောင်းမေ့သည်မှန်လျှင်ထိုပြည်သို့ပြန်သောအခွင့်ရှိ၏။ ထိုပြည်
ကိုမအောင်းမေ့ဘဲကောင်းကင်ပြည်တည်းဟူသောသာ၍မြတ်သော
ပြည်ကိုတောင့်တခြင်းရှိကြ၏။ထိုကြောင့်ဘုရားသခင်သည်သူတို့
ကိုရှင်သူတို့ဘုရားဟူ၍ခေါ်ဝေါ်ခြင်းကိုရှင်ရှက်တော်မမူ။သူတို့နေစ
၁၇ ရာဘို့မြို့ကိုတည်ထောင်တော်မူပြီး။ ။အာဗြဟံသည်ရုံ
၁၈ စမ်တော်မူခြင်းကိုခံသောအခါယုံကြည်ခြင်းအားဖြင့်ဣဇာက်ကိုပူ
ဇော်၏။ဂတိတော်တို့ကိုခံသောသူပင်ဣဇာက်၌သာသင်၏အမျိုးအ
နွယ်တည်လတ္တံ့ဟုဗျာဒိတ်တော်ရသောမိမိတယောက်တည်းသော
၁၉ သားကိုပူဇော်၏။ ထိုသို့ပူဇော်သောအခါဘုရားသခင်သည်သေ
ခြင်းမှထမြောက်စေတော်မူနိုင်သည်ကိုအောင်းမေ့ခြင်းစိတ်ရှိ၏။ထို
၂၀ သားကိုပုံစကားအားဖြင့်သေခြင်းထဲကအရှင်တခါရသတည်း။ ဣဇာ
ဇာက်သည်လည်းယုံကြည်ခြင်းအားဖြင့်အနာဂတ်အရာတို့ကိုအမှတ်
၂၁ ပြု၍ယာကုပ်နှင့်ဧသောကိုကောင်းကြီးပေးလေ၏။ ယာကုပ်သည်

ထည်းဝေလုနီးသောအခါရုံကြည်ခြင်းအားဖြင့်ယောသပ်၏သားနှစ်
ယောက်ကိုကောင်းကြီး ပေး၍ တောင်ဝေး ထိပ် အပေါ်မှာကိုး ကွယ်
၂၂ လေ၏။ ယောသပ်သည် သေဆဲဖြစ်သောအခါရုံကြည် ခြင်းအားဖြင့်
ဣသရေလအမျိုး သားတို့၏ ထွက် မြောက်ခြင်း အရာကိုပြ၍မိမိအရိုး
တို့ကိုပြုရမည်အကြောင်းမှာထားလေ၏။

**

၂၃ မောရှေသည် ဖွားမြင်ပြီးမှအဆင်းလှသောသူငယ်ဖြစ် သည် ကိုမိဘ
တို့သည်မြင်လျှင်ရုံကြည်ခြင်းအားဖြင့်မင်း ကြီးအမိန့် တော်ကိုမကြော
၂၄ က်ဘဲသုံးလပတ်လုံးသူကို ဖွက်ထားလေ၏။ မောရှေသည်အသက်ကြီး
၂၅ သောအခါအပြစ် ရှိသောကာမဂုဏ်ကိုခဏခံစားသည် ထက်ဘုရား
သခင်၏လူတို့နှင့်အတူညှဉ်း ဆဲခြင်း ခံရသည် ကိုသာ ၍ အလိုရှိသ
ဖြင့်ဝှင်အဲဂုတ္တုပြည် စည်း စိမ်ထက်ခရစ် တော်ကြောင့်ကဲ့ရဲ့ခြင်းဒုက္ခ
သည်သာ ၍ မြတ် သောစည်း စိမ် ဖြစ် သည်ကို စိတ်ထင်သဖြင့်ရင်ရုံ
ကြည်ခြင်းစိတ်ရှိ၍သာဖာရောမင်း ကြီးသမီး၏သားဟူ၍ခေါ်ဝေါ်ခြင်း
အ ခွင့်ကိုပယ်၏။အဘယ်ကြောင့်နည်းဟူမူကား။နောက်ရလတ္တံ့သော
၂၇ အကျိုးကိုထောက်စာမျှော်လင့်လျက်နေ၏။ ရုံကြည်ခြင်းအားဖြင့်မင်း
ကြီးအမျက် ကို မကြောက် ဘဲအဲဂုတ္တုပြည်ကို စွန့် သွား ၏။ အဘယ်
ကြောင့်နည်းဟူမူကား။မျက်မြင်မရသောဘုရား သခင်ကို မြင် သကဲ့
၂၈ သို့ဘည် ကြည် ခြင်း ရှိ ၏။ သားဦးများကိုဖျက်ဆီးသော သူသည်ဣ
သရေလလူတို့ကိုဒါဏ်မခတ်ရအောင် ရုံကြည်ခြင်း အား ဖြင့်ပသခါပွဲ
၂၉ ကိုရင်သွေးဖျန်းဆွတ်သောမင်္ဂလာကိုရင်စောင့်လေ၏။ ဣသရေလလူ
တို့သည် ဒေါ့ပင်လယ် အလယ်၌ကုန်း ကြောင်း သွားသကဲ့သို့ ရုံကြည်
ခြင်းအားဖြင့်ရှောက်သွားကြ၏။ ထိုသို့အဲဂုတ္တုလူတို့သည် သွားစမ်
၃၀ သောအခါနှစ်မွန်းကြ၏။ ယေရိခေါမြို့ကိုခုနှစ်ရက်ပတ်လုံးဝိုင်းလှည့်
၃၁ ပြီးမှရုံကြည်ခြင်းအားဖြင့်မြို့ရိုးသည်ပြိုလဲ၏။ ပြည်တန်ဆာရာခပ်
သည်သူလျှိုတို့ကိုအခွေ့ပဲ့၍လက်ခံသိမ်း ဆည်း သည်ဖြစ် ၍ မရုံကြည်
သောသူတို့နှင့်အတူမပျက်စီးဘဲရုံကြည်ခြင်းအားဖြင့်ချမ်းသာရ၏။
၃၂ ။ထိုမှတပါး။အဘယ်ပြောစရာ ရှိသေးသနည်း။ ဂေဒေါင်။
ဗာရက်။ရှံဆုန်။ယေဖသ။ဒါဝိဒ်။ရှမွေလမှစ၍ပရောဖက်တို့အကြောင်း
၃၃ များကိုပြော၍ကုန်နိုင်။ ထိုသူတို့သည်ရုံကြည် ခြင်း အားဖြင့်အ
ချား သောတိုင်း နိုင် ငံကိုအောင်ခြင်း။ တရားသဖြင့်စီရင် ခြင်း။ ဂတိ

၃၄ ဘေးကို ခံရခြင်း။ချဉ်သော်နှုတ်ကိုပိတ်ခြင်း။ မီးအရှိန်ကိုငြိမ်းစေခြင်း။
ဓားလက်နက်ဘေးနှင့်ကင်းလွတ်ခြင်း။အနာမှထမြောက်၍ကျန်းမာ
ခြင်း။ စစ်တိုက်၍ ခွန်အားနှင့်ပြည့်စုံခြင်း။ တပါးအမျိုးသားတို့
၃၅ တပ်တည်စစ်ပြိုင်သည်ကို ပျံ့လွင့်စေခြင်းအမှုကိုကိုပြုကြ၏။ မိန်းမတို့
သည်လည်းသေခြင်းမှထမြောက်သောမိမိတို့သားကိုရပြန်ကြ၏။အ
ချို့သောသူတို့သည် သာ၍ မြတ်သောထမြောက်ခြင်းသို့ရောက်ရ
အောင်လွှတ်ခြင်းကိုမခံမယူဘဲပြင်းစွာသောညှဉ်းဆဲခြင်းကိုခံကြ
၃၆ ၏။ အချို့သောသူတို့သည်ကဲ့ရဲ့ရိုက်ပုတ်ချည်နှောင်ခြင်းကိုခံ၍ထောင်
၃၇ ထဲမှာနေခြင်းအားဖြင့် အစုံအစမ်ခံကြ၏။ ကျောက်ခဲနှင့်ပြစ်ခြင်း။
လွှနှင့်အပိုင်းပိုင်းတိုက်ဖြတ်ခြင်း။စုံစမ်နှောင့်ရှက်ခြင်း။ဓားလက်နက်
နှင့်ကွပ်မျက်ခြင်းကိုခံကြ၏။ သိုးရေဆိတ်ရေကိုဝတ်လျက်ဆင်းရဲ
၃၈ ခြင်း။ညှဉ်းဆဲနှိပ်စက်ခြင်းကိုခံ၍လှည့်လည်ကြ၏။ ဤလောကသည်
ထိုသူတို့နှင့်မထိုက်မတန်။သူတို့သည်တောကြို့တောင်ကြား။ဥမင်မြေ
၃၉ တွင်းထဲမှာအပြောင်းပြောင်းအလည်လည်နေကြ၏။ ထိုသူအားလုံးတို့
သည်ရုံကြည်ခြင်းအားဖြင့် ချီးမွမ်ခြင်းသို့ရောက် သော်လည်း ဂတိ
၄၀ တော်အတိုင်းအကျိုးကျေးဇူးကို မခံကြ။ အဘယ်ကြောင့်နည်းဟူမူ
ကား။ထိုသူတို့သည် ငါတို့မပါဘဲစုံလင်ခြင်းသို့မရောက်ရအောင်ဘု
ရားသခင်သည်ငါတို့အဖို့အလို၌ါသာ၍မြတ်သောကျေးဇူးကိုကြံစည်
မျှော်လင့်တော်မူ၏။ ✻✻

၁ ထိုကြောင့်ဤမျှလောက်များသောသက်သေအပေါင်းတို့သည်ငါတို့ကို
ကြည့်ရှုဝိုင်းရံလျက်ရှိကြသည်ဖြစ်၍ခပ်သိမ်းသောဝန်တို့ကိုငင်နှောင့်
ရှက်တတ်သောဒုစရိုက်ကိုငင်ပယ်ရှား၍ငါတို့မျက်မှောက်၌ထားသော
၂ ပန်းတုံးတိုင်သို့ရောက်ရအောင်အါးမလျော့ဘဲပြေးကြစို့။ ရုံကြည်ခြင်း
ကိုအစအဦးစီရင်၍ပြည့်စုံစေတော်မူသောသခင်ယေရှုကိုစေ့စေ့ထောက်
ရှုကြစို့။ထိုသခင်သည်မိမိရှေ့၌ထားသောဝမ်မြောက်ခြင်းအကြောင်း
ကိုရခြင်းငှါရှက်ကြောက်သောအရာကိုမမှတ်ဘဲလက်ဝါးကပ်တိုင်၌
၃ ခံပြီးမှဘုရားသခင်ပလ္လင်တော်လကျ်ာဘက်၌ထိုင်နေတော်မူ၏။ အ
ပြစ်ရှိသောသူတို့လက်၌ ထိုမျှလောက်ကြီးသောဆီးတားနှောင့်ရှက်
ခြင်းကိုခံတော်မူသောသခင်ကိုထောက်ရှုဆင်ချင်သောအားဖြင့်
၄ အားမလျော့စိတ်မပျက်ရအောင်ကျိုးစားကြလော့။ ။သင်
တို့သည်ဒုစရိုက်အပြစ်ကိုဆိုင်ပြိုင်တိုက်လံ၍အသွေးထွက်သည်တိုင်

၅ အောင်မခံရကြသေး။ ထိုမှတပါး။ငါ့သား။သင်သည်ထာဝရဘုရား
၏ဆုမ္မတော်မူခြင်းကိုမမှတ်ဘဲမနေနှင့်။ဆုမ္မတော်မူသောအခါစိတ်မ
၆ ပျက်စေနှင့်။ ထာဝရဘုရားသည်ချစ်သမျှသောသူတို့ကိုဆုမ္မတော်
မူတတ်၏။ သိမ်းဆည်းသမျှသောသားတို့ကိုဒဏ်ခတ်တော်မူတတ်
၏ဟုသူငယ်တို့ကိုဆိုသကဲ့သို့သင်တို့ကိုပြောဆိုသောဩဝါဒစကား
၇ ကိုမေ့လျော့ကြသလော။သင်တို့သည် ဆုမ္မတော်မူခြင်းကိုခံလျှင်သား
တို့ကိုပြုသကဲ့သို့ဘုရားသခင်သည်သင်တို့ကိုပြုတော်မူ၏။ အဘယ်
၈ ကြောင့်နည်းဟူမူကား။အဘမဆုမ္မသောသားမည်သည်ရှိသလော။ သား
အားလုံးတို့သည်ခံတတ်သောဆုမ္မခြင်းကိုသင်တို့သည်မခံဘဲနေလျှင်
၉ သားရင်းမဟုတ်။မြောက်မထား၍ရသောသားဖြစ်ကြ၏။ တနည်း
ကား။ ကိုယ်ကာယနှင့်စပ်ဆိုင်သောအဖတို့လက်ဖြင့် ငါတို့သည် ဆု
မ္မခြင်းကိုခံသောအခါသူတို့ကိုရိုသေကြ၏။စိတ်ဝိညာဉ်တို့၏အဖအလို
၁၀ သို့ထိုမျှမကလိုက်၍အသက်ချမ်းသာရကြမည်မဟုတ်လော။ အဘယ်
ကြောင့်နည်းဟူမူကား။ ထိုအဖတို့သည်မိမိအလိုသို့လိုက်၍ ခဏဆု
မ္မပေးကြ၏။ကိုယ်တော်မူကားမိမိဖြောင့်မတ်ခြင်း ပါရမီတော်ကိုငါ
တို့သည်ဆက်ဆံစေခြင်းငှါငါတို့အကျိုး ကိုထောက်၍ သာဆုမ္မပေး
၁၁ တော်မူ၏။ ဆုမ္မခြင်းမည်သည်ကားခံတုန်းခါဝမ်းမြောက်စရာမထင်။
ဝမ်းနည်းစရာ ထင်တတ်၏။သို့သော်လည်းဆုမ္မခြင်းကိုခံသောသူတို့
သည်နောက်မှာငြိမ်သက်ခြင်းနှင့်စပ်ဆိုင်သောဖြောင့်မတ်ခြင်းပါ
၁၂ ရမီအကျိုးကိုခံရကြ၏။ ။ထိုကြောင့်တွဲလွဲနေသောလက်
၁၃ တို့ကို၎င်းအားမရှိသောဒူးတို့ကို၎င်းပြင်ဆင်ကြလော့။ ခြေဆွံ့သောသူ
တို့သည်အဆစ်မပြုတ်သည်သာမကချမ်းသာရစေခြင်းငှါသင်တို့
၁၄ သွားဖို့ရာဖြောင့်သောလမ်းကိုပြင်ကြလော့။ လူအပေါင်းတို့နှင့်အသင့်
အတင့်နေ၍ငြိမ်သက်ခြင်းကို၎င်းသန့်ရှင်းခြင်းပါရမီကို၎င်းကျိုးစား
ကြလော့။သန့်ရှင်းခြင်းပါရမီမရှိဘဲလျှင်အဘယ်သူမျှထာဝရဘုရား
၁၅ ကိုမတွေ့မမြင်ရ။ သင်တို့တွင် တစုံတယောက် မျှဘုရားသခင်၏
ကျေးဇူးတော်နှင့်မကင်းစေခြင်းငှါ၎င်း ခါးစွာသောပင်မြစ်ပေါက်၍
သင်တို့နှောင့်ရှက်သဖြင့်လူအများတို့သည် အပြစ်နှင့်မညစ်ညူးစေ
၁၆ ခြင်းငှါ၎င်း မတရားသောမေထုန်၌ မှီဝဲသောသူမရှိစေခြင်းငှါ၎င်းတ
နပ်စာအဖို့နှင့်သားဦးအရာကိုရောင်းသောသူဧသောကဲ့သို့ဘုရား
တရားကိုမရိုသေပြုသောသူမရှိစေခြင်းငှါ၎င်းသတိနှင့်ကြည့်ရှုကြ

၁၇ လော့။ သင်တို့သိသည်အတိုင်းထိုသေသောသည် နောက်၌ကောင်းကြီး
မင်္ဂလာကိုအမွေခံခြင်း ငှါအလိုရှိသောအခါ ညှင်း ပယ်ခြင်းကိုခံရ၏။
မျက်ရည်ကျ၍ကောင်း ကြီး မင်္ဂလာကိုအလွန်ရှာသော်လည်းမိမိအဖ
၁၈ ၏စိတ်ပြောင်းလဲခြင်းအခွင့်ကိုမတွေ့မရ။ ။ထိုမှတပါး။သင်
တို့သည်လက်နှင့်တွေ့နိုင်သောတောင်သို့၎င်းလောင်သောမီးသို့၎င်းမည်း
၁၉ သောတိမ်တိုက်။မှောင်မိုက်။မိုးသက်မုန်တိုင်းသို့၎င်း တံပိုးမှုတ်ခြင်း
အသံသို့၎င်းနှုတ်ကပတ်တော်အသံသို့၎င်းရောက်ကြသည်မဟုတ်။ထိုအ
သံတော်ကိုကြားသောသူတို့သည်ထပ်၍မိန့်တော်မမူသည်အကြောင်း
၂၀ တောင်းပန်ကြ၏။ အဘယ်ကြောင့်နည်းဟူမူကား။တိရိစ္ဆာန်သော်
လည်းထိုတောင်ကိုထိမိလျှင်ကျောက်ခဲနှင့်ပြစ်၍သေစေဟုပညတ်
၂၁ တော်မူသောစကား ကိုသူတို့သည် နားမခံနိုင် ကြ။ ထိုသို့ထင်ရှား
သောအရာသည်အလွန် ကြောက်မက် ဖွယ် ဖြစ် ၍ မောရှေကငါသည်
၂၂ ကြောက်ရွံ့တုန်လှုပ်ခြင်းရှိသည်ဟုဆို၏။ သင်တို့သည်ဇိအုန်တောင်
သို့၎င်အသက်ရှင်တော်မူသောဘုရားသခင်၏မြို့တော်တည်းဟူသော
ကောင်း ကင် ယေရုရှလင်မြို့သို့၎င်အတိုင်းမသိများသောကောင်းကင်
၂၃ တမန်စည်းဝေးခြင်းသို့၎င် ကောင်း ကင်စာရင်းဝင်သောသားဦးတို့
အသင်း တော်ဆီသို့၎င်ခပ် သိမ်း သောသူတို့ကိုတရား စီရင်တော်မူ
သောဘုရား သခင် ဆီသို့ ၎င် စုံလင်ခြင်း သို့ရောက် သောသူ တော်
၂၄ ကောင်းတို့၏စိတ်ဝိညာဉ်တို့ဆီသို့၎င် ဝန်ခံခြင်းတရားသစ်၏အာမ
ခံတည်း ဟူသော ယေရှုဆီသို့ ၎င်အာဗေလ၏ အသွေး ဆို လိုသောအ
ရာထက်သာ ၍ မြတ်သောအရာ ကို ဆိုလိုသောဖျန်း ဆွတ်ခြင်း၏အ
၂၅ သွေးဆီသို့၎င်ရောက်ကြ၏။ ။မိန့်တော်မူသောသူ၏စ
ကားတော်ကိုသင်တို့သည်မပယ် ရ အောင် သတိပြုကြလော့။မြေကြီး
ပေါ်မှာဗျာဒိတ်ပေးတော်မူသောသူ၏စကားကိုပယ်သောသူတို့သည်
အပြစ်မလွတ်သည် မှန်လျှင် ထို မှ ကကောင်းကင်ဘုံကဗျာဒိတ်ပေး
တော်မူသောသူ၏စကားကိုငါတို့သည် နားမထောင် ဘဲနေလျှင် သာ
၂၆ ၍ကြီးသောအပြစ်နှင့်မကင်းမလွတ်ရပြီ။အထက်ကဗျာဒိတ်တော်အ
သံသည်မြေကြီးကိုလှုပ်သည်ဖြစ်၍ယခုမူကားငါသည်မြေကြီးကို၎င်
၂၇ ကောင်း ကင်ကို၎င် တဖန် လှုပ်ဦး မည် ဟုဂတိတော်ရှိ၏။ တဖန်ဟူ
သောစကား၏အဓိပ္ပာယ်ကား။မလှုပ်သောအရာတို့သည်တည်ရအောင်
လှုပ်သောအရာတို့ကိုလောကီအရာကဲ့သို့ပယ် ဖျက်လိမ့်မည်ဟုဆိုလို

၂၈ သတည်း။ ထိုကြောင့်ငါတို့သည်မလှုပ်နိုင်သောနိုင်ငံကိုရသည်ဖြစ်
၍ခန့်ညားကြောက်ရွံ့သောသဘောနှင့်ဘုရားသခင် ကိုလျှောက်ပတ်
၂၉ စွာဝတ်ပြုနိုင်မည်အကြောင်း။ ကျေးဇူးတော်ကို သိကြစို့။ ငါတို့ဘု
ရားသခင်သည်လောင်သောမီးဖြစ်တော်မူ၏။

❋❋

၁။၂ ညီအစ်ကိုချစ်ခြင်း မေတ္တာ၌တည် ကြလော့။ ဧည့်သည်ဝတ်ပြု
ခြင်းအမှုကိုမမေ့လျော့ကြနှင့်။ အချို့သောသူတို့သည်ဧည့်သည်ဝတ်ကို
၃ ပြုသည် တွင်ကောင်းကင် တမန်တို့ ကို အမှတ်တမဲ့ဧည့် ခံကြပြီ။ အ
ကျဉ်းခံရသော သူတို့ နှင့် အကျကိုယ်ခံရသကဲ့သို့သူတို့ကိုအောင်းမေ့
ကြလော့။ သင် တို့သည် ကိုယ် ခန္ဓာ နှင့်မကင်းမလွတ် သောသူဖြစ်၍
၄ ညှဉ်းဆဲခံသော သူတို့ကိုအောင်းမေ့ကြလော့။ ခပ်သိမ်း သောသူတို့
၌အိမ်ထောင်ခြင်းနှင့်သစ္စာသီဝါသအမှုသည်အသရေရှိစေလော့။မတ
ရားသောမေ ရန် ကို ပြုသော သူ။သူမယား ကိုပြစ်မှားသောသူကိုဘု
၅ ရားသခင်စစ် ကြောစီရင်တော်မူလိမ့်မည်း။ ကျင့်ကြံပြုမူသမျှတို့၌
ငွေကိုတပ်မက်သောစိတ်မရှိစေ နှင့်။ ကိုယ် ၌ ရှိသောဥစ္စာနှင့် ရောင့်ရဲ
ခြင်း ရှိကြလော့။ အကြောင်းမူကား။ငါသည်သင်ကိုအလျှင်းမမေ့လျော့။
၆ အလျှင်းမပြစ်ထားဟုဂတိတော်ရှိ၏။ ထိုကြောင့်ထာဝရဘုရားသည်
ငါကိုမစတော်မူသည်ဖြစ်၍လူသည်ငါ၌ပြုနိုင်သမျှကိုငါမကြောက်ဟု
ငါတို့သည်ရဲရင့်သောစိတ်နှင့်ပြောဆိုရသောအခွင့်ရှိ၏။ ။
၇ ဘုရား သခင်၏နှုတ်ကပတ်တရား တော်ကိုသင်တို့အားဟောပြော၍
သင် တို့ကိုအုပ် သောဆရာတို့ ကိုအောင်း မေ့ကြ လော့။ သူတို့သည် အ
ဘယ် သို့ကျင့် ကြံပြုမူ ၍ ရတော့သည် ကိုစေ့စေ့ဆင် ချင်သဖြင့် သူတို့
၈ သည် ယုံကြည် သည် နည်း တူယုံကြည် ခြင်း ရှိ ကြလော့။ ယေရှုခရစ်
သည်မနေ့။ယနေ့။ နောက်ကာလအစဉ် အမြဲ မပြောင်း မလဲနေတော်မူ
၉ ၏။ အထူးထူးအပြားပြား သောအယူဝါဒသစ် ကိုလိုက်၍ မဖောက်
ပြန်ကြနှင့်။အစားများ အားမြင့်စိတ်ခိုင်ခံ့မြဲမြံခြင်းမရှိ။ကျေးဇူးတော်
အားဖြင့်ခိုင် ခံ့မြဲမြံလျှင်အကျိုး ရှိ၏။အစားများကိုအမှုထား သောသူ
၁၀ တို့သည်အကျိုးကိုမရကြပြီ။ တဲတော် ၌ ဝတ်ပြုသောသူတို့သည်မ
၁၁ စား အပ်သောယဇ် တပါးငါတို့ ၌ ရှိ၏။ အဘယ် ကြောင့်နည်းဟူမူ
ကား။ယဇ်ပရောဟိတ်မင်းသည်အပြစ် ဖြေသောယဇ်ကောင်အသွေး
ကိုသန့်ရှင်းရာဌာနတဲသို့သွင်းပြီးမှယဇ်အသေကောင်တို့ကိုတပ်ပြင်

၁၂ ဌိမီး၎ှိရ၏။ ထိုသို့နှင့်အညီယေရှုသည် မိမိအသွေးအားဖြင့်လူများ
၁၃ ကိုစင်ကြယ်စေခြင်းငှါမြို့တံခါးပြင်၌အသေခံတော်မူ၏။ သို့ဖြစ်၍
ငါတို့သည်ထိုသခင်နှင့်အတူကဲ့ရဲ့ခြင်းကိုခံ၍တပ်ပြင်။အထံတော်သို့
၁၄ ထွက်သွားကြစို့။ အဘယ်ကြောင့်နည်းဟူမူကား။ငါတို့သည်ဤဘဝ
၁၅ ၌အမြဲတည်သောမြို့မရှိ။ နောက်ဖြစ်လတံ့သောမြို့ကိုရှာကြ၏။ ထို
ကြောင့်ငါတို့သည် ဘုရားသခင်၏ ကျေးဇူးတော်ကိုဝန်ခံလျက်နှုတ်
ခမ်းအသီးတည်းဟူသောချီးမွမ်းခြင်းယဇ်ကိုသခင်ယေရှုခရစ်အားဖြင့်
၁၆ ဘုရားသခင်ရှေ့အစဉ်ပူဇော်ကြစို့။ ကျေးဇူးပြုခြင်း။ဥစ္စာဝေမျှခြင်း
အမှုတို့ကိုမမေ့လျော့ကြနှင့်။ ထိုသို့သောယဇ်ကိုဘုရားသခင်သည်
၁၇ အားရနှစ်သက်တော်မူ၏။ ။သင်တို့ကိုအုပ်သောသူတို့၏
စကားကိုနားထောင်၍နှိမ့်ချလျက်နေကြလော့။ သူတို့သည်ကိုယ်တိုင်
စစ်ကြောခြင်းကိုခံရသောသူကဲ့သို့သင်တို့စိတ်ဝိညာဉ်အကျိုးအလို
ငှါစောင့်နေကြ၏။ သင်တို့အကျိုးကိုမဖြစ်စေတတ်သောဝမ်းနည်း
ခြင်းအကြောင်းမရှိ။ ဝမ်းမြောက်ခြင်းအကြောင်းရှိ၍ သူတို့သည်စစ်
၁၈ ကြောခြင်းကိုခံရအောင်သတိပြုနေကြလော့။ ငါတို့အဖို့ဆုတောင်း
ကြလော့။ငါတို့သည် ကိုယ်ကိုကိုယ်သိသောစိတ်ကြည်လင်၍အရာရာ
၌ကောင်းမွန်စွာကျင့်နေခြင်းငှါအလိုရှိသောသူဖြစ်သည်ဟုစိတ်စွဲ
၁၉ လမ်းခြင်းရှိ၏။ ငါသည်သင်တို့ဆီသို့မြန်မြန်ပြန်သောအခွင့်ရှိစေ
ခြင်းငှါငါတို့အဖို့ဆုတောင်းမည်အကြောင်း။ငါသည်သာ၍နှိုးဆော်
၂၀ တောင်းပန်၏။ ။ထာဝရဝန်ခံခြင်းတရား၏အသွေးအား
ဖြင့်သိုးများကိုထိန်းသောသိုးထိန်းကြီးဖြစ်သောငါတို့သခင်ယေရှု
ကိုသေခြင်းမှနုတ်ဆောင်တော်မူသောငြိမ်သက်ခြင်းအရှင်။ဘုရား
၂၁ သခင်သည် မိမိနှစ်သက်တော်မူသောအမှုအရာကိုသင်တို့၌ယေရှုခ
ရစ်အားဖြင့်ပြုတော်မူ၍သင်တို့သည်အလိုတော်သို့လိုက်စေခြင်းငှါ
ကောင်းသောအကျင့်အမျိုးမျိုး၌ သင်တို့ကိုပြုပြင်တော်မူပါစေသော။
ထိုသခင်ယေရှုခရစ်သည် ကမ္ဘာအဆက်ဆက်ဘုန်းကြီးတော်မူစေ
၂၂ သတည်း။အာမင်။ ။ညီအစ်ကိုတို့။ငါသည်အကျဉ်းအား
ဖြင့်ရေးထား၍ကြားလိုက်သောဤဆုံးမခြင်းဩဝါဒစကားကိုသည်း
၂၃ ခံမည်အကြောင်း။ငါသည် သင်တို့ကိုနှိုးဆော်တောင်းပန်၏။ ငါတို့
ညီတိမောသေကိုအချုပ်သို့လွှတ်လိုက်သည်အရာကိုသိမှတ်ကြပါ။
သူသည်မျှားမကြာရောက်လျှင်သူနှင့်အတူငါလာ၍သင်တို့ကိုတွေ့

၂၄ မြင်လိမ့်မည်။ သင်တို့ကိုအုပ်သောအသူအားလုံး တို့ကို၎င်း၊ သန့်ရှင်း
သူအားလုံး တို့ကို၎င်းနှုတ်ဆက်ကြပါ။ ဣတလိပြည် သူပြည်သားတို့
၂၅ သည်သင်တို့ကိုနှုတ်ဆက်ကြ၏။ သင်တို့အားလုံး၌ကျေးဇူးတော်ဖြစ်
စေသတည်း။ အာမင်။

တမန်တော်ရှင်ပေါလုဗိရင်ရေးထားသောဟေဗြဲဩဝါဒစာပြီး၏။

---

## ။ ရှင်ယာကုပ်ဩဝါဒစာ ။

---

၁ ဘုရားသခင်နှင့်အရှင်ယေရှုခရစ်၏ကျွန်ဖြစ်သောယာကုပ်ကအရပ်ရပ်ကွဲ
ပြားသောတဆယ်နှစ်ပါးသောအမျိုးတို့ကိုမေတ္တာနှင့်ကြားလိုက်ပါ၏။
၂။၃ ငါ့ညီအစ်ကိုတို့။ သင်တို့၏ယုံကြည်ခြင်းကိုစစ်ကြောစုံစမ်းခြင်းအရာ
သည်သည်းခံခြင်းကိုပွားစေတတ်သည် ဟုသိမှတ် လျက်အထူး ထူး
အပြားပြားသောစုံစမ်းနှောင့်ရှက်ခြင်းနှင့်တွေ့ကြုံသောအခါအလွန်ဝမ်း
၄ မြောက် စရာ အကြောင်း ဖြစ် ၏ဟုမှတ် ကြလော့။ သင်တို့သည်အ
လျှင်းမချို့တဲ့။ ရုံလင်မည် အကြောင်း။ သည်းခံခြင်း စိတ်သည်ကုန် စင်
၅ အောင်ပြုပြင်ပါလေစေ။ ။သင်တို့တွင်တစုံတယောက်သော
သူသည် ပညာ လိုလျှင် ကဲ့ရဲ့ပြစ် တင်ခြင်း ကို ပြုတော်မမူ။ ခပ်သိမ်း
သောသူတို့အားစေတနာစိတ်နှင့်ပေးသနားတော်မူသောဘုရားသခင်
၆ ကိုတောင်းပါလေစေ။သို့တောင်းလျှင်ရလိမ့်မည်။ သို့ရာတွင်တွေး
တောခြင်းအလျှင်းမရှိဘဲယုံကြည်သောစိတ်နှင့်တောင်းပါလေစေ။တွေး
တောခြင်း ရှိသောသူသည် ကား လေခတ်သဖြင့် လှုပ်ရှား တတ်သော
၇ လှိုင်း တံပိုး နှင့် တူ၏။ ထိုသို့သောသူသည် ထာဝရဘုရား၏ လက်
၈ တော်မှတစုံတခုကိုရမည် ဟုမိမိမထင် မမှတ် စေနှင့်။ စိတ် နှစ် ခုရှိ
သောသူသည်မိမိကျင့်လေသမျှတို့၌တည်ကြည်ခြင်းမရှိ။ ။
၉ အောက် လျှို့ နှိမ့် ချသော ညီအစ်ကိုသည်မိမိချီး မြှောက် ခြင်း အရာ၌
၁၀ ကြွားဝါဝမ်းသာပါလေစေ။ ငွေရတတ်သော ညီအစ်ကိုသည်မိမိနှိမ့်
ချဆင်းရဲခြင်း အရာ ၌ ကြွားဝါဝမ်းသာပါလေစေ။ အကြောင်းမူကား။
၁၁ သူသည် မျက် ပွင့် ကဲ့သို့ဖောက် ပြန် ခြင်း သဘောရှိ၏။ နေသည်ပူ
သောအရှိန် နှင့် ထွက် သောအခါမျက် ပင် သည် ခွေသွေ့ခြောက် ခြင်း သို့
ရောက် ၍ အပွင့်လည်း ကြွေတတ်၏။တင့် တယ်သောအသွေး အဆင်း

ပျောက်ပျက်တတ်၏။ ထိုနည်း တူ။ ငွေရတတ်သောသူသည် မိမိအမှု
အရာတို့၌ညှိုးနွမ်ပျောက်ပျက်ခြင်းသို့ရောက်တတ်၏။
၁၂ ရုံစမ်း နှောင့်ရှက်ခြင်းကိုသည်းခံသောသူသည်မင်္ဂလာရှိ၏။ အဘယ်
ကြောင့်နည်းဟူမူကား။စစ်ကြောရုံစမ်းခြင်းကိုခံပြီးမှသခင်ဘုရားကို
ချစ် သောသူ တို့အားဂတိထားတော်မူသောအသက် သရဖူကို ရလိမ့်
၁၃ မည်။အပြစ် သွေးဆောင် ခြင်းကိုခံသောသူမည်သည်ကားဘုရားသ
ခင်သည်ငါ့ကိုသွေးဆောင်တော်မူသည် ဟူ၍မပြောစေနှင့်။ မကောင်း
သောအရာသည်ဘုရားသခင်ကိုမသွေးဆောင်နိုင်။ကိုယ်တော်သည်
၁၄ လည်းအဘယ်သူကိုမျှအပြစ်သို့သွေးဆောင်တော်မမူ။ လူတိုင်းသည်
မိမိတပ်မက်ခြင်း အားဖြင့် ဆွဲငင်ဖျားယောင်း၍ အပြစ်သွေးဆောင်
၁၅ ခြင်းသို့ရောက်တတ်၏။ တပ်မက်ခြင်းစိတ်သည်ပဋိသန္ဓေယူ ၍ ဒုစ
ရိုက်ကိုဖွားတတ်၏။ဒုစရိုက်သည်လည်းပြည့်စုံလျှင်သေခြင်း ကိုဖွား
၁၆ တတ်၏။ငါချစ်သော ညီအစ်ကိုတို့။မှားရွင်းခြင်းမရှိကြနှင့်။ ကောင်း
၁၇ မြတ်စုံလင်သောဆုကျေးဇူးရှိသမျှတို့သည်အလင်းတို့၏ အဖထံတော်
ကသက်ရောက် သည် ဖြစ် ၍ အထက်အရပ်မှလာကြ၏။ ထိုအဖသည်
ရွှေ့လျော့တိမ်းရိမ်း ခြင်း မရှိ။ ပြောင်း လဲခြင်း အရိပ် နှင့် ကင်း လွတ်
၁၈ တော်မူ၏။ ခိုမ္ပိဋကသစ္စဝါတို့တွင်ငါတို့သည်အဦးသီးသောအသီးကဲ့
သို့ ဖြစ် စေခြင်း ငှါသမ္မာ တရား စကား အားဖြင့် မိမိအလို တော်အ
၁၉ တိုင်းငါတို့ကိုဖြစ်ဖွားစေတော်မူ၏။ ။သို့ဖြစ်၍ငါချစ်
သော ညီအစ်ကိုတို့။လူတိုင်းသည်နားကြားခြင်းငှါလျင်မြန်ပါလေစေ။
၂၀ စကားပြောခြင်းငှါရင် အမျက်ထွက်ခြင်း ငှါရင်နှေးပါလေစေ။ လူ၏
ဒေါသအမျက်သည် ဘုရား သခင်၏ဖြောင့်မတ် ခြင်းတရား ကိုမပြုရ
၂၁ တတ်။ ထိုကြောင့်ခပ်သိမ်းသောညစ်ညူးခြင်း။မနာလိုသောစိတ်လွန်
ကျူးခြင်းကိုပယ်ရှား၍သင်တို့စိတ်ဝိညာဉ်ကိုကယ်တင်နိုင်သော။အ
ထဲ၌စိုက်ပျိုးအပ်သောနှုတ်ကပတ်တရားကိုနူးညံ့သိမ်မွေ့သောစိတ်နှင့်
၂၂ ခံယူကြလော့။ ကိုယ်ကိုကိုယ်လှည့်စား၍နှုတ်ကပတ်တရားကိုနာရုံသာ
၂၃ ပြုသောသူမဟုတ်။တရားကိုကျင့်သောသူဖြစ်ကြလော့။ တရားကိုမ
ကျင့်ဘဲနာရုံသာပြုသောသူမည်သည်ကားမှန်၌မိမိပကတိမျက်နှာကို
၂၄ ကြည့် သော သူ နှင့် တူ၏။ အဘယ်ကြောင့်နည်း ဟူမူကား။ကိုယ်ကို
ကိုယ်ကြည့် ပြီးမှအချားသို့သွား ၍ မိမိအဆင်းသဏ္ဌာန် ကိုချက်ချင်း
၂၅ မေ့လျော့တတ်၏။ လွတ်ခြင်း နှင့်စပ်ဆိုင်၍စုံလင်သောတရား၌စေ့စေ့

ကြည့်ရှု၍ တည် ကြည် သော သူသည်ကားတရားနာ ၍ မေ့လျော့သေ
သူမဟုတ်။အကျင့်ကျင့်သော သူဖြစ်သဖြင့်မိမိကျင့် သောအကျင့်၌မ
၂၆ င်္ဂလာ ရှိသော သူဖြစ်၏။ ။အကြွင်သူသည် မိမိနှုတ်ကိုမ
ချုပ်တည်း။မိမိနှစ်လုံးကိုလှည့်စားလျက်သီလဆောက်တည်ဟန်ပြု၏။
၂၇ ထိုသူ၏သီလသည်အချည်းနှီးသက်သက်ဖြစ်၏။ ခမည်းတော်ဘုရား
သခင်ရှေ့၌စင်ကြယ်သန့်ရှင်း သောသီလဟူမူကား။မိဘမရှိသော သူ
ငယ်တို့နှင့်မုတ်ဆိုး မတို့သည်ဆင်း ရဲခံသောအခါသူတို့ကိုကြည့် ရှုပြု
စု ၍ ကိုယ် တိုင် လည်း လောကီအညစ် အကြေးနှင့် ကင်း စင် ရအောင်
စောင့်ရှောက်ခြင်းပေတည်း။



၁ ငါညီအစ်ကိုတို့။ ဘုန်းကြီး တော်မူသောငါတို့သခင် ယေရှုခရစ်ကိုရို
၂ ကြည်ခြင်းအမှုမှာလူမျက်နှာကိုထောက်ခြင်းမရှိစေနှင့်။ ရွှေလက်စွပ်
နှင့်တင့် တယ်သော အဝတ်ကို ဝတ်ဆင် သော သူတဦး။ ညစ် သောအ
ဝတ်ကို ဝတ် ၍ ဆင်း ရဲသော သူတဦး။ နှစ်ဦး တို့သည်သင် တို့တရား
၃ ဇရပ်ထဲသို့ဝင် သောအခါ တင့်တယ်သောအဝတ်ကိုဝတ်ဆင်သော
သူကိုကြည့်၍ သည် မှာကောင်းမွန် စွာထိုင် ပါတော့ဟူ၍ငင် ဆင်းရဲ
သော သူကိုဟိုမှာနေတော့။ သို့မဟုတ်။ ဤအရပ်မှာငါခြေတင်ခုံအော
၄ က်၌ထိုင်တော့ဟူ၍ငင် သင်တို့သည်ပြောဆိုလျှင်တဖက်ငဲ့ကွက်သော
စိတ်ရှိ၍မကောင်း သောအကြံအစည် နှင့်စီရင်သော သူဖြစ်ကြသည်မ
၅ ဟုတ်လော။ ငါချစ်သော ညီအစ်ကိုတို့။နားထောင်ကြပါ။လောကတွင်
ဆင်းရဲသော သူတို့သည် ယုံကြည်ခြင်း ရတနာကိုရတတ် ရအောင် ငင်
ဘုရားသခင် ကို ချစ် သော သူတို့အားပေးမည်ဟုဝန် ခံတော်မူသော
နိုင်ငံတော်၏အမွေခံဖြစ်ရအောင်ငင်ထိုသူတို့ကိုရွေး ကောက်တော်မူ
၆ သည်မဟုတ်လော။ သင်တို့သည်ဆင်းရဲသော သူကိုမထီမဲ့မြင်ပြုကြ
သည်တကား။ငွေရတတ်သော သူတို့သည်သင်တို့ကိုညှဉ်းဆဲနှိပ်စက်
ကြသည် မဟုတ် လော။ တရား ပလ္လင် ရှေ့သို့ဆွဲငင် ကြသည် မဟုတ်
၇ လော။ သင်တို့ကိုထပ်ဆင့်၍ခေါ်ဝေါ်အပ်သောနာမတော်မြတ်ကိုသူ
၈ တို့သည်ကဲ့ရဲ့ကြသည်မဟုတ်လော။ ။ကိုယ်နှင့်စပ်
ဆိုင်သော သူကိုကိုယ်နှင့်အမျှချစ်လော့ဟုကျမ်းစာ၌ပါသောရွှေပညတ်
တော်ကိုသင်တို့သည်စောင့်ရှောက်လျှင်ကောင်းသောအကျင့်ကိုကျင့်
၉ ရာရောက်ပေ၏။ သို့မဟုတ်။လူမျက်နှာကိုထောက်လျှင်ဒုစရိုက်ကိုပြု

သောသူဖြစ်ကြ၏။ တရားကိုလွန်ကျူးသောသူဟုပညတ်တော်အား
၁၀ ဖြင့်ထင်ရှားဖြစ်ကြ၏။ အဘယ်သို့နည်းဟူမူကား။ပညတ်တရားအါး
လုံးကိုစောင့်ရှောက်သည်တွင်တစုံတခုၡ်မှားလျှင်ပညတ်တရားအား
၁၁ လုံးကိုလွန်ကျူးသောအပြစ်ရှိ၏။ သူမယားကိုမပြစ်မှားနှင့်ဟုပ
ညတ်တော်မူသောသူကလူအသက်ကိုမသတ်နှင့်ဟုပညတ်တော်မူ
သေး၏။သို့ဖြစ်၍သင်သည်သူမယားကိုမပြစ်မှားဘဲနေသော်လည်း
လူအသက်ကိုသတ်လျှင်ပညတ်တရားကိုလွန်ကျူးသောသူဖြစ်၏။
၁၂ လွှတ်ခြင်းတရားအတိုင်းစီရင်ခြင်းကိုခံရလတံ့သောသူကဲ့သို့စကား
၁၃ ပြောခြင်း။အမှုပြုခြင်းကိုစီရင်ကြလော့။ ကရုဏာမရှိသောသူသည်
ကရုဏာမရဘဲတရားစီရင်ခြင်းကိုခံရလိမ့်မည်။ ကရုဏာသည်တ
၁၄ ရားစီရင်ခြင်းကိုအောင်၍ကြွားဝါတတ်၏။ ။ငါ့ညီအစ်
ကိုတို့။မည်သူကငါသည်ယုံခြင်းရှိ၏ဟုအကျင့်ကိုမကျင့်လျှက်ပင်ဆို
လျှင်အဘယ်အကျိုးရှိသနည်း။ယုံခြင်းသည်ထိုသူကိုကယ်တင်နိုင်သ
၁၅ လော။ ညီအစ်ကိုနှစ်မတို့သည်အဝတ်အချည်းစည်းရှိ၍နေ့တိုင်းစား
၁၆ ရသောအစာမရှိသောအခါ သင်တို့တွင်တစုံတယောက်သောသူက
ညီမ်ဝပ်စွာသွားကြလော။နွေးနွေးနေကြလော။ဝကြလောဟုဆိုလျှက်သူတို့
ကိုယ်နှင့်တော်လျော်သောအသုံးအဆောင်ကိုမပေးလျှင်အဘယ်အ
၁၇ ကျိုးရှိသနည်း။ ထိုနည်းတူ။အကျင့်နှင့်ကင်းသောယုံခြင်းသည်တပါး
၁၈ တည်းနေသောကြောင့်အသေဖြစ်၏။ တနည်းကား။သင်သည်ယုံခြင်းရှိ
၏။ငါသည်အကျင့်ရှိ၏။သို့ဖြစ်၍သင်သည်အကျင့်မရှိဘဲသင်၏ယုံ
ခြင်းကိုပြတော့။ငါမူကားအကျင့်အားဖြင့်ငါ့ယုံခြင်းကိုပြမည်ဟုပြော
၁၉ စရာရှိ၏။ ဘုရားသခင်တဆူတည်းရှိသည်ဟုသင်သည်ယုံ၏။ကောင်း
ပေ၏။နတ်ဆိုးတို့သည်ယုံ၍ကြောက်ရွံ့တုန်လှုပ်ကြ၏။ ။
၂၀ လျှပ်ပေါ်သောလူ။အကျင့်မရှိလျှင်ယုံခြင်းသည်အသေဖြစ်၏ဟုသင်
၂၁ သည်သိချင်သလော။ ငါတို့အဘအာဗြဟံသည်မိမိသားဣဇာက်ကို
ယဇ်ပလ္လင်ပေါ်မှာတင်လှူပူဇော်၍အကျင့်အားဖြင့်ဖြောင့်မတ်ရာသို့
၂၂ ရောက်သည်မဟုတ်လော။ ယုံကြည်ခြင်းသည်အကျင့်နှင့်အတူပြုပြင်
၂၃ ၍အကျင့်အားဖြင့်စုံလင်သည်ကိုသိမြင်သလော။ အာဗြဟံသည်ဘု
ရားသခင်ကိုယုံကြည်သည်ဖြစ်၍သူ၏ယုံကြည်ခြင်းကိုဖြောင့်မတ်ခြင်းကဲ့သို့
မှတ်တော်မူ၏ဟူသောကျမ်းစကားပြည့်စုံလေ၏။ အာဗြဟံသည်
၂၄ လည်းဘုရားသခင်၏အဆွေဟူ၍ခေါ်ဝေါ်ခြင်းကိုခံလေ၏။ လူသည်

ရုံခြင်း အား ဖြင့် သာကုသိုလ် ရှိရာသို့ရောက်သည် မဟုတ်။ အကျင့်
၂၅ အား ဖြင့် ရောက် သည်ကို သင် တို့သိမြင် ရကြ၏။ ထိုနည်းတူ။ ပြည့်
တန်ဆာ ရာခပ်သည့် တမန် တို့ကိုလက်ခံပြီး မှအချားသောလမ်ဖြင့်လွှ
တ်လိုက် ၍ အကျင့် အားဖြင့် ကုသိုလ် ရှိရာသို့ ရောက် သည် မဟုတ်
၂၆ လော။ ဝိညည် ကင်းသော ကိုယ် သည်အသေဖြစ်သကဲ့သို့အကျင့် နှင့်
ကင်းသောရုံခြင်းသည်အသေဖြစ်၏။



၁ ငါညီအစ် ကိုတို့။ ငါတို့သည် သာ ၍ ကြပ်တည်း သော စစ် ကြော စီရင်
၂ ခြင်းကို ခံရမည် ဟုသင်တို့သိ ၍ အများ သောဆရာ မဖြစ်ကြနှင့်။ ငါ
တို့အားလုံးသည်အများသောအား ဖြင့်မှားတတ်၏။ စကားအားဖြင့်
မှားခြင်းမရှိသောသူမည်သည်ကားစုံလင် သော သူဖြစ်၏။မိမိကိုယ်
၃ အားလုံး ကို ချုပ်တည်းနိုင်သောသူဖြစ်၏။ မြင်းကို နိုင်ရအောင်ပ
၄ စပ်ကိုဇက်ခွံ့တတ်၏။သို့ပြု၍မြင်းတကိုယ်လုံးကိုလှည့်တတ်၏။ ထို
မှတပါး။ အဘယ် မျှလောက်ကြီးသောသင်္ဘောကိုပြင်း စွာသောလေ
ဖြင့် ဆောင် သွား သော်လည်း တက်မကိုင်အလို ရှိသည် အတိုင်း ငယ်
၅ သောတက်မဖြင့်လှည့်တတ်၏။ ထိုနည်းတူ။ လျှာသည်ငယ် သောအ
ဂါ်ဖြစ် သော်လည်း အလွန် ကြွား ဝါတတ်၏။ အဘယ် မျှလောက် ကြီး
သောထင်းပုံကို အနည်း ငယ် သောမီး သည် ညှိနိုင်သည် ကိုကြည့်ပါ
၆ လော့။ လျှာသည်မီးဖြစ်၏။ဒုစရိုက် တန်ဆာလည်းဖြစ်၏။ ထိုသို့နှင့်
အညီလျှာသည် အချားသောအဂါ်များ ထဲမှာ ရှိနေ ၍ တကိုယ်လုံးကို
ညစ်ညူးစေ၏။ပကတိစက်ကိုလောင်၏။ငရဲဖြင့်မိမိကိုပင်လောင်၏။
၇ သားရဲမျိုး။ငှက်မျိုး။တွားတတ်သောတိရစ္ဆာန်မျိုး။ငါးမျိုးတို့ကိုလူမျိုး
၈ သည်အောင်တတ်သည်အတိုင်းအောင်ခဲ့ပြီး။ လျှာကိုကားအဘယ်လူ
မျှမအောင် နိုင်။ မဆုမ္မ နိုင်သောအ ဆိုး အညစ် ဖြစ် ၏။ သေစေတတ်
၉ သောအဆိပ်အတောက် နှင့် ပြည့် စုံ၏။ ငါတို့သည် လျှာဖြင့် ခမည်း
တော်ဘုရားသခင် ကိုကောင်းကြီးပေးတတ်ကြ၏။ဘုရားသခင်၏ပုံ
သဏ္ဌာန်တော်နှင့် အညီ ဖန် ဆင်း သောလူ တို့ ကို လျှာ ဖြင့် ကျိန် ဆဲ
၁၀ တတ်ကြ၏။ နှုတ်တပါးတည်း အထဲကထောမနာချီးမွမ်းခြင်းနှင့်ကျိန်
ဆဲခြင်းထွက်တတ်သည်တကား။ ငါညီအစ်ကိုတို့။ထိုသို့မဖြစ်ကောင်း
၁၁ ရာ။ စမ်း ရေပေါက်တပေါက်တည်းအထဲကချိုသောရေ နှင့်ခါးသော
၁၂ ရေထွက်တတ်သလော။ ငါညီအစ်ကိုတို့။တည်း ပင်သည်သံလွင်သီး

၁၃ ကိုသီး နိုင်သလော။ ပျဉ်ပင်သည် တည်း သီးကိုသီး နိုင်သလော။ ထိုအ
၁၄ တူ ငန်သောရေသည် ချိုသောရေကိုဖြစ်စေ နိုင်။ သင်တို့တွင်အတတ်အထိ
မြော နှင့် ပြည့်စုံသောပညာရှိမည်မှုရှိလျှင်ထိုသူသည်ပညာ၏နူးညံ့
သိမ် မွေ့ခြင်းနှင့် တကွကောင်း မြတ် သောကျင့်ကြံပြုမူခြင်း အားဖြင့်
မိမိအမှုအိုကိုပြပါလေ။ သို့မဟုတ်၊ သင်တို့စိတ်ထဲမှာခါးစွာသော
ငြူစူခြင်း ရန်တွေ့ခြင်းရှိလျှင် သမ္မာတရားကိုမုသာဖြင့်ဆန့်ကျင်
၁၅ မကြွားဝါကြနှင့်။ ထိုသို့သော ပညာသည် အထက်မှသက်ရောက်သော
ပညာမဟုတ်၊ မြေကြီးပညာ၊ ပကတိပညာ၊ နတ်ဆိုးပညာဖြစ်၏။
၁၆ အဘယ်ကြောင့်နည်းဟူမူကား၊ ငြူစူခြင်း ရန်တွေ့ခြင်းရှိလျှင်မ
ညီမညွတ်ရှုပ်ရှက်ခြင်း၊ ဆိုးညစ်စွာပြုမူခြင်းအမျိုးမျိုးရှိတတ်၏။
၁၇ အထက်မှသက်ရောက်သောပညာမူကား၊ ရှေးဦးစွာစင်ကြယ်၏၊ ထိုမှ
တပါး၊ အသင့်အတင့်နေတတ်၏၊ ဖြည်းညှင်းသောသဘောရှိ၏၊ သွေး
ဆောင်လွယ်၏၊ ကရုဏာနှင့်ရင်ကောင်းကျိုးနှင့်ဇင်ပြည့်စုံ၏၊ လျှစ်လျူ
၁၈ သောစိတ်ရှိ၏၊ လျှို့ဝှက်ခြင်းနှင့်ကင်းစင်၏။ အသင့်အတင့်နေအောင်
ပြုစုတတ်သောသူတို့သည်ဖြောင့်မတ်ခြင်းတရားမျိုးစေ့ကိုညီမ်သက်
စွာကြဲတတ်ကြ၏။

❋❋

၁ သင်တို့တွင်စစ်တိုက်ခြင်း၊ ရန်တွေ့ခြင်း တို့သည် အဘယ် အကြောင်း
ကြောင့်ဖြစ်သနည်း။ သင်တို့အင်္ဂါများ၌စစ်ပြိုင်သောကိလေသာကာမ
၂ စိတ်ကြောင့်ဖြစ်သည်မဟုတ်လော။ သင်တို့သည်တပ်မက်၍မရ။ လူ
အသက်ကိုသတ်၍ဇင်အလွန်လိုချင်သောလောဘစိတ်ရှိ၍ ဇင်အလိုမ
ပြည့်စုံ နိုင်ကြ။ ရန်တွေ့ခြင်း၊ စစ်တိုက်ခြင်းကိုပြု၍မရ။ အဘယ်ကြော
၃ င့်နည်း ဟူမူကား၊ ဆုမတောင်းဘဲနေကြ၏။ ဆုတောင်းလျှင်လည်း
ကာမဂုဏ်ခံစားစရာ ဘို့ ရှိရအောင်အလွဲတောင်း သောကြောင့်မရ
၄ ကြ။ မတရားသောမေရန်၌မှီဝဲသောယောကျ်ားမိန်းမတို့။ လောကီမိဿ
ဟာယသည်ဘုရားသခင်နှင့်ဆန့်ကျင်ဘက်ဖြစ်သည်ကိုသင်တို့မသိ
လော။ လောကီနှင့်မိဿဟာယဖွဲ့လိုသောသူသည်ဘုရားသခင်၏ရန်
၅ သူဖြစ်၏။ ကျမ်းစာချက်အချည်းနှီးသက်သက်ဖြစ်သည်ဟူ၍ဇင်ငါတို့
၌တည်နေသောဝိညာဉ်တော်သည် ညူစူစေချင်သောသဘောရှိသည်
၆ ဟူ၍ဇင်သင်တို့ထင်သလော။ ထိုဝိညာဉ် တော်သည် သာ၍ များသော
ကျေးဇူး ကို ပြုတော်မူ၏။ ထိုသို့ နှင့် အညီကျမ်းစာလာသည် ကား

ထောင်လွှား စော်ကား သော သူတို့ ကိုဘုရားသခင် ဆီး တားတော်မူ
၏။စိတ်နှိမ့်ချသော သူတို့အားကျေးဇူးပြုတော်မူ၏ဟုလာသတည်း။
၇ ။ထို့ကြောင့်ဘုရားသခင်အလိုတော်သို့လိုက်ကြလော့။
မာရ်နတ်ကို ဆီး တား ကြလော့။သို့ပြုလျှင် သူသည်သင် တို့ဆီကပြေး
၈ သွားလိမ့် မည်။ ဘုရားသခင်၌ချဉ်းကပ်ကြလော့။ သို့ပြုလျှင်သင်
တို့၌ချဉ်းကပ်တော်မူလိမ့် မည်။အပြစ် ရှိသော သူတို့။သင်တို့လက်ကို
စင်ကြယ်စေကြလော့။စိတ်နှစ် ခုရှိသော သူတို့။ သင်တို့စိတ် နှလုံးကို
၉ သန့်ရှင်း စေကြလော့။ ဆင်းရဲညှိုးငယ်ခြင်း။ စိတ်မသာညည်းတွား
ခြင်းငိုကြွေးမြည်တမ်ခြင်း ရှိကြလော့။ သင်တို့ရယ်ခြင်းသည် စိတ်မ
သာညည်းတွားခြင်းဖြစ်စေကြလော့။ ဝမ်းမြောက်ခြင်းလည်းဝမ်းနည်း
၁၀ ခြင်းဖြစ် စေကြလော့။ ဘုရားသခင် ရှေ့တော် ၌ ကိုယ်ကိုကိုယ် နှိမ့်
၁၁ ချကြလော့။သို့ပြုလျှင်သင်တို့ကိုချီး မြှောက်တော်မူလိမ့်မည်။ ညီအစ်
ကိုတို့။ အချင်းချင်းတယောက်ကိုတယောက်ကဲ့ရဲ့ခြင်း ကိုမပြုကြနှင့်။
ညီအစ်ကိုချင်းကိုကဲ့ရဲ့၍သူ၌အပြစ်ရှိသည်ဟုစီရင်သော သူသည်တ
ရားကိုကဲ့ရဲ့၏။တရား၌ အပြစ် ရှိသည်ဟုစီရင်၏။ ထိုသို့ ပြုလျှင်သင်
သည်တရားကို ကျင့်သော သူမဟုတ်။ တရားကိုစစ် ကြောစီရင်သော
၁၂ သူဖြစ်၏။ ပညတ်တရား ကိုထားပိုင် သော သူ။စစ် ကြောစီရင်ပိုင်
သော သူတပါး တည်း ရှိတော်မူ၏။ ထိုသူသည် ကယ်တင်ခြင်း ငှါရင်
ဖျက်ဆီး ခြင်းငှါရင်တတ်နိုင်တော်မူ ၏။ သူတပါးကိုစစ် ကြောစီရင်
၁၃ သော သူ။သင်သည်ကားအဘယ်သူနည်း။ ။ယနေ့နက်
ဖန် ၌ မည်သောမြို့သို့သွား ကြစို့။ ထိုမြို့ ၌ တနှစ်ပတ်လုံးနေ၍ကုန်
သွယ် သဖြင့် အမြတ် ရကြစို့ဟုဆို တတ် သော သူတို့။ နားထောင်ကြ
၁၄ လော့။ နက်ဖန်နေ့အဘယ်သို့ဖြစ်မည်ကိုသင် တို့မသိကြ။သင် တို့အ
သက်သည်ဘာနှင့်တူသနည်း။ ခဏထင်ရှားပြီးမှကွယ်ပျောက်တတ်
၁၅ သောအခိုးအငွေ့ နှင့် တူ၏။ ထာဝရဘုရား အလိုတော်ရှိ ၍ ငါတို့အ
သက် ရှင်လျှင်၌သို့ပြုကြစို့။ ထိုသို့ ပြုကြစို့ဟုသင် တို့ဆိုသင့် ရာဖြစ်
၁၆ ၏။ ယခုသင်တို့သည်မိမိထောင်လွှားခြင်း၌ ကြွားဝါကြသေး၏။ထို
၁၇ သို့သောကြွား ဝါခြင်း သည်မကောင်း မသင့် ဖြစ်၏။ ထို ကြောင့်
ကောင်း သော အကျင့်ကို သိလျက် မကျင့်ဘဲနေသော သူသည်အပြစ်
ရှိ၏။

❋❋

၁ အချင်း သဌေးသူကြွယ် တို့။ ယခုလာကြ။ သင် တို့အပေါ်၌ ရောက်ရ
၂ သောဆင်း ရဲဒုက္ခဝေဒနာကြောင့် ငိုကြွေး အော်ဟစ် ကြ။ သင် တို့ပ
စ္စည်းဥစ္စာသည်ပုပ်စပ်လျက်ရှိ၏။အဝတ်ကိုလည်းပိုးကိုက်စားပြီး။
၃ ရွှေငွေလည်းအချေးတက် ၍ ပျက်ကုန်ပြီး။ ထိုအချေးသည် သင်တို့တ
ဖက် ၌ သက်သေဖြစ် ၍ မီးကဲ့သို့သင် တို့အသား ကိုစား လိမ့် မည်။
၄ နောက်ဆုံးနေ့ရက်ကာလအဖို့ဘဏ္ဍာကိုဆည်းဘူးကြပြီး။ နားထောင်
ကြ။သင်တို့လယ်ကွက်၌ရိတ်သောသူတို့ကိုလှည့်စား၍အခမပေးဘဲ
နေသောကြောင့် ထိုအခသည် ကြွေး ကျော်လေ၏။ရိတ်သောသူတို့၏
အော်ဟစ် ခြင်း အသံသည်လည်း ကောင်းကင်တန်ခိုးများကိုအစိုးရ
၅ တော်မူသောထာဝရ ဘုရား၏ နားတော် ထဲသို့ဝင် လေပြီး။ သင်တို့
သည်မြေကြီး ပေါ်မှာကာမဂုဏ်ခံစား ၍အလွန်ပျော်မွေ့ကြပြီး။ယဇ်
၆ ပူဇော်သောနေ့၌ကဲ့သို့မိမိတို့ နှ^လုံးကိုမွေး မြူကြပြီး။ ဖြောင့်မတ်
သောသူကိုအပြစ်စီရင်၍ကွပ်မျက်ကြပြီး။သူသည်လည်း သင်တို့ကိုမ
၇ ဆီးတား။ ။ထိုကြောင့်ညီအစ်ကိုတို့။သခင်ဘုရားကြွလာ
တော်မူသည် တိုင်အောင်သည်း ခံလျက် စောင့်နေကြလော့။အကယ်၍
လယ် လုပ် သောသူသည် အရင်မိုးဃ်း။ နောက်မိုးဃ်း ကို ရသည် တိုင်
အောင်အဖိုးထိုက် သောမြေအသီး ကို သည်း ခံလျက်စောင့်နေ၍မျှော်
၈ လင့်တတ် ၏။ သင်တို့သည်လည်း သည်းခံလျက် စောင့်နေကြလော့။
ကိုယ် စိတ် နှ^လုံး ကိုမြဲမြံစေကြလော့။ သခင် ဘုရား ကြွလာ တော်မူ
၉ သောအချိန်ရောက်လုနီးပြီး။ ညီအစ်ကိုကို့။အပြစ်စီရင်ခြင်းကိုမခံရ
အောင်အချင်းချင်းညည်းချုပြစ်တင်ခြင်းကိုမပြုကြနှင့်။တရားစီရင်ပိုင်
၁၀ သောသူသည်တံခါးနားမှာရှိတော်မူ၏။ ငါညီအစ်ကိုတို့။ထာဝရဘု
ရား၏အခွင့်နှင့်ဟောပြောသောပရောဖက်တို့သည် ဆင်းရဲဒုက္ခတွေ့
၁၁ ခြင်း။သည်းခံခြင်းပုံသက်သေကိုပြုကြပြီးဟုမှတ်ကြလော့။ သည်းခံ
နိုင် သောသူ တို့သည် မင်္ဂလာရှိ သောသူဟု ၍ ငါတို့ခေါ်ဝေါ်တတ်၏။
ယောဘသည်းခံကြောင်းကိုသင်တို့ကြားရပြီး။ထာဝရဘုရားသည်မိ
မိအမှု ကို လက် စသတ် တော် မူရာမှာ အလွန် သနား စုံမက် တော်မူ
၁၂ ကြောင်းကိုသိမြင်ရပြီး။ ။ငါညီအစ်ကိုတို့။အမှုအရာခပ်
သိမ်းတို့တွင်ကျိန်ဆိုခြင်းကိုသာ၍ရှောင်ကြလော့။ကောင်းကင်ဘုံကို
တိုင်တည်၍မကျိန်နှင့်။မြေကြီးကိုတိုင်တည်၍မကျိန်နှင့်။ထိုမှတပါး

အဘယ်အကျိန်အားဖြင့်မျှမကျိန်နှင့်။အပြစ်စီရင်ခြင်းကိုမခံရအောင်
သင်တို့စကားမှာဟုတ်သည်ကိုအဟုတ်။မဟုတ်သည်ကိုမဟုတ်။ဖြစ်
၁၃ စေကြလော့။ ။သင်တို့တွင်ဆင်းရဲသောသူရှိလျှင်ဆု
တောင်းပါလေစေ။ ရွှင်လန်းသောသူ ရှိလျှင်ဆာလံသီချင်း ကို ဆိုပါ
၁၄ လေစေ။ နာသောသူရှိလျှင် သင်း အုပ်တို့ကိုခေါ်၍ သူတို့သည်သခင်
ဘုရား၏နာမ ‌တော်ကိုအမှီပြု လျက်လူနာကိုဆီနှင့်လူး၍သူ့အပေါ်မှာဆု
၁၅ တောင်းပါလေစေ။ သို့ပြုလျှင်ရုံကြည်ခြင်း၏ပဌနာသည် လူနာကို
ကယ်ဆယ်၍သခင်ဘုရားသည် သူ့ကိုထမြောက်စေမည်။သူသည်အ
၁၆ ပြစ်ပြုမိသော်လည်း ထိုအပြစ်ကိုလွှတ်တော်မူမည်။ အချင်းချင်းတ
ယောက်နှင့် တယောက် ကိုယ်အပြစ် ကို ဖော်ပြတောင်း ပန်ကြလော့။
ချမ်း သာရမည် အကြောင်း။ အချင်း ချင်းတို့အမှို့ဆုတောင်း ကြလော့။
စိတ်ထဲမှာပြုပြင် တော်မူသောအားဖြင့် သူတော်ကောင်းပြုသောပဌ
၁၇ နာသည်အလွန်တတ် နိုင်၏။ ဧလိယသည်ငါတို့ကဲ့သို့လူ့ဇာတိရှိသော
သူဖြစ် သော်လည်း မိုးမ ရွာမည် အကြောင်း။ကြပ်ကြပ်ဆုတောင်း
သော အခါ သုံး နှစ် နှင့်ခြောက် လပတ် လုံး မြေပေါ် သို့ မိုးမရွာဘဲ
၁၈ နေ၏။ တဖန်ဆုတောင်းသောအခါမိုးကောင်းကင်သည်မိုးရွာ
၁၉ စေ၏။မြေကြီးသည်လည်းမိမိအသီးကိုသီးလေ၏။ ။ညီ
အစ် ကိုတို့။ သင် တို့တွင် မည် သော သူသည် သမ္မာတရား လမ်း မှလွဲ
၂၀ သွား၍သူတပါးသည်ထိုသူကိုပြန်စေလျှင်မူကား အပြစ်ရှိသောသူ
ကို မှား ရှင်း သောလမ်းမှပြန် စေသော သူသည် ဝိညာဉ်ကိုသေခြင်းမှ
ကယ်တင် ၍ များ စွာသောအပြစ်တို့ကို ဖုံးအုပ် သည် ဟုထိုသူသိမှတ်
ပါလေစေ။

။ရှင်ယာကုပ်ဩဝါဒစာပြီး၏။

---

။ရှင်ပေတရုဩဝါဒစာပဌမစောင်။

---

အ၊၂ ယေရှုခရစ်၏တမန်တော်ငါပေတရုကနေရာသောင်ခြင်းကျေးဇူး။ ယေ
ရှုခရစ်၏အသွေးတော်နှင့်ဖျန်းခြင်းကျေးဇူးကိုခံရမည်အကြောင်း။ဝိ
ညာဉ် တော်အား ဖြင့်သန့်ရှင်း ခြင်း သို့ရောက် ၍ ခမည်း တော်ဘုရား
သခင်၏အနာဂတံသညာဏ်တော်အတိုင်းရွေးကောက်တော်မူသော

သူတည်း ဟူသော။ ပုန္တုပြည်။ ဂလာတိပြည်။ ကပ္ပဒေါကိပြည်။ အာရှိ
ပြည်။ ဗိသုနိပြည်။ အရပ်ရပ်ကွဲပြားသော ဇြွေသည်အာဂန္တုတို့ကိုကြား
လိုက်ပါ၏။ ကျေးဇူးတော်နှင့်ငြိမ်သက်ခြင်းသင်တို့၌ များပြားပါစေ
၃ သော။ ။အသက်ရှင်ခြင်းနှင့်စပ်ဆိုင်သောမျှော်လင့်ခြင်း
သို့ရောက်စေမည်အကြောင်း။ ဖောက်ပြန်ခြင်း။ ညစ်ညူးခြင်း။ ညှိုးနွမ်း
ခြင်းနှင့်ကင်းစင်သောအမွေတော်ကိုငါတို့သည်ခံရစေမည်အကြောင်း။
ယေရှုခရစ်ကိုသေခြင်းမှထမြောက်စေတော်မူသော အား ဖြင့် ကြီး
စွာ သောကရုဏာ တော် နှင့် အညီငါတို့ကိုတဖန် ဖြစ် ဖွား စေတော်မူ
သောငါတို့သခင်ယေရှုခရစ်၏ခမည်းတော်ဘုရားသခင်အားမင်္ဂလာ
၄။၅ ဖြစ်စေသတည်း။ ထိုအမွေတော်သည် ကားနောက်ဆုံးကာလ၌ထင်
ရှားရအောင်ပြင်ဆင်သောကယ်တင်ခြင်းသို့ရောက် စေခြင်း အလို ငှါ
ယုံကြည်ခြင်းအားဖြင့်ဘုရားသခင်၏တန်ခိုးတော်သည်စောင့်ရှောက်
တော်မူသောငါတို့အဖို့ကောင်းကင်ဘုံ၌ သိုထား လျက် ရှိသော အမွေ
၆။၇ တည်း။ အရည်ကို ၍ စုံစမ်း ခြင်းကို ခံနိုင်သော်လည်းပျက် စီးတတ်
သောရွှေကိုစစ်ကြောစုံစမ်းခြင်းထက်သင်တို့ယုံကြည်ခြင်းကိုစစ်ကြော
စုံစမ်းခြင်း အရာသည်သာ၍မြတ်သည်နှင့်ယေရှုခရစ် ပေါ်ထွန်း တော်
မူသောအခါအချီးအမွမ်း။ ဂုဏ်အသရေ။ ဘုန်း အာနုဘော်အလို ငှါဖြစ်
မည်အကြောင်း။ အထူးထူးအပြားပြား သေါစုံစမ်း နှောင့်ရှက်ခြင်းကို
ခံရသောအကြောင်း ရှိသျှင်သင်တို့သည် ယခုခဏခံ၍ဝမ်းနည်းသော်
လည်းအထက်ဆိုခဲ့ပြီးသောကျေးဇူးတော်ကိုထောက်၍ရွှင်လန်းသော
၈ စိတ်ရှိကြ၏။ ထိုသခင်ကိုသင်တို့သည်မမြင်ဘူးသော်လည်းချစ်ကြ
၏။ ယခုမှာလည်းမမြင်ဘဲလျက်ယုံကြည်သောအားဖြင့်ဘုန်း အသရေ
နှင့်စပ်ဆိုင်သော။ ပြော ၍မမှီ နိုင်သောရွှင်လန်းခြင်းစိတ်နှင့်ဝမ်းမြော
၉ က်ကြသည်ဖြစ်၍ စိတ်ဝိညာဉ်ကယ်တင်ခြင်း တည်းဟူသောယုံကြည်
၁၀ ခြင်း၏အကျိုးကိုခံရကြ၏။ ။ထိုကယ်တင်ခြင်းအကြောင်းအ
ရာကိုပရောဖက်တို့သည်စေ့စေ့စစ်ကြောမေးမြန်းရှာဖွေ ၍ သင်တို့ခံ
၁၁ ရသောကျေးဇူးတော်အကြောင်းကိုဟောပြောကြပြီး။ ခရစ်တော်ခံ
တော်မူရသောဆင်းရဲကို၎င် ဆင်းရဲခံပြီးမှဝင်စားတော် မူရသော
ဘုန်းစည်းစိမ်ကို၎င်သူတို့အထဲ၌ရှိသောခရစ်တော်၏ ဝိညာဉ် သည်
သက်သေခံ နှင့်သောအခါအဘယ်မည်သော သူကို၎င်အဘယ်သို့သော
၁၂ အချိန်ကာလကို၎င်ဆိုလိုတော်မူသည်ဟုမေးမြန်းရှာဖွေကြ၏။ ကိုယ်

ဟောပြောပြုရသောအရာများ တို့သည် ကိုယ် ဖို့မဟုတ်။သင်တို့အဖို့
ဖြစ်သည်ဟုထိုသူတို့အား ဖွင့်ပြတော်မူ၏။ကောင်းကင်ဘုံမှစေလွှတ်
တော်မူသောသန့်ရှင်းသောဝိညာဉ် တော်ပါလျက်သင်တို့အားဧဝံဂေ
လိတရားကိုဟောသောသူတို့သည် ထိုအရာများကိုသင်တို့အားယခု
ကြားပြော ကြပြီ။ ထိုအရာတို့ကို ကောင်း ကင် တမန်တို့ သည် စေ့စေ့
၁၃ ကြည့်ရှုစည်းစားချင်သောစေတနာစိတ်ရှိကြ၏။ ။သို့
ဖြစ်၍သင်တို့စိတ်နှစ်လုံးကိုခါးပန်းစည်း၍သမ္မာသတိရှိကြလော့။ယေ
ရှုခရစ် ပေါ်ထွန်းတော်မူသော အခါ သင်တို့ ဆီ သို့ရောက် လတံ့သော
၁၄ ဆုကျေးဇူးကိုအဆုံးတိုင်အောင်မျှော်လင့်ကြလော့။ အထက်ကသင်တို့
သည်မှောင်မိုက်ထဲမှာကျင့်သောတပ်မက်ခြင်းတရားကိုယခုမလိုက်
၁၅ မကျင့်ဘဲနားထောင်တတ်သောသူငယ်ကဲ့သို့ဖြစ်၍ သင်တို့ ကို ခေါ်
တော်မူသောသူသည်သန့်ရှင်းတော်မူသည် နည်းတူ ကျင့်ကြံပြုမူသ
၁၆ မျှတို့၌သန့်ရှင်းခြင်းရှိကြလော့။ အကြောင်းမူကား။ ငါသည်သန့်ရှင်း
တော်မူသောကြောင့်သင်တို့လည်းသန့်ရှင်းခြင်းရှိကြလော့ဟုကျမ်းစာ
၁၇ လာသတည်း။ လူမျက်နှာကိုမငဲ့။ ခပ်သိမ်း သော သူတို့ ၏အကျင့် အ
တိုင်းစီရင်တော်မူသောခမည်းတော်ကိုသင်တို့ သည် ဆုတောင်းကိုး
ကွယ် လျှင်ဧည့် သည် ဖြစ်၍စည်ကာလပတ်လုံး ကြောက် ရွံ့သော စိတ်
၁၈ နှင့်ကျင့်နေကြလော့။ မိစည်ဖဆက်ကျင်လည် သော အချည်းနှီးကျင့်
ကြံပြုမူခြင်းမှ ရွှေ ငွေ အစရှိသောဖောက်ပြန်ပျက်စီးတတ်သောဥစ္စာ
၁၉ နှင့်သင်တို့ကိုရွေးတော်မူသည်မဟုတ်။ အဘယ်အပြစ်မျှမရှိ။အညစ်
အကြေးနှင့်ကင်းစင်သောသိုးသငယ်ကဲ့သို့သောခရစ်တော်၏အသွေး
၂၀ တော်မြတ်နှင့်ရွေးတော်မူသည်ဟုသိမှတ်ကြလော့။ ထိုခရစ်တော်
၂၁ ကား ဤကမ္ဘာမတည်မှီရှိမှီ ခန့်ထားတော်မူခြင်းကိုခံ နှင့် သည်ဖြစ်၍
ကိုယ်တော်အားဖြင့်ဘုရားသခင်ကိုရုံကြည်သောသင်တို့အဖို့ ဤနော
က်ဆုံးကာလ၌ထင်ရှား ရှိ တော်မူပြီ။ သင်တို့သည်ဘုရားသခင်ကို
ထောက်လျက်ရုံကြည်ခြင်း။မျှော်လင့်ခြင်းရှိစေခြင်းငှါထိုသခင်ကိုဘု
ရားသခင်သည်သေခြင်းမှထမြောက်စေ၍ သူ အား ဘုန်းအသရေကို
ပေးသနားတော်မူလေပြီ။



၂၂ သင်တို့သည် ဖောက်ပြန်ပျက်စီးတတ် သောမျိုးစေ့အားဖြင့်ဖြစ် ဖွား
၂၃ သည်မဟုတ်။မဖောက်ပြန်မပျက်စီးတတ်သောမျိုးစေ့တည်းဟူသော

အသက်ရှင်၍အမြဲတည်တော်မူသောဘုရားသခင်၏နှုတ်ကပတ်တော်
အားဖြင့်ဖြစ်ပွား၍ညီအစ်ကိုများကိုချစ်ရောင်မဆောင်၊ အမှန်ချစ်
ခြင်းအလို့ငှါစိတ်ထဲမှာသမ္မာတရားကိုနားထောင် လျှက် ကိုယ်စိတ်
နှင်လုံးကိုစင်ကြယ်စေပြီးသည် နှင့်အညီ စင်ကြယ်သောစိတ်နှင့်အ
၂၄ ချင်းချင်းအားကြီးသောချစ်ခြင်းမေတ္တာရှိကြလော့။ လူမျိုးသည်
မျက်ပင်ကဲ့သို့ ဖြစ်၏။ လူ၏ဘုန်းရှိသမျှသည်လည်းမျက်ပွင့်ကဲ့သို့
ဖြစ်၏။မျက်ပင်သည်နွမ်းရှသွေ့ခြောက်တတ်၏။အပွင့်လည်းကြွေတတ်၏။
၂၅ ထာဝရဘုရား၏နှုတ်ကပတ်တရားမူကား ကာလအစဉ် အမြဲတည်
၏။ထိုနှုတ်ကပတ်တော်သည်သင်တို့အားဟောပြောသော ဧဝံဂေလိ
၂။၁ တရားဖြစ်သတည်း။ ။ထို့ကြောင့်သင်တို့သည်သခင်ဘုရား
၏ကျေးဇူးတော်ကိုမြည်းစမ်းကြသည် ဖြစ်၍ အမျိုးမျိုးသောမနာလို
ခြင်း။လှည့်စားခြင်း။ လျှို့ဝှက်ခြင်း။ ညှာစူခြင်း။ ကဲ့ရဲ့ခြင်းအားလုံးကို
ပယ်ရှား၍ကယ်တင်ခြင်းအလို့ငှါနှုတ်ကပတ်တရား၏နို့စစ်အားဖြင့်
ကြီးပွားရအောင်ဖွားစသောသူငယ်ကဲ့သို့ထိုတရားနို့ကိုအလွန်လို
၄ ချင်သောစိတ်ရှိကြလော့။ လူတို့ပယ်ထား၍ဘုရားသခင်ရွေးချယ်
တော်မူသောအသက်ကျောက်မြတ်တည်းဟူသော ထိုသခင်ဆီသို့
၅ သင်တို့သည်ရောက်၍ အသက်ကျောက်များကဲ့သို့အဆင့်ဆင့်အထပ်
ထပ်တည်ဆောက်သဖြင့်ဗိမာန်တိုက်ဖြစ်ကြ၏။ယေရှုခရစ်အားဖြင့်ဘု
ရားသခင်နှစ်သက်တော်မူရာဝိညာဉ်ယဇ်ကိုပူဇော်ရသောသန့်ရှင်းသော
၆ ယဇ်ပုရောဟိတ်ရုလည်းဖြစ်ကြ၏။ ထိုသို့နှင့်အညီကျမ်းစာလာသည်
ကား။ရွေးချယ်သောတိုက်ထောင့်အမြစ်ကျောက်မြတ်ကိုဇိအုန်တော
င်ပေါ်မှာငါချထား၏။ထိုကျောက်ကိုအမှီပြုသောသူ သည် ရှက်ကြော
၇ က်ခြင်းမရှိနိုင်ရာဟုလာသတည်း။ သို့ဖြစ်၍ ရုံကြည်ခြင်းရှိသော
သင်တို့၌ ကားဘုန်းအသရေ ရှိ၏။ နားမထောင်သောသူတို့၌ကား
တိုက်ကို တည် လုပ်သောသူများပယ်ထားသောကျောက်သည်တိုက်
၈ ထောင့်အထွဋ်ဖျားသို့ရောက်၏။ နားမထောင်သည် ဖြစ်၍ ရှေးခန့်
ထားတော်မူသည်နှင့်အညီနှုတ်ကပတ်တရားကိုထိမိ၍လဲတတ်သော
၉ သူတို့သည်ထိမိ၍လဲစရာကျောက်လည်းဖြစ်၏။ ။သင်တို့မူ
ကားမှောင်မိုက်ထဲကအံ့ဖွယ်သောအလင်းတော်သို့ခေါ်သွင်းတော်မူ
သောသူ၏ဂုဏ်ကျေးဇူးများကို ဖော်ပြရအောင်ရွေးချယ်တော်မူ
သောအမျိုးဖြစ်ကြ၏။ မင်းမျိုးယဇ်ပုရောဟိတ်။ သန့်ရှင်းသောလူစု။

၁၀ ပိုင်ထိုက်တော်မူသောအပေါင်းအသင်းဖြစ်ကြ၏။ အထက်ကအပေါ
င်းအသင်းမဟုတ်။ယခုတွင်ဘုရားသခင်၏အပေါင်းအသင်းဖြစ်ကြ
၏။ကရုဏာကျေးဇူးတော်ကိုအထက်ကမခံရသော်လည်းယခုတွင်ခံရ
၁၁ ကြ၏။ ။ချစ်သူတို့။ဝိညာဉ်နှင့်စစ်ဆိုင်တတ်သောပကတိတပ်
မက်ခြင်းတို့ကိုရှောင်မည်အကြောင်း။ဧည့်သည်အာဂန္တုကဲ့သို့သော
၁၂ သင်တို့ကိုငါတောင်းပန်၏။ သာသနာပလူတို့သည်သင်တို့ကိုကဲ့ရဲ့
ပြစ်တင်ကြသည်အမှုမှာဘုရားသခင်ကြည့်ရှုစီရင်တော်မူသောနေ့
ရက်၌သင်တို့၏ကောင်းသောအကျင့်ကိုသူတို့သည်ထောက်၍ဘုရား
သခင်ကို ချီးမွမ်းမည်အကြောင်း။ သူတို့ရှေ့၌တင့်တယ်လျောက်ပတ်
စွာကျင့်နေကြလော့။

**

၁၃ သခင် ဘုရား ၏မျက်နှာတော် ကို ထောက်ထား လျက် အထွဋ်အမြတ်
တည်းဟူသောဧကရာဇ်မင်းဖြစ်စေ။လူဆိုးတို့ကိုဒါဏ်စီရင်ခြင်းငှါ၎င်း
၁၄ လူကောင်းတို့ကိုချီးမွမ်းခြင်းငှါ၎င်ဧကရာဇ်မင်းခန့်ထားသောဝန်မင်း
ဖြစ်စေ။လူတို့တွင်စီရင်ခန့်ထား သမျှသောမင်း၏အုပ်စိုးခြင်းကိုဝန်
၁၅ ခံကြလော့။ အကြောင်းမူကား။သင်တို့သည်ကောင်းသောအကျင့်ကို
ကျင့်သောအားဖြင့်လူမိုက်တို့၏မိုက်မဲသောစကားကိုချေစေခြင်းငှါ
၁၆ ဘုရားသခင်သည် ထိုသို့သောအလိုတော်ရှိ၏။ လူလွတ်ဖြစ်သော်
လည်း လွတ်ခြင်း အကြောင်း ဖြင့် မကောင်း သောအမှုတို့ကိုဖုံး အုပ်
သော သူကဲ့သို့မကျင့်။ ဘုရား သခင် ၏ကျွန် ကဲ့သို့ကျင့် နေကြလော့။
၁၇ ခပ်သိမ်းသောသူတို့ကိုရိုသေခြင်း။ညီအစ်ကိုများကိုချစ်ခြင်း။ဘုရား
သခင်ကိုကြောက်ရွံ့ခြင်း။မင်းဧကရာဇ်ကိုရိုသေကျိုးနွံခြင်းရှိကြလော့။
၁၈ ။အစေခံငယ်သားတို့။အလွှန်ကြောက်ရွံ့ခြင်းနှင့်တကွကိုယ်
သခင်၏ အုပ်စိုး ခြင်း ကိုဝန် ခံကြလော့။ စိတ်ကောင်း၍ ဖြည်း ညှင်း
၁၉ သောသခင်ဖြစ်စေ။ကြမ်းတမ်း သောသခင် ဖြစ်စေ။ဝန်ခံကြလော့။ အ
ကြောင်း မူကား။ ဘုရား သခင်၏ မျက်နှာတော်ကိုထောက် ၍မတရား
၂၀ သောညှဉ်းဆဲခြင်းကိုကြင်နာစွာခံလျှင်ကျေးဇူးရှိ၏။ ကိုယ်အပြစ်
ကြောင့် ဒါဏ် ခံရသောအခါသည်း ခံလျှင် အဘယ်ချီး မွမ်းစရာရှိသ
နည်း။ကောင်းကောင်းပြု၍ဆင်းရဲခံသောအခါသည်းခံလျှင်ဘုရားသ
၂၁ ခင်ရှေ့တော်၌ကျေးဇူးရှိ၏။ အဘယ်ကြောင့်နည်းဟူမူကား။ထိုသို့အ
လို၌သင်တို့ကိုခေါ်တော်မူပြီ။ ခရစ်တော်သည် ငါတို့အတွက်ခံတော်

သောသူဖြစ်ကြ၏။ တရားကို လွန်ကျူးသောသူဟု စညတ်တော်အား
၁၀ ဖြင့်ထင်ရှားဖြစ်ကြ၏။ အဘယ်သို့နည်းဟူမူကား။ ပညတ်တရားအါး
လုံးကိုစောင့်ရှောက်သည်တွင်တစုံတခု၌မှားလျှင်ပညတ်တရားအား
၁၁ လုံးကို လွန်ကျူးသောအပြစ်ရှိ၏။ သူမယားကို မပြစ်မှားနှင့်ဟုပ
ညတ်တော်မူသောသူကလူအသက်ကိုမသတ်နှင့်ဟုပညတ်တော်မူ
သေး၏။ သို့ဖြစ်၍သင်သည်သူမယားကိုမပြစ်မှားဘဲနေသော်လည်း
လူအသက်ကိုသတ်လျှင်ပညတ်တရားကိုလွန်ကျူးသောသူဖြစ်၏။
၁၂ လွှတ်ခြင်းတရားအတိုင်းစီရင်ခြင်းကိုခံရလတံ့သောသူကဲ့သို့စကား
၁၃ ပြောခြင်း။ အမှုပြုခြင်းကိုစီရင်ကြလော့။ ကရုဏာမရှိသောသူသည်
ကရုဏာမရဘဲတရားစီရင်ခြင်းကို ခံရလိမ့်မည်။ ကရုဏာသည်တ
၁၄ ရားစီရင်ခြင်းကိုအောင်၍ကြွားဝါတတ်၏။ ။ငါ့ညီအစ်
ကိုတို့။ မည်သူကငါသည် ယုံခြင်းရှိ၏ဟုအကျင့်ကိုမကျင့်လျက်ပင်ဆို
လျှင်အဘယ်အကျိုးရှိသနည်း။ ယုံခြင်းသည် ထိုသူကိုကယ်ဘင်နိုင်သ
၁၅ လော။ ညီအစ်ကိုနှစ်မတို့သည်အဝတ်အချည်းစည်းရှိ၍နေ့တိုင်းစား
၁၆ ရသောအစာမရှိသောအခါ သင်တို့တွင်တစုံတယောက်သောသူက
ညီမ်ဝပ်စွာသွားကြလေ။ နွေးနွေးနေကြလေ။ ဝကြလေဟုဆိုလျက်သူတို့
ကိုယ်နှင့်တော်လျော်သောအသုံးအဆောင်ကို မပေးလျှင်အဘယ်အ
၁၇ ကျိုးရှိသနည်း။ ထိုနည်းတူ။ အကျင့်နှင့်ကင်းသောယုံခြင်းသည်တပါး
၁၈ တည်းနေသောကြောင့်အသေဖြစ်၏။ တနည်းကား။ သင်သည်ယုံခြင်းရှိ
၏။ ငါသည်အကျင့်ရှိ၏။ သို့ဖြစ်၍သင်သည် အကျင့်မရှိဘဲသင်၏ယုံ
ခြင်းကိုပြတော့။ ငါမူကားအကျင့်အားဖြင့်ငါ၏ယုံခြင်းကိုပြမည်ဟုပြော
၁၉ စရာရှိ၏။ ဘုရားသခင်တဆူတည်းရှိသည်ဟုသင်သည်ယုံ၏။ ကောင်း
ပေ၏။ နတ်ဆိုးတို့သည်ယုံ၍ကြောက်ရွံ့တုန်လှုပ်ကြ၏။
၂၀ လျှပ်ပေါ်သောလူ။ အကျင့်မရှိလျှင်ယုံခြင်းသည် အသေဖြစ်၏ဟုသင်
၂၁ သည်သိချင်သလော။ ငါတို့အဘအာဗြဟံသည်မိမိသားဣဇာက်ကို
ယဇ်ပလ္လင်ပေါ်မှာတင်လှူပူဇော်၍အကျင့်အားဖြင့် ကျေးဇူးရှိရာသို့
၂၂ ရောက်သည်မဟုတ်လော။ ယုံကြည်ခြင်းသည်အကျင့်နှင့်အတူပြုပြင်
၂၃ ၍အကျင့်အားဖြင့်စုံလင်သည်ကိုသိမြင်သလော။ အာဗြဟံသည်ဘု
ရားသခင်ကိုယုံကြည်သည်ဖြစ်၍ သူ၏ယုံကြည်ခြင်းကိုကျေးဇူးကဲ့သို့
မှတ်တော်မူ၏ ဟူသောကျမ်းစကား ပြည့်စုံလေ၏။ အာဗြဟံသည်
၂၄ လည်းဘုရားသခင်၏အဆွေဟူ၍ခေါ်ဝေါ်ခြင်းကိုခံလေ၏။ လူသည်

ရုံခြင်း အား ဖြင့် သာ ကျသိုလ် ရှိရာသို့ရောက်သည် မဟုတ်။ အကျင့်
၂၅ အား ဖြင့် ရောက် သည်ကို သင် တို့သိမြင် ရကြ၏။ ထိုနည်းတူ။ ပြည့်
တန်ဆာရာခပ်သည် တမန် တို့ကိုလက်ခံပြီး မှအချားသောလမ်ဖြင့်လွှ
တ်လိုက် ၍ အကျင့် အားဖြင့် ကျသိုလ် ရှိရာသို့ ရောက် သည် မဟုတ်
၂၆ လော။ ဝိညည် ကင်းသော ကိုယ် သည်အသေဖြစ်သကဲ့သို့အကျင့်နှင့်
ကင်းသောရုံခြင်းသည်အသေဖြစ်၏။



၁ ငါ့ညီအစ်ကိုတို့။ ငါတို့သည် သာ ၍ ကြပ်တည်းသော စစ်ကြော စီရင်
၂ ခြင်းကို ခံရမည် ဟုသင်တို့သိ ၍ အများ သောဆရာ မဖြစ်ကြနှင့်။ ငါ
တို့အားလုံးသည်အများသောအား ဖြင့်မှားတတ်၏။ စကားအားဖြင့်
မှားခြင်းမရှိသော သူမည်သည်ကားစုံလင် သော သူဖြစ်၏။မိမိကိုယ်
၃ အားလုံး ကို ချုပ်တည်းနိုင်သော သူဖြစ်၏။ မြင်းကို နိုင်ရအောင်ပ
၄ စပ်ကိုဇက်ခွံ့တတ်၏။သို့ပြု၍မြင်းဘကိုယ်လုံးကိုလှည့်တတ်၏။ ထို
မှတပါး။ အဘယ် မျှလောက်ကြီးသောသင်္ဘောကိုပြင်း စွာသောလေ
ဖြင့် ဆောင် သွား သော်လည်း တက်မကိုင်အလို ရှိသည် အတိုင်းငယ်
၅ သောတက်မဖြင့်လှည့်တတ်၏။ ထိုနည်းတူ။ လျှာသည်ငယ် သောအ
ဂါဖြစ် သော်လည်း အလွန် ကြွား ဝါတတ်၏။ အဘယ် မျှလောက် ကြီး
သောထင်းပုံကို အနည်း ငယ် သောမီး သည် ညှိနိုင်သည် ကိုကြည့်ပါ
၆ လော့။ လျှာသည်မီးဖြစ်၏။ဒုစရိုက် တန်ဆာလည်းဖြစ်၏။ ထိုသို့နှင့်
အညီလျှာသည် အချားသောအင်္ဂါများ ထဲမှာ ရှိနေ ၍ တကိုယ်လုံးကို
ညစ်ညူးစေ၏။ပကတိစက်ကိုလောင်၏။ငရဲဖြင့်မိမိကိုပင်လောင်၏။
၇ သားရဲမျိုး။ငှက်မျိုး။တွားတတ်သောတိရိစ္ဆာန်မျိုး။ငါးမျိုးတို့ကိုလူမျိုး
၈ သည်အောင်တတ်သည်အတိုင်းအောင်ခဲ့ပြီး။ လျှာကိုကားအဘယ်လူ
မျှမအောင် နိုင်။ မဆုံးမ နိုင်သောအ ဆိုး အညစ် ဖြစ်၏။ သေစေတတ်
၉ သောအဆိပ်အတောက်နှင့် ပြည့် စုံ၏။ ငါတို့သည် လျှာဖြင့် ခမည်း
တော်ဘုရားသခင် ကိုကောင်းကြီးပေးတတ်ကြ၏။ဘုရားသခင်၏ပုံ
သဏ္ဍာန်တော်နှင့် အညီ ဖန် ဆင်း သောလူ တို့ ကို လျှာ ဖြင့် ကျိန် ဆဲ
၁၀ တတ်ကြ၏။ နှုတ်တပါးတည်း အထဲကထောမနာချီးမွမ်းခြင်းနှင့်ကျိန်
ဆဲခြင်းထွက်တတ်သည်တကား။ ငါ့ညီအစ်ကိုတို့။ထိုသို့မဖြစ်ကောင်း
၁၁ ရာ။ စမ်း ရေပေါက်တပေါက်တည်းအထဲကချိုသောရေ နှင့်ခါးသော
၁၂ ရေထွက်တတ်သလော။ ငါ့ညီအစ်ကိုတို့။တည်း ပင်သည်သံလွင်သီး

၁၃ ကိုသီးနိုင်သလော။စပျစ်ပင်သည်တည်း သင်္ဘောသီးကိုသီးနိုင်သလော။ထိုအ
၁၄ တူ။ငန်သောရေသည်ချိုသောရေမဖြစ်နိုင်။သင်တို့တွင်အတတ်အထိ
မြော်နှင့် ပြည့်စုံသောပညာရှိမည့်သူရှိလျှင်ထိုသူသည်ပညာ၏နူးညံ့
သိမ်မွေ့ခြင်းနှင့်တကွကောင်းမြတ်သောကျင့်ကြံပြုမူခြင်းအားဖြင့်
မိမိအမှုတို့ကိုပြပါလေစေ။ သို့မဟုတ်။သင်တို့စိတ်ထဲမှာခါးစွာသော
ဂုဏ်ပြိုင်ခြင်း။ ရန်တွေ့ခြင်းရှိလျှင်သမ္မာတရားကိုမုသာဖြင့်ဆန့်၍
၁၅ မကြွားဝါကြနှင့်။ထိုသို့သောပညာသည်အထက်မှသက်ရောက်သော
ပညာမဟုတ်။ မြေကြီးပညာ။ ပကတိပညာ။နတ်ဆိုးပညာဖြစ်၏။
၁၆ အဘယ်ကြောင့်နည်းဟူမူကား။ ဂုဏ်ပြိုင်ခြင်း။ရန်တွေ့ခြင်းရှိလျှင်မ
ညီမညွတ်မဝပ်ရှုန်းရင်းခတ်ခြင်း။ဆိုးညစ်စွာပြုမူခြင်းအမျိုးမျိုးရှိတတ်၏။
၁၇ အထက်မှသက်ရောက်သောပညာမူကား ရှေးဦးစွာစင်ကြယ်၏။ ထိုမှ
တပါး။အသင့်အတင့်နေတတ်၏။ဖြည်းညှင်းသောသဘောရှိ၏။သွေး
ဆောင်လွယ်၏။ကရုဏာနှင့်ကောင်းကျိုးနှင့်ပြည့်စုံ၏။သျှစ်လျှ
၁၈ သောစိတ်ရှိ၏။လျှို့ဝှက်ခြင်းနှင့်ကင်းစင်၏။ အသင့်အတင့်နေအောင်
ပြုစုတတ်သောသူတို့သည်ဖြောင့်မတ်ခြင်းတရားမျိုးစေ့ကိုညီမ်သက်
စွာကြဲတတ်ကြ၏။

✻✻

၁ သင်တို့တွင်စစ်တိုက်ခြင်း။ရန်တွေ့ခြင်း တို့သည် အဘယ် အကြောင်း
ကြောင့်ဖြစ်သနည်း။သင်တို့အင်္ဂါများ၌စစ်ပြိုင်သောကိလေသာကာမ
၂ စိတ်ကြောင့်ဖြစ်သည်မဟုတ်လော။ သင်တို့သည်တပ်မက်၍မရ။လူ
အသက်ကိုသတ်၍ငှင်အလွှန်လိုချင်သောလောဘစိတ်ရှိ၍ ငှင်အလိုမ
ပြည့်စုံနိုင်ကြ။ရန်တွေ့ခြင်း။စစ်တိုက်ခြင်းကိုပြု၍မရ။အဘယ်ကြော
၃ င့်နည်းဟူမူကား။ ဆုမတောင်းဘဲနေကြ၏။ ဆုတောင်းလျှင်လည်း
ကာမဂုဏ်ခံစားစရာဘို့ ရှိရအောင်အလွဲတောင်း သော့ကြောင့်မရ
၄ ကြ။ မတရားသောမေထုန်၌မှီဝဲသောယောကျ်ားမိန်းမတို့။လောကီမိတ်သ
ဟာယသည်ဘုရားသခင်နှင့်ဆန့်ကျင်ဘက်ဖြစ်သည်ကိုသင်တို့မသိ
လော။လောကီနှင့်မိတ်သဟာယဖွဲ့လိုသောသူသည်ဘုရားသခင်၏ရန်
၅ သူဖြစ်၏။ ကျမ်းစာချက်အချည်းနှီးသက်သက်ဖြစ်သည်ဟူ၍ငှင်ငါတို့
၌တည်နေသောဝိညာဉ်တော်သည် ညူစူစေချင်သောသဘောရှိသည်
၆ ဟူ၍ငှင်သင်တို့ထင်သလော။ ထိုဝိညာဉ်တော်သည်သာ၍များသော
ကျေးဇူး ကို ပြုတော်မူ၏။ ထိုသို့နှင့် အညီကျမ်းစာလာသည် ကား။

ထောင်လွှား စော်ကား သော သူတို့ ကို ဘုရားသခင် ဆီး တားတော်မူ
၏။ စိတ်နှိမ့်ချသော သူတို့အား ကျေးဇူးပြုတော်မူ၏ဟု လာသတည်း။
၇ ။ ထိုကြောင့်ဘုရားသခင်အလိုတော်သို့လိုက်ကြလော့။
မာရ်နတ်ကို ဆီး တားကြလော့။ သို့ပြုလျှင် သူသည်သင် တို့ဆီကပြေး
၈ သွားလိမ့် မည်။ ဘုရားသခင်၌ချဉ်းကပ်ကြလော့။ သို့ပြုလျှင် သင်
တို့၌ချဉ်းကပ်တော်မူလိမ့် မည်။ အပြစ် ရှိသော သူတို့။ သင်တို့လက်ကို
စင်ကြယ်စေကြလော့။ စိတ်နှစ် ခု ရှိသော သူတို့။ သင်တို့စိတ် နှလုံးကို
၉ သန့်ရှင်း စေကြလော့။ ဆင်းရဲညှိုးငယ်ခြင်း။ စိတ် မသာ ညည်းတွား
ခြင်းငိုကျွေးမြည်တမ်ခြင်း ရှိကြလော့။ သင်တို့ရယ်ခြင်းသည် စိတ်မ
သာ ညည်းတွားခြင်းဖြစ်စေကြလော့။ ဝမ်းမြောက်ခြင်းလည်းဝမ်းနည်း
၁၀ ခြင်းဖြစ် စေကြလော့။ ဘုရားသခင် ရှေ့တော် ၌ ကိုယ်ကိုကိုယ် နှိမ့်
၁၁ ချကြလော့။ သို့ပြုလျှင် သင်တို့ကိုချီး မြှောက်တော်မူလိမ့်မည်။ ညီအစ်
ကိုတို့။ အချင်းချင်းတယောက်ကိုတယောက်ကဲ့ရဲ့ခြင်း ကိုမပြုကြနှင့်။
ညီအစ်ကိုချင်းကိုကဲ့ရဲ့၍ သူ၌အပြစ် ရှိသည်ဟုစီရင်သော သူသည်တ
ရားကိုကဲ့ရဲ့၏။ တရား၌ အပြစ် ရှိသည်ဟုစီရင်၏။ ထိုသို့ ပြုလျှင်သင်
သည်တရားကို ကျင့်သော သူမဟုတ်။ တရားကိုစစ် ကြောစီရင်သော
၁၂ သူဖြစ်၏။ ပညတ်တရား ကိုထားပိုင် သော သူ။ စစ် ကြောစီရင်ပိုင်
သော သူတပါး တည်း ရှိတော်မူ၏။ ထိုသူသည် ကယ် တင်ခြင်း ငှါရင်
ဖျက်ဆီး ခြင်းငှါရင်တတ်နိုင်တော်မူ ၏။ သူတပါးကိုစစ် ကြောစီရင်
၁၃ သော သူ။ သင်သည်ကား အဘယ်သူနည်း။ ။ ယနေ့နက်
ဖန် ၌ မည်သော မြို့သို့သွား ကြစို့။ ထိုမြို့ ၌ တနှစ်ပတ်လုံးနေ၍ကုန်
သွယ် သဖြင့် အမြတ် ရကြစို့ဟုဆို တတ် သော သူတို့။ နားထောင်ကြ
၁၄ လော့။ နက်ဖန်နေ့ အဘယ်သို့ဖြစ်မည်ကိုသင် တို့မသိကြ။ သင် တို့အ
သက်သည်ဘာနှင့်တူသနည်း။ ခဏထင်ရှားပြီးမှ ကွယ်ပျောက်တတ်
၁၅ သောအခိုးအငွေ့ နှင့် တူ၏။ ထာဝရဘုရား အလိုတော်ရှိ ၍ ငါတို့အ
သက် ရှင်လျှင်၍ သို့ပြုကြစို့။ ထိုသို့ ပြုကြစို့ဟုသင် တို့ဆိုသင့် ရာဖြစ်
၁၆ ၏။ ယခုသင်တို့သည် မိမိထောင်လွှားခြင်း၌ ကြွားဝါကြသေး၏။ ထို
၁၇ သို့သောကြွား ဝါခြင်း သည်မကောင်း မသင့် ဖြစ်၏။ ထို ကြောင့်
ကောင်း သော အကျင့်ကို သိလျက် မကျင့် ဘဲနေသော သူသည် အပြစ်
ရှိ၏။

❋❋

၁ အချင်း သဌေးသူကြွယ် တို့။ ယခုလာကြ။ သင် တို့အပေါ်၌ ရောက်ရ
၂ သောဆင်း ရဲဒုက္ခဝေဒနာကြောင့် ငိုကျွေး အော်ဟစ် ကြ။ သင်တို့ပ
စ္စည်းဥစ္စာသည်ပုပ်စပ်လျက်ရှိ၏။အဝတ်ကိုလည်းပိုးကိုက်စားပြီ။
၃ ရွှေငွေလည်းအချေးတက် ၍ ပျက်ကုန်ပြီ။ ထိုအချေးသည်သင်တို့တ
ဖက် ၌ သက်သေဖြစ် ၍ မီးကဲ့သို့သင် တို့အသား ကိုစား လိမ့်မည်၊
၄ နောက်ဆုံးနေ့ရက်ကာလအဖို့ဘဏ္ဍာကိုဆည်းဘူးကြပြီ။ နားထောင်
ကြ။သင်တို့လယ်ကွက်၌ရိတ်သောသူတို့ကိုလှည့်စား၍အခမပေးဘဲ
နေသောကြောင့် ထိုအခသည် ကျွေး ကျော်လေ၏။ရိတ်သောသူတို့၏
အော်ဟစ် ခြင်း အသံသည်လည်း ကောင်းကင်တန်ခိုးများကိုအစိုးရ
၅ တော်မူသောထာဝရ ဘုရား၏ နားတော် ထဲသို့ဝင် လေပြီ။ သင်တို့
သည်မြေ ကြီး ပေါ်မှာကာမဂုဏ်ခံစား ၍ အလွန်ပျော်မွေ့ကြပြီ။ယဇ်
၆ ပူဇော်သောနေ့၌ကဲ့သို့မိမိတို့ နှ်လုံးကိုမွေး မြူကြပြီ။ ဖြောင့်မတ်
သောသူကိုအပြစ်စီရင်၍ကွပ်မျက်ကြပြီ။သူသည်လည်း သင်တို့ကိုဆ
၇ ဆီးတား။ ။ထိုကြောင့်ညီအစ်ကိုတို့။သခင်ဘုရားကြွလာ
တော်မူသည် တိုင်အောင်သည်း ခံလျက် စောင့်နေကြလော့။အကယ်၍
လယ် လုပ် သောသူသည် အရင်မိုးဃ်း။ နောက်မိုးဃ်း ကို ရသည်တိုင်
အောင်အဖိုးထိုက် သောမြေအသီး ကို သည်း ခံလျက်စောင့်နေ၍မျှော်
၈ လင့်တတ် ၏။ သင်တို့သည်လည်း သည်းခံလျက် စောင့်နေကြလော့။
ကိုယ် စိတ် နှ်လုံး ကိုမြဲမြံစေကြလော့။ သခင် ဘုရား ကြွလာ တော်မူ
၉ သောအချိန်ရောက်လုနီးပြီ။ ညီအစ်ကိုကို့။အပြစ်စီရင်ခြင်းကိုမခံရ
အောင်အချင်းချင်းညည်းညူပြစ်တင်ခြင်းကိုမပြုကြနှင့်။တရားစီရင်ပိုင်
၁၀ သောသူသည်တံခါးနားမှာရှိတော်မူ၏။ ငါညီအစ်ကိုတို့။ထာဝရဘု
ရား၏အ ခွင့်နှင့်ဟောပြောသောပရောဖက်တို့သည် ဆင်းရဲဒုက္ခတွေ့
၁၁ ခြင်း။သည်းခံခြင်းပုံသက်သေကိုပြုကြပြီးဟုမှတ်ကြလော့။ သည်းခံ
နိုင် သောသူ တို့သည် မင်္ဂလာရှိ သော သူဟူ ၍ ငါတို့ခေါ်ဝေါ်တတ်၏။
ယောဘသည်းခံကြောင်းကိုသင်တို့ကြားရပြီ။ ထာဝရဘုရားသည်မိ
မိအမှု ကို လက် စသတ် တော် မူရာမှာ အလွန် သနား စုံမက် တော်မူ
၁၂ ကြောင်းကိုသိမြင်ရပြီ။ ။ငါညီအစ်ကိုတို့။အမှုအရာခပ်
သိမ်းတို့တွင်ကျိန်ဆိုခြင်းကိုသာ၍ရှောင်ကြလော့။ကောင်းကင်ဘုံကို
တိုင်တည်၍မကျိန်နှင့်။မြေကြီးကိုတိုင်တည်၍မကျိန်နှင့်။ထိုမှတပါး

အဘယ်အကျိန်အားဖြင့်မျှမကျိန်နှင့်။အပြစ်စီရင်ခြင်းကိုမခံရအောင်
သင်တို့စကားမှာဟုတ်သည်ကိုအဟုတ်၊မဟုတ်သည်ကိုမဟုတ်။ဖြစ်
၁၃ စေကြလော့။ ။သင်တို့တွင်ဆင်းရဲသောသူရှိလျှင်ဆု
တောင်းပါလေစေ။ ရွှင်လန်းသောသူ ရှိလျှင်ဆာလံသီချင်း ကို ဆိုပါ
၁၄ လေစေ။ နာသောသူရှိလျှင် သင်း အုပ်တို့ကိုခေါ်၍ သူတို့သည်သခင်
ဘုရား၏နာမတော်ကိုအမှီပြု၍လျက်လူနာကိုဆီနှင့်လူး၍သူ့အပေါ်မှာဆု
၁၅ တောင်းပါလေစေ။ သို့ပြုလျှင်ရုံကြည်ခြင်း၏ပဌနာသည်လူနာကို
ကယ်ဆယ်၍သခင်ဘုရားသည် သူကိုထမြောက်စေမည်။သူသည်အ
၁၆ ပြစ်ပြုမိသော်လည်း ထိုအပြစ်ကိုလွှတ်တော်မူမည်။ အချင်းချင်းတ
ယောက်နှင့် တယောက် ကိုယ်အပြစ်ကို ဖော်ပြတောင်း ပန်ကြလော့။
ချမ်း သာရမည် အကြောင်း၊ အချင်း ချင်းတို့အမှီဆုတောင်း ကြလော့၊
စိတ်ထဲမှာပြုပြင် တော်မူသောအားဖြင့် သူတော်ကောင်းပြုသောပဌ
၁၇ နာသည်အလွန်တတ် နိုင်၏။ ဧလိယသည်ငါတို့ကဲ့သို့လူ့ဇာခြေရှိသော
သူဖြစ် သော်လည်း မိုဃ်း မ ရွာမည် အကြောင်း။ကြပ်ကြပ်ဆုတောင်း
သော အခါ သုံး နှစ် နှင့် ခြောက် လပတ် လုံး မြေပေါ် သို့ မိုဃ်း မရွာဘဲ
၁၈ နေ၏။ တဖန်ဆုတောင်းသောအခါမိုဃ်းကောင်းကင်သည်မိုဃ်းရွာ
၁၉ စေ၏။မြေကြီးသည်လည်းမိမိအသီးကိုသီးလေ၏။ ။ညီ
အစ် ကိုတို့၊ သင် တို့တွင် မည် သော သူသည် သမ္မာတရား လမ်း မှလွဲ
၂၀ သွား၍သူတပါးသည်ထိုသူကိုပြန်စေလျှင်မူကား အပြစ်ရှိသောသူ
ကို မှား ရွင်း သောလမ်းမှပြန် စေသောသူသည် ဝိညာဉ်ကိုသေခြင်းမှ
ကယ်တင်၍ များ စွာသောအပြစ်တို့ကို ဖုံးအုပ်သည်ဟုထိုသူသိမှတ်
ပါလေစေ။

။ရှင်ယာကုပ်ဩဝါဒစာပြီး၏။

---

။ရှင်ပေတရုဩဝါဒစာပဌမစောင်။

---

အ၁ ၂ ယေရှုခရစ်၏တမန်တော်ငါပေတရုကနာ း ယောင်ခြင်းကျေးဇူး၊ ယေ
ရှုခရစ်၏အသွေးတော်နှင့်ဖျန်းခြင်းကျေးဇူး ကိုခံရမည်အကြောင်း၊ဝိ
ညာဉ် တော်အား ဖြင့်သန့်ရှင်း ခြင်း သို့ရောက် ၍ ခမည်း တော်ဘုရား
သခင်၏အနာဂတံသညာဏ်တော်အတိုင်းရွေးကောက်တော်မူသော

သူတည်း ဟူသော။ ပန္တုပြည်။ ဂလာတိပြည်။ ကပ္ပဒေါကိပြည်။ အာရှ
ပြည်။ ဗိသုနိပြည်။ အရပ်ရပ်ကွဲပြားသောဧည့်သည်အာဂန္တုတို့ကိုကြား
လိုက်ပါ၏။ ကျေးဇူးတော်နှင့်ညိမ်သက်ခြင်းသင်တို့၌ များပြားပါစေ
၃ သော။ ။အသက်ရှင်ခြင်းနှင့်စပ်ဆိုင်သောမျှော်လင့်ခြင်း
သို့ရောက်စေမည်အကြောင်း။ ဖောက်ပြန်ခြင်း။ ညစ်စွန်းခြင်း။ ညှိုးနွမ်း
ခြင်းနှင့်ကင်းစင်သောအမွေတော်ကိုငါတို့သည်ခံရစေမည်အကြောင်း။
ယေရှုခရစ်ကိုသေခြင်းမှထမြောက်စေတော်မူသောအားဖြင့် ကြီး
စွာသောကရုဏာတော်နှင့်အညီငါတို့ကိုတဖန်ဖြစ်ဖွားစေတော်မူ
သောငါတို့သခင်ယေရှုခရစ်၏ခမည်းတော်ဘုရားသခင်အားမင်္ဂလာ
၄။၅ ဖြစ်စေသတည်း။ ထိုအမွေတော်သည် ကားနောက်ဆုံးကာလ၌ထင်
ရှားရအောင်ပြင်ဆင်သောကယ်တင်ခြင်းသို့ရောက် စေခြင်းအလို့ငှါ
ယုံကြည်ခြင်းအားဖြင့်ဘုရားသခင်၏တန်ခိုးတော်သည်စောင့်ရှောက်
တော်မူသောငါတို့အဖို့ကောင်းကင်ဘုံ၌သိုထား လျက်ရှိသောအမွေ
၆။၇ တည်း။ အရည်ကို၍စုံစမ်းခြင်းကို ခံနိုင်သော်လည်းပျက်စီးတတ်
သောရွှေကိုစစ်ကြောစုံစမ်းခြင်းထက်သင်တို့ယုံကြည်ခြင်းကိုစစ်ကြော
စုံစမ်းခြင်း အရာသည်သာ၍မြတ်သည်နှင့်ယေရှုခရစ် ပေါ်ထွန်းတော်
မူသောအခါအချီးအမွမ်း။ ဂုဏ်အသရေ။ ဘုန်း အာနုဘော်အလို့ငှါဖြစ်
မည်အကြောင်း။ အထူးထူးအပြားပြား သော စုံစမ်း နှောင့်ရှက်ခြင်းကို
ခံရသောအကြောင်း ရှိလျှင်သင်တို့သည် ယခုခဏခံ၍ဝမ်းနည်းသော်
လည်းအထက်ဆိုခဲ့ပြီးသောကျေးဇူးတော်ကိုထောက်၍ရွှင်လန်းသော
၈ စိတ်ရှိကြ၏။ ထိုသခင်ကိုသင်တို့သည်မမြင်ဘူးသော်လည်းချစ်ကြ
၏။ ယခုမှာလည်းမမြင်ဘဲလျက်ယုံကြည်သောအားဖြင့်ဘုန်းအသရေ
နှင့်စပ်ဆိုင်သော။ ပြော၍မမှီနိုင်သောရွှင်လန်းခြင်းစိတ်နှင့်ဝမ်းမြော
၉ က်ကြသည်ဖြစ်၍ စိတ်ဝိညာဉ်ကယ်တင်ခြင်း တည်းဟူသောယုံကြည်
၁၀ ခြင်း၏အကျိုးကိုခံရကြ၏။ ။ထိုကယ်တင်ခြင်းအကြောင်းအ
ရာကိုပရောဖက်တို့သည်စေ့စေ့စစ်ကြောမေးမြန်းရှာဖွေ၍ သင်တို့ခံ
၁၁ ရသောကျေးဇူးတော်အကြောင်းကိုဟောပြောကြပြီး။ ခရစ်တော်ခံ
တော်မူရသောဆင်းရဲကို၎င် ဆင်းရဲခံပြီးမှဝင်စားတော်မူရသော
ဘုန်းစည်းစိမ်ကို၎င်သူတို့အထဲ၌ရှိသောခရစ်တော်၏ဝိညာဉ်သည်
သက်သေခံနှင့်သောအခါအဘယ်မည်သောသူကို၎င်အဘယ်သို့သော
၁၂ အချိန်ကာလကို၎င်ဆိုလိုတော်မူသည်ဟုမေးမြန်းရှာဖွေကြ၏။ ကိုယ်

ဟောပြောပြုရသောအရာများတို့သည် ကိုယ်ဖို့မဟုတ်။သင်တို့အဖို့
ဖြစ်သည်ဟုထိုသူတို့အား ဖွင့်ပြတော်မူ၏။ကောင်းကင်ဘုံမှစေလွှတ်
တော်မူသောသန့်ရှင်းသောဝိညာဉ် တော်ပါလျက်သင်တို့အားဧဝံဂေ
လိတရားကိုဟောသောသူတို့သည် ထိုအရာများကိုသင်တို့အားယခု
ကြားပြောကြပြီး။ ထိုအရာတို့ကို ကောင်း ကင် တမန်တို့ သည် စေ့စေ့
၁၃ ကြည့်ရှုစည်းစားချင်သောစေတနာစိတ်ရှိကြ၏။ ။သို့
ဖြစ်၍သင်တို့စိတ်နှစ်လုံးကိုခါးပန်းစည်း၍သမ္မာသတိရှိကြလော့။ယေ
ရှုခရစ် ပေါ်ထွန်းတော်မူသော အခါ သင်တို့ ဆီ သို့ရောက် လတံ့သော
၁၄ ဆုကျေးဇူးကိုအဆုံးတိုင်အောင်မြော်လင့်ကြလော့။ အထက်ကသင်တို့
သည်မှောင်မိုက်ထဲမှာကျင့်သောတပ်မက်ခြင်းတရားကိုယခုမလိုက်
၁၅ မကျင့်ဘဲနားထောင်တတ်သောသူငယ်ကဲ့သို့ဖြစ်၍ သင်တို့ ကို ခေါ်
တော်မူသောသူသည်သန့်ရှင်းတော်မူသည် နည်းတူ ကျင့် ကြံ ပြု မူသ
၁၆ မျှတို့၌သန့်ရှင်းခြင်းရှိကြလော့။ အကြောင်းမူကား။ ငါသည်သန့်ရှင်း
တော်မူသောကြောင့်သင်တို့လည်းသန့်ရှင်းခြင်းရှိကြလော့ဟုကျမ်းစာ
၁၇ လာသတည်း။ လူမျက်နှာကိုမငဲ့။ ခပ်သိမ်း သော သူတို့၏အကျင့်အ
တိုင်းစီရင်တော်မူသောခမည်းတော်ကိုသင်တို့သည် ဆုတောင်းကိုး
ကွယ် လျှင်ဧည့်သည် ဖြစ်စဉ်ကာလပတ်လုံး ကြောက် ရွံ့ သော စိတ်
၁၈ နှင့်ကျင့်နေကြလော့။ မိစဉ်ဖဆက်ကျင်လည် သော အချည်းနှီးကျင့်
ကြံပြုမူခြင်းမှ ရွှေ ငွေ အစရှိ သောဖောက်ပြန်ပျက်စီးတတ်သောဥစ္စာ
၁၉ နှင့်သင်တို့ကိုရွေးတော်မူသည်မဟုတ်။ အဘယ်အပြစ်မျှမရှိ။အညစ်
အကြေးနှင့်ကင်းစင်သောသိုးသငယ်ကဲ့သို့သောခရစ်တော်၏အသွေး
၂၀ တော်မြတ်နှင့်ရွေးတော်မူသည်ဟုသိမှတ်ကြလော့။ ထိုခရစ်တော်
၂၁ ကား ဤကမ္ဘာမတည်ရှိမှီ ခန့်ထားတော်မူခြင်းကိုခံ နှင့် သည်ဖြစ်၍
ကိုယ်တော်အားဖြင့်ဘုရားသခင်ကိုရုံကြည်သောသင်တို့အဖို့ ဤနော
က်ဆုံးကာလ ၌ထင်ရှား ရှိတော်မူပြီး။ သင်တို့သည်ဘုရားသခင်ကို
ထောက်လျက်ရုံကြည်ခြင်း။မြော်လင့်ခြင်းရှိစေခြင်းငှါ ထိုသခင်ကိုဘု
ရားသခင်သည်သေခြင်းမှထမြောက်စေ၍ သူ့အားဘုန်းအသရေကို
ပေးသနားတော်မူလေပြီး။

❋❋

၂၂ သင်တို့သည် ဖောက်ပြန်ပျက်စီးတတ်သောမျိုးစေ့အားဖြင့်ဖြစ်ဖွား
၂၃ သည်မဟုတ်။မဖောက်ပြန်မပျက်စီးတတ်သောမျိုးစေ့တည်းဟူသော

အသက်ရှင်၍အမြဲတည်တော်မူသောဘုရားသခင်၏နှုတ်ကပတ်တော်
အားဖြင့်ဖြစ် ဖွား၍ညီအစ်ကိုများကိုချစ်ရောင်မဆောင်။ အမှန်ချစ်
ခြင်းအလိုငှါစိတ်ထဲမှာသမ္မာ တရားကို နားထောင် လျှက် ကိုယ်စိတ်
နှင်လုံးကိုစင်ကြယ်စေပြီးသည် နှင့်အညီ စင်ကြယ် သော စိတ်နှင့်အ
၂၄ ချင်းချင်းအားကြီးသောချစ် ခြင်း မေတ္တာ ရှိ ကြလော့။ လူမျိုးသည်
မျက်ပင် ကဲ့သို့ ဖြစ် ၏။ လူ၏ဘုန်းရှိ သမျှ သည်လည်းမျက် ပွင့်ကဲ့သို့
ဖြစ်၏။မျက်ပင်ညှိုးနွမ်း၍သွေ့ခြောက်တတ်၏။အပွင့်လည်းကြွေတတ်၏။
၂၅ ထာဝရဘုရား ၏နှုတ်ကပတ်တရား မူကား ကာလအစဉ် အမြဲတည်
၏။ထိုနှုတ်ကပတ်တော်သည်သင်တို့အားဟောပြော သော ဧဝံဂေလိ
၂။၁ တရားဖြစ်သတည်း။ ။ထိုကြောင့်သင်တို့သည်သခင်ဘုရား
၏ကျေးဇူးတော်ကိုမြည်းစမ်ကြသည် ဖြစ် ၍ အမျိုးမျိုးသောမနာလို
ခြင်း။လှည့်စားခြင်း။ လျှို့ဝှက်ခြင်း။ ညှုစုခြင်း။ ကဲ့ရဲ့ခြင်းအားလုံးကို
ပယ်ရှား၍ကယ်တင်ခြင်းအလိုငှါနှုတ်ကပတ်တရား၏နို့စစ်အားဖြင့်
ကြီးပွားရအောင် ဖွားစသော သူငယ်ကဲ့သို့ထိုတရားနို့ကိုအလွန်လို
၄ ချင်သောစိတ်ရှိကြလော့။ လူတို့ပယ်ထား ၍ ဘုရား သခင်ရွေးချယ်
တော် မူ သော အသက် ကျောက် မြတ် တည်း ဟူသော ထိုသခင်ဆီသို့
၅ သင်တို့သည်ရောက်၍ အသက်ကျောက်များကဲ့သို့အဆင့်ဆင့်အထပ်
ထပ်တည်ဆောက်သဖြင့်ဗိမ္မာတိုက်ဖြစ်ကြ၏။ယေရှုခရစ်အားဖြင့်ဘု
ရားသခင်နှစ်သက်တော်မူရာဝိဉာဉ်ယဇ်ကိုပူဇော်ရသောသန့်ရှင်းသော
၆ ယဇ်ပုရောဟိတ်စုလည်းဖြစ်ကြ၏။ ထိုသို့နှင့်အညီကျမ်းစာလာသည်
ကား။ရွေးချယ်သောတိုက်ထောင့်အမြစ်ကျောက်မြတ်ကိုဇိအုန်တော
င်ပေါ်မှာငါချထား၏။ထိုကျောက်ကိုအမှီပြုသောသူ သည် ရှက် ကြော
၇ က်ခြင်းမရှိနိုင်ရာဟုလာသတည်း။ သို့ဖြစ် ၍ ယုံကြည် ခြင်း ရှိသော
သင်တို့ ၌ ကား ဘုန်းအသရေ ရှိ ၏။ နား မထောင် သော သူတို့ ၌ကား
တိုက် ကို တည် လုပ်သော သူများပယ်ထားသောကျောက်သည်တိုက်
၈ ထောင့်အထွဋ်ဖျားသို့ရောက်၏။ နားမထောင်သည် ဖြစ် ၍ ရှေးခန့်
ထားတော်မူသည်နှင့်အညီနှုတ်ကပတ်တရားကိုထိမိ၍လဲတတ်သော
၉ သူတို့သည်ထိမိ၍လဲစရာကျောက်လည်းဖြစ်၏။ ။သင်တို့မူ
ကားမှောင်မိုက်ထဲကအံ့ဖွယ်သောအလင်းတော်သို့ခေါ်သွင်းတော်မူ
သော သူ ၏ ဂုဏ်ကျေးဇူးများ ကို ဖော်ပြရအောင်ရွေးချယ်တော်မူ
သောအမျိုးဖြစ်ကြ၏။ မင်းမျိုးယဇ်ပုရောဟိတ်။ သန့်ရှင်းသောလူစု။

၁၀ ပိုင်ထိုက်တော်မူသောအပေါင်းအသင်းဖြစ်ကြ၏။ အထက်ကအပေါ
င်းအသင်းမဟုတ်။ယခုတွင်ဘုရားသခင်၏အပေါင်းအသင်းဖြစ်ကြ
၏။ကရုဏာကျေးဇူးတော်ကိုအထက်ကမခံရသော်လည်းယခုတွင်ခံရ
၁၁ ကြ၏။ ။ချစ်သူတို့။ဝိညာဉ်နှင့်စစ်ဆိုင်တတ်သောပကတိတပ်
မက်ခြင်းတို့ကိုရှောင်မည်အကြောင်း။ဧည့်သည်အာဂန္တုကကဲ့သို့သော
၁၂ သင်တို့ကိုငါတောင်းပန်၏။ သာသနာပလူတို့သည်သင်တို့ကိုကဲ့ရဲ့
ပြစ်တင်ကြသည်အမှုမှာဘုရားသခင်ကြည့်ရှုစီရင်တော်မူသောနေ့
ရက်၌သင်တို့၏ကောင်းသောအကျင့်ကိုသူတို့သည်ထောက်၍ဘုရား
သခင်ကိုချီးမွမ်းမည်အကြောင်း။ သူတို့ရှေ့၌တင့်တယ်လျောက်ပတ်
စွာကျင့်နေကြလော့။

**

၁၃ သခင်ဘုရား၏မျက်နှာတော်ကိုထောက်ထားလျက်အထွဋ်အမြတ်
တည်းဟူသောဧကရာဇ်မင်းဖြစ်စေ။လူဆိုးတို့ကိုဒဏ်စီရင်ခြင်းငှါ၎
၁၄ လူကောင်းတို့ကိုချီးမွမ်းခြင်းငှါ၎င်ဧကရာဇ်မင်းခန့်ထားသောဝန်မင်း
ဖြစ်စေ။လူတို့တွင်စီရင်ခန့်ထားသမျှသောမင်း၏အုပ်စိုးခြင်းကိုဝန်
၁၅ ခံကြလော့။ အကြောင်းမူကား။သင်တို့သည်ကောင်းသောအကျင့်ကို
ကျင့်သောအားဖြင့်လူမိုက်တို့၏မိုက်မဲသောစကားကိုချေစေခြင်းငှါ
၁၆ ဘုရားသခင်သည်ထိုသို့သောအလိုတော်ရှိ၏။ လူလွတ်ဖြစ်သော်
လည်းလွတ်ခြင်းအကြောင်းဖြင့်မကောင်းသောအမှုတို့ကိုဖုံးအုပ်
သောသူကဲ့သို့မကျင့်။ဘုရားသခင်၏ကျွန်ကဲ့သို့ကျင့်နေကြလော့။
၁၇ ခပ်သိမ်းသောသူတို့ကိုရိုသေခြင်း။ညီအစ်ကိုများကိုချစ်ခြင်း။ဘုရား
သခင်ကိုကြောက်ရွံ့ခြင်း။မင်းဧကရာဇ်ကိုရိုသေကျိုးနွံခြင်းရှိကြလော့။
၁၈ ။အစေခံငယ်သားတို့။အလွန်ကြောက်ရွံ့ခြင်းနှင့်တကွကိုယ်
သခင်၏အုပ်စိုးခြင်းကိုဝန်ခံကြလော့။ စိတ်ကောင်း၍ဖြည်းညှင်း
၁၉ သောသခင်ဖြစ်စေ။ကြမ်းတမ်းသောသခင်ဖြစ်စေ။ဝန်ခံကြလော့။ အ
ကြောင်းမူကား။ဘုရားသခင်၏မျက်နှာတော်ကိုထောက်၍မတရား
၂၀ သောညှဉ်းဆဲခြင်းကိုကြင်နာစွာခံလျှင်ကျေးဇူးရှိ၏။ ကိုယ်အပြစ်
ကြောင့်ဒဏ်ခံရသောအခါသည်းခံလျှင်အဘယ်ချီးမွမ်းစရာရှိသ
နည်း။ကောင်းကောင်းပြု၍ဆင်းရဲခံသောအခါသည်းခံလျှင်ဘုရားသ
၂၁ ခင်ရှေ့တော်၌ကျေးဇူးရှိ၏။အဘယ်ကြောင့်နည်းဟူမူကား။ထိုသို့အ
လိုငှါသင်တို့ကိုခေါ်တော်မူပြီ။ ခရစ်တော်သည်ငါတို့အတွက်ခံတော်

မူသည်ဖြစ်၍ ခြေတော်သို့ရောက် လိုက် ရာပုံသက်သေကိုထားရစ်
၂၂ တော်မူပြီး။ ထိုသခင်သည်ဒုစရိုက်ကိုမပြု။နှုတ်တော်၌လည်းမုသာကို
၂၃ ရှာမတွေ့။ ကဲ့ရဲ့ခြင်းကိုခံရသောအခါပြန်၍မကဲ့ရဲ့၊အသေခံရသော
အခါချိမ်းခြောက်ခြင်းကိုမပြု။ တရားသဖြင့် စီရင်တော်မူသောသူ၌
၂၄ ကိုယ်ကိုကိုယ်အပ်နှံတော်မူ၏။ ငါတို့သည် အပြစ် နှင့် ဆိုင်သောအ
ရာ၌အသေဖြစ်၍ ဖြောင့်မတ် ခြင်း အရာ ၌ အသက်ရှင်မည်အကြော
င်း။ လက်ဝါးကပ်တိုင် မှာမိမိကိုယ် ၌ ငါတို့အပြစ်များကိုကိုယ် တိုင်ခံ
၂၅ တော်မူပြီး။ဒါဏ်ချက်တော်များအားဖြင့် သင်တို့သည်အနာပျောက်
လျက် ရှိကြ၏။သင် တို့သည်အထက် ကလမ်းလွဲ၍ ပျောက်သောသိုးကဲ့
သို့ဖြစ်ကြ၏။ယခုမူကား သိုး ထိန်း တည်း ဟူသောဝိညာဉ်တို့ကိုအုပ်
၁။၂ စိုးကြည့်ရှုတော်မူသော သူဆီသို့ပြန်ရောက်ကြပြီး။ အ
ထက်ဆိုခဲ့ပြီးသောနည်းတူ။ မိမ္မတို့။ ကိုယ်ခင်ပွန်း အုပ်စိုးခြင်းကိုဝန်
ခံကြလော့။ သို့ပြု ၍ နှုတ် ကပတ် တရား ကို နား မထောင် သော ယော
ကျ်ားအချို့ ရှိ လျှင် ထိုသူတို့သည် တရား မနာသော်လည်း သင် တို့၏
ကြောက်ရွံ့ခြင်း နှင့် စင်ကြယ် သောအကျင့် တို့ကိုထောက်ရှု၍ မိမိမ
ယား၏ အကျင့်အားဖြင့်သွေးဆောင်လျက်အတူပါမည်အကြောင်းရှိ
၃ ၏။ သင် တို့၏ တန် ဆာ ဆင်ခြင်းမူကား။ ဆံပင်ကျစ် ခြင်း။ ရွှေဆင်
ခြင်း။ အဝတ် ဝတ်ခြင်းတည်း ဟူသောအပြင်တန် ဆာ ဆင် ခြင်းမဖြစ်
၄ စေဘဲဘုရားသခင် ရှေ့မှာများ စွာအဖိုးထိုက်သောနူးညံ့ညင်သာ သက်
သောသ ဘောတည်း ဟူသောမဖောက်ပြန် မပျက်စီး တတ်သောတန်
ဆာ။စိတ်နှလုံးထဲ။ အတွင်းလူ၌တန်ဆာဆင်ခြင်းဖြစ်စေကြလော့။
၅။၆ ဘုရားသခင် ကိုကိုးစား၍ သန့်ရှင်း သောမိမ္မတို့သည် ရှေးကထိုသို့
ကိုယ် ကို ကိုယ်ဆင်ပြင် လျက် စာရာသည် အာဗြဟံကို သခင်ဟုခေါ်
ဝေါ်၍ နား ထောင် သကဲ့သို့ကိုယ် ခင်ပွန်းအုပ်စိုးခြင်းကိုဝန် ခံကြ၏။
သင်တို့သည်ကောင်းမွန်စွာကျင့်၍ကြောက်ရွံ့တုန်လှုပ်ခြင်းအလျှင်းမ
၇ ရှိဘဲနေလျှင်စာရာ၏သမီး ဖြစ်ကြ၏။ ထိုနည်းတူ။ ယောကျ်ားတို့။
ဆုတောင်းခြင်း အမှု၌ဆီးတားနှောင့်ရှက်သောအရာ မရှိရအောင်အ
သက်ရှင် ခြင်း ကျေးဇူးတော်ကိုဆက်ခံ ၍ အမွေခံသေါသူချင်းကဲ့သို့
သတိပညာနှင့်လျော်စွာကိုယ်ခင်ပွန်း နှင့်အတူနေ၍အားနည်းသော
သူကိုပြုသင့်သည်အတိုင်းသူကိုစောင့်မပြုကြလော့။



၈ အချုပ်အခြာစကားဟူမူကား။ သင်တို့အါးလုံးသည်စိတ်တညီတညွတ်
တည်း ရှိကြလော့။ သူအဖို့စိတ် ကြင်နာခြင်း။ ညီအစ်ကိုချင်းကဲ့သို့ချစ်
၉ ခြင်း။ သနားစုံမက်ခြင်း။ စိတ်နှိမ့်ချခြင်း ရှိကြလော့။ သင်တို့သည်ကောင်း
ကြီး မင်္ဂလာကို အမွေခံခြင်းအလို ငှါခေါ်တော်မူသောသူဖြစ်သည်ဟု
သိမှတ်၍ အချင်းချင်းရန်ဘက်မမူ။ ပြန်၍မကဲ့ရဲ့။ မေတ္တာပို့ခြင်း ကိုပြုကြ
၁၀ လော့။ အသက်ကိုမွေ့လျော်ခြင်း။ ကောင်းမွန်သောနေ့ရက်တို့ကိုတွေ့မြင်
ခြင်းငှါအလိုရှိသောသူသည်မိမိလျှာကိုမကောင်းသောအရာနှင့်ကင်း
၁၁ ပါလေစေ။ မိမိနှုတ်ခမ်းလည်းမုသာစကားကိုမပြောစေနှင့်။ ဒုစရိုက်
ကိုလွှဲရှောင်၍သုစရိုက်ကိုပြုပါလေစေ။ သူကပါးနှင့်အသင့်အတင့်နေ
၁၂ အောင်ရှာဖွေလိုက်စစ်ပါလေစေ။ အကြောင်းမူကား။ ထာဝရဘုရား
သည်ဖြောင့်မတ်သောသူတို့ကိုကြည့်ရှုတော်မူ၏။ သူတို့ဆုတောင်းခြင်း
ကိုလည်းနားထောင်တော်မူ၏။ ဒုစရိုက်ပြုသောသူတို့ကိုကားထာဝရ
၁၃ ဘုရားသည်မျက်နှာလွှဲတော်မူ၏။ သင်တို့သည်ကောင်းသောတရားကို
၁၄ ကျင့်သောသူဖြစ်လျှင် အဘယ် သူသည်း ဆဲမည်နည်း။ ဖြောင့်မတ်
ခြင်း တရား ကြောင့် ဆင်းရဲခံရမူကား မင်္ဂလာ ရှိကြ ၏။ သူတို့ ချိမ်း
ခြောက် သောအား ဖြင့် မကြောက်ကြနှင့်။ မထိတ်လန့် ကြနှင့်။ စိတ်နှစ်
လုံးထဲ၌ထာဝရဘုရားသခင်ကိုရိုသေကျိုးနွံခြင်းရှိကြလော့။ ။
၁၅ သင် တို့မျှော်လင့် ခြင်း ၏ အကြောင်း ကို မေး မြန်း သော သူ ရှိသမျှ တို့
အားနူးညံ့ကြောက်ရွံ့သောသဘောနှင့်ပြန်ပြောခြင်းငှါအခါခပ်သိမ်း
၁၆ အသင့်ရှိနေကြလော့။ ခရစ်တော်၌သင်တို့၏အကျင့်ကောင်းကို ရှုတ်
ချသောသူတို့သည် ကဲ့ရဲ့ပြစ်တင်သောအခါကို ယ်တိုင် ရှက် ကြောက်
ခြင်းရှိရအောင်သင်တို့သည်ကိုယ်ကိုကိုယ်သိသောစိတ်ကြည် လင်၍
၁၇ နေကြလော့။ ဘုရားသခင်အလိုတော်ရှိလျှင်သုစရိုက်ကိုပြု၍ဆင်းရဲ
၁၈ ခံခြင်းသည်ဒုစရိုက်ကိုပြု၍ခံခြင်းထက်သာ၍ကောင်း၏။ ခရစ်တော်
သည်ကိုယ်ခန္ဓာအားဖြင့် အသေသတ်ခြင်းကိုခံ ၍ ဝိညာဉ်တော်အား
ဖြင့်အသက်ရှင်ခြင်း သို့ရောက် တော်မူသည်ဖြစ်၍ငါတို့ကိုဘုရားသ
ခင်အထံတော်သို့ပို့ဆောင်ခြင်း ငှါဖြောင့်မတ် တော်မူသောသူသည်
မဖြောင့် မတ် သောသူတို့အတွက်ဒုစရိုက်အပြစ် များ ကြောင့် တခါခံ
၁၉ တော်မူ၏။ ထိုဝိညာဉ်တော်အားဖြင့်လည်းကြွတော်မူ၍ယာခုထောင်
ထဲမှာလှောင် ထား သောဝိညာဉ် တို့အား တရား ဟောတော်မူ၏။

၂၀ ထိုဝိညာဉ်တို့မူကားရှေးကာလ၊နောဧလက်ထက်၌နည်းသောသူအဦး
တူသောလူ ရှစ်ယောက်တို့ကို ရေအား ဖြင့် ကယ်ဆယ်သောသင်္ဘော
တည်လုပ်စဉ်တွင်ဘုရားသခင်သည်းခံဆိုင်းလင့်တော်မူ၍နားမထောင်
၂၁ င်သောဝိညာဉ်ဖြစ်သတည်း။ ထိုသို့သောဥပမာအတိုင်းယခုတွင်ရေ
နှစ်မင်္ဂလာသည်ယေရှုခရစ်ထမြောက်တော်မူသောအားဖြင့်ငါတို့ကို
ကယ်တင်တတ်၏။ ရေ နှစ် မင်္ဂလာဆိုသော်ကိုယ်ကာယ၏အညစ်အ
ကြေးဆေးကြောခြင်းကိုမဆိုလို၊ကိုယ်ကိုကိုယ်သိသောစိတ်ကြည်လင်
၂၂ ၍ဘုရားသခင်ရှေ့၌ဝန်ခံခြင်းကိုဆိုလိုသတည်း။ ထိုသခင်သည်
ကောင်းကင်ဘုံသို့ကြွတော်မူသည်ဖြစ်၍ကောင်းကင်တမန်အစရှိ
သောအာဏာစက်တန်ခိုးများတို့ကိုအုပ်စိုးလျက်ဘုရားသခင်လက်ျာ
၁ တော်ဘက်၌တည်နေတော်မူ၏။ ။ထိုသို့ခရစ်တော်သည်ကိုယ်
ခန္ဓာတော်၌ငါတို့အတွက်ခံတော်မူသည်မှန်သောကြောင့်သင်တို့လည်း
ထိုသို့သောသဘော ကို လက် နက်ပြု ၍ သုံး စွဲကြလော့။ အကြောင်းမူ
ကား။ကိုယ်ခန္ဓာ၌ခံသောသူသည်ဒုစရိုက်တိ နှင့်လွတ်ညိမ်းသည်ဖြစ်၍
၂ နောက်တဖန်လူတို့၏တပ်မက်ခြင်း တရားကိုမကျင့်၊ဘုရားသခင်၏
အလိုတော်အတိုင်း ကျင့် လျက်ကိုယ်ခန္ဓာအသက်အပိုင်း အခြားကျန်
၃ ရစ်သောကာလကိုလွန်စေတတ်၏။ သါသနာပလူတို့၏အလိုကိုလိုက်
၍ကိလေသာညစ်ညူးခြင်း။ ကာမတပ်မက်ခြင်း။စပျစ်ရည်နှင့်ရစ်မူး
ခြင်း။ပွဲလုပ်ခြင်း။သောက်ကျူးခြင်း။ အမွေရုပ်တုကိုကိုးကွယ်ခြင်း၌
ကျင်လည်၍ငါတို့လွန်စေပြီးသောအသက်ကာလသည်ငါတို့လျှော်ဘန်
၄ ပေ၏။ ယခုမှာသင်တို့သည် သူတို့ နှင့်အတူမဆက်ဆံ။ ကာမဂုဏ်၌
လွန်ကျူးညစ်ညူးစွာမပြုသည် အရာကို သူတို့သည်အံ့ဩ၍ ကဲ့ရဲ့
၅ တတ်ကြ၏။ သို့ဖြစ်၍အသက်ရှင်သောသူတို့ကို ၎င်သေသောသူတို့
ကို၎င်တရားစီရင် ခြင်း ငှါအသင့် ရှိတော် မူသော သူရှေ့ ၌ ထိုသူတို့
၆ သည်စစ်ကြောခြင်းကိုခံရကြလတ္တံ့။ ထိုအကြောင်းကြောင့်လူတို့ရှေ့၌
ကိုယ်ခန္ဓာအားဖြင့်အပြစ်စီရင်ခြင်းကိုခံရသော်လည်းဘုရားသခင်ရှေ့
တော်၌စိတ်ဝိညာဉ်အားဖြင့်အသက်ရှင်မည်အကြောင်း။ သေသောသူ
၇ တို့သည်ဧဝံဂေလိတရားကိုကြားရကြ၏။ ။ခပ်သိမ်းသော
အမှုအရာတို့သည် အဆုံး သို့ရောက်လုသည်ဖြစ်သောကြောင့် သမ္မာ
၈ သတိရှိကြလော့။ဆုတောင်းခြင်းအလိုငှါစောင့်နေကြလော့။ အခြား
သောအမှုအရာထက် မက။ အချင်းချင်း အားကြီး သောချစ်ခြင်း မေ

၉ ဣဿာသည်များစွာသောအပြစ်တို့ကိုဖုံးအုပ်တတ်၏။ ညည်းညူခြင်းတင်
၁၀ ခြင်းမရှိဘဲအချင်းချင်းဧည့်သည်ဝတ်ကိုပြုကြလော့။ သင်တို့သည်အ
ကျေးဇူးတော် ကို အသီးအသီး ခံကြသည် နှင့် အညီဘုရားသခင်၏အ
ထူးထူး အပြားပြား သောကျေးဇူးတော် ဘဏ္ဍာစိုးကောင်း ကဲ့သို့အ
၁၁ ချင်းချင်းဝေငှပေးကမ်းကြလော့။ ဘုရားသခင်သည် အရာရာ၌ယေ
ရှုခရစ်အား ဖြင့် ဘုန်း တော်ထင်ရှားစေမည် အကြောင်း။ ဟောသော
သူသည်ဘုရားသခင်၏ဗျာဒိတ်နှင့် အညီဟောပါလေစေ။ ဆရာအ
မှုကိုပြုသော သူသည် ဘုရားသခင်ပေး သနားတော်မူသောအစွမ်းသ
တ္တိအတိုင်း ပြုပါလေစေ။ ထိုဘုရားသခင်၌ကမ္ဘာအဆက်ဆက်ဘုန်း
အသရေအစွမ်းသတ္တိဖြစ်စေသတည်း။အာမင်။



၁၂ ချစ်သူတို့။ သင်တို့ကိုစုံစမ်းစရာဘို့ယခုခံရသောမီးစစ်ခြင်း အရာကို
ကားအံ့ဩဘွယ်အရာသင်တို့၌ရောက်သည်ကိုထင်မှတ်၍အံ့ဩ
၁၃ ခြင်းမရှိကြနှင့်။ သင်တို့သည်ခရစ်တော်၏ဆင်းရဲကိုဆက်ဆံကြသည်
ဖြစ်၍ဘုန်းတော်ပေါ်ထွန်းသောအခါအလွန်ဝမ်းမြောက်ရွှင်လန်းလိမ့်
၁၄ မည်အကြောင်း။ယခုပင်ဝမ်းမြောက်ကြလော့။ ခရစ်တော်နာမကြောင့်
ကဲ့ရဲ့ခြင်း ကိုခံလျှင် မင်္ဂလာရှိကြ၏။ အဘယ်ကြောင့်နည်းဟူမူကား။
ဘုရားသခင်၏ဘုန်း ကြီး သောဝိညာဉ်တော်သည် သင်တို့အပေါ်မှာ
ကျိန်းဝပ်တော်မူ၏။သူတို့၌ကားကဲ့ရဲ့ခြင်း။သင်တို့၌ကားချီးမွမ်းခြင်း
၁၅ ရှိတော်မူ၏ ။သင်တို့တွင်အဘယ် သူမျှလူအသက် ကိုသတ်သောအ
ပြစ်။သူဥစ္စာကိုခိုးသောအပြစ်။ဒုစရိုက် ကိုပြုသောအပြစ်။သူတပါးအ
၁၆ မှု၌ ရောနှောသောအပြစ် ကြောင့် မခံစေနှင့်။ ခရစ်လျှန် ဖြစ်သော
ကြောင့် ခံလျှင်ရှက် ကြောက် ခြင်း မရှိစေနှင့်။ ထိုအမှုကြောင့် ခံရလျှင်
၁၇ ဘုရား သခင်ဂုဏ်တော်ကိုချီး မွမ်းပါလေစေ။ ဘုရားသခင်၏အိမ်
တော်သားတို့ကိုရှေ့ဦး စွာစစ်ကြောစီရင်ရသောအချိန်ရှိပြီး။ငါတို့ကို
ရှေ့ဦး စွာစစ်ကြောစီရင်လျှင်ဘုရားသခင်၏ဧဝံဂေလိတရားစကားကို
နားမထောင်သောသူတို့၏ အမှုသည် အဘယ် သို့ပြီး လိမ့်မည်နည်း။
၁၈ ဖြောင့်မတ် သောသူသည် ကယ် တင်ခြင်းသို့ရောက် နိုင်ခဲသည် မှန်
လျှင်ဘုရားကိုမကိုးကွယ်သောသူ။ အပြစ်ထင်ရှားသောသူသည်အ
၁၉ ဘယ်မှာပေါ်လိမ့်မည် နည်း။ ထိုကြောင့်ဘုရားသခင်၏အလိုတော်
အတိုင်း ဆင်း ရဲခံသောသူတို့သည် ဘုရားသခင်ကိုသစ္စာ ရှိသောအ

သက်သခင်ကဲ့သို့မှတ်လျက်ကောင်း သောအကျင့်ကိုကျင့်နေ၍ ကိုယ်
တော်၌မိမိအသက်ဝိညာဉ်တို့ကိုအပ်နှံပါလေစေ။
၁ သင်းအုပ်အရာ၌ရင်ခရစ်တော်၏ဆင်းရဲဒုက္ခဝေဒနာကိုသိမြင်သော
သက်သေ အရာ၌ရင်ခန့်ထားသော သူ။ ထင်ရှားစေတော်မူလတ့ံသော
ဘုန်းအသ ရေတော်ကိုဆက် ဆံ သော သူ ဖြစ် သော ငါပေ တရုသည်
၂ သင်တို့တွင်ရှိသောသင်း အုပ်ချင်းတို့ ကို တောင်းပန်ပါ၏။ သင်တို့
ဆီမှာရှိသောဘုရားသခင်၏သိုးတော်စုကိုထိန်းခြင်းအမှုမှာအနိုင်ခံ
သည်မဟုတ်။မကောင်းသောအသက် မွေးခြင်းကို ပြုသည်မဟုတ်ဘဲ
၃ အလိုလို စေတနာ စိတ် ရှိ၍ ကြည့် ရှုအုပ် ထိန်း ကြလော့။ အသီးအသီး
အုပ် သော အသင်း တော်တို့ကို အာ ဏာ ထား ၍ အစိုး တရပြုသည်မ
၄ ဟုတ်ဘဲသိုး တော် စုရှေ့မှာပုံသက်သေကိုပြသော သူဖြစ် ကြလော့။
သို့ပြုလျှင် သိုးထိန်းအကြီး ပေါ်ထွန်းတော် မူသောအခါ သင်တို့သည်
မညှိုးနွမ်းတတ်သောဘုန်း ကြီး သောပန်းဦးရစ်သရ ဖူကိုခံရကြလိမ့်
၅ မည်။ ။ထိုနည်း တူ။ အသက်ပျို သော သူ တို့။ အသက် ကြီး
သော သူ တို့၏ စကား ကို နား ထောင်ကြလော့။ထိုမျှမက။ အချင်းချင်း
တယောက်အောက် တယောက်နှိမ့် ချ လျက်နေ ၍ နှိမ့်ချခြင်းတည်းဟူ
သော တန်ဆာ နှင့်ကိုယ် ကို ကိုယ် ဆင် ကြလော့။ အကြောင်းမူကား။
ထောင်လွှား စော်ကား သော သူတို့ကို ဘုရား သခင်ဆီး တားတော်မူ
၆ ၏။ စိတ်နှိမ့်ချသော သူတို့အားကျေးဇူးပြုတော်မူ၏။ထိုကြောင့်ကာ
လအချိန်တန်လျှင်ဘုရား သခင် သည် သင်တို့ကို ချီးမြှောက် တော်မူ
မည်အကြောင်း။တန်ခိုးကြီးသောလက်တော်အောက်၌ကိုယ်ကိုကိုယ်
၇ နှိမ့်ချကြလော့။ သင်တို့ကိုသတိ နှင့်ကြည့် ရှုတော်မူသော့ကြောင့်သင်
၈ တို့စိုးရိမ်ခြင်းအရာအားလုံးကိုကိုယ်တော်၌ အပ်နှံကြလော့။ သမ္မာ
သတိရှိလျက်မအိပ်ဘဲစောင့်လျက်နေကြလော့။သင်တို့ရန်သူတည်းဟူ
သောမာရ်နတ် သည် ဟောက်သောချင် သေ့ကဲ့သို့လှည့် လည်လျက်အ
၉ ဘယ်သူ ကို မျိုနိုင်မည် နည်းဟူ၍ ရှာ ဖွေလျက်ရှိ၏။ သို့ဖြစ်၍ ဤလူ
ပြည်အရပ်ရပ် ၌ ရှိသော သင် တို့ညီအစ်ကို များတို့သည်ထိုသို့သော
ဆင်းရဲကိုခံကြသည် ဟုသိမှတ်လျက်ယုံကြည်ခြင်း ၌ တည် ၍ မာရ်နတ်
၁၀ ကိုဆီးတားကြလော့။ ။ခရစ်တော်ယေရှုအားဖြင့်ငါတို့ကို
ထာဝရဘုန်းအသရေတော်သို့ခေါ်တော်မူသော။ခပ်သိမ်းသောကျေး
ဇူးကိုပြုတော်မူသောဘုရားသခင်သည် ခဏဆင်းရဲခံပြီး သောသင်

၁၁ တို့ကိုစုံလင်တည်ကြည်ခိုင်ခံ့မြဲမြဲစေတော်မူလိမ့်မည်။ ထိုဘုရားသခင်
၌ကား၊ ဘုန်းအသရေ အစိုးမ်သခြင်း ကမ္ဘာ အဆက်ဆက်ဖြစ်စေသတည်း။
၁၂ အာမင်။ ။ငါသည်သင်တို့ကိုတိုက်တွန်းသွေးဆောင်လျက်
သင်တို့မှီဝဲဆည်းကပ်သော၍ အရာများသည် ဘုရားသခင်၏ကျေး
ဇူးတော်အမှန်ဖြစ်သည် ဟုသက်သေခံလျက် ဤစာကိုအကျဉ်းအား
ဖြင့်ရေးထားသည် ဖြစ်၍ ငါ့စိတ်ထင်အတိုင်း သင်တို့အမှု၌သစ္စာရှိ
၁၃ သောညီအစ်ကိုသိလွာနုလက်ဖြင့် ယခုပေးလိုက်၏။ ငါ့သားမာကု
မှစ၍ဗာဗုလုန်မြို့၌ရှိသောသင်တို့နှင့်အတူရွေးချယ်တော်မူသောအ
၁၄ သင်းတော်သည်သင်တို့ကိုနှုတ်ဆက်ကြ၏။ မေတ္တာနှင့်စပ်ဆိုင်သော
နမ်းခြင်းဖြင့်အချင်းချင်းတယောက်ကိုတယောက်နှုတ်ဆက်ကြပါ။ ခ
ရစ်တော်၌တည်သောသင်တို့အားလုံး၌ ငြိမ်သက်ခြင်းဖြစ်စေသ
တည်း။အာမင်။

။ရှင်ပေတရုဩဝါဒစာ ပဌမစောင်ပြီး၏။

---

## ။ရှင်ပေတရုဩဝါဒစာဒုတိယစောင်။

---

၁ ယေရှုခရစ်၏ကျွန်။ တမန်တော်ငါရှိမုန်ပေတရုက ကယ်တင်တော်မူ
သောအရှင်၊ငါတို့ဘုရားသခင်ယေရှုခရစ်၏ကုသိုလ်တော်အားဖြင့်
ငါတို့ရသောယုံကြည်ခြင်းနှင့်တူသောယုံကြည်ခြင်းအမြတ်ကိုရသော
၂ သူတို့အားကြားလိုက်ပါ၏။ ဘုရားသခင်ကိုရင်ငါတို့သခင်ယေရှုကို
၎င်းသိသောဉာဏ်အားဖြင့်ကျေးဇူးတော်နှင့်ငြိမ်သက်ခြင်းသင်တို့
၃ ၌များပြားပါစေသော။ ။ထိုသို့နှင့်အညီ ငါတို့ကိုဘုန်းတန်
ခိုးတော်နှင့်ခေါ်တော်မူသောသူကိုသိသောဉာဏ်အားဖြင့်ငါတို့အါး
အသက်ရှင်ခြင်း၊ဘုရားဝတ်၌မွေ့လျော်ခြင်းနှင့်စပ်ဆိုင်သောအရာ
၄ အားလုံးတို့ကိုဘုရားတန်ခိုးတော်သည်ပေးသနားတော်မူပြီး။ ထို
သို့သောအားဖြင့်လည်းအလွန်ကြီးမြတ်၍အဖိုးထိုက်သောဂတိများ
ကိုငါတို့၌အပ်ပေးတော်မူပြီး။အကြောင်းမူကား၊ထိုဂတိတော်များကို
အမှီပြု၍သင်တို့သည် လောကီတပ်မက်ခြင်းအညစ်အကြေးနှင့်ကင်း
လွတ်သဖြင့်ဘုရားပကတိကိုဆက်ဆံသောသူဖြစ်ကြမည်အကြောင်း
၅ တည်း။ ထိုသို့အလို၌သင်တို့သည်ယုံကြည်ခြင်း၌ရဲရင့်ခြင်းကို၎င်ရဲ

၆ ရင့်ခြင်း၌ ပညာကိုငှင်။ ပညာ၌ ကာမဂုဏ်ချုပ်တည်းခြင်းကိုငှင်၊
ကာမဂုဏ်ချုပ်တည်းခြင်း၌သည်းခံခြင်းကိုငှင်။သည်းခံခြင်း၌ဘုရား
၇ ဝတ်မွေ့လျော်ခြင်းကို ငှင်။ ဘုရားဝတ် မွေ့လျော် ခြင်း၌ညီ အစ်ကိုရုံ
မက်ခြင်းကိုငှင်ညီအစ်ကိုရုံမက်ခြင်း၌ချစ်ခြင်းမေတ္တာကို ငှင်အလှူန်
၈ ကျိုးစားအားထုတ်၍ထပ်ဆင့် ကြလော့။ အကြောင်း မူကား။ထိုပါရ
မီတို့သည်သင်တို့၌ရှိ၍ကြွယ်ဝလျှင်ငါတို့သခင်ယေရှုခရစ်ကိုသိကျွမ်
ခြင်း၌မဖျင်းရိအောင် ငှင် အကျိုးမဲ့မဖြစ် ရအောင် ငှင် ပြုပြင်တတ်ကြ
၉ ၏။ ထို ပါရမီကင်း သောသူမူကား မျက် စိကန်း ၏။ ကိုယ်မျက်စိကို
ကိုယ်ပိတ်၏။မိမိအပြစ်ဟောင်းဆေးကြောကြောင်းကိုမေ့လျော့၏။
၁၀ ထိုကြောင့်ညီအစ်ကိုတို့။သင်တို့ခံရသောခေါ်ခြင်း။ရွေးချယ်ခြင်းကို
တည်မြဲစေအောင်သာ၍ကျိုး စားအား ထုတ် ကြလော့။သို့ပြုလျှင်မွေ့
၁၁ လျော့ခြင်းနှင့်အစည်ကင်းလွတ်သည်ဖြစ်၍ငါတို့ကိုကယ်တင်တော်မူ
သောသခင်ယေရှုခရစ်၏ထာဝရနိုင်ငံတော်ထဲသို့ဝင်စားခြင်းအခွင့်
၁၂ ကိုသင်တို့အားကြွယ်ဝစွာပေးသနားတော်မူလတ့ံ။ ။ထိုကြောင့်
ယခုဟောသောသမ္မာတရားကိုသင်တို့သည်နားလည်၍တည်ကြည်ခြင်း
ရှိသော်လည်း၊ဤသို့သောစကားများ နှင့်သင်တို့ကိုအစဉ်မပြတ်သတိ
၁၃ ပေးမည်ဟုငါမမေ့မလျော့။သဘောထားလျက်ရှိ၏။ငါတို့သခင်ယေရှု
၁၄ ခရစ်သည်ဗျာဒိတ်ပေး တော်မူသည် အတိုင်း ငါတည်း နေရာတဲကိုမ
ကြာမမြင့်ငါပြစ်သွားရမည်အရာကိုငါသိမှတ်၍ ဤတဲ၌ရှိနေစဉ်ကာ
၁၅ လပတ်လုံးသင်တို့ကိုသတိပေး၍ နိုးဆော်အပ် သည် ဟုငါသဘောရှိ
၏။ ထိုမှတပါး။ငါစုတေ့သောနောက်သင်တို့သည်ဤ အရာများကိုအ
၁၆ စည်မှတ်မိရအောင်ငါကျိုးစားအားထုတ်မည်။ ။ငါတို့သခင်
ယေရှုခရစ်၏ တန်ခိုး တော်ကို ငှင် ကြွလာတော်မူခြင်းကို ငှင်သင်တို့
အား ကြား ပြောသောအခါငါတို့သည် ပရိယာယ် နှင့် ပြင်ဆင်သောဒ
ဏ္ဍာရီစကားကိုမလိုက်။ဘုန်းအာနုဘော်တော်ကိုကိုယ်တိုင်မြင် သော
၁၇ သူဖြစ်ကြ၏။ အဘယ်သို့နည်းဟူမူကား။ဤသူသည် ငါ နှစ် သက်
မြတ် နိုး ရာငါချစ် သားပေတည်း ဟူသောအသံ တော်သည် ထုံးမြတ်
သောအရောင် အဝါတော် ထဲကထို သခင် ဆီသို့ရောက် သောအခါခ
မည်းတော်ဘုရားသခင်အထံတော်မှဂုဏ်အသရေ။ဘုန်း အာနုဘော်
၁၈ ကို ခံရတော်မူ၏။ သန့်ရှင်းသောတောင်ပေါ်မှာသခင်ဘုရားနှင့်အ
တူငါတို့ရှိစဉ် ကောင်း ကင်ကရောက် သောထို အသံတော်ကိုငါတို့

၁၈ ကြွားရကြ၏။ ။ထိုမှတပါး။သာ၍မြဲမြံသောအနာဂတ္တိ
စကားတော်ငါတို့၌ရှိသေး၏။ စိတ်နှစ်လုံးအထဲ၌ အာရုဏ်တက်၍
ကြယ်နီပေါ်ထွက်သည့်ကာလတိုင်အောင်ထို အနာဂတ္တိ စကားတော်
ကိုမှောင်မိုက်သောအရပ်၌ထွန်းလင်းသောဆီမီးကဲ့သို့မှတ်၍သင်တို့
၂၀ သည်အမှီပြုသင့်ကြ၏။ ကျမ်းစာပါသောအနာဂတ္တိစကားမည်သည်
ကားကိုယ်အလိုအလျောက်အနက်မပေါ်သည် ဟုရှေးဦးစွာသိမှတ်ကြ
၂၁ လော့။ အကြောင်းမူကား။အနာဂတ္တိ စကားသည်လူအလို အားဖြင့်စီ
ရင်ဘူးသည်မဟုတ်။ဘုရားသခင်၏ လူစင်တို့သည် သန့်ရှင်းသောဝိ
ညာဉ်တော်၏တိုက်တွန်းတော်မူခြင်းကိုခံ၍ဟောပြောကြ၏။



၁ သို့သော်လည်းယုဒလူတို့တွင်ပရောဖက်ရောင်ဆောင်သောသူရှိကြ
၏။ ထိုနည်းတူ။ သင်တို့တွင်မိစ္ဆာဆရာရှိကြလိမ့်မည်။ ထိုဆရာတို့
သည်ဖျက်ဆီးတတ်သောမိစ္ဆာဒိဋ္ဌိအယူများကို ပရိယာယ်အားဖြင့်
သွင်း၍မိမိတို့ကိုဝယ်တော်မူသောအရှင်ကိုညင်းဖယ် လျက်မိမိတို့
အပေါ်၌ လျင်စွာသောဖျက်ဆီးခြင်းကိုသင့်ရောက်စေသော သူပေ
၂ တည်း။ သူတို့ညစ်ညူးသောအကျင့်လေ့တို့ကို အများသောသူတို့
သည်လိုက်သော အားဖြင့် သမ္မာတရားလမ်း အသရေသည်ပျက်စီးရ
၃ လိမ့်မည်။ သူတို့သည်လောဘလွှန်ကျူးလျက်ချော့မော့သောစကား
နှင့်သင်တို့ကို ကုန်သွယ်ကြလိမ့်မည်။ သူတို့အပြစ်စီရင်ခြင်းသည်
ရှေးကာလမှစ၍ မနွဲ့မဖင့်။ သူတို့ဖျက်ဆီးခြင်းသည်လည်း အိပ်မ
၄ ပျော်။ ။အဘယ်ကြောင့်နည်းဟူမူကား။ ပြစ်မှားသောကောင်းကင်တမန်တို့ကိုဘုရားသခင်သည်နှစ်မြောထော်မမူဘဲတာ
တရုငရဲထဲသို့ ချလိုက်ပြီးမှစစ်ကြော စီရင်ခြင်းအလို ဌါချုပ် ထား၍
၅ မှောင်မိုက်သံကြိုးဖြင့်ချည်နှောင်တော်မူ၏။ ရှေးလောကခါတ်ကိုလည်း
နှစ်မြောတော်မမူဘဲဖြောင့်မတ်ခြင်းတရားကိုဟောသောနောဧနှင့်
လူခုနှစ်ယောက်တို့ကိုစောင့်မတော်မူ၍ ဘုရားကိုမကိုးကွယ်သော
၆ လောကီသားအပေါင်းတို့ကိုရေလွှမ်းမိုးစေတော်မူ၏။ သောဒုံမြို့ဂေါ
မောရမြို့တို့ကိုမီးရှို၍ဖျက်ဆီးရာဒဏ်စီရင်တော်မူသဖြင့် နောက်၌
မတရားသော အကျင့်ကိုကျင့်အံ့သော သူတို့ အားပုံသက် သေထား
၇ တော်မူ၏။ ထိုအခါမတရားသောသူတို့၏ညစ်ညူးရာ အကျင့်အား
ဖြင့်နှောင့်ရှက်ခြင်းကိုခံရသောသူ။ဖြောင့်မတ်သောလောတကိုကယ်

၈ နှုတ်ဖော်မှု၏။ ထိုဖြောင့်မတ်သောသူသည်မတရားသောသူတို့
တွင်နေ၍မျက်စိမြင်လျက်နားကြားလျက်သူတို့၏မတရားသောအမှု
များအားဖြင့်နေ့တိုင်းမပြတ်မိမိဖြောင့်မတ်သောစိတ်နှစ်လုံးကိုပြင်း
၉ စွာညှဉ်းဆဲလေ၏။ ဘုရားဝတ်၌မွေ့လျော်သောသူတို့ကိုစုံစမ်း
နှောင့်ရှက်ခြင်းအထဲကကယ်နှုတ်ခြင်းငှါ၎င်မတရားသောသူတို့သည်
၁၀ ဒါဏ်ခံမည်အကြောင်း။ ညစ်ညူးစေသောတပ်မက်ခြင်းနှင့်တကွဇာ
တိပကတိအတိုင်းကျင့်၍အာဏာစက်ကိုမထီမဲ့မြင်ပြုသောသူတို့
သည်အထူးသဖြင့်ဒါဏ်ခံမည်အကြောင်း။ တရားစီရင်သောနေ့အ
၁၁ ဖို့ချုပ်ထားခြင်းငှါ၎င်ထာဝရဘုရားတတ်နိုင်တော်မူ၏။
။ထိုသူတို့သည်ရဲရင့်လျက်ကိုယ်အလိုကိုသာလိုက်လျက်ဘုန်း
တန်ခိုးရှိသောသူတို့ကိုကဲ့ရဲ့ငုံ့ကြ၏။ ကောင်းကင်တမန်တို့မူကားသူ
တို့ထက်ခွန်အားတန်ခိုးကြီးသော်လည်းထာဝရဘုရားရှေ့တော်၌သူ
၁၂ တို့အားကဲ့ရဲ့စွာသောပြစ်တင်ခြင်းကိုမပြုကြ။ သူတို့မူကားဖမ်း၍
ဖျက်ဆီးဖို့ရာဖန်ဆင်းအပ်သောတိရစ္ဆာန်သက်သက်ကဲ့သို့မိမိတို့နား
မလည်သောအရာကိုကဲ့ရဲ့လျက်မိမိတို့ဖောက်ပြန်ပုပ်စပ်သေါအားဖြင့်
အကုန်အစင်ဖျက်ဆီးခြင်းသို့ရောက်၍မတရားသောအမှု၏အပြစ်ကို
၁၃ ခံရကြလိမ့်မည်။ နေ့အချိန်၌ပင်ကာမဂုဏ်ခံစားလွန်းခြင်းအမှုသည်
ပျော်မွေ့ရာဖြစ်သည်ဟုသူတို့သဘောရှိ၏။ သင်တို့နှင့်အတူစား
သောက်ပွဲလုပ်သောအခါမိမိတို့မှားရှင်းသေါသဘောနှင့်ကာမဂုဏ်
၁၄ ခံစားလွန်း၍သင်တို့၌အညစ်အကြေးအစွန်းအကွက်ဖြစ်ကြ၏၊ သူ
တို့သည်သူ့မယားကိုပြစ်မှားသောကိလေသာနှင့်ပြည့်စုံသောမျက်စိ
ရှိ၍ဒုစရိုက်ကိုမပြုဘဲမနေနိုင်ကြ။ စိတ်နှစ်လုံးမတည်သောသူတို့ကို
အပြစ်သို့သွေးဆောင်ကြ၏။ လောဘလွန်ကျူးခြင်း၌ကျင်လည်၍
၁၅ ကျိန်ဆိုတော်မူခြင်း၏သားဖြစ်ကြ၏။ ဖြောင့်မတ်သောလမ်းထဲက
၁၆ ထွက်၍လွဲသွားသဖြင့်ဗောသောသားဗာလံ၏လမ်းကိုလိုက်ကြ၏၊
ထိုဗာလံသည်မတရားသောအမှု၏အခကိုတပ်မက်၍မိမိဒုစရိုက်အ
တွက်ဆုံးမခြင်းကိုခံရ၏။အဘယ်သို့နည်းဟူမူကား။စကားမပြောနိုင်
သောမြည်းသည်လူဘာသာအားဖြင့်မြွက်၍ပရောဖက်၏မိုက်မဲခြင်း
၁၇ ကိုမြစ်တားလေ၏။ ။ထိုသူတို့သည်ရေမရှိသောရေတွင်း
ကဲ့သို့၎င်လေတိုက်သွားသောမိုးတိမ်ကဲ့သို့၎င်ဖြစ်ကြ၏။သူတို့အ
၁၈ ဖို့တခဲနက်သောထာဝရမှောင်မိုက်အတိသိုထားလျက်ရှိ၏။ အဘယ်

ကြောင့်ခုည်းဟူမူကား။မှား ရွင်းခြင်းနှင့်ကျင်လည်သော သူတို့အထဲက ပြေးထွက်လုသောသူတို့ကို ထောင်လွှားသောအချည်း နှီးစကား ပြောသည် နှင့် ဇာတိ ပကတိ ကပ် မက်ခြင်း။ ကိလေသာ လွှန်ကျူး ခြင်း အား
၁၉ ဖြင့်အပြစ်သို့သွေးဆောင်ကတ်ကြ၏။ လွှတ်ခြင်းအခွင့်ရှိအပ်သည်ဟု ဝန်ခံလျှက်ပင်ဖောက်ပြန် ပုပ် စပ်ခြင်း ၏ကျွန်ဖြစ်ကြ၏။ အဘယ်သို့
၂၀ ခုည်းဟူမူကား။လူကို နိုင်သောအရာသည် လူ၏သခင်ဖြစ်၏။ ကယ်တင်တော်မူသောအရှင်သခင်ယေရှုခရစ်ကိုသိကျွမ်းခြင်းအားဖြင့်လောကီညစ်ညူး ခြင်း နှင့်ကင်း လွတ် ပြီး မှတဖန် ကျော့မိ၍ ရှုံးလျှင်နောက်
၂၁ ဖြစ်ဟံသည့်ရှေ့ဖြစ်ဟံထက်သာ၍ ဆိုး၏။ ဖြောင့်မတ်ခြင်း တရားလမ်းကို သိ၍ မိမိခံခဲ့ပြီး သောသန့်ရှင်း သောပညတ်ကိုတဖန်စွန့်ပြစ်သည့်ထက်ထိုတရားလမ်းကိုမသိဘဲနေသော်သာ၍ကောင်း၏။ ခွေး
၂၂ သည်မိမိအန်ဖတ်ကိုပြန်၍စား၏။ ဝက်သည်လည်းဆေးပြီးမှရွှံ့တွင်လူးပြန်၏ဟုမှန်သောစကားပုံသည်ထိုသူတို့၌ပြည့်စုံသတည်း။



၁။၂ ချစ်သူတို့။ ဤဒုတိယသြဝါဒစာကိုသင် တို့ဆီသို့ယခုငါရေး ၍ ပေးလိုက် ၏။ သန့် ရှင်း သောပရောဖက် တို့သည် အထက် ကဟောပြောသောစကားများကို၎င်ကယ် တင် တော်မူသောအရှင်သခင်၏တမန်တော် ဖြစ် သောငါတို့၏ပညတ် ကို ၎င် သင်တို့သည် အောင်း မေ့စေခြင်းငှါ ဤ စာနှစ်စောင် ၌သင် တို့၏ကြည် ဖြူသောစိတ်ဝိညည်တို့ကို
၃ ငါသတိပေး ၍ နိုး ဆော်၏။ ရှေဦး စွာသိမှတ် အပ် သောအရာဟူမူကား။နောက်ဆုံးကာလ ၌ကဲ့ရဲ့တတ်သော သူတို့သည် မိမိတို့တပ်မက်
၄ ခြင်း အတိုင်း ကျင့် နေ၍ သခင်ဘုရား ကြွလာမည် ဟုဂတိတော်အဘယ် မှာရှိသနည်း။ ဘိုး ဘေးများ အိပ်ပြော် သောနောက် ခပ်သိမ်းသောအရာ တို့သည် ဖန်ဆင်း စကရှိသကဲ့သို့နေမြဲ နေ၏ဟုဆို၍ကဲ့ရဲ့
၅ ခြင်းနှင့်တကွပေါ်လာကြလိမ့်မည်။ ရှေးကာလ၌မိုဃ်းကောင်းကင်ကို၎င်ရေထဲကထွက်၍ရေဖြင့် တည်သောမြေကြီးကို၎င်ဘုရားသခင်၏
၆ နှုတ်ကပတ်တော်သည်ဖြစ် စေတော်မူကြောင်း။ ဖြစ်ဘူးသောလောကဓာတ်ကိုထိုသို့အားဖြင့်ရေနှင့်လွှမ်းမြုပ်၍ပျက်စီး ကြောင်းကိုသူတို့
၇ သည်မှတ်မိချင်သောစိတ်မရှိကြ။ ယခု ရှိသောမိုဃ်းကောင်းကင်နှင့်မြေကြီးသည်ကားတရား ဆုံးဖြတ်၍ အဓမ္မလူတို့ကိုဖျက်ဆီးသောနေ့တိုင်အောင်ထို နှုတ်ကပတ်တော်အားဖြင့်သို ထားလျှက်မီး ရှို့ခြင်းအ

၈ မှီအလိုဌါနေရစ်သတည်း။ ။ချစ်သူတို့။ထာဝရဘုရားမှာ
ကာလတရက်သည်အနှစ်တထောင်ကဲ့သို့ဖြင့်အနှစ်တထောင်သည်တ
၉ ရက်ကဲ့သို့ဖြင့်ဖြစ်သည်အရာတခုကိုမမေ့လျော့ကြနှင့်။ လူအချို့တို့
သည်နှေးခြင်းကိုမှတ်သည်အတိုင်းထာဝရဘုရားသည်ဂတိတော်အ
ရာမှာနှေးတော်မမူ။ ငါတို့တွင်အဘယ်သူမျှမပျက်စီးဘဲအားလုံးတို့
သည်နောင်တရစေခြင်းဌါအလိုတော်ရှိသဖြင့် ငါတို့ကိုသည်းခံတော်
၁၀ မူ၏။ ထာဝရဘုရား၏နေ့သည်သူခိုးကဲ့သို့ရောက်လာလိမ့်မည်။ထို
နေ့၌ မိုဃ်းကောင်းကင်သည်ကြီးစွာသောအသံနှင့်တကွပျောက်
သွားလိမ့်မည်။လောကဓာတ်တို့သည်ပူအားကြီး၍ပျက်လိမ့်မည်။မြေ
ကြီးကိုယ်မှစ၍မြေကြီးပေါ်မှာဖန်ဆင်းတည်လုပ်သမျှသောအရာတို့
၁၁ သည်ကျွမ်းလောင်လိမ့်မည်။ ။သို့ဖြစ်၍ဤအရာအားလုံးတို့
၁၂ သည်ကုန်စင်မည်မှန်သော့ကြောင့်မိုဃ်းကောင်းကင်သည်မီးနှင့်
ပျက်၍လောကဓာတ်တို့သည်ပူအားကြီးသည်နှင့်အရည်ကြိုသောနေ့
တည်းဟူသောဘုရားသခင်နေ့ရောက်မည်ဟုသင်တို့သည်မျှော်ထင့်
တောင့်တ၍သန့်ရှင်းသောအကျင့်ကိုကျင့်ခြင်း။ဘုရားဝတ်၌မွေ့လျော်
၁၃ ခြင်းအားဖြင့်အဘယ်သို့သောသူဖြစ်အပ်ကြသနည်း။ ထိုသို့အား
လုံးပျက်သော်လည်းဖြောင့်မတ်ခြင်းတရားတည်နေရာမိုဃ်းကောင်း
ကင်သစ်နှင့်မြေကြီးသစ်ကိုငါတို့သည်ဂတိတော်နှင့်အညီမျှော်ထင့်
၁၄ ကြ၏။ ။ထိုသို့မျှော်လင့်ခြင်းရှိသည်ဖြစ်၍ချစ်သူတို့။သင်တို့
သည်အညစ်အကြေးနှင့်ကင်းစင်၍အဘယ်အပြစ်မျှမပါဘဲရှေ့တော်
သို့ညိမ်ဝပ်စွာရောက်မည်အကြောင်း။ကျိုးစားအားထုတ်ကြလော့။
၁၅ ငါတို့ချစ်သောညီအစ်ကိုပေါလုသည်မိမိခံရသောဉာဏ်ပညာအ
တိုင်းသင်တို့ဆီသို့ရေး၍ပေးလိုက်သောစာ၌ဖြင့်သူသည်ဤအရာ
များကိုပြော၍စီရင်သောဩဝါဒစာအားလုံး၌ဖြင့်ပါသည်နှင့်အညီ
ငါတို့သခင်ဘုရားသည်းခံတော်မူခြင်းသည်ကယ်တင်မည်အကြောင်း
၁၆ ဖြစ်သည်ဟုမှတ်ကြလော့။ ထိုစာ၌ခက်ခဲသောအရာအချို့ရှိ၏။မ
တတ်သောသူ။ တည်ကြည်ခြင်းမရှိသောသူတို့သည်ကိုယ်ကိုကိုယ်
ဖျက်ဆီးလျက်ထိုအရာမှစ၍ကြွင်းသောကျမ်းစါအချက်ကိုမှောက်လှန်
၁၇ တတ်ကြ၏။ သို့ဖြစ်၍ချစ်သူတို့။ မတရားသောသူတို့၏ပရိယာယ်
အားဖြင့်သင်တို့သည်လည်းသွေးဆောင်ရာမှာပါ၍ကိုယ်တည်ကြည်
ခြင်းမှမရွေ့လျော့မည်အကြောင်း။ဤအရာများကိုသိနှင့်လျက်ကိုယ်

၁၈ ကိုကိုယ်စောင့်ရှောက်ကြလော့။ ကျေးဇူးတော်၌ငါတို့ကိုကယ်တင်
တော်မူသောသခင်ယေရှုခရစ်ကိုသိကျွမ်ခြင်း၌ ငြိကြီး ပွားကြလော့။
ထိုသခင် ၌ ယခု မှစ၍ ထာဝရနေ့ ပတ်လုံးဘုန်း အသရေဖြစ်စေသ
တည်း။အာမင်။

။ရှင်ပေတရုဩဝါဒစာ ဒုတိယစောင်ပြီး၏။

---

## ။ရှင်ယောဟန်ဩဝါဒစာ။

---

၁ အသက် နှင့် ပြည့်စုံ လျက် ရှေ ဦး စွာ မှစ၍ ရှိတော်မူသောနှုတ်ကပတ်
တော်ကိုငါတို့သည်နားကြားလျက်မျက်စိနှင့် မြင်လျက် စေ့စေ့ကြည့်ရှု
လျက်လက်နှင့်စမ်းသပ်လျက်ရှိသည်ဖြစ်၍သင်တို့အားပြသကြ၏။
၂ ထိုအသက်သည်ထင်ရှားရှိခဲ့ပြီ။ ငါတို့လည်းမြင်ရပြီ။ ခမည်းတော်
နှင့်အတူရှိဘူး ၍ ငါတို့အားထင်ရှားခဲ့ပြီးသောထိုထာဝရအသက်ကို
၃ ငါတို့သည်သင်တို့အားသက်သေခံ၍ပြသကြ၏။ ငါတို့သည်ခမည်း
တော်နှင့်ငှင်သားတော်ယေရှုခရစ်နှင့်ငှင်မိတ်သဟာယဖွဲ့ခြင်းရှိသည်
ဖြစ်၍သင်တို့သည် ငါတို့ နှင့် မိတ်သဟာယ ဖွဲ့ခြင်းရှိ ရအောင် ငါတို့
၄ ကြားမြင်ရသောအရာကို သင်တို့ အား ပြ သကြ ၏။ သင်တို့၏ဝမ်
မြောက် ခြင်း ပြည့် စုံရအောင်လည်း ထိုအရာ များ ကိုငါတို့သည်ရေး
၅ ထား၍ကြားလိုက်ကြ၏။။ ထိုနှုတ်ကပတ်တော်ထံငါတို့
သည်ကြားရ၍သင်တို့အားပြသသောတရားစကားဟူမူကား။ဘုရား
သခင်သည်အလင်းဖြစ်တော်မူ၏။ဘုရားသခင်၌မှောင်မိုက် အလျှင်း
၆ မရှိ။ ငါတို့သည် ဘုရားသခင် နှင့် မိတ်သဟာယဖွဲ့ပြီးဟုမှောင်မိုက်
၌ကျင်လည် လျက်ပင် ငါတို့ဆိုလျှင် သမ္မာတရားကို မကျင့်။ မုသာစ
၇ ကားကိုပြောသောသူဖြစ်ကြ၏။ ဘုရားသခင်သည် အလင်း ၌ ရှိ
တော်မူသကဲ့သို့ငါတို့သည် အလင်း၌ကျင်လည် လျှင်အချင်းချင်း မိတ်
သဟာယဖွဲ့ခြင်းရှိကြသည်ဖြစ်၍ဘုရားသခင်၏သားတော်ယေရှုခ
ရစ်၏အသွေးတော်သည်ငါတို့၏ အပြစ်အား လုံးကိုဆေး ကြောတော်
၈ မူ၏။ ကိုယ်အပြစ် မရှိဟုငါတို့ဆိုလျှင် ကိုယ်ကို ကိုယ်လှည့် စား ၍
၉ ငါတို့ ၌ သမ္မာ တရား မရှိ။ ကိုယ် အပြစ် တို့ကို ငါတို့ သည် ဖော်ပြ
တောင်းပန်လျှင်ငါတို့အပြစ် များကိုလွှတ်၍ဒုစရိုက် အားလုံးနှင့်ကင်း

စေခြင်းငှါဘုရားသခင်သည်သစ္စာတရားနှင့်ဝှင်ဖြောင့်မတ်ခြင်းတ
၁၀ ရားနှင့်ဝှင်ပြည့်စုံတော်မူ၏။ ဒုစရိုက်ကိုမပြုပြီးဟုငါတို့ဆိုလျှင်ဘု
ရားသခင်ကိုမုသာအပြစ်တင်ကြ၏။ နှုတ်ကပတ်တော်လည်းငါတို့၌မ
၁ ရှိ။ ။ချစ်သားတို့။သင်တို့သည်ဒုစရိုက်ကိုမပြုရအောင်ဤ
အရာများကိုငါရေး၍ကြားလိုက်၏။ တစုံတယောက်သောသူသည်ဒု
စရိုက်ကိုပြုမိလျှင်ဖြောင့်မတ်တော်မူသောယေရှုခရစ်တည်းဟူသော
၂ ငါတို့အမှုစောင့်သခင်သည်ခမည်းတော်ထံ၌ရှိတော်မူ၏။ ထိုသခင်
သည် ငါတို့၏ အပြစ်မကလောကီသားအပေါင်းတို့၏ အပြစ်ဖြေရာ
၃ လဲမ်ဖြစ်တော်မူ၏။ ထိုသခင်ကိုငါတို့သိကျွမ်းသည်ကိုအဘယ်သို့
သိရသနည်းဟူမူကားပညတ်တော်တို့ကိုစောင့်ရှောက်လျှင်သိရကြ
၄ ၏။ ထိုသခင်ကိုငါသိ၏ဟုပညတ်တော်တို့ကိုမစောင့်ဘဲလျက်ဆို
သောသူသည်မုသာစကားကိုပြော၏။သစ္စာတရားလည်းသူ၌မရှိ။
၅ ထိုသခင်၏စကားတော်ကိုနားထောင်သောသူမည်သည်ကားဘုရား
သခင်ကိုချစ်ခြင်းမေတ္တာနှင့်အမှန်ပြည့်စုံ၏။ငါတို့သည်ထိုသခင်၌ရှိ
၆ ကြောင်းကိုထိုသို့အားဖြင့်ငါတို့သိရကြ၏။ ထိုသခင်၌ငါတည်၏ဟု
ဆိုသောသူသည်ထိုသခင်ကျင့်တော်မူသည်နည်းတူကျင့်ရသတည်း။
၇ ။ချစ်သူတို့။သင်တို့အားငါရေးထားသောပညတ်သည်ပညတ်
သစ်မဟုတ်။ရှေးဦးစွာမှစ၍သင်တို့၌ရှိသောပညတ်ဟောင်းဖြစ်၏။
ပညတ်ဟောင်းကားရှေးဦးစွာမှစ၍သင်တို့သည်ကြားရသောဒေသ
၈ နာတော်ပင်ဖြစ်၏။ တဖန်တုံ။ ပညတ်သစ်ကိုသင်တို့အားငါရေး
ထား၏။ထိုသခင်အားဖြင့်ဝှင်သင်တို့အားဖြင့်ဝှင် အသစ်မှန်ပေ၏။
အဘယ်ကြောင့်နည်းဟူမူကား။ မှောင်မိုက်ပျောက်လွင့်သည်ဖြစ်၍
၉ မှန်သောအလင်းသည်ထွန်းတောက်ခြင်းရှိ၏။ မိမိညီအစ်ကိုကိုမုန်း
လျက်ပင်အလင်း၌ငါရှိ၏ဟုဆိုသောသူသည်ယခုတိုင်အောင်မှောင်
၁၀ မိုက်၌ရှိသေး၏။ မိမိညီအစ်ကိုကိုချစ်သောသူသည်အလင်း၌တည်
၁၁ နေ၏။ထိုမိမိ၌လဲစရာအကြောင်းသူ၌မရှိ။ မိမိညီအစ်ကိုကိုမုန်းသော
သူသည်မှောင်မိုက်၌ရှိ၏။မှောင်မိုက်၌လည်းကျင်လည်သွားလာ၏။
မှောင်မိုက်ကြောင့်သူ၏မျက်စိမမြင်နိုင်သဖြင့်အဘယ်ဆီသို့ကိုယ်
သွားမှန်းကိုကိုယ်မသိ။



၁၂ ချစ်သားတို့။သင်တို့သည်ထိုသခင်အားဖြင့်အပြစ်များနှင့်ကင်းလွတ်

၁၃ သော့ကြောင့်သင်တို့အားငါရေး၍ကြားလိုက်၏။ အဖတို့သင်တို့။သည်
ရှေဦးစွာမှစ၍ရှိတော်မူသောသူကို သိသော့ကြောင့်သင်တို့အားငါ
ရေး၍ကြားလိုက်၏။ လူပျိုတို့။သင်တို့သည်မာရ်နတ်ကိုအောင်သော့
ကြောင့်သင်တို့အားငါရေး၍ကြားလိုက်၏။ သူငယ်တို့။သင်တို့သည်
ခမည်းတော်ကိုသိသော့ကြောင့်သင်တို့အားငါရေး၍ကြားလိုက်၏။
၁၄ အဖကို့။ သင်တို့သည်ရှေဦးစွာမှစ၍ ရှိတော်မူသောသူကိုသိသော့
ကြောင့်သင်တို့အားငါ ရေး၍ကြားလိုက်ခဲ့ပြီး။ လူပျိုတို့။သင်တို့သည်
ခွန်အားနှင့်ပြည့်စုံ၍ ဘုရားသခင်၏နှုတ်ကပတ်တော် ၌ မှီဝဲဆည်း
ကပ်သဖြင့် မာရ်နတ် ကို အောင်သော့ကြောင့် သင်တို့အား ငါရေး၍
၁၅ ကြားလိုက်ခဲ့ပြီး။ လောကကိုငှင်လောက၌ရှိသောအရာတို့ကို ငှင် မ
ချစ်ကြနှင့်။ မည်သောသူသည်လောကကိုချစ်လျှင်ထိုသူ ၌ ခမည်း
၁၆ တော်ကိုချစ်ခြင်းမေတ္တာမရှိ။ ကိုယ်ကာယတပ်မက်ခြင်း။မျက်စိတပ်
မက်ခြင်း။ လောကီစည်းစိမ် ၌ ကြွားဝါခြင်းမှစ၍လောက၌ရှိသမျှတို့
၁၇ သည်ခမည်းတော်နှင့်မစပ်ဆိုင်။လောကနှင့်သာစပ်ဆိုင်ကြ၏။ လော
ကနှင့်လောကတပ်မက်ခြင်းသည် ရွေ့သွားကွယ်ပျောက်တတ်၏။ ဘု
ရားသခင်၏အလိုတော်နှင့်အညီကျင့်သောသူသည် နိစ္စထာဝရတည်
၁၈ ၏။ ။ချစ်သားတို့။ယခုကာလကားနောက်ဆုံးကာလဖြစ်၏။
ခရစ်ရန်သူပေါ်လာကြောင်းကိုသင်တို့ကြားရသည်အတိုင်းယခုပင်
ခရစ်ရန်သူအများရှိကြ၏။ထိုကြောင့်ယခုကာလသည်နောက်ဆုံးကာ
၁၉ လဖြစ်မှန်းကိုသိရ၏။ ထိုသူတို့သည်ငါတို့ထံမှထွက်သွား၏။ သို့ဆို
သော်အထက်ကငါတို့နှင့်မစပ်ဆိုင်ကြ။ငါတို့နှင့်စပ်ဆိုင်လျှင်ငါတို့နှင့်
အတူနေလိမ့်မည်။ထိုသူအားလုံးတို့သည်ငါတို့နှင့်မစပ်ဆိုင်ကြောင်း
၂၀ ထင်ရှားစေခြင်းငှါငါတို့ထံမှထွက်သွားကြ၏။ သင်တို့သည်သန့်ရှင်း
တော်မူသောဘုရား၏လက်မှ ဘိသိတ်ဘျေးဇူးတော် ကို ခံရသဖြင့်
၂၁ ခပ်သိမ်းသောအရာတို့ကို သိရကြ၏။ သမ္မာတရားကိုသင်တို့မသိ
သော့ကြောင့်ငါရေး၍ကြားလိုက်သည်မဟုတ်။ သမ္မာတရားကိုငှင်မု
သာစကားရှိသမျှကိုသည်သမ္မာတရားနှင့်မစပ်ဆိုင်သည်ကို ငှင် သိ
၂၂ သော့ကြောင့်သင်တို့အားငါရေး ၍ ကြားလိုက်၏။ မုသာစကားကို
ပြောသောသူကား။အချားသူမဟုတ်။ယေရှုသည်ခရစ်တော်ဖြစ်မှန်း
ကိုညင်းသောသူပေတည်း။ခမည်းတော်ကိုငှင်သားတော်ကိုငြင်း
၂၃ ပယ်သောသူသည် ခရစ် ရန်သူဖြစ်၏။ သားတော်ကိုညင်းမယ်

သောသူမည်သည်ကားခမည်းတော်ကိုမသိ။သားတော်ကိုဝန်ခံသော
၂၄ သူမည်သည်ကားခမည်းတော်ကိုသိ၏။ ထိုကြောင့်သင်တို့သည်ရှေ
ဦးစွာမှစ၍ ကြားရသောဒေသနာကိုသင်တို့၌ တည်စေကြလော့။ ထို
ဒေသနာသည်သင်တို့ ၌ တည် လျှင်သင်တို့ သည်သားတော် ၌ ခင်ခ
၂၅ မည်းတော်၌ခင်တည်ရကြလိမ့်မည်။ ။ငါတို့အားပေးတော်မူ
သောဂတိတော်မူကားထာဝရအသက်ကိုဝန်ခံတော်မူသောဂတိတော်
၂၆ ပေတည်း။ သင်တို့ကို လှည့်စားသောသူတို့၏အကြောင်းကို ဤသို့
၂၇ ငါရေး၍သင်တို့ အားကြား လိုက်၏။ သို့သော်လည်း သင်တို့သည်
သန့်ရှင်းတော်မူသောသူ၏ လက်မှ ခံ ရသော ဘိသိတ်ကျေးဇူးတော်
သည်သင်တို့၌တည်သည်ဖြစ်၍အဘယ်သူ မျှသင်တို့ကိုဆုံးမဩဝါဒ
ပေးစေခြင်းငှါသင်တို့ မလိုကြ။ ထိုဘိသိတ်ကျေးဇူးတော်သည်အ
ရောင်ဆောင်သည်မဟုတ်။အမှန်ဖြစ်လျက်ခပ်သိမ်းသောအရာတို့၌
သင်တို့အားဆုံးမ သွန်သင် တော် မူသည် အတိုင်း သင်တို့သည် သား
၂၈ တော်၌တည်နေကြလော့။ ချစ်သားတို့။သားတော်သည် ထင်ရှားပေါ်
ထွန်းတော် မူ သောအခါ ငါတို့ သည်အထံတော် သို့ရောက်လျှင် ရဲရင့်
သောစိတ်ရှိ၍ရှက်ကြောက်ခြင်းနှင့်ကင်းလွတ်မည် အကြောင်း။ သား
တော်၌တည်နေကြလော့။



၂၉ ဘုရားသခင်သည် ဖြောင့်မတ်တော်မူသည်ကိုသင်တို့သိလျှင်ဖြောင့်
မတ်ခြင်းတရားကိုကျင့်သောသူမည်သည်ကားဘုရားသခင်ဖြစ်ပွား
၁ စေတော်မူသောသူဖြစ်သည်ကိုသိရကြ၏။ ။ဘုရားသခင်၏
သားတော် ဟု ခေါ်ဝေါ် ခြင်းအခွင့်ကိုငါတို့ သည်ရမည်အကြောင်း၊
ဘုရားသခင်သည်ငါတို့ကိုအဘယ်မျှလောက်ချစ်တော်မူသည်ကိုကြည့်
ရှုဆင်ချင်ကြလော့။လောကီသားတို့သည်ဘုရားသခင် ကို မသိသော
၂ ကြောင့်ငါတို့ကိုမသိကြ။ ချစ်သူတို့။ယခုတွင်ငါတို့သည်ဘုရားသခင်
၏သားဖြစ်ကြ၏။ နောက်မှာ အဘယ်သို့ သောသူ ဖြစ်မည်အရာမ
ထင်ရှားသေး။ သို့သော်လည်း ကိုယ်တော်သည် ထင်ရှားပေါ် ထွန်း
တော်မူသောအခါငါတို့သည်ကိုယ်တော်နှင့်တူကြလတံ့ဟုငါတို့သိကြ
၏။အအယ်ကြောင့်နည်းဟူမူကား။ကိုယ်တော်သည်ဖြစ်တော်မူသည်
၃ အတိုင်းကိုငါတို့သည်မြင်ရကြလတံ့။ ထိုသို့မျှော်လင့်သောသူမည်
သည်ကားကိုယ်တော်သည်သန့်ရှင်းတော်မူသည် နည်းတူ ကိုယ်ကို

၄ ကိုယ်သန့်ရှင်းစေ၏။ ။ဒုစရိုက်ကိုပြုသောသူမည်သည်ကား
ပညတ်တော်ကိုလွှန်ကျူး၏။ ဒုစရိုက်သည်ကားပညတ် တော်ကိုလွှန်
၅ ကျူးခြင်းဖြစ်သတည်း။ ကိုယ်တော်သည်ငါတို့၏အပြစ်များကိုပယ်
ရှင်းရအောင်ထင်ရှားပေါ်ထွန်းတော်မူသည်ကိုသင်တို့သိကြ၏။ကိုယ်
၆ တော်၌လည်း အပြစ်မရှိ။ ကိုယ်တော်၌တည်နေသောသူမည်သည်
ကားဒုစရိုက်ကိုမပြုကတတ်။ဒုစရိုက်ကို ပြုတတ်သောသူမည်သည်ကား
၇ ကိုယ်တော်ကိုမမြင်ရမသိရသေး။ ချစ်သားတို့။သင်တို့ကိုအဘယ်
သူမျှမလှည့်ဖျား စေနှင့်။အကြင်သူသည် ဖြောင့်မတ်ခြင်း တရားကို
ကျင့်၏။ဘုရားသခင် ဖြောင့် မတ်တော်မူသည် နည်း တူထိုသူသည်
၈ ဖြောင့်မတ်၏။ မာရ်နတ်သည်ရှေးဦးစွာမှစ၍ဒုစရိုက်ကိုပြုသောသူ
ဖြစ်သောကြောင့်အကြင် သူသည်ဒုစရိုက်ကိုပြု၏။ ထိုသူသည် မာရ်
နတ် နှင့် ဆိုင်၏။မာရ်နတ်အမှုတို့ကိုပယ် ဖျက်ခြင်းငှါဘုရားသခင်၏
၉ သားတော်သည်ထင်ရှားပေါ်ထွန်းတော်မူ၏။ ဘုရားသခင်ဖြစ်ဖွား
စေတော်မူသောသူ မည် သည် ကား ဒုစရိုက် ကို မပြုတတ်။ အဘယ်
ကြောင့်နည်းဟူမူကား။သူ၌မျိုးစေ့တော်တည်လျက် ရှိသည်ဖြစ်၍ဘု
ရားသခင်ဖြစ်ဖွားစေတော်မူသောသူ ဖြစ်သောကြောင့် ဒုစရိုက်ကိုမ
၁၀ ပြုနိုင်။ ထိုသို့သောလက္ခဏာအားဖြင့်ဘုရားသခင်၏သား။မာရ်
နတ်၏သားတို့သည်ထင်ရှားကြ၏။ ဖြောင့်မတ်ခြင်းတရားကိုမကျင့်
သောသူ။မိမိညီအစ်ကိုကိုမချစ်သောသူမည်သည်ကားဘုရားသခင်
၁၁ နှင့်မဆိုင်။ သင်တို့သည်ရှေးဦးစွာမှစ၍ကြားရသောတရားစကားဟူမူ
၁၂ ကား။မိမိညီကိုသတ်သောမာရ်နတ်လူကာဣနကဲ့သို့မဟုတ်။ငါတို့သည်
အချင်းချင်းချစ်ရမည် ဟုပညတ်သတည်း။ ကာဣနသည်မိမိညီကိုအ
ဘယ်ကြောင့်သတ်သနည်းဟူမူကား။မိမိအကျင့်ဆိုးယုတ်၍ ညီ၏အ
၁၃ ကျင့်ဖြောင့်မတ်ကြသတည်း။ ။ညီအစ်ကိုတို့။လောကီသား
၁၄ တို့သည်သင် တို့ကိုမုန်းသည်အရာ၌အံ့ဩခြင်းမရှိကြနှင့်။ ငါတို့
သည်ညီအစ်ကိုချင်း တို့ ကို ချစ်သောကြောင့် သေခြင်းမှအသက်ရှင်
ခြင်းသို့ကိုယ်ကူး ပြောက်သည်ကိုကိုယ်သိရကြ၏။ မိမိညီအစ်ကိုကို
၁၅ မချစ်သောသူသည်သေခြင်း၌တည်၏။ မိမိညီအစ်ကိုကိုမုန်းသော
သူမည်သည်ကားလူအသက် ကိုသတ် သောသူဖြစ်၏။ လူအသက်ကို
သတ်သောသူတစုံတယောက်၌မျှထာဝရအသက်မတည်သည်ကိုသင်
၁၆ တို့သိကြ၏။ ကိုယ် တော်သည် ငါတို့အဖို့အလို ငှါအသက်တော်ကိုစွန့်

တော်မူသည်အရာကိုငါတို့သည် ထောက်၍ မေတ္တာတော်ကိုသိရပြီး။
ငါတို့သည်လည်း ညီအစ်ကိုချင်း တို့အဖို့အလို့ငှါအသက်ကိုစွန့်ရကြ
၁၇ မည်။ အကြင်သူသည်လောကီစည်းစိမ်ဥစ္စာရှိလျက်ပင် မိမိညီအစ်ကို
ဆင်းရဲခြင်း ကိုမြင်၍သနား ခြင်းကရုဏာစိတ်ကို ချုပ်တည်း၏။ထို
သူ၌ဘုရားသခင်၏မေတ္တာတော်သည်အဘယ်သို့တည်သနည်း။
၁၈ ။ချစ်သားတို့။စကားပြောကာမျှနှင့်မချက်ဘဲစိတ်ပါကိုယ်
၁၉ ရောက်ကြောန်အမှန်ချစ်ကြစို့။ ထိုသို့ချစ်လျှင်သမ္မာတရားနှင့်ကိုယ်
ဆိုင်သည်ကိုကိုယ်သိရ၍ဘုရားသခင်ရှေ့တော်၌ရဲမှားသောစိတ်နှင့်
၂၀ ကင်းလွတ်ကြလိမ့်မည်။ အဘယ်ကြောင့်နည်းဟူမူကား။ကိုယ်စိတ်
နှလုံးသည်ကိုယ်ကိုအပြစ်တင်လျှင်ဘုရားသခင်သည်ငါတို့၏စိတ်
နှလုံးထက်သာ၍ ကြီးမြတ်သည်ဖြစ်၍ အလုံးစုံတို့ကိုသိတော်မူ
၂၁ သည်ကိုငါတို့သိကြ၏။ ချစ်သူတို့။ကိုယ်စိတ် နှလုံးသည်ကိုယ်ကို
အပြစ်မတင်လျှင်ဘုရားသခင်ရှေ့တော်၌ရဲရင့်သောစိတ်ရှိကြ၏။
၂၂ ငါတို့သည်ပညတ်တော်တို့ကို စောင့်၍နှစ်သက် တော်မူသောအကျင့်
တို့ကိုကျင့်သောကြောင့် ဆုတောင်းသမျှတို့ကိုဘုရား သခင် ထံ့ရကြ
၂၃ ၏။ ဘုရားသခင် ၏ပညတ်တော်ဟူမူကား။သားတော်ယေရှုခရစ်
၏ နာမကိုရုံကြည်ရမည်။ သားတော်ပညတ် တော်မူသည်အတိုင်းအ
၂၄ ချင်းချင်းချစ်ရမည် ဟူသောပညတ်တော်ပေတည်း။ ပညတ်တော်
တို့ကိုစောင့် သောသူသည်ဘုရားသခင်၌ တည်၏။ထိုသူ၌လည်းဘု
ရားသခင်တည်တော်မူ၏။ငါတို့အားပေး တော်မူသောဝိညာဉ်တော်
ကိုငါတို့သည် အမှီပြု၍ ဘုရား သခင်သည်ငါတို့၌ တည်တော်မူသည်
ကိုသိရကြ၏။



၁ ချစ်သူတို့။ခပ်သိမ်း သောစိတ်ဝိညာဉ် တို့ကိုမရုံကြနှင့်။စိတ်ဝိညာဉ်တို့
သည်ဘုရားသခင်နှင့်စပ်ဆိုင်သည်။မစပ်ဆိုင်သည်ကိုစုံစမ်းကြလော့။
အဘယ် ကြောင့်နည်း ဟူမူကား။ ပရောဖက်ရောင်ဆောင်သောသူ
၂ အများ တို့သည် ဤလောကသို့သွားကြပြီး။ ဘုရားသခင် ၏ဝိညာဉ်
တော် ကို အဘယ် သို့သိနိုင် သနည်း ဟူမူ ကား။ လူဇာတိအားဖြင့်
ကြွလာ တော် မူ သော ယေရှုခရစ် ကို ဝန် ခံသောဝိညာဉ် မည် သည်
၃ ကား ဘုရား သခင် နှင့် စပ် ဆိုင် ၏။ ယေရှုခရစ် ကို ဝန်မခံသောဝိ
ညာဉ်မည်သည်ကားဘုရားသခင်နှင့်မစပ်ဆိုင်။ထို သို့သောဝိညာဉ်

ကား သင် တို့သည် ကြား ခဲ့ပြီး သည့် အတိုင်း ဤ လောကသို့လာမည်
ဖြစ် ၍ ယခုပင်လာလျက် ရှိသောခရစ်ရန်သူ၏ ဝိညာဉ် ဖြစ် ၏။
၄ ချစ်သားတို့။သင်တို့သည်ဘုရားသခင်နှင့်စပ်ဆိုင်ကြ၏။ထိုသူတို့ကို
လည်း အောင်ကြပြီ။ အဘယ် ကြောင့် နည်းဟူမူကား။သင်တို့ဘက်၌
ရှိသောသူသည် လောကဘက် ၌ ရှိသော သူထက် သာ၍ ကြီး တော်မူ
၅ ၏။ထိုသူတို့သည်လောကနှင့်စပ်ဆိုင်သော့ကြောင့်လောကီအကြောင်း
အရာ ကို ပြောတတ်၏။ လောကီသားတို့သည် လည်း သူတို့စကားကို
၆ နားထောင်တတ်၏။ ငါတို့သည်ဘုရား သခင်နှင့်စပ်ဆိုင်၏။ဘုရား
သခင်ကိုသိသောသူသည်ငါတို့စကားကိုနားထောင်တတ်၏။ဘုရား
သခင်နှင့်မစပ် ဆိုင် သောသူသည်ငါတို့စကားကိုနားမထောင်တတ်။
ထိုအရာကိုငါတို့သည်ထောက် ၍ သမ္မာဝိညာဉ်ကို၎င် မိစ္ဆာဝိညာဉ်ကို
၇ ၎င်သိရကြ၏။ ။ချစ်သူတို့။အချင်းချင်းချစ်ကြစို့။အဘယ်
ကြောင့်နည်းဟူမူကား။ချစ်ခြင်းမေတ္တာသည်ဘုရားသခင်နှင့်စပ်ဆိုင်
၏။ချစ်တတ်သောသူမည်သည်ကား ဘုရားသခင် ဖြစ် ဖွား စေတော်
၈ မူသောသူဖြစ်၏။ဘုရားသခင်ကိုသိသောသူလည်းဖြစ်၏။ ချစ်ခြင်း
မရှိသောသူသည် ဘုရားသခင်ကိုမသိ။ အဘယ် ကြောင့် နည်း ဟူမူ
၉ ကား။ဘုရားသခင်သည်ချစ်ခြင်းမေတ္တာဖြစ်တော်မူ၏။ သားတော်
အား ဖြင့် ငါတို့သည် အသက် ရှိစေခြင်း ငှါဘုရားသခင်သည်တပါး
တည်းသားတော်ကို ဤလောကသို့စေလွှတ်တော်မူသောအရာ၌ ငါတို့
၁၀ ကိုချစ်တော်မူသောမေတ္တာတော်သည်ထင်ရှားလျက်ရှိ၏။ ငါတို့သည်
ဘုရားသခင်ကိုချစ်ကြသည်ဟုမဆို။ဘုရားသခင်သည်ငါတို့ကိုချစ် ၍
ငါတို့၏အပြစ်ဖြေရာလမ်ဖြစ်စေခြင်းငှါသားတော်ကိုစေလွှတ်တော်
၁၁ မူသောအရာ၌ချစ်ခြင်းမေတ္တာရှိ၏။ ချစ်သူတို့။ဘုရားသခင်သည်
ငါတို့ကို ဤ မျှလောက် ချစ် တော်မူသည် မှန် လျှင် ငါတို့သည် လည်း
၁၂ အချင်းချင်း ချစ်ရကြ၏။ အဘယ်သူမျှ ဘုရားသခင် ကို တရံတခါ
မမြင်။ သို့သော်လည်း အချင်း ချင်း ချစ် ကြလျှင် ဘုရား သခင် သည်
ငါတို့၌တည်တော်မူ၍ငါတို့သည်ချစ်ခြင်းမေတ္တာတော်နှင့်ပြည့်စုံကြ
၁၃ ၏။ ဘုရား သခင် သည် ဝိညာဉ် တော်၏ ကျေးဇူး တော်ကိုငါတို့အား
ပေးတော်မူသော့ကြောင့်ငါတို့သည်ဘုရားသခင် ၌တည် သည်ကို၎င်
၁၄ ဘုရားသခင်သည်ငါတို့၌တည်တော်မူသည်ကို၎င်သိရကြ၏။ သား
တော်သည်လောကီသားတို့ကိုကယ်တင်သောသခင်ဖြစ်စေခြင်းငှါခ

မည်းတော်သည် သားတော်ကိုစေလွှတ်တော်မူသည်ကိုငါတို့သိမြင်၍
၁၅ သက်သေခံကြ၏။ ။ယေရှုသည်ဘုရားသခင်၏သားတော်ဖြစ်
တော်မူသည်ကိုဝန်ခံသောသူမည်သည်ကားဘုရားသခင်၌တည်၏။ဘု
၁၆ ရားသခင်သည်လည်းထိုသူ၌တည်တော်မူ၏။ ဘုရားသခင်သည်ငါ
တို့ကိုချစ်တော်မူခြင်းမေတ္တာတော်ကိုငါတို့သိ၍ ရုံကြည်ကြ၏။ဘုရား
သခင်သည်ချစ်ခြင်းမေတ္တာဖြစ်တော်မူ၏။ ချစ်ခြင်းမေတ္တာ၌တည်
သောသူသည်ဘုရားသခင်၌တည်၏။ဘုရားသခင်သည်လည်းထိုသူ
၁၇ ၌တည်တော်မူ၏။ ထိုသို့ငါတို့သည်ချစ်ခြင်းမေတ္တာနှင့်ပြည့်စုံသော
အားဖြင့်တရားဆုံးဖြတ်တော်မူသောနေ့၌ ရဲရင့်သောစိတ်ရှိကြလိမ့်
မည်။အဘယ်ကြောင့်နည်းဟူမူကား။ငါတို့သည် ကိုယ်တော်နည်းတူ
၁၈ ဤလောက၌ဖြစ်ကြ၏။ ချစ်ခြင်းမေတ္တာသည် ကြောက်ခြင်းသံဝေ
ဂနှင့်မပေါင်းနိုင်ရာ။သံဝေဂသည်ပူပန်ခြင်းဝေဒနာကိုဖြစ်စေသော
ကြောင့်စုံလင်သောမေတ္တာသည်သံဝေဂကိုပယ်ရှင်းတတ်၏။သံဝေ
၁၉ ဂရှိသောသူသည်မေတ္တာနှင့်မပြည့်စုံသေး။ ဘုရားသခင်သည်ငါတို့
ကို ရှေ့ဦးစွာချစ်တော်မူသောကြောင့်ငါတို့သည်ဘုရားသခင်ကိုချစ်
၂၀ ကြ၏။ ဘုရားသခင်ကိုငါချစ်သည်ဟုမိမိညီအစ်ကိုကိုမုန်းလျက်ပင်
ဆိုသောသူရှိလျှင် ထိုသူသည် မုသာစကားကို ပြော၏။ ထင်ရှား
သောမိမိညီအစ်ကိုကို မချစ်လျှင် ထင်ရှားတော်မမူသောဘုရားသ
၂၁ ခင်ကို အဘယ်သို့ချစ်နိုင်သနည်း။ ဘုရားသခင်ကို ချစ်သောသူ
သည်မိမိညီအစ်ကိုကိုချစ်ရမည်ဟူသောပညတ်တော်ကိုငါတို့သည်
ခရစ်တော်ထံခံရကြပြီ။

**

၁ ယေရှုသည်ခရစ်တော်ဖြစ်တော်မူသည်ကိုရုံကြည်သောသူမည်သည်
ကားဘုရားသခင်ဖြစ် ဖွားစေတော်မူသောသူဖြစ်၏။အဖကိုချစ်သော
၂ သူသည်သားကိုလည်းချစ်တတ်သည်ဖြစ်၍ ငါတို့သည်ဘုရားသခင်ကို
ချစ်လျက်ပညတ်တော်တို့ကိုစောင့်ကြလျှင်ဘုရားသခင်၏သားတို့ကို
၃ ချစ်ကြသည်ကိုငါတို့သိရကြ၏။ ပညတ်တော်တို့ကိုစောင့်ခြင်းအရာ
သည်ဘုရားသခင်ကိုချစ်ရာရောက်၏။ပညတ်တော်တို့ကိုစောင့်ခဲသည်
၄ မဟုတ်။ ဘုရားသခင်၏သားဖြစ်သောသူမည်သည်ကားလောကကို
အောင်သောသူဖြစ်သောကြောင့်ပညတ်တော်တို့ကို စောင့်လွယ်၏။
လောကကိုအောင်ခြင်းအကြောင်းမူကား ငါတို့၏ရုံကြည်ခြင်းဖြစ်သ

၅ တည်း။ ယေရှုသည်ဘုရားသခင်၏သားတော်ဖြစ်သည်ကိုယုံကြည်သောသူမှတပါးအဘယ်သူသည်လောကကိုအောင်နိုင်သနည်း။ ။ထို
၆ သခင်ကားရေအားဖြင့်၎င်အသွေးအားဖြင့်၎င်ကြွလာသောသူတည်းဟူသောယေရှုခရစ်ပေတည်း။ရေအားဖြင့်သာမဟုတ်။ရေအားဖြင့်၎င်အသွေးအားဖြင့်၎င်ကြွလာတော်မူ၏။ သက်သေခံသောသူမူကားသမ္မာ
၇ ဝိညာဉ်တော်သည်သက်သေခံဖြစ်တော်မူ၏။ သို့ဖြစ်လျှင်ကောင်းကင်ဘုံ၌ခမည်းတော်တပါး။ နှုတ်ကပတ်တော်တပါး။သန့်ရှင်းသောဝိညာဉ်တပါး။ သက်သေခံသုံးပါးရှိ၍ ထိုသုံးပါး တို့သည်တလုံးတဝ
၈ တည်းဖြစ်တော်မူ၏။ မြေကြီးပေါ်မှာလည်းဝိညာဉ်တော်တပါး။ရေတပါး။အသွေးတပါး။သက်သေခံသုံး ပါးရှိ၍ထိုသုံး ပါးတို့သည်တညီ
၉ တညွတ်တည်းဖြစ်၏။ လူ၏သက်သေကိုယုံရလျှင် ဘုရား သခင်၏သက် သေတော် ကိုသာ၍ ယုံစရာအကြောင်း ရှိ၏။ ယခုဆိုခဲ့ပြီး သောသက်သေကား ဘုရား သခင်သည် မိမိ သား တော်၏ အကြောင်း ကို
၁၀ သက်သေခံတော်မူချက်ဖြစ်သတည်း။ ဘုရားသခင်၏သားတော်ကိုယုံကြည်သောသူသည်မိမိအထဲ၌ ထိုသက်သေ ကိုရ၏။ ဘုရားသခင်ကိုမယုံကြည်သောသူသည် ဘုရားသခင်ကို မုသာ အပြစ်တင်၏။ အဘယ်သို့နည်း ဟူမူကား။ ဘုရား သခင် သည် မိမိ သားတော်၏အကြောင်းမှာသက်သေခံတော်မူသောစကားတော်ကိုထိုသူသည်မယုံဘဲ
၁၁ နေ၏။ သက်သေခံတော်မူချက်ဟူမူကား။ ဘုရားသခင် သည် ငါတို့အားထာဝရအသက် ကို ပေးတော်မူ ၍ ထိုအသက်သည်လည်း သား
၁၂ တော်၌ပါ၏။ သားတော်ကိုရသောသူကားအသက် ကိုရ၏။ ဘုရားသခင်၏သားတော်ကိုမရသောသူကားအသက်ကိုမရ။ ။
၁၃ ဘုရားသခင်၏သားတော် ကို ယုံကြည် သော သင် တို့သည် ထာဝရအသက် ကိုကိုယ် ရ်မှန်း ကိုကိုယ် သိရအောင် ဤ အရာများကိုသင် တို့
၁၄ အားငါရေး၍ကြားလိုက်၏။ ငါတို့သည်ဘုရားသခင်အထံတော်၌ရဲရင့်ခြင်း အကြောင်းဟူမူကား။ ငါတို့သည် အလိုတော် နှင့် အညီတစုံတခုသောဆု ကို တောင်း လျှင် ဘုရား သခင် နားထောင်တော် မူ၏။
၁၅ ဆုတောင်းသမျှသောစကားတို့ကိုနားထောင်တော်မူသည်ကိုငါတို့သိ
၁၆ လျှင်အထံတော်၌တောင်းသောဆုတို့ကိုရမည်ဟုသိရ၏။ ညီအစ်ကို ချင်း သည်သေပြစ် မသင့်သောဒုစရိုက် ပြုမိသည် ကိုမြင် သောသူသည်မြင်လျှင်ထိုသူသည်ဆုတောင်းရ၏။သေပြစ်ကိုမပြုသောသူ

တို့အဖို့အလို ငါ ဘုရားသခင်သည်ထိုသူအား အသက်ကိုပေးတော်မူ
မည်။သေပြစ်သင့်သောဒုစရိုက်ရှိ၏။ထိုဒုစရိုက်အပြစ်ကိုလွှတ်စေခြင်း
၁၇ ငါဆုတောင်းရ၏ဟုငါမဆို။ မတရားသောအမှုမည်သည်ကားဒုစ
၁၈ ရိုက်ဖြစ်၏။သို့သော်လည်းသေပြစ်မသင့်သောဒုစရိုက်ရှိ၏။ ဘုရား
သခင်၏သားဖြစ်သမျှသောသူတို့သည် ဒုစရိုက်မပြုတတ်သည်ကိုငါ
တို့သိ၏။ဘုရားသခင်ဖြစ် ဖွားစေတော်မူသောသူသည် မိမိ ကို မိမိ
၁၉ စောင့်ရှောက်သဖြင့်မာရ်နတ်သည်ထိုသူကိုမထိခိုက်နိုင်ရာ။ ငါတို့
သည်ဘုရားသခင်နှင့်စပ်ဆိုင်သည်ကိုငှင် လောကီသားအပေါင်းတို့
၂၀ သည်မာရ်နတ်လက်၌လဲလျောင်းသည်ကိုငှင်ငါတို့သိကြ၏။ ဘုရား
သခင်၏သားတော်သည်ကြွလာ၍မှန်သောဘုရားသခင်ကိုသိသော
ဉာဏ်ကိုငါတို့အားပေးတော်မူသည်ကိုငါတို့သိကြ၏။ မှန်သောဘု
ရားသခင်၌ငှင်သားတော်ယေရှုခရစ်၌ငှင်ငါတို့သည်တည်လျက်ရှိကြ
၏။ထိုသူသည်မှန်သောဘုရားသခင်ဖြစ်တော်မူ၏။ ထာဝရအသက်
၂၁ လည်းဖြစ်တော်မူ၏။ ချစ်သားတို့။ရုပ်တုဆင်းတုကိုကြည်ရှောင်ကြ
လော့။

။ရှင်ယောဟန်ဒုတိယစာပြီး၏။

---

။ရှင်ယောဟန်မေတ္တာစာပဉ္စမစောင်။

၁။၂ အသက်ကြီးသူကမြတ်သောသခင်မကိုငှင်သားသမီးတို့ကိုငှင်ကြား
လိုက်ပါ၏။ငါတို့၌တည်၍ငါတို့ဆီမှာအစဉ်မပြတ်ရှိလတ္တံ့သောသမ္မာ
တရားအားဖြင့်ငါမှစ၍သမ္မာတရားကိုသိသောသူအားလုံးတို့သည်
သခင်မ၌ငှင်သားသမီးတို့၌ငှင်မှန်ကန်သောချစ်ခြင်းမေတ္တာရှိပါ၏။
၃ ခမည်းတော်ဘုရားထံတော်က ငှင် ခမည်းတော်၏သားတော်သခင်
ယေရှုခရစ်အထံတော်က ငှင် သမ္မာတရား။ မေတ္တာတရားနှင့်တကွ
ကျေးဇူး။ကရုဏာ။ညိမ်သက်ခြင်းသင်တို့အားဖြစ်ပါစေသော။
၄ ။ငါတို့သည်ခမည်းတော်မှပညတ်တော်ကို ခံရသည်အတိုင်းသင်
၏သားသမီးအချို့တို့သည်သမ္မာတရား၌ကျင်လည်၍နေသည်ကိုငါ
၅ တွေ့သောအခါအလွန်ဝမ်းမြောက်ခြင်းရှိ၏။ ယခုတွင်ပညတ်တော်
သစ်ကိုရေးမထားဘဲလျက်ငါတို့၌ရှေးဦးစွာမှစ၍ရှိသောပညတ်
တော်ကိုရေးထား၍သခင်မ။အချင်းချင်းချစ်ခြင်းမေတ္တာရှိကြရို့ဟုငါ

၄ တောင်းပန်၏။ ပညတ်တော်တို့အတိုင်းကျင့်စောင့်ခြင်းအရာသည်
ချစ် ရာရောက် ၏။ သင် တို့သည်ပညတ်တော် နှင့် အညီကျင့် မည်အ
ကြောင်း။ သင် တို့သည် ရှေးဦး စွာမှစ၍ ကြားရသည်အတိုင်းပညတ်
၅ တော်သည်ထိုသို့သောသဘောရှိ၏။ လှူဓာတ်အားဖြင့်
ကြွလာတော်မူသောယေရှုခရစ် ကို ညှင်း ပယ် လျက်လှည့် စားသော
သူအများတို့သည် လောကထဲသို့ဝင်ကြပြီး။ ထိုသို့သောသူသည်လှည့်
၈ စားသောသူဖြစ်၏။ ခရစ်ရန်သူလည်းဖြစ်၏။ ငါတို့သည်ပြုရသော
အရာမပျောက်မပျက်။ စုံလင်သောအကျိုး ကိုရမည်အကြောင်း။ သင်
၉ တို့သည်ကိုယ်ကိုကိုယ်သတိပြု၍စောင့်ရှောက်ကြလော့။ ခရစ်တော်
၏ဒေသနာ၌မတည်ဘဲလွန်ကျူးသောသူမည်သည်ကားဘုရားသခင်
ကို မသိ။ ခရစ် တော်၏ဒေသနာ ၌ တည် သောသူသည် ခမည်း တော်
၁၀ ကိုရင်သား တော်ကိုရင် သိ၏။ ထိုဒေသနာတော်မပါသော သူသည်
၁၁ သင်တို့ဆီသို့လာလျှင်သူကိုသင်အိမ်၌လက်မခံနှင့်။ မင်္ဂလာ ရှိစေသော
ဟုနှုတ်မဆက် နှင့်။ မင်္ဂလာ ရှိစေသောဟုသိုသူ နှင့် နှုတ်ဆက်လျှင်သူ
၁၂ ၏ဆိုးယုတ်သောအကျင့်တို့နှင့်ဆက်ဆံရာရောက်၏။ ။သင်
တို့အားငါရေးစရာ အကြောင်းအများရှိ၍စက္ကူပေါ်၌မှင်နှင့်ရေးခြင်း
ငှါအလိုမရှိ။ အဘယ်ကြောင့်နည်းဟူမူကား။ သင်တို့ဆီသို့ငါလာ၍အ
ချင်းချင်း အားရဝမ်းမြောက်ခြင်း နှင့်ပြည့်စုံရအောင်သင်တို့ နှင့် နှုတ်
၁၃ ဆက်၍စကားပြောမည်ဟုမျှော်လင့်လျက်နေ၏။ သင်၏မြတ်သော
ညီမ၏သားသမီးတို့သည်သင်ကိုနှုတ်ဆက်ကြ၏။

။ ရှင်ယောဟန်မေတ္တာစာပဌမစောင်ပြီး၏။

---

## ။ ရှင်ယောဟန်မေတ္တာစာဒုတိယစောင်။

---

၁ အသက်ကြီးသူကချစ်အပ်သောဂါယုကိုကြားလိုက်ပါ၏။ ငါသည်သင်
၂ ၌မှန်ကန်သောချစ်ခြင်းမေတ္တာရှိ၏။ အချင်းချစ်သူ။ သင်၏စိတ်နှစ်
လုံးသည်ကောင်းစားသကဲ့သို့သင်သည်အရာရာ၌ကောင်းစားခြင်း
၃ နှင့်ကျန်းမာခြင်း ရှိမည်အကြောင်းငါဆုတောင်း၏။ သင်သည်သ
မ္မာတရား၌ကျင်လည်သည်အတိုင်းသင်၌ရှိသောသမ္မာတရား၏အ
ကြောင်းကိုညီအစ်ကိုတို့သည်လာ၍သက်သေခံကြသောအခါငါသည်

၄ အလွန်ဝမ်းမြောက်ခြင်းရှိ၏။ ငါ၏သားသမီးတို့သည်သမ္မာတရား၌
ကျင်လည်သည်ကိုငါကြားရ၍ဝမ်းမြောက်ခြင်းထက်သာ၍ဝမ်း
၅ မြောက်ခြင်းမရှိ။ ။အချင်းချစ်သူ၊သင်သည်ညီအစ်ကို
တို့အား၎င်းအာဂန္တုတို့အား၎င်းပြုသမျှသောဝတ်တို့ကိုသစ္စာနှင့်အညီ
၆ သင်သည်ပြုတတ်၏။ ထိုသူတို့သည်သင်၏ချစ်ခြင်းမေတ္တာအ
ကြောင်းကိုအသင်းတော်ရှေ့၌သက်သေခံကြ၏။ သင်သည်ထိုသူတို့
ကိုဘုရားသခင်အလိုတော်နှင့်အညီပို့လိုက်ပြန်လျှင်ကောင်းသောအ
၇ မှုကိုပြုလိမ့်မည်။ အဘယ်ကြောင့်နည်းဟူမူကား၊ထိုသူတို့သည်သာ
၈ သနာပလူတို့တွင်အလှူမခံဘဲလျက်သာသနာပြုသွားကြ၏။ ငါတို့
သည်သမ္မာတရားကိုကူမသောသူဖြစ်ရအောင်ထိုသို့သောသူတို့
၉ အားဧည့်သည်ဝတ်ကိုပြုအပ်၏။ ။အသင်းတော်ဆီသို့မှာ
စာကိုငါရေး၍ကြားလိုက်ခဲ့ပြီ။ သို့သော်လည်းအကဲအမှူးလုပ်ချင်
၁၀ သောဒယောတရပ်သည်ငါတို့အားအခွင့်မပေး။ ထိုကြောင့်ငါလာ
သောအခါသူသည်မိမိပြုသောအမှုကိုမိမိသတိရအောင်ငါပြုမည်၊
ထိုသူသည်ညှူစူသောစကားနှင့်ငါတို့ကိုကဲ့ရဲ့သည်သာမကကဲ့ရဲ့ခြင်း
နှင့်စိတ်မပြေဘဲလျက်ညီအစ်ကိုတို့ကိုကိုယ်တိုင်လက်မခံ။လက်ခံချင်
သောသူတို့ကိုလည်းမြစ်တား၍အသင်းတော်ထဲကနှင်ထုတ်တတ်၏။
၁၁ အချင်းချစ်သူ၊မကောင်းသောနည်းကိုမယူနှင့်။ ကောင်းသောနည်းကို
သာယူလော့။ ကောင်းသောအကျင့်ကိုကျင့်သောသူသည်ဘုရားသခင်
နှင့်စပ်ဆိုင်၏။ မကောင်းသောအကျင့်ကိုကျင့်သောသူသည်ဘုရားသ
၁၂ ခင်ကိုမသိမမြင်ပြီ။ လူအပေါင်းတို့သည်ဒေမေတရိ၏သက်သေဖြစ်
ကြ၏။ သမ္မာတရားသည်လည်းသူ၏သက်သေဖြစ်၏။ ငါတို့သည်လည်း
သူ့ဘက်သက်သေခံကြ၏။ ငါတို့၏သက်သေခံခြင်းသည်ဟုတ်မှန်
၁၃ သည်ကိုသင်တို့သိကြ၏။ ။ငါရေးစရာအကြောင်းအများရှိ၍
၁၄ မှင်နှင့်မှင်တံဖြင့်ရေးခြင်းငှါအလိုမရှိ။ ငါသည်များမကြာသင်ကို
တွေ့မြင်သဖြင့်အချင်းချင်းနှုတ်ဆက်၍စကားပြောမည်ဟုမျှော်လင့်
လျက်နေ၏။ သင်အားငြိမ်သက်ခြင်းဖြစ်ပါစေသော။ အဆွေတို့သည်
သင်ကိုနှုတ်ဆက်ကြ၏။ သင်၌ရှိသောအဆွေတို့ကိုနာမည်ထုတ်၍
နှုတ်ဆက်ပါလေ။

။ရှင်ယောဟန်မေတ္တာစာဒုတိယစောင်ပြီး၏။

# ။ရှင်ယုဒဩဝါဒစာ။

၁ ယေရှုခရစ်၏ကျွန် ဖြစ်သောယာကုပ် ညီငါယုဒကခမည်းတော် ဘု
ရားသခင်သည်သန့်ရှင်းစေတော်မူ၍ယေရှုခရစ်သည်ခေါ်ထားစောင့်
၂ မတော်မူသောသူတို့ကိုကြား လိုက် ပါ၏။ သင်တို့၌ကရုဏာဖြစ်ပါ
စေသော။ညိမ်သက်ခြင်း။ချစ်ခြင်းများပြားပါစေသော။
၃ ။ချစ်သူတို့။တပည့်တော်အားလုံးဆက်ဆံသောကယ်တင်ခြင်းအ
ကြောင်းအရာကိုသင်တို့ဆီသို့ရေး၍ ပေးလိုက်ခြင်း ငှါငါအလွန်ကျိုး
စားသည်တွင်သန့်ရှင်းသူတို့ ၌အထက်ကအပ်ပေးခဲ့ပြီးသောယုံကြည်
ခြင်း တရားဘက် မှာသင်တို့သည်ကျိုး စား၍ တိုက်လံစေခြင်း ငှါနှိုး
၄ ဆော်သွေးဆောင်၍ရေး ပေးလိုက်ရသောအကြောင်းရှိ၏။ အဘယ်
ကြောင့်နည်းဟူမူကား။ ငါတို့ဘုရားသခင်၏ ကျေးဇူး တော်ကိုကိလေ
သာညစ်ညူးခြင်းအလို ငှါမှောက်လှန်လျက်တပါးတည်းအစိုးရတော်မူ
သောအရှင်။ ငါတို့သခင်ယေရှုခရစ်ကို ညင်းပယ်လျက် အပြစ် ခံခြင်း
ငှါရှေးကစီရင်မှတ်သားနှင့်သောအမြွလူအချို့တို့သည်ပရိယာယ် နှင့်
၅ အမှတ်တမဲ့ဝင်ကြပြီး။ ထိုကြောင့်သင်တို့သည်သိနှင့်သော်လည်းသ
တိပေး၍ ငါပြောချင်သောအကြောင်းအရာဟူမူကား။ထာဝရဘုရား
သည်ဣသရေလလူမျိုးကိုအဲဂုတ္တုပြည်ကကယ်လွှတ် တော်မူပြီး လျှင်
၆ မယုံကြည်သောသူတို့ကိုတဖန်ဖျက်ဆီးတော်မူ၏။ ထိုမှတပါး။မိမိတို့
အမှုကိုမစောင့်။မိမိတို့နေရာအရပ်ကိုပြစ်သွားသောကောင်းကင်တ
မန်တို့ကိုကြီးစွာသောနေ့၌ စစ်ကြောစီရင်ခြင်း အလိုငှါထာဝရချည်
၇ နှောင်ခြင်း အားဖြင့်မှောင်မိုက်ထဲမှာချုပ်ထားတော်မူ၏။ ထိုနည်း
တူ။ သောဒုံမြို့။ ဂေါမောရမြို့မှစ၍ ပတ်ဝန်းကျင်သောမြို့တို့သည်အ
ထက်ကဆိုခဲ့ပြီးသောလူဆိုးကဲ့သို့မတရားသောမေထုန်ကိုကျူးလွန်၍
ယောကျ်ားချင်း ရှက်ဖွယ် သောအကျင့်ဓလေ့ ကိုလိုက်သောကြောင့်
ထာဝရမီးနှင့်ကျွမ်းလောင်ခြင်းဒဏ်ကို ခံ၍ပုံသက်သေထင်ရှားလျက်
၈ ရှိကြ၏။ ။ထိုသူတို့သည်လည်းရှေးနည်းတူအိပ်ပြော်လွန်း
သောသူဖြစ်လျက်မိမိတို့ကိုယ်ကိုညစ်ညူးစေ၍အာဏာစက်ကိုပယ်
၉ လျက်ဘုန်းတန်ခိုး ရှိသောသူတို့ကိုကဲ့ရဲ့တတ်ကြ၏။ ကောင်းကင်တ

ခန့်မင်းမိကြွေလမူကားမောရှေ၏ကိုယ်ကိုအကြောင်းပြု၍မာရ်နတ်
နှင့်ညင်းခုံသောအခါကဲ့ရဲ့စွာသောပြစ်တင်ခြင်းကိုမပြုဝံ့ဘဲထာဝရ
၁၀ ဘုရားသည်သင်ကိုဆုံးမတော်မူစေသတည်းဟုဆိုလေ၏။ ထိုသူတို့
မူကား မိမိ တို့ နားမလည် သောအရာများ ကို ကဲ့ရဲ့ကတတ် ကြ၏။ တိရိ
စ္ဆာန်ကဲ့သို့ပကတိအတိုင်းမိမိတို့နားလည်သောအရာများဖြင့်မိမိတို့
၁၁ ကိုဖျက်ဆီးတတ်ကြ၏။ သူတို့သည် အမင်္ဂလာရှိ၏။အဘယ်ကြောင့်
နည်း ဟူမူကား ကာဣနနောက် သို့ လိုက်ကြ၏။ အခကိုရအောင်ဗာလံ
မှား ရွှင်းသကဲ့သို့အလွန်မှား ရွှင်းခြင်းရှိကြ၏။ကောရ၏ညင်းခုံခြင်း
၁၂ အပြစ်နှင့်ဖျက်ဆီးခြင်းသို့ရောက်ကြ၏။ မေတ္တာပွဲလုပ်၍သင်တို့နှင့်
အတူစားသောက်သောအခါအား မနားဘဲမိမိတို့ကိုဝအောင်ကျွေး၍
ပွဲမှာအစွန်းအကွက်ကဲ့သို့ဖြစ်ကြ၏။ လေတိုက် သွား ၍ ရေမပါသော
မိုဃ်းတိမ်ကဲ့သို့၎င်ညှိုးနွမ်း၍အသီးမတင်။ နှစ်ခါသေ၍ နှုတ်ပြစ်အပ်
၁၃ သောအပင်ကဲ့သို့၎င်မိမိရှက်ခြင်းအကြောင်းကို ပွက်စေတတ်သော
လှိုင်းတံပိုးရိုင်းကဲ့သို့၎င်ကြယ် ပျံကဲ့သို့၎င်ဖြစ်ကြ၏။ သူတို့အမှို့တခဲ
နက်သောထာဝရမှောင်မိုက်အတိသိုထားလျက်ရှိ၏။
၁၄ အာဒံမှစ၍ခုနှစ်ဆက်မြောက်သော သူဧနောက်ကထာဝရဘုရား
၁၅ သည်ခပ်သိမ်းသောသူတို့ကိုတရားစီရင်တော်မူ၍မတရားသောသူ
တို့သည် မတရားသဖြင့်ပြုသော။ မတရား သောအမှုအားလုံး တို့၏
အပြစ်ကို၎င်မတရားသောလူဆိုးတို့သည်ဘုရားသခင်ကိုပြစ်မှား၍
ပြောသောကြမ်းတမ်းသောစကားအားလုံး တို့၏အပြစ်ကို၎င်ဖော်ပြ
ခြင်း ငှါအတိုင်းမသိများ သော။ မိမိသန့်ရှင်းသူတို့ နှင့် တကွကြွလာ
၁၆ တော်မူ၏ဟုပရောဖက်ပြု၍ဟောပြောလေ၏။ ထိုသူတို့သည်အရာ
ရာ၌ညည်း တွားပြစ်တင်သောသူ။ ကိုယ်တပ်မက်ခြင်းအတိုင်းကျင့်
သောသူ။ ထောင် လွှားသောစကားကို ပြောတတ် သောသူ။ ကိုယ်စီး
၁၇ ပွားကြောင့်သူမျက်နှာကိုထောက်ထားတတ်သောသူဖြစ်ကြ၏။ ချစ်
၁၈ သူတို့။နောက်ဆုံးကာလ၌မိမိတို့မတရားသောတပ်မက်ခြင်းအတိုင်း
ကျင့်နေ၍ ကဲ့ရဲ့တတ်သောသူ တို့သည် ပေါ်ကြလိမ့် မည်ဟု ငါတို့သ
ခင် ယေရှုခရစ် ၏တမန် တော် တို့သည် ဟောပြော နှင့်သောစကား
၁၉ များကိုအောင်းမေ့ကြလော့။ ထိုသူတို့သည်သင်းခွဲသောသူ။ဝိညာဉ်
၂၀ တော်မရှိသောဇာတိပကတိလူဖြစ်ကြ၏။ ။ချစ်သူတို့။သင်
တို့သည်မိမိတို့အလွန်သန့်ရှင်းသောယုံကြည်ခြင်းအပေါ်မှာမိမိတို့ကို

တည်ဆောက် လျက် သန့်ရှင်းသော ဝိညာဉ်တော်အားဖြင့်ဆုတောင်း
၂၁ ပဌနာပြုလျက်    ဘုရားသခင်ကိုချစ်ခြင်းမေတ္တာ၌ ကိုယ် ကိုကိုယ်
စောင့်ရှောက်၍ ထာဝရအသက်အလို့ငှါငါတို့သခင် ယေရှုခရစ်၏က
၂၂ ရုဏာတော်ကိုမျှော်လင့်၍ နေကြလော့။    ပိုင်းချားသိတတ်သောညာ
၂၃ ဏ်နှင့် တကွအချို့တို့ ကို သနား ကြလော့။    ကိုယ် ကာယ နှင့်ညစ်ညူး
စွန်းကွက်သောအဝတ်ကိုပင်စက်ဆုတ် ရွံ့ရှာ၍ ကြောက်ရွံ့ခြင်းနှင့်တ
၂၄ ကွအချို့တို့ကိုမီးထဲမှဆယ်နှုတ်ကယ်တင်ကြလော့။    ။ထိမိ
၍လဲခြင်းနှင့်ကင်းလွတ်ရအောင် သင်တို့ကိုစောင့် ရှောက်ခြင်းငှါရင်
အပြစ်မရှိဘဲဝမ်းမြောက်ခြင်းနှင့်ပြည့်စုံလျက်ရှိသောသင်တို့ကိုဘုန်း
အသရေတော်ရှေ့၌ဆက်သခြင်းငှါရင် တတ်နိုင်တော်မူသောသူတည်း
၂၅ ဟူသော    ငါတို့ကိုကယ်တင်တော်မူသောဘုရားသခင်တဆူတည်း၌
ငါတို့သခင်ယေရှုခရစ်အားဖြင့် ယခု မှစ ၍ ကမ္ဘာအဆက် ဆက်ဘုန်း
တန်ခိုးအာနုဘော်နှင့်အစွမ်း သတ္တိအာဏာစက်ဖြစ်စေသတည်း။အာ
မင်။

။ရှင်ယုဒဩဝါဒစာပြီး၏။

---

။ဗျာဒိတ်ကျမ်း။

၁ ကာလမကြာမမြင့်ဖြစ်ရမည်အမှုအရာများကိုယေရှုခရစ် သည် မိမိ
အစေခံကျွန်တို့အားပြစရာအို့ဘုရားသခင်အပ်ပေးတော်မူသော ထို
သခင်၏ဗျာဒိတ်တော်များကိုဆိုပေအံ့။ထိုသခင်သည်မိမိကောင်းကင်
တမန်ကိုစေလွှတ်၍မိမိအစေခံကျွန်ယောဟန်အားဗျာဒိတ် အရိပ် ကို
၂ ပြတော်မူ၏။ ယောဟန်သည်လည်းဘုရားသခင်၏နှုတ်ကပတ်တော်
နှင့်ယေရှုခရစ်၏သက်သေခံတော်မူချက် ကို မြင်သမျှအတိုင်းသက်
၃ သေခံ၏။ ကာလအချိန်ရောက်လုနီးပြီးဖြစ်၍ဤအနာဂတ္တိကျမ်းစကား
ကိုကြည့်ရှုပတ် ရွတ်နားထောင် ၍ ရေးထားသမျှတို့ကိုစောင့်ရှောက်
၄ သောသူတို့သည်မင်္ဂလာရှိကြ၏။    ။ငါယောဟန်ကအာရှ
ပြည်၌ရှိသောအသင်းတော်ခုနစ်ပါးကိုကြားလိုက်ပါ၏။ပဋိသန္ဓာန်။အေ
တိတ်။ အနာဂတ် ကာလအစည် ရှိ တော်မူသောသူအထံတော်က ၎င်
၅ ပလ္လင် တော်ရှေ့ ၌ ရှိသောဝိညာဉ်ခုနစ်ပါး အထံကၡင် သစ္စာစောင့်
သော သက် သေခံ ဖြစ် တော် မူ ထသော။ သေခြင်းမှအဦးဆုံး ဖွားမြင်

တော်မူထသော။လောကီဘုရင်တို့၏အထွဋ်ဖြစ်တော်မူထသောယေ
ရှုခရစ်အထံတော်ကရင်ကျေးဇူးတော်နှင့်ညိမ်သက်ခြင်းသင်တို့အား
ဖြစ်ပါစေသော။ ငါတို့ ကို ချစ်၍ မိမိ အသွေးနှင့် ငါတို့အပြစ်များကို
၆ ဆေးကြောတော်မူ၍ မိမိခမည်းတော်ဘုရားသခင်ရှေ့၌ငါတို့ကိုရှင်
ဘုရင်အရာမှာ ရင်ယဇ်ပရောဟိတ်အရာမှာ ရင်ခန့်ထားတော်မူသော
သူ၌ဘုန်းအဆက်ဆက်ဘုန်းအသရေ။အစွမ်းသတ္တိဖြစ်စေသတည်း။
၇ အာမင်။ ။ကြည့်ရှုပါ။ မိုဃ်းတိမ်နှင့်တကွကြွလာတော်
မူသည်ဖြစ်၍ ကိုယ်တော်ကို ထိုးသောသူတို့ပါလျက် ပင် ရှိရှိသမျှ
သော မျက်စိသည် ကိုယ်တော်ကို မြင်လိမ့်မည်။ မြေကြီး သားအမျိုး
အားလုံးတို့သည် ကိုယ်တော် ကြောင့် ငိုကျွေးမြည်တမ်ကြလိမ့်မည်။
၈ မှန်ပေ၏။အာမင်။ ငါသည်အလဖဖြစ်၏။ဩမေဃ လည်းဖြစ်၏ဟု
အစနှင့်အဆုံးနှင့်ပြည့်စုံတော်မူ၍ ပစ္စုပ္ပာန်။အတိတ်။အနာဂတ်ကာလ
အစည်ရှိတော်မူသောထာဝရအရှင်ဘုရားသခင်မိန့်တော်မူ၏။
၉ ။ယေရှုခရစ်အတွက်ဆင်းရဲဒုက္ခကိုရင်နိုင်ငံတော်ကိုရင်သည်းခံ
ခြင်းကိုရင်သင်တို့နှင့်ဆက်ဆံသောအဖော်အဖက်။သင်တို့ညီအစ်ကို
ငါယောဟန်သည်ဘုရားသခင်၏နှုတ်ကပတ်တော်နှင့် ယေရှုခရစ်၏
၁၀ သက်သေခံတော်မူချက်ကြောင့်ပတ်မုကျွန်းမှာရှိသည်ဖြစ်၍ သခင်
ဘုရားနေ့၌ဝိညည်တော်ကိုငါခံလေ၏။ တံပိုးခရာအသံကဲ့သို့ငါနော
၁၁ က်၌မြည်သောအသံကြီးကိုငါကြား၏။ မြည်သောအချက်ဟူမူကား
သင်သည်မြင်သမျှကိုစာစောင်၌ရေးထား၍ဧဖက်မြို့။သမုရနမြို့။ပေ
ရဂံမြို့။သွာတိရမြို့။သာဒိမြို့။ ဖိလဒေလဖိမြို့။ ယောဒိကိမြို့၌ရှိသောအ
သင်းတော်ခုနှစ်ပါးဆီသို့ပေးလိုက်တော့ဟုဆိုသတည်း။ ။
၁၂ ထိုသို့ငါနှင့်စကားပြော၍အသံမြည်သောသူကိုမြင်ရအောင်ငါလှည့်
၁၃ ကြည့်လျှင်ရွှေမီး ခွက်ခုနှစ် လုံးကိုရင် ထိုမီး ခွက်ခုနှစ်လုံး အလယ်၌
လူသားတော်နှင့်တူသော သူတဦးကိုရင်ငါမြင်လေ၏။သူသည်ခြေသို့
တိုင်အောင် ဝတ်ခြုံလျက်ရင် ပတ်ကိုရွှေခါးပန်း နှင့်စည်း လျက်ဖြစ်
၁၄ ၏။ သူခေါင်း နှင့်ဆံပင် သည် ဖြူ သောသိုးမွေးကဲ့သို့ရင်မိုဃ်းပွင့်
၁၅ ကဲ့သို့ရင် ဖြူ၏။ သူမျက် စိသည် လည်း မီးလျှံ ကဲ့သို့ဖြစ်၏။ သူခြေ
သည် လည်း မီး၌ချွတ်ပြီး သကဲ့သို့ သောကြေးဝါစစ် နှင့်တူ၏။သူအ
၁၆ သံသည် လည်း သမုဒ္ဒရာသံကဲ့သို့ဖြစ်၏။ သူလက်ျာလက် သည်
လည်းကြယ်ခုနှစ်လုံးကိုကိုင်၏။သူခံတွင်းထဲကလည်းထက်သောသန်

လျက်ထွက်၏။သူမျက်နှာမူကားနေသည်အရှိန်တန်ခိုးနှင့်ထွန်းတောက်
၁၇ သကဲ့သို့ ဖြစ်၏။ ။ထိုသူကို ငါမြင် သောအခါ သေမတတ်
ဖြစ်၍ ခြေရင်းကော်၌ လဲနေ၏။ထို သူသည်မိမိလက်ျာ လက်ကိုငါ့အ
ပေါ်၌ တင် လျက် ကြောက် ရွံ့ခြင်းမရှိနှင့်။ ငါသည် အဦးဆုံးသော သူ။
၁၈ နောက် ဆုံး သော သူ ဖြစ်၏။ အသက် ရှင် သော သူလည်း ဖြစ်၏။ငါ
သည်အရင် သေသည် ဖြစ်၍ကမ္ဘာအဆက် ဆက် အသက်နှင့် ပြည့်စုံ
၁၉ ၏။ မရဏာနှင့် မရဏာနိုင်ငံကိုငါအစိုးရ၏။ ထိုကြောင့် သင်သည်
မြင်ပြီး သောအရာတို့ ကို ၎င်ယခုရှိ သောအရာတို့ကို ၎င်နောင်၌ဖြစ်
၂၀ လတံ့သောအရာ တို့ကို၎င်ရေးထား တော့။ ငါလက်ျာလက်၌ ထင်ရှား
သောကြယ်ခုနစ်လုံးနှင့်ရွှေမီး ခွက်ခုနစ်လုံး၏ နက်နဲခြင်းအရာဟူမူ
ကား။မီး ခွက်ခုနစ်လုံးသည်အသင်းတော်ခုနစ်ပါးဖြစ်၏။ ကြယ်ခုနစ်
လုံးသည်လည်းထိုခုနစ်ပါးသော အသင်းတော် တို့ကိုအုပ်သောတမန်
ဖြစ်၏။

**

၁ ဧဖက် မြို့၌ ရှိသော အသင်း တော်၏ တမန် ကို ဤသို့ ရေး၍ မှာလိုက်
တော့။ လက်ျာလက်၌ ကြယ်ခုနစ် လုံးကိုကိုင်၍ ရွှေမီး ခွက်ခုနစ်လုံးအ
၂ လယ်၌သွား လာသော သူ၏ အမိန့်တော် ကား။သင်၏ကျင့် ခြင်း။ပင်
ပန်းစွာလုပ်ဆောင်ခြင်း။သည်းခံခြင်းကိုငါသိ၏။ သင်သည်မတရား
သော သူတို့ ကို မခံ နိုင် ကြောင်း ကို၎င် တမန်တော် မဟုတ် ဘဲတမန်
တော်ရောင်ဆောင်သောသူတို့ကိုစစ်ဆေး၍လှည့် စားသောသူဖြစ်
၃ သည်ဟုသိကြောင်းကို၎င် ခန္တီနှင့်ပြည့်စုံ၍ငါ့နာမကြောင့် ဆင်းရဲခံ
၄ ၍အားမလျော့ကြောင်းကို၎င်ငါသိ၏။ သို့သော်လည်း သင်သည်ရှေ
ဦးစွာသောချစ်ခြင်းမေတ္တာကိုလျော့ပြီး ဟုသင်၌ အပြစ်တင်စရာရှိ
၅ ၏။ ထိုကြောင့်သင်သည်အဘယ်ဆီကရွေ့လျော့သည်ကိုအောင်းမေ့
လော့။ နောင်တရလော့။ ရှေဦးစွာသောအကျင့် ကို ကျင့် လော့။ သို့မ
ဟုတ်။သင်ဆီသို့ငါမြန်မြန်လာမည်။နောင်တမရလျှင် သင်၏မီးခွက်
၆ ကိုသူနေရာမှငါရွှေ့မည်။ သို့သော်လည်းငါမုန်းသောနိကောလလူတို့
၇ ၏အကျင့်ကိုသင်လည်းမုန်းသည်ဟုဆိုစရာရှိ၏။ ဝိညာဉ်တော်သည်
အသင်းတော်တို့အားအဘယ်သို့မိန့်တော်မူသည် ကိုနား ရှိသောသူ
မည်သည်ကားကြားပါလေစေ။အကြင်သူသည်အောင် မြင် ၏။ ထိုသူ
အားငါဘုရားသခင်၏ပရဒိသုဥယည်၌ရှိသောအသက်ပင်အသီးကို

၈ စားရသောအခွင့်ငါပေးမည်။ ။သမုရနမြို့၌ရှိသောအသင်း
တော်၏တမန်ကိုဤသို့ရေး၍မှာလိုက်တော့။အဦးဆုံးသောသူ။နောက်
ဆုံးသောသူတည်းဟူသော။အရင်သေ၍ အသက်ရှင်လျက်ရှိသောသူ
၉ ၏အမိန့်တော်ကား။ သင်၏ကျင့်ခြင်း။ဒုက္ခခံခြင်း။ဆင်းရဲခြင်းကိုငါ
သိ၏။သို့သော်လည်းသင်သည်ကြွယ်ဝပြည့်စုံခြင်းရှိ၏။ ယုဒလူရော
င်ဆောင်၍ယုဒလူမှန်မဟုတ်။ မာရ်နတ်စာတန်၏ အပေါင်းအသင်း
၁၀ ဖြစ်သောသူတို့၏ကဲ့ရဲ့ခြင်းကိုလည်းငါသိ၏။ သင်သည်ခံရမည့်အ
ရာ တစုံတခု မျှမကြောက်နှင့်။ သင် တို့ သည် စုံစမ်းခြင်းကိုခံရမည့်အ
ကြောင်း။ မာရ်နတ် သည် သင် တို့အချို့ ကို ထောင်ထဲ၌ လှောင်ထား
၍သင်တို့သည် ဆယ်ရက် မျှဆင်းရဲဒုက္ခ ကို ခံရလိမ့်မည်။ သေသည်
တိုင်အောင်သစ္စာစောင့်လော့။သို့ပြုလျှင်အသက်သရဖူကိုငါပေးမည်။
၁၁ ဝိညာဉ်တော်သည်အသင်းတော်တို့အားအဘယ်သို့မိန့်တော်မူသည်
ကိုနားရှိသောသူမည်သည်ကားကြားပါလေစေ။အောင်မြင်သောသူ
၁၂ ကိုဒုတိယသေခြင်းသည်မညှဉ်းဆဲရ။ ။ပေရဂံမြို့၌ရှိသော
အသင်းတော်၏တမန်ကိုဤသို့ရေး၍ မှာလိုက်တော့။ ထက်သောသန်
၁၃ လျက်ရှိသောသူ၏အမိန့်တော်ကား။ သင်၏ကျင့်ခြင်းကိုငှင်မာရ်နတ်
စာတန်၏ရာဇပလ္လင်ရှိရာအရပ်တည်းဟူ သော သင် နေရာအရပ် ကို
ငှင် ငါသိ၏။ စာတန်နေရာအရပ် သင်တို့တွင် အသေသတ်ခြင်း ကိုခံ
သောအန္တိပသည်သစ္စာစောင့်၍ငါဘက်သက်သေ ခံစည်နေ့ရက်ကာ
လ၌ပင်သင်သည်ငါနာမကိုစွဲကိုင်၏။ ငါ့ယုံကြည်ခြင်းတရားကိုမစွန့်
၁၄ မပယ်။ သို့သော်လည်းဣသရေလအမျိုးသားတို့သည်ရုပ်တုရှေ့မှာပူ
ဇော်သောယဇ်ကောင်ကို စားစေခြင်း၌၎င်မတရားသောမေရန်ကို
ပြုစေခြင်း၌၎င်ထိမိ၍လဲစရာအရာကိုသူတို့ရှေ့ ၌ ချထားရအောင်
ဗာလက်မင်းကိုအကြံပေး သော သူတည်း ဟူသောဗာလံ၏အယူကိုစွဲ
၁၅ လမ်းသောသူတို့သည်သင်၏နေရာ ၌ရှိ ကြသည်ဖြစ်၍သင်၌အနည်း
ငယ်သောအပြစ်တင်စရာရှိ၏။ ထိုအယူနှင့်သဘောတူသောနိကော
၁၆ လလူတို့၏အယူကိုစွဲလမ်းသောသူတို့သည် ထိုနည်းတူသင်၌ရှိကြ၏။
ထိုကြောင့်နောင်တရလော့။ရလျှင်သင်ဆီသို့ငါမြန်မြန်လာမည်။ငါ
၁၇ ခံတွင်း၏သန်လျက် နှင့် သူ ကို ကို ... ကို ... ည်။ ဝိညာဉ်တော်သည်
အသင်းတော်တို့အား အဘယ် သို့မိန့် တော်မူသည် ကိုနား ရှိသောသူ
မည် သည် ကား ကြားပါလေစေ။ အကြင်သူသည်အောင် မြင်၏။ ဖွက်

ထားသောမန္နသံကိုရင်ဖြူသောလက်ဖွဲ့ကျောက်ကိုရင်ထိုကျောက်ပေါ်
၌အကျွရာတင်သောနာမသစ်ကိုရင်ထိုသူအားငါပေးမည်။ထိုကျောက်
ကိုရသောသူမှတပါးအဘယ်သူမျှထိုနာမကိုမသိနိုင်ရာ။

⁂

၁၇ သွာတိရဲမြို့၌ရှိသောအသင်းတော်၏ဟာမန်ကို ဤသို့ရေး၍မှာလိုက်
တော့။မီးလျှံကဲ့သို့သောမျက်ဒိနှင့်ရင်ကြေးဝါစစ်နှင့်တူသောခြေ နှင့်
၁၈ ရင်ပြည့်စုံသောဘုရားသခင်သားတော်၏အမိန့်တော်ကား။ သင်၏
ကျင့်ခြင်း။ဂါဂ်ခြင်း။ရုံကြည်ခြင်း။အမှုစောင့်ခြင်း။သည်းခံခြင်းကိုရင်
နောက် ကျင့်သောအကျင့်ကို သည် အရင် ကျင့် သော အကျင့်တို့ ထက်
၂၀ သာ၍များကြောင်းကိုရင်ငါသိ၏။ သို့သော်လည်း ပရောဖက်မဟုတ် ၍
ကိုယ်ကိုကိုယ်ခေါ်သောသင်၏ခင်ပွန်းယေဇဗေလ ကိုသင်သည်
အခွင့်ပေးသောကြောင့်သင် ၌ အပြစ်တင်စရာ ရှိ၏။ ငါ့အစေခံကျွန်
တို့သည် မတရားသော မေထုန်ကို ပြုခြင်းငှါ ရင် ရုပ်တုရှေ့မှာပူဇော်
သောယဇ်ကောင်းကိုစားခြင်းငှါရင်သူသည် သင်ပေး ၍မှားရွှင်းစေ
၂၁ ၏။ သူသည်နောင်တရသင့်သောကာလကိုငါပေးသော်လည်းသူသည်
၂၂ မိမိ၏တရားသောမေထုန်ကိုနောင်တရချင်သောစိတ်မရှိ။ ထိုကြောင့်
သူကိုအိပ်ရာ၌ငါချထားမည်။သူနှင့်အတူမတရားသောမေထုန် ကို ပြု
သော သူတို့လည်း သူ၏ အကျင့် ကို နောင်တမရ လျှင် ကြီးစွာ သော
၂၃ ဆင်းရဲခြင်းသို့ရောက်စေမည်။ သူ၏သားသ္မီးတို့ကိုအသေသတ်မည်။
ငါသည်နှလုံးကျောက်ကပ်ကိုစစ်ဆေးတော်မူသောသူဖြစ်ကြောင်း
ကိုသိုသို့အားဖြင့်ခပ်သိမ်းသောအသင်းတော်တို့သည်သိကြလိမ့်မည်။
သင်တိုသည် အသီးအသီးကျင့်သောအကျင့် နှင့် အလျောက် အကျိုးအ
၂၄ ပြစ်ကိုငါပေးမည်။ ။ထိုမိစ္ဆာဒိဋ္ဌိအယူယူသောသူခေါ်ဝေါ်
သည်နှင့်အညီမာရ်နက်စာတန်၏နက်နဲသောအရာ ဟု ခေါ်ဝေါ်သော
အရာကိုမကျွမ်း။ထိုမိစ္ဆာဒိဋ္ဌိအယူကိုမယူ။ကြွင်းသောသွာတိရဲမြို့သား
တို့ကိုငါဆိုသည်ကား။သင်တို့သည်ရသမျှကိုငါလာသည် တိုင်အောင်
၂၅ စွဲကိုင်ကြလော့။ ထိုမှတပါးအချားသောဝန်ကိုသင်တို့အပေါ်၌ ငါမ
၂၆ တင်။ အကြင်သူသည်အောင်မြင် ၍အဆုံးတိုင်အောင် ငါ့အကျင့် ကို
ကျင့်၏။ ငါ့ခမည်းတော်သည် ငါ၌အခွင့်ပေးတော်မူ သကဲ့သို့ ထိုသူ
၂၇ အားလူအမျိုးတို့ကိုအုပ်စိုးရသောအခွင့်ကိုငါပေး၍ သူသည်သံလှံတံ
၂၈ နှင့်အုပ်စိုးသဖြင့်သူတို့ကိုမြေအိုးကဲ့သို့ခွဲဖျက်လိမ့်မည်။ မိုးသောက်သော

၂၉ က်ကြွယ်ကိုလည်းသူအားငါပေးမည်။ ဝိညာဉ်တော်သည် အသင်း
တော်တို့အားအဘယ်သို့မိန့်တော်မူသည်ကိုနားရှိသောသူမည်သည်
၁ ကားကြားပါလေစေ။ ။သာဒိမြို့၌ရှိသောအသင်းတော်၏တ
မန်ကိုဤသို့ရေး၍မှာလိုက်တော့။ဘုရားသခင်၏ဝိညာဉ်ခုနှစ်ပါးနှင့်
ကြယ်ခုနှစ်လုံးရှိသောသူ၏အမိန့်တော်ကား။သင်၏အကျင့်ကိုငါသိ
၏။သင်သည်အသက်ရှင်ဟန်ရှိသော်လည်းသေနေသည်ကိုငါသိ၏။
၂ မအိပ်ဘဲစောင့်၍နေလော့။ ကျန်ရစ်၍သေလုသောအရာတို့ ကို ပြုပြင်
လော့။ သင်၏အကျင့်တို့သည် ငါဘုရားသခင်ရှေ့၌မစုံမလင်ရှိသည်
၃ ကိုငါတွေ့ပြီ။ ထိုကြောင့်သင်သည်ခံယူ၍နားထောင်ပြီးသည်အရာ
ကိုအောင်းမေ့လော့။ စောင့်ရှောက်လော့။နောင်တရလော့။စောင့်၍မ
နေလျှင်သူခိုးကဲ့သို့သင်ဆီသို့ငါလာမည်။လာမည်အချိန်နာရီကိုလည်း
၄ သင်မသိရ။ သို့သော်လည်းသင်ဆီမှာသာဒိမြို့၌ပင်ကိုယ်အဝတ်ကို
ကိုယ်မညစ်ညူးစေသောသူနည်းနည်းရှိသေး၏။ထိုသူတို့သည် ထိုက်
တန်သောသူဖြစ်၍ ဖြူဖြူဝတ်လျက်ငါနှင့်အတူသွားလာကြလိမ့်မည်။
၅ အောင်မြင်သောသူသည် ဖြူသောအဝတ်ကိုဝတ်ရုံလိမ့်မည်။ အသက်
စာစောင်၌ သူ၏နာမ ကို ငါအလျှင်းမချေဘဲငါ့ခမည်းတော်ရှေ့၌၎င်
၆ ကောင်းကင်တမန်တော်တို့ရှေ့၌၎င်သူ၏နာမကိုငါဝန်ခံမည်။ ဝိညာဉ်
တော်သည်အသင်းတော်တို့အားအဘယ်သို့မိန့်တော်မူသည် ကို နား
ရှိသောသူမည်သည်ကားကြားပါလေစေ။

❋❋

၇ ဖိလဒေလဖိမြို့၌ရှိသောအသင်းတော်၏တမန်ကိုဤသို့ရေး၍ မှာလိုက်
တော့။သန့်ရှင်းသောသူ။ဟုတ်မှန်သောသူ။ ဒါဝိဒ်မင်း၏တံခါးသော့
ကိုကိုင်သောသူ။အဘယ်သူမျှမပိတ်ရအောင်ဖွင့်၍အဘယ်သူမျှမဖွင့်
၈ ရအောင်ပိတ်သောသူ၏အမိန့်တော်ကား။ သင်၏အကျင့်ကိုငါသိ၏။
အဘယ်သူမျှမပိတ်နိုင်သောတံခါးကိုသင့်ရှေ့၌ငါဖွင့်ထားပြီ။အဘယ်
ကြောင့်နည်းဟူမူကား။သင်သည်အနည်းငယ်သောခွန်အားရှိသည်နှင့်
၉ ငါ့နှုတ်ကပတ်ကိုစောင့်ရှောက်ခဲ့ပြီ။ငါ့နာမကိုလည်းမငြင်းမပယ်။ယုဒ
လူဟုခေါ်၍အမှန်မဟုတ်ဘဲမုသာစကားကိုပြောသောသူတည်း
ဟူသောစာတန်၏အပေါင်းအသင်းအချို့တို့ကိုသင့်၌ငါအပ်ပေးမည်။
သူတို့သည်လာ၍သင်၏ခြေရင်း၌ပျပ်ဝပ်ရအောင်၎င်ငါသည်သင်ကို
၁၀ ချစ်သည်ဟုသိရအောင်၎င် ငါပြုမည်။ သင်သည်ငါသည်းခံခြင်းနှင့်စပ်

ဆိုင်သောနှုတ်ကပတ်တရားကိုစောင့်ရှောက်သော့ကြောင့်မြေကြီးအ
ပေါ်၌နေသောသူတို့ကိုစုံစမ်းရအောင်လောကီနိုင်ငံလုံးကိုနှံ့ပြားလတံ့
၁၁ သောစုံစမ်းရာကာလ၌ သင်ကိုငါစောင့်ရှောက်မည်။ ငါမြန်မြန်လာ
၏။သင်၏သရဖူကို အဘယ်သူမျှမယူရအောင်ရခဲ့ပြီးသောအရာကို
၁၂ စွဲကိုင်လော့။ အောင်မြင်သောသူကိုငါဘုရားသခင်၏ဗိမာန်တော်
၌မှန်တိုင်ငါဖြစ်စေမည်။ နောက်တဖန် သူသည်ပြင်သို့မရွေ့ရပြီး။ ငါ
ဘုရားသခင်၏နာမတော်ကို၎င်ငါဘုရားသခင်အထံတော်မှထွက်
၍ကောင်းကင်ဘုံမှဆင်းသက် သောယေရုရှလင်မြို့သစ် တည်းဟူ
သောငါဘုရားသခင်မြို့တော်၏နာမကို၎င်ငါနာမသစ်ကို၎င်သူအ
၁၃ ပေါ်၌ငါအက္ခရာတင်မည်။ ဝိညာဉ်တော်သည်အသင်းတော်တို့အား
အဘယ်သို့မိန့်တော်မူသည်ကိုနားရှိသောသူမည်သည်ကားကြား
၁၄ ပါလေစေ။ ။လောဒိကိမြို့၌ရှိသောအသင်းတော်၏တမန်
ကိုဤသို့ရေး၍မှာလိုက်တော့။ ဘုရားသခင်၏နိမ္မိတ္တသတ္တဝါတို့၏
အထွဋ်။ သစ္စာရှိ၍ ဟုတ်မှန်သောသက်သေခံ။အာမင်၏အမိန့်တော်
၁၅ ကား။ သင်၏အကျင့်ကိုငါသိ၏။ သင်သည်အေးမဟုတ်။အပူမဟုတ်
၁၆ သည်ကိုငါသိ၏။အအေးအပူတခုခုငါရှိစေချင်၏။ ထိုသို့အအေးမဟုတ်။အ
ပူမဟုတ်။နွေးရုံရှိသော့ကြောင့်ငါခံတွင်းထဲကသင်ကိုငါထွေးလုပြီး။
၁၇ ထိုမှတပါး။ငါသည်ဥစ္စာရတတ်၏။ဘဏ္ဍာများကိုဆည်းဖူးပြီး။ဘာ
မျှမလိုဟုသင်ကဆို၍ကိုယ်သည်သြည်းခြင်း။သနားဘွယ်ဖြစ်ခြင်း။
ဆင်းရဲခြင်း။မျက်စိကန်းခြင်း။အဝတ်အချည်းစည်းနေခြင်းရှိမှန်းကို
၁၈ ကိုယ်မသိ။ သင်သည်ဥစ္စာရတတ်ရအောင်မီးနှင့်ချွတ်ပြီးသောရွှေ
ကို၎င်အဝတ်အချည်းစည်းနေ၍အရှက်မထင်ရှားရအောင်ခြုံစရာဘို့
ဖြူသောအဝတ်ကို၎င်ငါ့ဆီမှာဝယ်၍သင်၏မျက်စိမြင်ရအောင်မျက်
၁၉ စိကိုမျက်စဉ်းခတ်ခြင်းငှါသင်အားငါအကြံပေး၏။ အကြင်သူတို့ကို
ငါချစ်၏။ ထိုသူ၏အပြစ်ကိုငါဖော်ပြ၍ သူတို့ကိုလည်းဆုံးမတတ်၏။
၂၀ ထိုကြောင့်ကိုယ်စိတ်ကိုကိုယ်နိုးဆော်လော့။ နောင်တရလော့။ ငါ
သည်တံခါးရှေ့မှာရပ်၍ခေါက်နေ၏။ အကြင်သူသည်ငါ့အသံကိုကြား
၍တံခါးကိုဖွင့်အံ့။ထိုသူဆီသို့ငါဝင်၍သူနှင့်အတူစားမည်။ သူသည်
၂၁ လည်းငါနှင့်အတူစားရလိမ့်မည်။ ငါသည်အောင်မြင်၍ငါ့ခမည်း
တော်၏ပလ္လင်တော်ပေါ်မှာသူနှင့် အတူထိုင်နေသကဲ့သို့အောင်မြင်
သောသူသည်ငါ့ပလ္လင်ပေါ်မှာငါနှင့်အတူထိုင်နေရသောအခွင့်ကိုငါ

၂၂ ပေးမည်။ ဝိညာဉ်တော်သည် အသင်း တော်တို့အား အဘယ်သို့မိန့်
တော်မူသည် ကိုနား ရှိသော သူမည် သည်ကား ကြား ပါလေစေဟုမိန့်
တော်မူ၏။



၁ ထိုနောက်မှာငါကြည့်၍ ကောင်းကင်၌တံခါး ဖွင့်ထားလျက်ရှိ၏။အစ
အဦးကြား ရသောအသံပဲ့ရှုမှုကား။ဤအရပ်သို့တက်တော့။နောင်ကာ
လ၌ဖြစ်ရမည်အရာ တို့ကိုငါပြမည်ဟုငါ နှင့်ပြောသောတံပိုးခရာသံ
၂ ကဲ့သို့မြည်လေ၏။ ထိုအခါဝိညာဉ်တော်ကိုငါရကျင်းခံ၍ ကောင်း
ကင်ဘုံ၌ပလ္လင်တခုတည်လျက်ရှိ၏။ပလ္လင်ပေါ်မှာထိုင်သောသူလည်း
၃ ရှိ၏။ ထိုသူ၏ အဆင်း အရောင်သည် နဂါး သွဲကျောက်။ပဒ္မြား
ကျောက် နှင့်တူ၏။ ပလ္လင်ပတ်ဝန်း ကျင် ၌ ကားမြကျောက် အဆင်း
၄ အရောင်နှင့် တူသောသက် တံ့ရှိ၏။ ထိုပလ္လင် ပတ်ဝန်း ကျင် ၌ အ
ချားသောပလ္လင် နှစ် ဆယ်လေး ပလ္လင်ရှိ၏။ ထိုပလ္လင် တို့အပေါ် ၌ အ
သက်ကြီးသူ နှစ် ဆယ်လေးပါး တို့သည် ဖြူသောအဝတ်ကိုဝတ်လျက်
၅ ခေါင်းပေါ် ၌ ရွှေသရဖူကိုဆောင်းလျက်ထိုင်နေကြ၏။ ပလ္လင်တော်
ထဲကလျှပ်စစ်ပြက်၏။စကားပြောသံ။မိုးသံးကြိုး သံလည်းမြည်၏။ပ
လ္လင် တော်ရှေ့ ၌ ဘုရား သခင်၏ဝိညာဉ်ခု နှစ် ပါး တည်းဟူသောမီး
၆ ခွက်ခု နှစ်လုံးထွန်းလျက်ရှိ၏။ ။ပလ္လင်တော်ရှေ့၌လည်း
ကျောက်သလင်းနှင့်တူသောဖန်ရေကန် ရှိ၏။ပလ္လင်အတွင်း၌၎င်ပတ်
ဝန်းကျင်၌ရင်မျက်စိနှင့်တကိုယ်လုံးပြည့်သောသတ္တဝါလေးပါးရှိ၏။
၇ ပဌမသတ္တဝါသည် ချင်သေ့ နှင့် တူ၏။ ဒုတိယသတ္တဝါသည် နွားသ
ငယ်နှင့်တူ၏။တတိယသတ္တဝါသည်လူမျက်နှာရှိ၏။စတုတ္ထသတ္တဝါ
၈ သည် ပျံလျက် ရှိသောလင်း ယုန် နှင့် တူ၏။ ထိုသတ္တဝါလေးပါးတို့
သည်တပါးစီတပါးစီကိုယ်ပတ်ဝန်းကျင် ၌ အတောင်ခြောက်ခုစီရှိ၍
အတွင်း ၌ မျက်စိ နှင့် ပြည့်၏။ သူတို့ကလည်းအနန္တကာန်ဒိုးနှင့်ပြည့်ရှိ
တော်မူထသော။ပစ္စုပ္ပာန်။အတိတ်။အနာဂတ်ကာလအစဉ်ရှိတော်မူ
သောထာဝရအရှင်။ဘုရား သခင်သည်သန့်ရှင်းတော်မူ၏။သန့်ရှင်း
တော်မူ၏။သန့်ရှင်းတော်မူ၏ဟုနေ့ညဉ့်အစဉ်ညိမ်၍မနေဘဲပြောဆို
၉ ကြ၏။ ပလ္လင်တော်ပေါ်မှာထိုင်၍ကပ္ပအဆက်ဆက်အသက်ရှင်တော်
မူသောသူ၏ဘုန်းအသရေ။ဂုဏ်ကျေးဇူးတော်ကိုထိုသတ္တဝါတို့သည်
၁၀ ချီးမွမ်းသောအခါ အသက်ကြီးသူ နှစ်ဆယ်လေး ပါး တို့သည် ပလ္လင်

တော်ပေါ်မှာထိုင် တော်မူသောသူရှေ့ ၌ ပျပ်ဝပ်လျက် ကမ္ဘာအဆက်
၁၁ ဆက်အသက်ရှင်တော်မူသောသူကိုကိုးကွယ်လျက်  ထာဝရဘုရား။
ကိုယ်တော်သည်ခပ်သိမ်းသောအရာတို့ကိုဖန်ဆင်းတော်မူပြီး။ထိုအ
ရာတို့သည်အလိုတော်ကြောင့်ဖြစ်၍ဖန်ဆင်းလျက်ရှိကြ၏။ထိုကြောင့်
ကိုယ်တော်သည် ဘုန်း အသရေ တန် ခိုးတော်ကိုခံစားထိုက်တော်မူ၏
ဟူ၍ပလ္လင်တော်ရှေ့၌မိမိတို့သရဖူများကိုချထားကြ၏။

**

၁ ထိုအခါနောက်ဖက်စလုံးအက္ခရာတင်၍တံဆိပ်ခုနှစ်ချက်နှင့်ခတ်သောစါ
စောင်ကိုပလ္လင်တော်ပေါ်မှာထိုင် တော်မူသောသူ၏လက်ျာလက် ၌ ငါ
၂ မြင်လေ၏။ အားကြီးသောကောင်းကင်တမန်တပါးကအဘယ်သူသည်
ထိုစာစောင်ကိုဖွင့်၍တံဆိပ် တို့ကိုခွာခြင်းငှါထိုက် သနည်း ဟုကြီး
၃ သောအသံနှင့်ကြွေးကြော်လျက် ရှိသည်ကိုငါမြင်၏။  ထိုစာစောင်
ကို ဖွင့် ၍ ကြည့် ခြင်း ငှါကောင်းကင်။မြေကြီး။ မြေကြီးအောက်၌အ
ဘယ် သူ မျှ မတတ် နိုင်။ထို စာစောင် ကို ဖွင့် ၍ ကြည့် ထိုက်သောသူ
တယောက်ကိုမျှရှာ၍မတွေ့သောကြောင့်ငါသည်များများငိုလေ၏။
၄။၅ ထိုအခါအသက်ကြီးသူတပါးကမငို နှင့်။ ယုဒအမျိုး ချင်ဂုသတည်းဟူ
သောဒါဝိဒ်၏အမြစ်သည် ထိုစာစောင်ကိုဖွင်တံဆိပ်ခုနှစ်ချက်တို့ကို
၆ ဖွင်ဖွင့်ခြင်းငှါအောင်မြင်လေပြီးဟုငါ့ကိုပြောဆို၏။  ။ထို
အခါပလ္လင်တော်မှစသောသတ္တဝါလေးပါး နှင့်အသက် ကြီးသူတို့အ
လယ်၌အသေသတ်ပြီးသကဲ့သို့သောသိုးသငယ်သည်ရပ်နေလျက်ရှိ
သည်ကိုငါမြင်၏။ထိုသိုးသငယ်သည်မြေကြီးတပြင်လုံး၌လွှတ်သော
ဘုရားသခင်၏ဝိညာဉ်ခုနှစ် ပါးတည်းဟူသောမျက်စိခုနှစ်လုံးနှင့်ချို
၇ ခုနှစ်ချောင်းရှိ၏။  သူသည်လာ၍ ပလ္လင်တော်ပေါ်မှာထိုင် တော်မူ
၈ သောသူ၏လက်ျာလက်မှစာစောင်ကိုခံယူလေ၏။  ထိုစာစောင်ကိုခံ
ယူလေသောအခါသတ္တဝါလေးပါး နှင့် အသက်ကြီးသူ နှစ်ဆယ်လေး
ပါးတို့သည်သန့်ရှင်းသူတို့၏ပဌနာတည်း ဟူသောမီး ရှို့နံ့သာပေါင်း
နှင့်ပြည့်သောရွှေဖလားကိုင်စောင်းကိုင်အသီးအသီးကိုင်၍သိုးသ
၉ ငယ်ရှေ့၌ပျပ်ဝပ်လျက်  ကိုယ်တော်သည် အသေသတ် ခြင်းကိုခံသ
ဖြင့် အသီးအသီး ဘာသာစကား ကိုပြောသောလူအမျိုးအနွယ် ခပ်
သိမ်း တို့အထဲမှအကျွန်ုပ်တို့ကိုယူ၍အသွေးတော်နှင့် ဘုရားသခင်မှို
၁၀ ရွေးတော်မူ၏။အကျွန်ုပ်တို့ဘုရားသခင် ရှေ့မှာရှင်ဘုရင် အရာ၌ဖင်

ယဇ်ပုရောဟိတ်အရာ၌ ခန့်ထား၍ မြေကြီးကိုစိုးစံရသောအခွင့်
ပေးတော်မူ၏။ ထိုကြောင့်ကိုယ်တော်သည်စာစောင်ကိုခံယူ၍တံဆိပ်
၁၁ တို့ကိုဖွင့်ထိုက်တော်မူ၏ဟုအသစ်သောသီချင်းကိုသီ၍ပြောဆိုကြ၏။
ထိုအခါငါကြည့်၍ပလ္လင်တော်မှစသောသတ္တဝါတို့နှင့်အသက်ကြီးသူ
တို့ပတ်ဝန်းကျင်၌ကုဋေသင်္ချေကအတိုင်းမသိများစွာသောကောင်း
၁၂ ကင်တမန်တို့၏အသံကိုငါကြား၏။ ထိုသူတို့လည်းအသေသတ်ခြင်း
ကိုခံခဲ့ပြီးသောသိုးသငယ်သည်တန်ခိုး။စည်းစိမ်။ပညာ။အစွမ်းသတ္တိ။
ဂုဏ်အသရေ။ဘုန်းအာနုဘော်။ကောင်းကြီးမင်္ဂလာကိုခံထိုက်တော်မူ
၁၃ ၏ဟု ကြီးသောအသံနှင့်ပြောဆိုကြ၏။ ကောင်းကင်။မြေကြီး။မြေကြီး
အောက်။သမုဒ္ဒရာအထဲ။အရပ်ရပ်၌ရှိရှိသမျှသောနိမ္မိတ်သတ္တဝါအပေါင်း
လုံးတို့ကပလ္လင်တော်ပေါ်မှာထိုင်တော်မူသောသူ၌၎င်း သိုးသငယ်၌
၎င်းကျွန်ုပ်အဆက်ဆက်ကောင်းကြီးမင်္ဂလာ။ဂုဏ်အသရေ။ဘုန်းအာနု
ဘော်။အစွမ်းသတ္တိဖြစ်စေသတည်း ဟုပြောဆိုကြသည်ကို ငါကြား
၁၄ လေ၏။ သတ္တဝါလေးပါးတို့ကလည်းအာမင်ဟုခေါ်ဝေါ်ကြ၏။ အသက်
ကြီးသူတို့သည်လည်းပျပ်ဝပ်၍ကိုးကွယ်ကြ၏။

**

၁ သိုးသငယ်သည်တံဆိပ်ခုနစ်ချက်တွင်တချက်ကိုဖွင့်သောအခါငါကြည့်
လျှင်မိုဃ်းကြိုးသံမြည်သကဲ့သို့သတ္တဝါလေးပါးတွင်တပါးကလာ၍
၂ ကြည့်ပါဟုဆိုသည်ကိုငါကြား၏။ ထိုအခါငါကြည့်လျှင်ဖြူသောမြင်း
ရှိ၏။ မြင်းစီးသောသူသည်လေးကိုကိုင်၏။ သူ၌သရဖူကိုပေးတော်မူ
၃ ၏။ အောင်မြင်လျက်၎င်းအောင်မြင်ရအောင်၎င်းထွက်သွား၏။ ဒုတိ
ယတံဆိပ်ကို ဖွင့် သော အခါဒုတိယသတ္တဝါကလာ၍ ကြည့်ပါဟုဆို
၄ သည်ကိုငါကြား၏။ နီသောမြင်းတစီးထွက်၍စီးသောသူသည်ညိမ်
ဝပ်ခြင်းကိုမြေကြီးကရုတ်သိမ်းခြင်း ငှါ၎င်းမြေသားတို့ကိုအချင်းချင်း
အသေသတ်စေခြင်းငှါ၎င်းအခွင့်ရ၏။ သူ၌ဓားကြီးကိုပေးတော်မူ၏။
၅ တတိယတံဆိပ်ကို ဖွင့်သောအခါတတိယသတ္တဝါကလာ၍ ကြည့်ပါ
ဟုဆိုသည်ကိုငါကြား၏။ ထိုအခါငါကြည့်လျှင်နက်သောမြင်းရှိ၏။
၆ မြင်းစီးသောသူသည်ချိန်ခွင်ကိုကိုင်၏။ သတ္တဝါလေးပါးအလယ်၌
အသံမှုကား။ဒေနာရိတပြား နှင့် ဂျုံဆံတခွက်ကိုရ၏။ ပြောင်းဆံသုံး
ခွက်ကိုရ၏။ ဆီနှင့်စပျစ်ရည်ကိုမပျက်စေနှင့်ဟုဆိုသည်ကိုငါကြား
၇ ၏။ ။စတုတ္ထတံဆိပ်ကိုဖွင့်သောအခါစတုတ္ထသတ္တဝါ

၈ ကလာ၍ကြည့်ပါဟုဆိုသည်ကိုငါကြား၏။ ထိုအခါငါကြည့်လျှင်မွဲ
သောအဆင်း ရှိသောမြင်း ရှိ၏။ မြင်းစီးသောသူသည် မရဏာဟူ
သောအမည် ရှိ၏။ မရဏာနိုင်ငံသည် သူနောက် သို့လိုက်လေ၏။သူ
သည်မြေကြီးလေးစိတ်တစိတ် ကို အစိုးရ၍ဓား လက်နက်ဘေး။မွတ်
သိပ်ခြင်းဘေး။ နာ၍သေဘေး။ မြေသား ရဲဘေး အားဖြင့် သတ် ပိုင်
၉ သောအခွင့်ကိုရ၏။ ။ပဉ္စမတံဆိပ်ကိုဖွင့်သောအ
ခါဘုရားသခင် ၏နှုတ်ကပတ်တော်ကြောင့် ၎င် မိမိတို့ခံသောသက်
သေခံချက် ကြောင့်၎င် အသေသတ် ခြင်းကိုခံသောသူတို့ ၏ ဝိညာဉ်
၁၀ များကိုယဇ်ပလ္လင်အောက်၌ငါမြင်၏။ သူတို့ကလည်းသန့်ရှင်းဟုတ်
မှန် ၍ အစိုးပိုင်တော် မူသောအရှင်။ မြေပေါ်မှာနေသောသူ တို့သည်
ငါတို့အသွေး ကို သွန်း ကြသောအပြစ် ကို တရားသဖြင့် မစစ်ကြော
မစီရင် ဘဲအ ဘယ် မျှလောက် ကာလပတ် လုံး နေတော် မူမည် နည်း
၁၁ ဟုကြီးသောအသံနှင့်ကျွေးကျော်ကြ၏။ သူတို့၌ ဖြူသောဝတ်လုံကို
ပေးတော်မူ၏။ သူတို့နည်း တူအသေသတ်ခြင်းကိုခံရလတံ့သောမိမိ
လုပ်ဖော်ဆောင်ဖက် ညီအစ်ကိုတို့သည်ပြည့်စုံခြင်း သို့မရောက်မှီခ
၁၂ ဏာညိမ်နေဦးရမည်ဟုသူတို့အားပြောဆို၏။ ။ဆဋ္ဌမတံ
ဆိပ်ကိုဖွင့်သောအခါ ငါကြည့် လျှင် ကြီး စွာသောမြေ လှုပ်ခြင်း ဖြစ်
၏။နေသည် အမွေး ဖြင့် ရက် သောပုဆိုးကြမ်း ကဲ့သို့မည်း၏။လအလုံး
၁၃ သည်အသွေးကဲ့သို့ဖြစ် ၏။ တည်းပင်ကိုလေဖြင့်လှုပ်၍အချိန်မတန်
သောအသီး ကြွေသကဲ့သို့ကောင်းကင်ကြယ်တို့သည်မြေပေါ်၌ကျကြ
၁၄ ၏။ မိုဃ်းကောင်းကင် သည်စာစောင် လိပ် သကဲ့သို့လွင့် သွား ၏။
တောင်များ။ ကျွန်းများအား လုံးတို့သည်မိမိတို့နေရာအရပ်မှရွေ့ကြ
၁၅ ၏။ လောကီဘုရင်။ မှူးမတ်။ စစ် သူကြီး။သဋ္ဌေး သူကြွယ်။ ခွန်အား
ကြီးသောသူမှစ၍ ကျွန်။ လူလွတ်အားလုံးတို့သည်မြေတွင်း။တောင်
၁၆ ကျောက်များ၌ပုန်းနေ၍ ထိုတောင် ကျောက်တို့ကိုခေါ်လျက် ငါတို့အ
ပေါ် သို့ ကျကြပါ။ ပလ္လင် ပေါ်မှာထိုင် တော်မူသောသူ၏ မျက်နှာနှင့်
၁၇ သိုးသငယ်၏ အမျက် တော်ကိုကွယ်ကာ၍ငါတို့ကိုဖုံးအုပ်ကြပါ။ အ
မျက်တော်ထင်ရှားသောနေ့ကြီးရောက်ပါပြီ။ တကား။အဘယ် သူနေ
နိုင်မည်နည်းဟုပြောဆိုကြ၏။



၁ ထိုနောက်မှာမြေကြီး။ပင်လယ်။သစ်ပင် များတို့၌လေမလာရအောင်

ကောင်းကင်တမန်လေးပါးတို့သည် မြေ၏လေးမျက် နှာလေကို ကိုင်၍
၂ မြေလေးမျက်နှာ၌ရပ်နေသည်ကိုငါမြင်လေ၏။ အသက်ရှင်တော်မူ
သောဘုရားသခင်၏တံဆိပ် ပါသောကောင်း ကင်တမန် တပါးသည်
အရှေ့မျက်နှာကတက်လာသည်ကိုငါမြင်၏။သူသည်လည်း မြေနှင့်ပင်
လယ်ကိုညှဉ်းဆဲရသောအခွင့် ရှိသောကောင်း ကင်တမန်လေးပါးကို
၃ အသံကျယ်စွာ ဟစ်၍ ငါတို့ဘုရားသခင်၏ ကျွန် တို့ကိုနဖူး၌ တံဆိပ်မခတ်မှီ
တိုင်အောင်မြေ။ ပင်လယ်။သစ် ပင် တို့ကိုမညှဉ်းဆဲပါ နှင့် ဟုကြီး
၄ သောအသံနှင့်ကျေးကျော်လေ၏ ။တံဆိပ်ခတ်သော သူအရေအတွက်
ကို ငါကြားရသည် ဖြစ်၍ ဣသရေလအမျိုးသား တို့၌ အသီး အသီး
သောအမျိုးအနွယ်ထဲကလူတသိန်းလေး သောင်းလေးထောင်တို့ကိုတံ
၅ ဆိပ်ခတ်ကြ၏။ ယုဒအမျိုးထဲကတသောင်း နှစ်ထောင်။ရုဗင်အမျိုးထဲ
၆ ကတသောင်းနှစ်ထောင်။ဂဒ်အမျိုးထဲကတသောင်းနှစ်ထောင်။ အာ
ရှာအမျိုး ထဲကတသောင်း နှစ်ထောင်။နဿလိအမျိုးထဲကတသောင်း
၇ နှစ်ထောင်။မနာရှေအမျိုးထဲကတသောင်းနှစ်ထောင်။ ရှိမောင်အမျိုး
ထဲကတသောင်း နှစ် ထောင်။ လေဝိအမျိုး ထဲကတသောင်း နှစ် ထောင်။
၈ ဣသခါအမျိုး ထဲကတသောင်း နှစ် ထောင်။ ဇာဗုလုန် အမျိုး ထဲကတ
သောင်း နှစ်ထောင်။ ယောသပ်အမျိုး ထဲကတသောင်း နှစ် ထောင်။ဗ
င်္ယာမိန်အမျိုးထဲကတသောင်းနှစ်ထောင်တို့ကိုတံဆိပ်ခတ်ကြ၏။
၉ ။ထိုနောက်မှာငါကြည့်၍အသီးအသီးဘာသာစကားကို
ပြောသောလူအမျိုးအနွယ် ခပ်သိမ်း တို့အထဲမှထွက်သော။အဘယ်
သူ မျှမရေတွက်နိုင် သောလူစုအပေါင်းသည် ဖြူသောဝတ်လုံကိုဝတ်
လျက်ထန်း လက်ကိုကိုင် လျက်ပလ္လင်တော်ရှေ့။ သိုး သငယ်ရှေ့မှာရပ်
၁၀ နေကြ၏။ သူတို့ကလည်းပလ္လင်ပေါ်မှာထိုင်တော်မူသောငါတို့ဘုရား
သခင်၌ရှင်သိုးသငယ်၌ရှင်ကယ်တင်တော်မူခြင်းချမ်းသာဖြစ်စေသော
၁၁ တည်းဟုကြီးသောအသံနှင့်ကျေးကျော်ကြ၏။ ပလ္လင်တော်မှစသော
အသက် ကြီး သူတို့ နှင့် သတ္တဝါလေးပါးပတ်ဝန်းကျင်၌ရပ်နေသော
ကောင်းကင်တမန်အားလုံးတို့သည်ပလ္လင် တော်ရှေ့မှာပျပ်ဝပ်၍ဘု
၁၂ ရားသခင်ကိုကိုးကွယ်လျက်။ အာမင်။ငါတို့ဘုရားသခင်၌ကောင်း
ကြီး မင်္ဂလာ။ ဘုန်း။ ပညာ နှင့်တကွကျေး ဇူး ချီး မွမ်းခြင်း။ ဂုဏ်အသ
ရေ။တန်ခိုးသတ္တိသည် ကမ္ဘာအဆက်ဆက် ဖြစ် စေသတည်း။အာမင်
၁၃ ဟုပြောဆိုကြ၏။ ။အသက်ကြီးသူတပါးကလည်း။ဖြူသော

ဝတ် လုံကိုဝတ် သော ဤသူတို့သည် အဘယ် သူနည်း။ အဘယ်ဆိက
၁၄ လာသနည်းဟုငါအားပြောဆိုလျှင် ငါကသခင်။ကိုယ်တော်သည် သ
ပါ၏ဟုပြန် ဆို ၏။ သူကလည်း ဤ သူတို့သည် ကြီး စွာသောဆင်းရဲ
ကွဲအထဲကထွက် မြောက် ၍ မိမိတို့ဝတ်လုံကိုသိုး သငယ် ၏အသွေး နှ
၁၅ လျှော်၍ဖြူစေသောသူဖြစ် သတည်း။ ထိုကြောင့် ဘုရားသခင်၏ပ
လ္လင်တော်ရှေ့မှာနေရာ၍ ဗိတ်မှန် တော် ၌ ဘုရားဝတ်ကိုနေ့ညဉ့်မ
ပြတ် ပြုကြ၏။ ပလ္လင်ပေါ်မှာထိုင် တော်မူသောသူသည် သူတို့ဆီမှာ
၁၆ ကျိန်းဝပ် တော်မူမည်။ သူတို့သည် နောက်တဖန် ရေစာကိုမငတ်မ
၁၇ မွတ်ရ။ နေရောင်ခြည် အလျှင်း မထိရ။အဘယ်အပူ ကို မျှမခံရ။ အ
ကြောင်းမူကား။ပလ္လင်တော်အတွင်း၌ရှိသောသိုး သငယ်သည် သူတို့
ကိုလုပ်ကျွေး၍ အသက်စမ်းရေတွင်း ဆီသို့လမ်းပြလိမ့်မည်။ဘုရားသ
ခင်သည်လည်းသူတို့မျက်စိ၌မျက် ရည်အားလုံးကိုသုတ်တော်မူမည်
ဟုဆိုလေ၏။ ✻✻
၁ သတ္တမတံဆိပ် ကို ဖွင့် သောအခါ ကောင်း ကင်ဘုံ ၌ တနာ ရီလောက်
၂ တိတ်ဆိတ်စွာနေကြ၏။ ဘုရားသခင်ရှေ့တော်၌ရပ်နေသောကောင်း
ကင်တမန်ခုနှစ်ပါးကိုငါမြင်၏။သူတို့ ၌ တံပိုးခုနှစ်လုံးကိုပေး၏။
၃ ကောင်းကင်တမန်တပါး သည်လာ ၍ ရွှေလင်ပန်းကိုကိုင် လျက်ယဇ်
ပလ္လင်နားမှာရပ်နေ၏။ ပလ္လင်တော်ရှေ့ ၌ ရှိသောရွှေယဇ်ပလ္လင်ပေါ်
မှာသန့်ရှင်း သူအါး လုံးတို့၏ပဌနာများ နှင့် အကျွဆက်ကပ် ခြင်း ငှါ
၄ မီးရှို့သောနံ့သာပေါင်းအများ ကို ထိုသူ၌ပေး ၏။ မီးရှို့သောနံ့သာ
ပေါင်း၏အငွေ့အခိုးသည်သန့်ရှင်းသူတို့၏ပဌနာများနှင့်အကွကောင်း
၅ ကင်တမန်၏လက်ထဲကဘုရားသခင်ရှေ့တော်သို့တက်လေ၏။ ကော
င်းကင်တမန်သည်လင်ပန်းကိုယူ၍ယဇ်ပလ္လင်မီးနှင့်ပြည့်စေပြီးမှမြေ
ကြီးအပေါ် သို့ချလိုက်သည် ဖြစ် ၍အသံမြည် ခြင်း။မိုဃ်းချုန်း ခြင်း။
၆ လျှပ်စစ်ပြက်ခြင်း။မြေကြီးလှုပ်ခြင်းဖြစ်လေ၏။ ။တံပိုး
ခုနှစ် လုံး ရှိသောကောင်း ကင်တမန်ခု နှစ် ပါးတို့သည်မှုတ် ခြင်းငှါ
၇ ကိုယ် ကိုကိုယ်ပြင် ဆင်ကြ၏။ ပဌမသူသည် တံပိုးမှုတ်၍ မိုဃ်းသီး
ဖြစ်၏။ အသွေးနှင့်ရောနှောသောမီး လည်းဖြစ်၏။ မြေကြီးအပေါ်သို့
ချလိုက်သဖြင့် မြေသုံး စုတစု။ သစ်ပင်သုံး စုတစု။ စိမ်း သောမျက်ပင်
၈ အားလုံး ကျွမ် လောင်လေ၏။ ဒုတိယကောင်းကင်တမန်သည်တံပိုး
မှုတ်၍ မီးလောင်သောတောင်ကြီး ကိုပင်လယ် ထဲသို့ချလိုက်သကဲ့သို့

၉ ဖြစ်သဖြင့်ပင်လယ်သုံးစုတစုအသွေးဖြစ်၏၊ အသက်ရှင်သောပင်
လယ်သတ္တဝါသုံးစုတစုလည်းသေ၏၊ သင်္ဘောသုံးစုတစုလည်းပျက်
၁၀ ၏၊ တတိယကောင်းကင်တမန်သည်တံပိုး မှုတ်သောအခါမီး ရှုတ်
ကဲ့သို့ထွန်းတောက် သောကြယ်ကြီး သည်ကောင်းကင်ကကျ၍မြစ်
၁၁ သုံးစုတစုနှင့်ရေစမ်းရေတွင်းနှင့်ရောက်၏၊ ထိုကြယ်သည်ဘင်းခါး
ရွက် တူသောအမည် ရှိ၏၊ ရေသုံးစုတစုဘင်း ခါး ရွက်ဖြင်၍ရေခါး
၁၂ သောကြောင့်လူအများ တို့သည် သေကြ၏၊ စတုတ္ထကောင်းကင်တ
မန်သည်တံပိုးမှုတ်သောအခါနေသုံးစုတစု၊ လသုံးစုတစု၊ ကြယ်သုံးစု
တစုကြတ် ၍ သုံး စုတစုမိုက်လေ၏၊ နေ့သုံးစုတစု၊ ညည့်သုံးစုတစုအ
၁၃ လင်းမရှိ။ ထိုအခါငါကြည့်၍ လင်းယုန်ငှက်တကောင်ကလည်းကြွင်း
သေး သောကောင်း ကင်တမန် သုံး ပါးမှုတ် လုလတ့ံ သောတံပိုး သံ
ကြောင့် မြေသားတို့သည် အမင်္ဂလာ၊ အမင်္ဂလာ၊ အမင်္ဂလာ ရှိကြ၏ဟု
ကောင်းကင်အလယ်၌ပဲ၍ကြီးသောအသံနှင့်ဆိုသည်ကိုငါကြား၏၊
၁ ။ ပဉ္စမကောင်းကင်တမန်သည်တံပိုးမှုတ်သောအခါကြယ်တ
လုံးသည် ကောင်းကင်ကမြေကြီးအပေါ်သို့ကျရောက်သည်ကိုငါမြင်
၂ ၏။ သူ့၌အနက်ဆုံးတွင်း၏သော့ကိုအပ်ပေးသည်ဖြစ်၍ သူသည်အ
နက်ဆုံးတွင်းကိုဖွင့်လျှင်ကြီးစွာသောမီးဖို၏ အခိုးကဲ့သို့သောအခိုး
သည်တွင်းထဲကတက် လေ၏။ ထိုတွင်း၏မီးခိုး ကြောင့်နေနှင့်အာကာ
၃ သကောင်းကင်သည် မှောင်မိုက်သော၏။ ကျိုင်းကောင်တို့သည်မီးခိုး
ထဲကမြေကြီးပေါ်သို့ထွက်၍မြေကင်း ဖြီးကောက်တန်ခိုးကဲ့သို့သော
၄ တန်ခိုးကိုရကြ၏။ မြေ၏မျက် ပင်မှစ၍စိမ်းသောအရာများ၊ သစ်
ပင်များအားလုံးတို့ကိုထား၍ခပ်သိမ်းဘုရားသခင်၏တံဆိပ်မခတ်သေါ
လူတို့ကိုသာညှဉ်းဆဲမည်အကြောင်း။ သူတို့အားပညတ်ထား၏၊
၅ တံဆိပ်မခတ် သောသူတို့ ကို ကားသတ်သောအ ခွင့်မရှိ။ ငါး လပတ်
လုံးပြင်း စွာသောဝေဒနာဖြစ် စေသောအ ခွင့် ရှိ၏။ ထိုကျိုင်း ကောင်
ဖြစ်စေသောဝေဒနာသည်ကားကင်းမြီးကောက်သည်လူကိုထိုးသော
၆ ဝေဒနာကဲ့သို့ဖြစ်သတည်း။ ။ ထိုနေ့ရက်ကာလ၌လူတို့
သည်သေခြင်းကိုရှာကြလိမ့်မည်။ ရှာသော်လည်းမတွေ့ရ။ အလွန်သေ
၇ ချင်သော်လည်း သေမင်း သည် သူတို့ဆီကပြေး သွားလိမ့်မည်။ ထို
ကျိုင်း ကောင် တို့၏အဆင်းသဏ္ဍာန် သည် ကားစစ်တိုက်ခြင်းငှါပြင်
ဆင်သောမြင်း၏အဆင်းသဏ္ဍာန် နှင့် တူ၏။ ခေါင်းပေါ်မှာရွှေသရဖူ

၈ ကိုဆောင်းဟန်ရှိ၏။မျက်နှာသည်လူမျက်နှာလိုဖြစ်၏။ ဆံပင်သည်
၉ မိန်းမဆံပင်လိုဖြစ်၏။သွားသည်လည်းခြင်္သေ့သွားလိုဖြစ်၏။ ရင်ဖုံး
သည်သံရင်ဖုံးလိုဖြစ်၏။အတောင်ခတ်သောအသံသည်စစ်တိုက်၍
၁၀ ပြေးလာသောမြင်းရထားအများ၏အသံလိုဖြစ်၏။ အမြီးသည်ကင်း
မြီးကောက်နှင့်တူ၏။ အမြီး၌လည်းဆူးရှိ၏။ လူတို့ကိုငါးလပတ်လုံး
၁၁ ညှဉ်းဆဲသောအခွင့် တန်ခိုး ရှိကြ၏။ သူတို့ရှင် ဘုရင် မူကားဟေဗြဲ
ဘာသာအားဖြင့်အဗဒ္ဒုန်ဟူ၍ ဂရိဘာသာအားဖြင့်အပေါ
၁၂ လုန်ဟူ၍ရှင်ခေါ်ဝေါ်သောအနက်ဆုံးတွင်းတမန် ဖြစ်၏။ အမင်္ဂလာ
တပါးလွန်ပြီ။ထိုနောက်မှာအမင်္ဂလာနှစ်ပါးလာလေဦးမည်။

✱✱

၁၃ ဆဋ္ဌမကောင်းကင်တမန်သည်တံပိုးမှုတ်သောအခါဘုရားသခင်ရှေ့
တော်၌ရှိသောရွှေယဇ်ပလ္လင်၏ချိုလေးချောင်းထဲကထွက်သောအ
၁၄ သံကား။ ဥဖရတ်မြစ်ကြီးနားမှာချည်နှောင်လျက်ရှိသောကောင်း
ကင်တမန်လေးပါးကိုလွှတ်စေဟုတံပိုးရှိသောဆဋ္ဌမကောင်းကင်တ
၁၅ မန်အားဆိုသည်ကိုငါကြား၏။ ထိုအခါလူသုံးစုတစုကိုအသေသတ်
ခြင်းငှါတနာရီ။ တရက်။ တလ။ တနှစ်ဖို့ပြင်ဆင်သောကောင်းကင်တ
၁၆ မန်လေးပါးတို့သည်လွှတ်ကြ၏။ မြင်းသူရဲအရေအတွက်ကားနှစ်
၁၇ သင်္ချေဖြစ်၏။ထိုအရေအတွက်ကိုငါကြားရ၏။ ။ထိုအတူ
ဗျာဒိတ်ရူပါရုံ၌ထင်ရှားသောမြင်းတို့ကိုရှင်မီးနှင့်ဝါကိန္နကျောက်နှင့်
ကန့်နှင့်ပြီးသောရင်ဖုံးရှိသောမြင်းသူရဲတို့ကိုရှင်ငါမြင်ရ၏။ မြင်းတို့
၁၈ ၏ခေါင်းသည်ခြင်္သေ့ခေါင်းလိုဖြစ်၏။ သူတို့ခံတွင်းထဲကလည်းကန့်။
မီးလျှံ။မီးခိုးထွက်ကြ၏။ သူတို့ခံတွင်းထဲကထွက်သောကန့်။မီးလျှံ။မီး
ခိုးတည်းဟူသောဘေးသုံးပါးအားဖြင့်လူသုံးစုတစုအသေခံကြ၏။
၁၉ အဘယ်ကြောင့်နည်းဟူမူကား။သူတို့တန်ခိုးသည်ခံတွင်း၌ရှင်အမြီး
၌ရှင်တည်ရှိ၏။အမြီးသည်ခေါင်းနှင့်ပြည့်စုံ၍မြွေနှင့်တူ၏။အမြီးအား
၂၀ ဖြင့်ညှဉ်းဆဲတတ်ကြ၏။ ထိုဘေးဒဏ်အားဖြင့်မသေဘဲကြွင်းသော
လူတို့သည်နတ်တို့ကိုရှင်မမြင်နိုင်။မကြားနိုင်။မသွားလာနိုင်သော ရွှေ
ရုပ်တု။ ငွေရုပ်တု။ကြေးနီရုပ်တု။ကျောက်ရုပ်တု။သစ်သားရုပ်တုတို့
ကိုရှင်မကိုးကွယ်ဘဲနေမည်အကြောင်း။ ကိုယ်လက်နှင့်လုပ်သောအ
၂၁ ရာများကိုနောင်တမရကြ။ ကိုယ်ကျင့်သောအကျင့်တည်းဟူသော
လူအသက်ကိုသတ်ခြင်း။သူတပါးကိုပြုစားခြင်း။မတရားသောမေထုန်

ဋ္ဌမိဝဲခြင်းသုဥစ္စာကိုဒိုးခြင်းအမှုများကိုလည်းနောင်တမရကြ။

၁ ။ခွန်အားကြီးသောကောင်းကင်တမန်တပါးသည် မိုဃ်းတိမ်ကို
ဝတ်လျက်ကောင်းကင်ကဆင်းသက်သည်ကိုငါမြင်၏။ သူ့ခေါင်းပေါ်
မှာသက်တံ့ရှိ၏။ သူမျက်နှာသည်နေကဲ့သို့ဖြစ်၏။ သူ့ခြေသည်သံ
၂ မီးခဲတိုင်ကဲ့သို့ဖြစ်၏။ ဖွင့်ထားသောစာစောင်ငယ်ကိုကိုင်လျက်ရှိ
၏။လက်ျာခြေသည် ပင်လယ်ပေါ်မှာရပ်လက်ဝဲခြေသည် မြေကြီးပေါ်
၃ မှာရပ်နေ၍ ခြင်္သေ့ဟောက်သကဲ့သို့ကြီးသောအသံနှင့်ကြွေးကြော်
လေ၏။ကြွေးကြော်ပြီးမှမိုဃ်းကြိုးသံခုနစ်ချက်မြည်လေ၏။ မိုဃ်းကြိုး
သံခုနစ်ချက်မြည်ပြီးမှ ငါသည်ရေးမှတ်မည်အားထုတ်လေသော်
၄ ကောင်းကင်မှထွက်သောအသံကား၊ မိုဃ်းကြိုးသံခုနစ်ချက်မြည်
သောအရာကိုတံဆိပ်ခတ်ထော့။မရေးမှတ်နှင့်ဟုဆိုသည်ကိုငါကြား
၅ ၏။ ထိုအခါငါမြင်၍ မြေပြင်လယ်ပေါ်မှာရပ်နေသောကောင်းကင်
၆။၇ တမန်သည်လက်ျာလက်ကိုကောင်းကင်သို့ချီပြီးလျှင် ဘုရားသခင်
ကျွန်တော်မျိုးပရောဖက်တို့အားဝမ်းမြောက်စရာသိတင်းကိုဖျာဒိတ်
ထားတော်မူသည်နှင့်စပ်ဆိုင်သောဘုရားသခင်၏နက်နဲသောအရာ
သည်ကာလမနွေး။သတ္တမကောင်းကင်တမန်တံပိုးမှုတ်ခြင်းအသံမြည်
သောနေ့ရက်ကာလ၌ပြည့်စုံခြင်းသို့ရောက်မည်ဟုကောင်းကင်။မြေ
ကြီး။ သမုဒ္ဒရာကိုဎင်အရပ်ရပ် ၌ရှိရှိသမျှတို့ကိုဎင်ဖန်ဆင်း၍ကမ္ဘာ
အဆက်ဆက်အသက်ရှင်တော်မူသောသူကိုတိုင်တည်၍ကျိန်ဆိုခြင်း
၈ ကိုပြုလေ၏။ ။ငါကြားသောကောင်းကင်အသံသည်တဖန်ငါ
အားပြောသည်ကား။မြေပြင်လယ်ပေါ်မှာရပ်နေသောကောင်းကင်တ
မန်၏လက်၌ဖွင့်ထားလျက်ရှိသောစာစောင်ငယ်ကိုသွား၍ယူလော့
၉ ဟုဆိုလျှင် ငါသည်ကောင်းကင်တမန်ဆီသို့သွား၍စာစောင်ငယ်ကို
ပေးပါဟုတောင်း၏။ သူကလည်းယူ၍ စားတော့။ဝမ်းကိုခါးစေလိမ့်
၁၀ မည်။သို့သော်လည်းပစပ်၌ပျားရည်ကဲ့သို့ချိုလိမ့်မည်ဟုဆိုလျှင်စာ
စောင်ကိုကောင်းကင်တမန်၏လက်မှငါယူ၍စား၏။ ပစပ်၌ပျားရည်
၁၁ ကဲ့သို့ချို၏။စားပြီးမှဝမ်းခါး၏။ ကောင်းကင်တမန်ကလည်းသင်သည်
အသီးအသီးဘာသာစကားကိုပြောသောလူအမျိုးမျိုးတို့၌ ဎင်ရှင်ဘု
ရင်တို့၌ဎင်တဖန်ပရောဖက်ပြု၍ဟောပြောရမည်ဟုဆိုလေ၏။

❋❋

၁ ဎင်နည်း။လှံတံနှင့်တူသောကျူပင်တလုံးကိုငါအားပေး၍ ငါကိုဆို

သည်ကား။ထတော့။ဘုရားသခင်၏ဗိမာန်တော်နှင့်ယဇ်ပလ္လင်ကို
တိုင်းတော့။ဗိမာန်တော်၌ကိုးကွယ်သောသူတို့ကိုလည်းရေတွက်
၂ တော့။ ဗိမာန်၏တန်တိုင်းကိုမတိုင်းနှင့်။ပယ်ထားတော့။တပါးအ
မျိုးသားတို့၌အပ်ပေးပြီး။ သူတို့သည်သန့်ရှင်းသောမြို့တော်ကိုလ
၃ လေးဆယ်နှစ်လပတ်လုံးနင်းကြလိမ့်မည်။ ငါသက်သေခံနှစ်ပါးကိုငါ
အခွင့်ပေးမည်။ သူတို့သည်လျှော်တေအဝတ်ကိုဝတ်လျက်အရက်တ
၄ ထောင်နှစ်ရာခြောက်ဆယ်ပတ်လုံးပရောဖက်ပြုကြလိမ့်မည်။ ထိုသူ
တို့သည်ကားမြေကြီးအရှင်ရှေ့တော်၌စိုက်ထားသောသံလွင်ပင်နှစ်
၅ ပင်။မီးခွက်နှစ်လုံးဖြစ်သတည်း။ မည်သောသူသည်ထိုသူတို့ကိုညှဉ်း
ဆဲခြင်းငှါအလိုရှိလျှင် သူတို့ခံတွင်းထဲကမီးထွက်၍ရန်သူတို့ကိုမျို
တတ်၏။မည်သောသူသည်ထိုသူတို့ကိုညှဉ်းဆဲခြင်းငှါအလိုရှိလျှင်
၆ ထိုသို့အသေသတ်ခြင်းကိုခံရမည်။ ထိုသူတို့သည်ပရောဖက်ပြု
သောနေ့ရက်ကာလ၌မိုးမရွာရအောင်မိုးကောင်းကင်ကိုပိတ်
ခြင်းငှါရင်မြစ်ရေ။တွင်းရေကိုအသွေးဖြစ်စေခြင်းငှါရင်မိမိအလိုရှိ
သမျှသောအခါ၌ဘေးအမျိုးမျိုးဖြင့်မြေကြီးကိုဒါဏ်ခတ်စေခြင်းငှါ
၇ ရင်အခွင့်ရကြ၏။ ။သူတို့သည်သက်သေခံပြီးသောအခါအ
နက်ဆုံးတွင်းထဲကတက်သောသားရဲသည်သူတို့နှင့်စစ်တိုက်၍
၈ အောင်လိမ့်မည်။အသက်ကိုသတ်ပြီးမှ သူတို့သခင်သည်လက်ဝါး
ကပ်တိုင်မှာအသေခံတော်မူသောအရပ်တည်းဟူသောသောဒုံဟူ၍
ရင်အဲဂုတ္တုဟူ၍ရင်အတွင်းအနက်အားဖြင့်ခေါ်ဝေါ်သောမြို့ကြီးလမ်း
၉ ၌အလောင်းကောင်တို့သည်နေရစ်လိမ့်မည်။ အသီးအသီးဘာသာစ
ကားကိုပြောသောလူအမျိုးအနွယ်တို့သည်သုံးရက်ခွဲပတ်လုံးအ
လောင်းကောင်တို့ကိုမြင်ရ၍သင်းဂြိုဟ်ခြင်းကိုမြစ်တားကြလိမ့်
၁၀ မည်။ မြေကြီးပေါ်မှာနေသောသူတို့သည်ထိုအလောင်းကောင်တို့
ကိုမြင်သောအခါဝမ်းမြောက်၍ပျော်မွေ့ခြင်းကိုပြုကြလိမ့်မည်။ တ
ယောက်ကိုတယောက်လက်ဆောင်ပေးလိုက်ကြလိမ့်မည်။ အဘယ်
ကြောင့်နည်းဟူမူကား။ အထက်ကထိုပရောဖက်နှစ်ပါးတို့သည်
မြေကြီးပေါ်မှာနေသောသူတို့ကိုပြင်းစွာနှောင့်ရှက်ညှဉ်းဆဲကြ
၁၁ သည်ဟူ၍ငါအားဆိုလေ၏။ ထိုနောက်သုံးရက်ခွဲလွန်ပြီးလျှင်ဘုရား
သခင်အထံတော်ကအသက်ဝိညာဉ်သည်သူတို့၌ဝင်သဖြင့်သူတို့
သည်မတ်တတ်ထ၍မြင်သောသူအားလုံးတို့သည်အလွန်ကြောက်ရွံ့

၁၂ ခြင်းသို့ရောက်ကြ၏။ ကောင်းကင်ကထွက်သောအသံကြီးကား။ဤ
အရပ် သို့တက် ကြဟုမိမိတို့အား ဆိုသည် ကိုသူတို့သည် ကြားလျှင်
၁၃ မိုဃ်းတိမ်ဖြင့်ကောင်းကင်သို့တက် ၍ရန်သူတို့သည်မြင်ကြ၏။ ထို
အချိန် နာရီ ၌ ကြီးစွာသောမြေလှုပ်ခြင်းဖြစ် ၍ မြို့ဆယ်စုတစုပြို
လေ၏။ထိုမြေလှုပ်ခြင်း၌လူခုနှစ် ထောင်သေကြ၏။ကြွင်းသောသူတို့
သည်ကြောက် ၍ကောင်းကင်ဘုံရှင်ဘုရားသခင်ကိုချီးမွမ်ကြ၏။
၁၄ ဒုတိယအမင်္ဂလာလွန်ပြီ။တတိယအမင်္ဂလာမြန်မြန်လာလိမ့်မည်။
၁၅ ။သတ္တမကောင်းကင်တမန်သည်တံပိုးမှုတ်သောအခါ
ကောင်းကင်ဘုံ၌ ကြီးသောအသံတို့ကား။ ဤလောကနိုင်ငံတို့သည်ငါ
တို့သခင်၏နိုင်ငံဖြစ် ပါပြီ။ သူ၏ခရစ်တော်၏နိုင် ငံဖြစ် ပါပြီ။ သူ
၁၆ သည်လည်းကမ္ဘာအဆက်ဆက်စိုး စံတော်မူမည်ဟုဆိုကြ၏။ ဘုရား
သခင်ရှေ့တော်၌မိမိတို့ပလ္လင်ပေါ် မှာထိုင် သောအသက်ကြီးသူနှစ်
၁၇ ဆယ်လေးပါးတို့သည်ပျပ်ဝပ် ၍ဘုရားသခင်ကိုကိုးကွယ်လျက် အ
နန္တတန်ခိုးနှင့်ပြည့်စုံ ၍ ပစ္စုပ္ပန်။ အတိတ်။အနာဂတ်ကာလအစည့်ရှိ
တော်မူ သောထာဝရအရှင်ဘုရားသခင်။ ကိုယ်တော်၏မဟာတန်ခိုး
တော်ကို ယူဆောင်၍စိုးစံတော်မူသောကျေးဇူး တော်ကိုအကျွန်ုပ်တို့
၁၈ သည်ချီးမွမ်ပါ၏။ လူအမျိုးတို့သည် အမျက်ထွက်ကြသည်ဖြစ်၍အ
မျက် တော်သည် လည်း ရောက်ပါပြီ။သေလွန် သော သူတို့ကိုတရားစီ
ရင်ဆုံးဖြတ်တော်မူ၍ ကိုယ်တော်၏ကျွန် ရင်းတည်း ဟူသောပရော
ဖက်တို့အားငှင်သန့်ရှင်းသူတို့အားငှင်နာမတော်ကိုကြောက်ရွံ့သေ
သောသူအကြီးအငယ်တို့အားငှင်ဆုကျေး ဇူး ကိုသနားတော်မူ၍မြေ
ကြီးကိုဖျက် ဆီးသောသူတို့ကိုဖျက် ဆီးတော်မူသောအချိန်ရောက်ပါ
ပြီးဟုဆိုကြ၏။



၁၉ ငှင်နည်း။ ကောင်းကင်ဘုံ၌ဘုရားသခင်၏ဗိတ်မှာန်တော်ဖွင့်ထား
၍ဗိတ်မှာန် တော်ထဲမှာပဋိညည် တော်သစ်တာထင်ရှားလေ၏။လျှပ်
စစ်ပြက်ခြင်း။အသံမြည် ခြင်း။မိုဃ်း ချုန်း ခြင်း။ မြေလှုပ်ခြင်း။ အလုံး
၁ ကြီးသောမိုဃ်း သီး ကျခြင်း ဖြစ်ကြ၏။ ကောင်း ကင် ၌ ကြီးသော
နိမိတ် လက္ခဏာဟူမူကား။ မိမ္မတဦးသည် နေကိုဝတ်လျက်လကိုခြေ
ဖြင့်နင်းလျက်ခေါင်းပေါ်မှာကြယ်ဆယ်နှစ်လုံးဖြင့်ပြီးသောသရဖူကို
၂ ဆောင်းလျက်ပေါ်လာ၏။ ထိုမိမ္မသည်ကိုယ်ဝန်ဆောင်၍ဖွားချင်

၃ သောဝေဒနာပြင်းသည်နှင့်အော်ဟစ်လေ၏။ ကောင်းကင်၌အခြား
သောနိမိတ်လက္ခဏာပေါ်လာသည်ကား။နီသောအဆင်းရှိသောနဂါး
ကြီးသည်ခေါင်းခုနစ်လုံး။ ချိုဆယ်ချောင်းနှင့်တကွခေါင်းပေါ်မှာသ
၄ ရဖူခုနစ်ခုကိုဆောင်းလျက်ရှိ၏။ သူ့အမြီးသည်ကောင်းကင်ကြယ်
သုံးစုတစုကိုဆွဲငင်၍မြေကြီးသို့ချလိုက်လေ၏။သားဖွားလုသောမိန်း
မသည် ဖွားသောအခါသား ကိုစား မည်အကြံ နှင့်နဂါး သည်မိန်းမရှေ့၌
၅ ရပ်နေ၏။ သူသည်လည်းလူမျိုးတကာတို့ကို သံလှံတံ နှင့် အုပ်စိုးလ
တံ့သောသားယောကျ်ားကို ဖွားမြင်၏။ထိုသားကိုဘုရား သခင်ဆီ
၆ သို့၎င် ပလ္လင်တော်ဆီသို့ ၎င် ချီယူတော်မူ၏။ မိန်းမသည် အရက် တ
ထောင်နှစ် ရာခြောက် ဆယ် ပတ် လုံးတော ၌ ကျွေးမွေး ခြင်းကို ခံရ
အောင်ဘုရားသခင်ပြင်ဆင်တော်မူသောအရပ်ဆီသို့ပြေးလေ၏။
၇ ထိုအခါကောင်း ကင် ၌ စစ်ဖြစ်၏။မိက္ခေလမှစ၍မိမိကောင်းကင်တ
မန်တို့သည်နဂါး နှင့်စစ်တိုက်၏။ နဂါးမှစ ၍ မိမိတမန်တို့သည်စစ်
၈။၉ တိုက် ၍ မနိုင်သည်နှင့် ကောင်းကင်၌သူတို့နေစရာမရှိ။ ထိုအခါ၌
လောကတနိုင်ငံလုံးကိုလှည့် စား ၍ မာရ်နတ်စာတန် အမည် ရှိ သော
ရှေး မြွေဟောင်းတည်း ဟူသောနဂါးကြီး ကို ၎င်သူ နှင့် အတူသူ၏
၁၀ တမန် တို့ ကို ၎င်မြေကြီး သို့ချလိုက် ကြ၏။ ကောင်းကင်ဘုံ ၌ ကြီး
သောအသံကား။ ယခုမှာကယ်တင်ခြင်း ဖြစ်၏။ တန်ခိုး တော်လည်း
ဖြစ်၏။ငါတို့ဘုရားသခင် ၏နိုင် ငံတော် နှင့် သူ၏ခရစ် တော်၏အာ
ဏာတော်စက်လည်းဖြစ်၏။အဘယ်ကြောင့်နည်းဟူမူကား။ငါတို့ညီ
အစ်ကို များ ကိုငါတို့ဘုရားသခင်ရှေ့တော် ၌ နေ့ညဉ့် မပြတ်အပြစ်
၁၁ တင်သောရန် သူကိုအောက် သို့ချလိုက် လေပြီ။ သူတို့သည် သိုးသ
ငယ်၏အသွေးအားဖြင့်၎င်မိမိတို့သက် သေခံချက် နှုတ် ကပတ်တရား
အားဖြင့်၎င်အောင်မြင်၍ အသေခံသည်တိုင် အောင်ကိုယ် အသက် ကို
၁၂ ကိုယ်မနှစ်မြောကြ။ ထိုကြောင့်ကောင်းကင်နှင့်ကောင်းကင်သားတို့
ရွှင်လန်းကြလော့။မြေကြီးပင်လယ်သည်အမင်္ဂလာရှိ၏။အဘယ်ကြောင့်
နည်း ဟူမူကား။ မာရ်နတ်သည် မိမိကာလတာသာရှိသည် ကို သိ၍
ပြင်းစွာသော ဒေါသအမျက် နှင့်တကွသင်တို့ဆီသို့ဆင်း လေပြီးဟုဆို
၁၃ ကြသည်ကိုငါကြား၏။ ။နဂါးသည်မြေကြီးသို့ကိုယ်ချ
သည် ကို ကိုယ် သိမြင် လေသော်သား ယောကျ်ား ကို ဖွား မြင် သော
၁၄ မိန်းမကိုညှဉ်းဆဲ၏။မိန်းမသည်မြွေနှင့်လွတ်၍တကာလ၊ နှစ်ကာလ။ကာ

လတဝက် ပတ်လုံးကျွေး မွေး ခြင်း ကိုခံရာအရပ်တည်း ဟူသောတော
အရပ်ဆီသို့ပျံရ အောင်လင်းယုန် ကြီး၏အတောင်နှစ်ဖက်ကိုသူ့အား
၁၅ ပေးလေ၏။ ထိုအခါမိမ္ဗကိုရေအဟုန်ဖြင့် မျော သွားစေခြင်းငှါနဂါး
သည်မိမိခံတွင်း ထဲကမြစ် ‌စီးသကဲ့သို့ရေကိုမိမ္ဗနောက် ၌ ထုတ် ပြစ်
၁၆ လေ၏။ မြေကြီးသည် မိမ္ဗကိုမစ၍မိမိခံတွင်းကိုဖွင့်သဖြင့်နဂါး၏
၁၇ ခံတွင်းထဲကထုတ်ပြစ် သောမြစ်ရေကိုမျိုလေ၏။ နဂါးသည်မိမ္ဗကို
အငြိုးထား၏။ ဘုရားသခင် ၏ ပညတ်တော် တို့ကိုကျင့်၍ ယေရှု၏
သက်သေခံတော်မူချက် ကို စွဲလမ်းသော သူတည်း ဟူသော ထို မိမ္ဗ ၌
ကြွင်းသောအမျိုးအနွယ်နှင့်စစ်တိုက်ခြင်းငှါသွား၏။

❋❋

၁ ပင်လယ်နားသဲပေါ်မှာငါရပ် နေသည်ဖြစ်၍ သား ရဲတကောင်သည်
ခေါင်းခုနှစ်လုံးချိုဆယ်ချောင်း နှင့်တကွချိုပေါ်မှာသရဖူဆယ်ဆူကို
ဆောင်း လျက် ခေါင်း ပေါ်မှာလည်း ဘုရားသခင်အသရေကိုရှုတ်ချ
၂ သောနာမရှိလျက်ပင်လယ်ထဲကတက်သည်ကိုငါမြင်လေ၏။ ထိုသို့
ငါမြင် သောသား ရဲသည်ကျား သစ် နှင့် တူ၏။ သူ့ခြေသည်ဝံခြေလို
ဖြစ်၏။သူ့နှုတ်သည်လည်းခြင်္သေ့နှုတ်လိုဖြစ်၏။နဂါးသည်မိမိတန်
ခိုးကိုငင်မိမိပလ္လင်ကိုငင်ကြီး စွာသောအာဏာစက်ကို ငင်သားရဲ၌
၃ အပ်ပေး၏။ သားရဲ၏ခေါင်းတဦးသည်သေအောင်ကွပ်မျက်ပြီးသ
ကဲ့သို့ဖြစ်၍သေစေသောဒဏ်ချက်သည်ပျောက်လျက်ရှိ၏။မြေကြီး
၄ သားအားလုံးတို့သည်သား ရဲနောက် ၌ လိုက် ၍ အံ့ဩကြ၏။ ထို
သားရဲ၌အာဏာစက်ကိုအပ်ပေးသောနဂါးကိုကိုးကွယ်ကြ၏။သား
ရဲကို လည်းကိုး ကွယ် သည်ဖြစ် ၍အဘယ်သူသည်သားရဲ နှင့်တူသ
၅ နည်း။အဘယ်သူသည်စစ်ပြိုင် နိုင် သနည်း ဟုဆိုကြ၏။ ထိုသားရဲ
သည်လည်း အလွန် ကြီး သောစကားကိုငင် ဘုရား သခင်ကိုပြစ်မှား
သောစကားကို ငင် ပြောတတ် သောနှုတ် နှင့် ပြည့်စုံ ၍ လလေးဆယ်
၆ နှစ်လပတ်လုံးစီရင်ရသောအ ခွင့်ကိုရ၏။ ဘုရားသခင်ကိုပြစ်မှား
သောစကား အားဖြင့် နာမတော်ကိုငင် တဲတော်ကို ငင် ကောင်းကင်
၇ သားတို့ကိုငင်ပြစ်မှားခြင်းငှါနှုတ်ကိုဖွင့်ထား၏။ သန့်ရှင်းသူတို့ကို
စစ်တိုက် ၍ နိုင်ရသောအ ခွင့် ကိုရ၏။ အသီးအသီး ဘာသာစကားကို
ပြောသောလူအမျိုး အနွယ် ခပ်သိမ်းတို့ကို အုပ် စိုးရသောအ ခွင့် ကို
၈ လည်းရ၏။ ကွပ်မျက်သောသိုးသငယ် ၏အသက်စာစောင်၌ကမ္ဘာ

ဦးမှစ၍ စာရင်းမဝင်သောမြေကြီးသားအားလုံးတို့သည်သားရဲကို
၉ ကိုးကွယ်ကြ၏။နားရှိသောသူမည်သည်ကားကြားပါလေစေ။ သူတ
၁၀ ပါးကိုဖမ်းဆီးယူသွားသောသူသည်ကိုယ် တိုင် ဖမ်းဆီး ယူသွားခြင်း
ကိုခံလိမ့်မည်။ဓားဖြင့်သတ်တတ်သောသူသည်လည်းကိုယ် တိုင်ဓား
ဖြင့်သေရမည်။ဤအရာ၌သန့်ရှင်းသူတို့သည်ယုံကြည်ခြင်းအကြောင်း။
၁၁ ရုံကြည့်စရာအကြောင်းရှိ၏။ ။အချားသားရဲတကောင်သည်
သိုးသငယ်၏ချိုနှင့်တူသောချိုနှစ်ချောင်းရှိ၍ နဂါးကဲ့သို့စကား
၁၂ ပြောလျက်မြေကြီးထဲကထွက်သည်ကိုငါမြင်၏။ ထိုသားရဲသည်
သူ့အရင်ဖြစ်သောပဌမသားရဲ၏အာဏာစက်အားလုံးကိုသုံးစွဲ၏။
သေစေသောဒဏ်ချက်ပျောက်ခဲ့ပြီးသောပဌမသားရဲကိုမြေကြီးမှ
၁၃ စ၍မြေသားတို့သည်ကိုးကွယ်စေခြင်းငှါပြု၏။ ကြီးသောနိမိတ်လ
က္ခဏာတို့ကိုပြု၏။လူတို့မျက်မှောက်၌ကောင်းကင်ကမြေကြီးအပေါ်
၁၄ သို့မီးကိုဆင်းစေ၏။ ပဌမသားရဲရှေ့၌ပြုပိုင်သောနိမိတ်လက္ခဏာ
တို့အားဖြင့်မြေကြီးသားတို့ကိုလှည့်စား၏။ဓားချက်သောဒဏ်ချက်
ကိုခံ၍အသက်ရှင်သေးသောသားရဲ၏ရုပ်တုကိုလုပ်စေခြင်းငှါမြေ
၁၅ ကြီးသားတို့ကိုပညတ်ထား၏။ သားရဲ၏ရုပ်တုသည် စကားပြော
နိုင်အောင်ရင်မိမိကိုမကိုးကွယ်သောသူရှိသမျှတို့ကိုသတ်ခြင်းငှါပြု
၁၆ နိုင်အောင်ရင် ရုပ်တု၌အသက်ကိုသွင်းပေးရသောအခွင့်ကိုလည်း
ရ၏။ငွေရတတ်သောသူ။ဆင်းရဲသောသူ။ကျွန်ခံသောသူ။လွတ်သော
သူ။အကြီးအငယ်အားလုံးတို့သည်လက်ျာလက်၌ဖြစ်စေ။နဖူး၌ဖြစ်
၁၇ စေ။တံဆိပ်လက်မှတ်ကိုခံစေရအောင်ရင် ထိုတံဆိပ်လက်မှတ်တည်း
ဟူသောသားရဲ၏နာမဖြစ်စေ။ နာမ၏အရေအတွက်ဖြစ်စေ။ တခုခု
ကိုမခံသောသူတယောက်မျှမရောင်းမဝယ်နိုင်ရအောင်ရင်စီရင်၏။
၁၈ ဤအရာ၌ပညာရှိ၏။ညာဏ်ရှိသောသူသည်သားရဲ၏အရေအတွက်
ကိုရေတွက်ပါလေစေ။လူ၏အရေအတွက်ဖြစ်၏။၆၆၆လည်းဖြစ်၏။

❋❋

၁ ထိုနောက်မှာငါကြည့်၍သိုးသငယ်သည်ဇိအုန်တောင်ပေါ်မှာရပ်နေ
၏။ သူ၏နာမနှင့် ခမည်းတော်၏နာမကိုနဖူး၌အက္ခရာတင်သောသူ
၂ တသိန်းလေးသောင်းလေးထောင်လည်းသူနှင့်အတူရှိကြ၏။ သမုဒ္ဒ
ရာရေသံ။ကြီးသောမိုဃ်းကြိုးသံကဲ့သို့သောကောင်းကင်အသံကိုငါ
ကြားလေ၏။ထိုသို့ငါကြားသောအသံသည်စောင်းသမားများစောင်း

၃ တီးသောအသံကဲ့သို့ဖြစ်၏။ ပလ္လင်တော်ရှေ့၌၎င်သတ္တဝါလေးပါး
နှင့်အသက်ကြီး သူတို့ရှေ့၌ ၎င်သူတို့သည် အသစ်သောသီချင်းကိုဆို
ကြ၏။မြေကြီး မှရွေး သော သူတသိန်း လေးသောင်းလေးထောင်မှတ
၄ ပ ါးအဘယ်သူမျှသို သီချင်းကိုသင် ၍ မရ နိုင်ကြ။ ထိုသူတို့သည်က
ညာဖြစ်၍မိန်းမ အမှု နှင့် မညစ်ညူးသော သူဖြစ် ကြ၏။သိုးသငယ်
သွားလေရာရာနောက်တော် ၌ လိုက်သော သူဖြစ် ကြ၏။လူတို့အထဲက
ရွေး၍ဘုရားသခင် နှင့်သိုးသငယ်၏ အဦးသီးသောအသီးဖြ ်ကြ၏။
၅ အပြစ်နှင့်ကင်းလွတ်သည်ဖြစ်၍သူတို့နှုတ်၌မုသာစကားမရှိ။
၆ ။မြေကြီးပေါ်မှာနေသောသူတည်းဟူသောအသီးအသီးဘာ
သာစကားကိုပြောသောလူအမျိုးအနွယ်ခပ်သိမ်းတို့အားထာဝရဧဝံ
၇ ဂေလိတရားကိုဟောရသောကောင်းကင်တမန်တပါးက ဘုရားသခင်
ကို ကြောက်ရွံ့ ၍ ချီးမွမ်း ကြလော့။ တရား စီရင် တော်မူ သောအချိန်
ရောက်လာပြီး။ ကောင်းကင်။ မြေကြီး။ သမုဒ္ဒရာ နှင့်စမ်းရေတွင်းတို့ကို
ဖန်ဆင်း တော်မူသော သူ ကိုကိုး ကွယ် ကြလော့ဟု ကြီး သော အသံ
နှင့်ပြောဆို၍ကောင်းကင်ပြင်ဝယ်ပျံလျက်ရှိသည်ကိုငါမြင်လေ၏။
၈ ကောင်း ကင်တမန် တပါး ကဗာဗုလုန် မြို့ကြီး ပြိုလဲပြီး။ မိမိမတရား
သောမေ့ရန်၏အဆိတ်အတောက်စပျစ်ရည် ကိုလူမျိုးအပေါင်းတို့အား
၉ တိုက်လေပြီးသောဗာဗုလုန်မြို့ကြီးပြိုလဲပြီးဟုလိုက်၍ဆိုလေ၏။ ထိုမှ
တပါး။ တတိယကောင်းကင်တမန်ကအကြင်သူသည်သားရဲနှင့်သူ့ရုပ်
တုကိုကိုးကွယ်၍သူ့တံဆိပ်လက်မှတ်ကိုနဖူး၌ခံသည်ဖြစ်စေ။လက်၌ခံ
၁၀ သည်ဖြစ်စေ။ ထိုသူသည်ဘုရားသခင်၏ဒေါသဖလား၌လောင်းသော
အမျက်တော်စပျစ်ရည် စစ် ကို သောက် ရလိမ့်မည်။ သန့်ရှင်း သော
ကောင်းကင် တမန်တို့ရှေ့။ သိုးသငယ်ရှေ့တွင်ကန့်နှင့်ရော သောမီးထဲ
မှာပြင်းစွာညှဉ်းဆဲခြင်း ကိုခံရလိမ့်မည်။ ထိုညှဉ်း ဆဲခြင်း၏မီးခိုး
သည်ကာလအဆက်ဆက် တက်လျက်ရှိ၏။ သားရဲ နှင့် သူ့ရုပ်တုကိုကိုး
ကွယ် ၍ သူ့နာမတံဆိပ် လက်မှတ် ကို ခံသော သူတို့သည် နေ့ညဉ့်မ
၁၂ ပြတ်သက်သာမရကြဟုလိုက် ၍ ကြီးသော သသံ နှင့်ဆိုလေ၏။ ဘု
ရားသခင်၏ပညတ်တို့ကိုင်ယေရှု၏ ယုံကြည်ခြင်းကို၎င်စောင့်ရှောက်
သောသန့်ရှင်းသူတို့သည်ဤအရာ၌သည်းခံစရာအကြောင်းရှိ၏။
၁၃ တဖန်တုံ။ကောင်းကင်အသံကား။သခင်ဘုရား၌သေလွန်သောသူတို့
သည်ယခုမှစ ၍ မင်္ဂလာရှိကြ၏ဟုရေးထား တော့ဟုဆို သည် ကိုငါ

ကြွားလေ၏။ ဗိညည် တော်ကလည်း ထိုသို့မှန်ပေ၏။ သူတို့သည်ပင်
ပန်းခြင်းညီမ်း မည်အကြောင်း တည်း။ သူတို့၏အကျင့်အမှုတို့သည်
၁၄ သူတို့နှင့်အတူလိုက်ကြ၏ဟုမိန့်တော်မူ၏။ ။တဖန်ငါ
ကြည့်လျှင်ဖြူသောမြင်းတိမ်ရှိ၏။လူသားတော်နှင့်တူသောသူသည်
ခေါင်းပေါ်မှာရွှေသရဖူကိုဆောင်း လျက်ထက် သောတံစည် ကိုကိုင်
၁၅ လျက်မြင်းတိမ်ပေါ်မှာထိုင်လေ၏။ ကောင်းကင်တမန် တပါးသည်
ဗိတ်မှာန်တော်ထဲကထွက် ၍ကိုယ်တော်၏တံစည်ကိုလွှတ် ၍ စပါးကို
ရိတ်ပါတော့။ရိတ်ရသောအချိန်ရောက်ပါပြီ။ မြေကြီး ၌ရိတ်စရာစ
၁၆ ပါးမှည့်ပြီးဟု မြင်းတိမ်ပေါ်မှာထိုင်သောသူကိုကြီးသောအသံနှင့်
ဟစ်လေ၏။မြင်းတိမ်ပေါ်မှာထိုင် သောသူသည် မိမိတံစည် ကိုမြေ
၁၇ ကြီး၌သွင်း၍မြေကြီးစပါးကိုရိတ်၏။ ကောင်းကင်တမန်တပါးသည်
ကောင်းကင်ဘုံ၌ရှိသောဗိတ်မှာန်တော်ထဲကထွက်၍သူ၌လည်းထက်
၁၈ သောတံစည် ပါ၏။ မီးကို အစိုး ရသောကောင်း ကင် တမန် တပါး
သည်ယဇ်ပလ္လင်ထဲကထွက် ၍ ထက်သောတံစည်ပါသောသူကို ကြီး
စွာသောကျွေး ကျော်ခြင်း နှင့် ခေါ်လျှင် သင်၏ထက် သောတံစည် ကို
လွှတ်၍မြေကြီးစပျစ်သီးပြွတ်တို့ကိုရိက်တော့။အသီးမှည့်ပြီးဟုဆိုလေ
၁၉ ၏။ ကောင်းကင်တမန်သည်လည်း မိမိတံစည်ကိုမြေကြီး၌သွင်း၍
မြေကြီး၏စပျစ်သီးကိုရိက် ပြီးမှဘုရားသခင် ၏အမျက်တော်တည်း
၂၀ ဟူသောနယ်ရာတန်ဆာ ကြီးထဲ၌ ချလေ၏။ မြို့ပြင်၌နယ်ရာတန်ဆာ
ကိုဖိနင်း၍တဆယ်ချောက်ယူဇနာခရီးတလျှောက်လုံး အသွေးသည်
မြင်းဇက်ကြိုးကိုမှီအောင်နယ်ရာတန်ဆာထဲကထွက်လေ၏။

❋❋

၁ တဖန်တုံ၊ဘုရားသခင် အမျက်တော်ကို ပြီးစီးသောနောက် ဆိုးသော
ဘေးခုနှစ်ပါးရှိသောကောင်းကင်တမန်ခုနှစ်ပါးတည်းဟူသောကော
၂ င်းကင်၌အံ့ဖွယ်သောနိမိတ် ကြီးအချားတပါးကိုငါမြင် ရ၏။ မီးနှင့်
ရောသောဖန်ရေကန်ကဲ့သို့သောအရာကိုလည်း မြင်ရ၏။သားရဲ နှင့်
၎င်သူရုပ်တု နှင့်၎င်သူနာမအရေအတွက်နှင့် ၎င် လွှတ် ၍ အောင်မြင်
သောသူတို့သည် ဘုရားသခင် ၏စောင်း တော်တို့ကို ကိုင်လျက် ဖန်
၃ ရေကန် ပေါ်မှာရပ်နေကြသည်ကိုမြင်ရ၏။ ထိုသူတို့သည်ဘုရားသ
ခင်၏ကျွန်မောရှေ၏သီချင်း နှင့် သိုးသငယ်၏သီချင်းကိုသီ ၍ အနန္တ
တန်ခိုး နှင့်ပြည့်စုံတော် မူသောထာ ဝရအရှင် ဘုရား သခင်။ ကိုယ်

၉ ဖြစ်သဖြင့်ပင်လယ်သုံး ရုတစုအသွေးဖြစ်၏။ အသက်ရှင်သောပင်
လယ်သတ္တဝါသုံး ရုတစုလည်း သေ၏။သင်္ဘောသုံး ရုတစုလည်း ပျက်
၁၀ ၏။ တတိယကောင်းကင် တမန် သည့် တံပိုး မှုတ်သောအခါမီး ခွက်
ကဲ့သို့ထွန်း တောက် သောကြယ်ကြီး သည်ကောင်းကင်ကကျ၍မြစ်
၁၁ သုံးရုတစုနှိုင်စမ်းရေတွင်းနှိုင်ရောက်၏။ ထိုကြယ်သည်ဘင်းခါး
ရွက် ဟူသောအမည် ရှိ၏။ ရေသုံးရုတစုဘင်း ခါး ရွက်ဖြစ်၍ရေခါး
၁၂ သောကြောင့်လူအများ တို့သည် သေကြ၏။ စတုတ္ထကောင်းကင်တ
မန်သည်တံပိုးမှုတ်သောအခါနေသုံးရုတစု။လသုံးရုတစု။ကြယ်သုံးရု
တစုကြတ် ၍ သုံး ရုတစုမိုက်လေ၏။ နေ့သုံးရုတစု။ညည့်သုံးရုတစုအ
၁၃ လင်းမရှိ။ ထိုအခါငါကြည့်၍ လင်းယုန်ငှက်တကောင်ကလည်းကြွင်း
သေး သောကောင်း ကင်တမန် သုံး ပါးမှုတ် လုလတံ့ သောတံပိုး သံ
ကြောင့် မြေသားတို့ သည် အမင်္ဂလာ။အမင်္ဂလာ။ အမင်္ဂလာ ရှိကြ၏ဟု
ကောင်းကင်အလယ်၌ပျံ၍ကြီးသောအသံနှင့်ဆိုသည်ကိုငါကြား၏။
၁ ။ပဉ္စမကောင်းကင်တမန်သည်တံပိုးမှုတ်သောအခါကြယ်တ
လုံးသည် ကောင်းကင်ကမြေကြီးအပေါ်သို့ကျရောက်သည်ကိုငါမြင်
၂ ၏။သူ၌အနက်ဆုံးတွင်း၏သော့ကိုအပ်ပေးသည်ဖြစ်၍ သူသည်အ
နက်ဆုံးတွင်းကိုဖွင့်လျှင်ကြီးစွာသောမီးဖို၏ အခိုးကဲ့သို့သောအခိုး
သည်တွင်းထဲကတက် လေ၏။ ထိုတွင်း၏မီးခိုး ကြောင့်နေနှင့်အာကာ
၃ သကောင်းကင်သည် မှောင်မိုက်လေ၏။ ကျိုင်းကောင်တို့သည်မီးခိုး
ထဲကမြေကြီးပေါ်သို့ထွက်၍မြေကင်း မြီးကောက်တန်ခိုးကဲ့သို့သော
၄ တန်ခိုးကိုရကြ၏။ မြေ၏မျက် ပင်မှစ၍စိမ်းသောအရာများ။သစ်
ပင်များအားလုံးတို့ကိုထား၍နဖူး၌ဘုရားသခင်၏တံဆိပ်မခတ်သော
လူတို့ကိုသာညှဉ်းဆဲမည်အကြောင်း။သူတို့အားပညတ်ထား၏။
၅ တံဆိပ်မခတ် သောသူတို့ ကို ကားသတ်သောအ ခွင့်မရှိ။ ငါး လပတ်
လုံးပြင်း စွာသောဝေဒနာဖြစ် စေသောအ ခွင့် ရှိ၏။ထိုကျိုင်း ကောင်
ဖြစ်စေသောဝေဒနာသည်ကားကင်းမြီးကောက်သည်လူကိုထိုးသော
၆ ဝေဒနာကဲ့သို့ဖြစ်သတည်း။ ။ထိုနေ့ရက်ကာလ၌လူတို့
သည်သေခြင်းကိုရှာကြလိမ့်မည်။ရှာသော်လည်းမတွေ့ရ။အလွန်သေ
၇ ချင်သော်လည်း သေမင်း သည် သူတို့ဆီကပြေး သွားလိမ့်မည်။ ထို
ကျိုင်း ကောင် တို့၏အဆင်းသဏ္ဍာန် သည် ကားစစ်တိုက်ခြင်းငှါပြင်
ဆင်သောမြင်း၏အဆင်းသဏ္ဍာန် နှင့် တူ၏။ခေါင်းပေါ်မှာရွှေသရဖူ

၈ ကိုဆောင်းဟန်ရှိ၏။မျက်နှာသည်လူမျက်နှာလိုဖြစ်၏။ ဆံပင်သည်
၉ မိန်းမဆံပင်လိုဖြစ်၏။သွားသည်လည်းချင်သေ့သွားလိုဖြစ်၏။ ရင်ဖုံ့
သည်သံရင်ဖုံ့လိုဖြစ်၏။အတောင်ခတ်သောအသံသည်စစ်တိုက်၍
၁၀ ပြေးလာသောမြင်းရထားအများ၏အသံလိုဖြစ်၏။ အမြီးသည်ကင်း
မြီးကောက်နှင့်တူ၏။ အမြီး၌လည်းဆူးရှိ၏။ လူတို့ကိုငါးလပတ်လုံး
၁၁ ညှဉ်းဆဲသောအခွင့်တန်ခိုးရှိကြ၏။ သူတို့၌ရှင်ဘုရင်မူကားဟေဗြဲ
ဘာသာအားဖြင့်အဗဒ္ဒုန်ဟူ၍ ဂရိဟေလသဘာသာအားဖြင့်အပေါ
၁၂ လုန်ဟူ၍ဝင်ခေါ်ဝေါ်သောအနက်ဆုံးတွင်းတမန် ဖြစ်၏။ အမင်္ဂလာ
တပါးလွန်ပြီး။ထိုနောက်မှာအမင်္ဂလာနှစ်ပါးလာလေဦးမည်။

**

၁၃ ဆဋ္ဌမကောင်းကင်တမန်သည်တံပိုးမှုတ်သောအခါဘုရားသခင်ရှေ့
တော်၌ရှိသောရွှေယဇ်ပလ္လင်၏ချိုလေးချောင်းထဲကထွက်သောအ
၁၄ သံကား။ ဥဖရတ်မြစ်ကြီးနားမှာချည်နှောင်လျက်ရှိသောကောင်း
ကင်တမန်လေးပါးကိုလွှတ်စေဟုတံပိုးရှိသောဆဋ္ဌမကောင်းကင်တ
၁၅ မန်အားဆိုသည်ကိုငါကြား၏။ ထိုအခါလူသုံးစုတစုကိုအသေသတ်
ခြင်းငှါတနာရီ။ တရက်။ တလ။ တနှစ်ဖို့ပြင်ဆင်သောကောင်းကင်တ
၁၆ မန်လေးပါးတို့သည်လွှတ်ကြ၏။ မြင်းသူရဲအရေအတွက်ကားနှစ်
၁၇ သင်္ချေဖြစ်၏။ထိုအရေအတွက်ကိုငါကြားရ၏။ ။ထိုအတူ
ဗျာဒိတ်ရူပါရုံ၌ထင်ရှားသောမြင်းတို့ကိုဝင်မီးနှင့်ဝါကိန္နရကျောက်နှင့်
ကန့်နှင့်ပြီးသောရင်ဖုံ့ရှိသောမြင်းသူရဲတို့ကိုဝင်ငါမြင်ရ၏။ မြင်းတို့
၁၈ ၏ခေါင်းသည်ချင်္သေ့ခေါင်းလိုဖြစ်၏။ သူတို့ခံတွင်းထဲကလည်းကန့်။
မီးလျှံ။မီးခိုးထွက်ကြ၏။ သူတို့ခံတွင်းထဲကထွက်သောကန့်။မီးလျှံ။မီး
ခိုးတည်းဟူသောဘေးသုံးပါးအားဖြင့်လူသုံးစုတစုအသေခံကြ၏။
၁၉ အဘယ်ကြောင့်နည်းဟူမူကား။သူတို့တန်ခိုးသည်ခံတွင်း၌ဝင်အမြီး
၌ဝင်တည်ရှိ၏။အမြီးသည်ခေါင်းနှင့်ပြည့်စုံ၍မြွေနှင့်တူ၏။အမြီးအား
၂၀ ဖြင့်ညှဉ်းဆဲတတ်ကြ၏။ ထိုဘေးဒဏ်အားဖြင့်မသေဘဲကြွင်းသော
လူတို့သည်နတ်တို့ကိုဝင်မမြင်နိုင်။မကြားနိုင်။မသွားလာနိုင်သော်ရွှေ
ရုပ်တု။ ငွေရုပ်တု။ကြေးနီရုပ်တု။ကျောက်ရုပ်တု။သစ်သားရုပ်တုတို့
ကိုဝင်မကိုးကွယ်ဘဲနေမည်အကြောင်း။ ကိုယ်လက်နှင့်လုပ်သောအ
၂၁ ရာများကိုနောင်တမရကြ။ ကိုယ်ကျင့်သောအကျင့်တည်းဟူသော
လူအသက်ကိုသတ်ခြင်း။သူတပါးကိုပြုစားခြင်း။မတရားသော်မေရန်

နှိမ့်ခြင်းသုဉ္စွာကိုခိုးခြင်းအမှုများကိုလည်းနောင်တမရကြ။
၁ ။ခွန်အားကြီးသောကောင်းကင်တမန်တပါးသည် မိုဃ်းတိမ်ကို
ဝတ်လျက်ကောင်းကင်ကဆင်းသက်သည်ကိုငါမြင်၏။သူ့ခေါင်းပေါ်
မှာသက်တံ့ရှိ၏။သူ့မျက်နှာသည်နေကဲ့သို့ဖြစ်၏။ သူ့ခြေသည်လည်း
၂ မီးခဲတိုင်ကဲ့သို့ဖြစ်၏။ ဖွင့်ထားသောစာစောင်ငယ်ကိုကိုင်လျက်ရှိ
၏။လကျာခြေသည် ပင်လယ်ပေါ်မှာ၊ ဝဲခြေသည် မြေကြီးပေါ်
၃ မှာနင်းခင်း၍ ချင်္သေ့ဟောက်သကဲ့သို့ကြီးသောအသံနှင့်ကြွေးကြော်
လေ၏။ကြွေးကြော်ပြီးမှမိုဃ်းကြိုးသံခုနစ်ချက်မြည်လေ၏။မိုဃ်းကြိုး
သံ ခုနစ်ချက်မြည်ပြီးမှ ငါသည် ရေးမှတ်မည် အားထုတ် လေသော်
၄ ကောင်းကင်မှထွက်သောအသံကား။ မိုဃ်းကြိုးသံ ခုနစ်ချက် မြည်
သောအရာကိုတံဆိပ်ခတ်တော့။မရေးမှတ်နှင့်ဟုဆိုသည်ကိုငါကြား
၅ ၏။ ထိုအခါငါမြင် ၍ မြေပြင် လယ်ပေါ် မှာရပ်နေသောကောင်းကင်
၆။၇ တမန်သည်လကျာလက်ကိုကောင်းကင်သို့ချီပြီးလျှင် ဘုရားသခင်
ကျွန်တော်မျိုးပရောဖက်တို့အားဝမ်းမြောက် စရာသိတင်း ကိုဗျာဒိတ်
ထားတော်မူသည်နှင့်စပ်ဆိုင်သောဘုရားသခင်၏နက်နဲသောအရာ
သည်ကာလမနှေး။သတ္တမကောင်းကင်တမန်တံပိုးမှုတ်ခြင်းအသံမြည်
သောနေ့ရက်ကာလ၌ပြည့်စုံခြင်းသို့ရောက်မည်ဟုကောင်းကင်။မြေ
ကြီး။ သမုဒ္ဒရာကိုဥင်အရပ်ရပ် နှိ၌ရှိသမျှတို့ကိုဖန်ဆင်း၍ကမ္ဘာ
အဆက်ဆက်အသက်ရှင်တော်မူသောသူကိုတိုင်တည်၍ကျိန်ဆိုခြင်း
၈ ကိုပြုလေ၏။ ။ငါကြားသောကောင်းကင်အသံသည်တဖန်ငါ
အားပြောသည်ကား။မြေပြင်လယ်ပေါ်မှာရပ်နေသောကောင်းကင်တ
မန်၏လက်၌ ဖွင့်ထားလျက်ရှိသောစာစောင်ငယ် ကို သွား၍ယူတော့
၉ ဟုဆိုလျှင် ငါသည်ကောင်းကင်တမန်ဆီသို့သွား၍စာစောင်ငယ်ကို
ပေးပါဟုတောင်း၏။ သူကလည်းယူ ၍ စားတော့။ဝမ်း ကိုခါးစေလိမ့်
၁၀ မည်။သို့သော်လည်းပစပ်၌ပျားရည်ကဲ့သို့ချိုလိမ့်မည်ဟုဆိုလျှင်စာ
စောင်ကိုကောင်းကင်တမန်၏လက်မှငါယူ၍စား၏။ ပစပ်၌ပျားရည်
၁၁ ကဲ့သို့ချို၏။စားပြီးမှဝမ်းခါး၏။ ကောင်းကင်တမန်ကလည်းသင်သည်
အသီးအသီးဘာသာစကားကိုပြောသောလူအမျိုးမျိုးတို့ ၌ ဥင်ရှင်ဘု
ရင်တို့၌ဥင်တဖန်ပရောဖက်ပြု၍ဟောပြောရမည်ဟုဆိုလေ၏။

❋❋

၁ ဥင်နည်း။လှံတံ နှင့် တူသောကျူပင်တလုံးကို ငါအားပေး၍ ငါကိုဆို

သည်ကား။ထတော့။ဘုရားသခင်၏ဗိတ်မှာန်တော်နှင့်ယဇ်ပလ္လင်ကို
တိုင်းတော့။ဗိတ်မှာန်တော်၌ကိုးကွယ်သောသူတို့ကိုလည်းရေတွက်
၂ တော့။ ဗိတ်မှာန်၏တန်တိုင်းကိုမတိုင်းနှင့်။ပယ်ထားတော့။တပါးအ
မျိုးသားတို့၌အပ်ပေးပြီး။ သူတို့သည်သန့်ရှင်းသောမြို့တော်ကိုလ
၃ လေးဆယ်နှစ်လပတ်လုံးနင်းကြလိမ့်မည်။ ငါသက်သေခံနှစ်ပါးကိုငါ
အခွင့်ပေးမည်။ သူတို့သည်လျှော်တေအဝတ်ကိုဝတ်လျက် အရက်တ
၄ ထောင်နှစ်ရာခြောက်ဆယ်ပတ်လုံးပရောဖက်ပြုကြလိမ့်မည်။ ထိုသူ
တို့သည်ကားမြေကြီးအရှင်ရှေ့တော်၌ရိုက်ထားသောသံလွင်ပင်နှစ်
၅ ပင်။မီးခွက်နှစ်လုံးဖြစ်သတည်း။ မည်သောသူသည်ထိုသူတို့ကိုညှဉ်း
ဆဲခြင်းငှါအလိုရှိလျှင် သူတို့ခံတွင်းထဲကမီးထွက်၍ရန်သူတို့ကိုမျို
တတ်၏။မည်သောသူသည်ထိုသူတို့ကိုညှဉ်းဆဲခြင်းငှါအလိုရှိလျှင်
၆ ထိုသို့အသေသတ်ခြင်းကိုခံရမည်။ ထိုသူတို့သည်ပရောဖက်ပြု
သောနေ့ရက်ကာလ၌မိုဃ်းမရွာရအောင်မိုဃ်းကောင်းကင်ကိုပိတ်
ခြင်းငှါရင်မြစ်ရေ။တွင်းရေကိုအသွေးဖြစ်စေခြင်းငှါရင် မိမိအလိုရှိ
သမျှသောအခါ၌ဘေးအမျိုးမျိုးဖြင့်မြေကြီးကိုဒါဏ်ခတ်စေခြင်းငှါ
၇ ရင်အခွင့်ရကြ၏။ ။သူတို့သည်သက်သေခံပြီးသောအခါအ
နက်ဆုံးတွင်းထဲကတက်သောသားရဲသည် သူတို့နှင့်စစ်တိုက်၍
၈ အောင်လိမ့်မည်။အသက်ကိုသတ်ပြီးမှ သူတို့သခင်သည်လက်ဝါး
ကပ်တိုင်မှာအသေခံတော်မူသောအရပ်တည်းဟူသောသောဒုံဟူ၍
ရင်အဲဂုတ္တုပြည်ဟူ၍ရင်အတွင်းအနက်အားဖြင့်ခေါ်ဝေါ်သောမြို့ကြီးလမ်း
၉ ၌အလောင်းကောင်တို့သည်နေရစ်လိမ့်မည်။ အသီးအသီးဘာသာစ
ကားကိုပြောသောလူအမျိုးအနွယ်တို့သည်သုံးရက်ခွဲပတ်လုံးအ
လောင်းကောင်တို့ကိုမြင်ရ၍ သင်းဂြိုဟ်ခြင်းကိုမြစ်တားကြလိမ့်
၁၀ မည်။ မြေကြီးပေါ်မှာနေသောသူတို့သည်ထိုအလောင်းကောင်တို့
ကိုမြင်သောအခါဝမ်းမြောက်၍ ပျော်မွေ့ခြင်းကိုပြုကြလိမ့်မည်။ တ
ယောက်ကိုတယောက်လက်ဆောင်ပေးလိုက်ကြလိမ့်မည်။ အဘယ်
ကြောင့်နည်းဟူမူကား။ အထက်ကထိုပရောဖက်နှစ်ပါးတို့သည်
မြေကြီးပေါ်မှာနေသောသူတို့ကိုပြင်းစွာနှောင့်ရှက်ညှဉ်းဆဲကြ
၁၁ သည်ပဒုငါအားဆိုလေ၏။ ထိုနောက်သုံးရက်ခွဲလွန်ပြီးလျှင်ဘုရား
သခင်အထံတော်ကအသက်ဝိညာဉ်သည်သူတို့၌ဝင်သဖြင့်သူတို့
သည်မတ်တတ်ထ၍မြင်သောသူအားလုံးတို့သည်အလွန်ကြောက်ရွံ့

၁၂ ခြင်းသို့ရောက်ကြ၏။ ကောင်းကင်ကထွက်သောအသံကြီးကား။ဤ
အရပ်သို့တက်ကြဟုမိမိတို့အားဆိုသည်ကိုသူတို့သည်ကြားလျှင်
၁၃ မိုဃ်းတိမ်ဖြင့်ကောင်းကင်သို့တက်၍ရန်သူတို့သည်မြင်ကြ၏။ ထို
အချိန်နာရီ၌ကြီးစွာသောမြေလှုပ်ခြင်းဖြစ်၍မြို့ကိုးဆယ်ပုတပုံပြို
လေ၏။ထိုမြေလှုပ်ခြင်း၌လူခုနစ်ထောင်သေကြ၏။ကြွင်းသောသူတို့
သည်ကြောက်၍ကောင်းကင်ဘုံရှင်ဘုရားသခင်ကိုချီးမွမ်းကြ၏။
၁၄ ဒုတိယအမင်္ဂလာလွန်ပြီ။တတိယအမင်္ဂလာမြန်မြန်လာလိမ့်မည်။
၁၅ ။သတ္တမကောင်းကင်တမန်သည်တံပိုးမှုတ်သောအခါ
ကောင်းကင်ဘုံ၌ကြီးသောအသံတို့ကား။ ဤလောကနိုင်ငံတို့သည်ငါ
တို့သခင်၏နိုင်ငံဖြစ်ပါပြီ။ သူ၏ခရစ်တော်၏နိုင်ငံဖြစ်ပါပြီ။ သူ
၁၆ သည်လည်းကမ္ဘာအဆက်ဆက်စိုးစံတော်မူမည်ဟုဆိုကြ၏။ ဘုရား
သခင်ရှေ့တော်၌မိမိတို့ပလ္လင်ပေါ်မှာထိုင်သောအသက်ကြီးသူနှစ်
၁၇ ဆယ်လေးပါးတို့သည်ပျပ်ဝပ်၍ဘုရားသခင်ကိုကိုးကွယ်လျက် အ
ခွင့်တန်ခိုးနှင့်ပြည့်စုံ၍ပစ္စုပ္ပာန်။ အတိတ်။အနာဂတ်ကာလအစဉ်ရှိ
တော်မူသောထာဝရအရှင်ဘုရားသခင်။ ကိုယ်တော်၏မဟာတန်ခိုး
တော်ကိုယူဆောင်၍စိုးစံတော်မူသောကျေးဇူးတော်ကိုအကျွန်ုပ်တို့
၁၈ သည်ချီးမွမ်းပါ၏။ လူအမျိုးတို့သည်အမျက်ထွက်ကြသည်ဖြစ်၍အ
မျက်တော်သည်လည်းရောက်ပါပြီ။သေလွန်သောသူတို့ကိုတရားစီ
ရင်ဆုံးဖြတ်တော်မူ၍ ကိုယ်တော်၏ကျွန်ရင်းတည်းဟူသောပရော
ဖက်တို့အားငှင်သန့်ရှင်းသူတို့အားငှင်နာမတော်ကိုကြောက်ရွံ့ရိုသေ
သောသူအကြီးအငယ်တို့အားငှင်ဆုကျေးဇူးကိုသနားတော်မူ၍မြေ
ကြီးကိုဖျက်ဆီးသောသူတို့ကိုဖျက်ဆီးတော်မူသောအချိန်ရောက်ပါ
ပြီးဟုဆိုကြ၏။



၁၉ ငှင်နည်း။ ကောင်းကင်ဘုံ၌ဘုရားသခင်၏ဗိတ်မှာန်တော်ဖွင့်ထား
၍ဗိတ်မှာန်တော်ထဲမှာပဋိညာဉ်တော်သစ်တာထင်ရှားလေ၏။လျှပ်
စစ်ပြက်ခြင်း။အသံမြည်ခြင်း။မိုဃ်းချုန်းခြင်း။မြေလှုပ်ခြင်း။အလုံး
၁ ကြီးသောမိုဃ်းသီးကျခြင်းဖြစ်ကြ၏။ ကောင်းကင်၌ကြီးသော
နိမိတ်လက္ခဏာဟူမူကား။ မိန်းမတဦးသည်နေကိုဝတ်လျက်လကိုခြေ
ဖြင့်နင်းလျက်ခေါင်းပေါ်မှာကြယ်ဆယ်နှစ်လုံးဖြင့်ပြီးသောသရဖူကို
၂ ဆောင်းလျက်ပေါ်လာ၏။ ထိုမိန်းမသည်ကိုယ်ဝန်ဆောင်၍ဖွားချင်

၃ သောဝေဒနာပြင်းသည်နှင့်အော်ဟစ်လေ၏။ ကောင်းကင်၌အချား
သောနိမိတ်လက္ခဏာပေါ်လာသည်ကား။ နီသောအဆင်းရှိသောနဂါး
ကြီးသည်ခေါင်းခုနှစ်လုံး။ ချိုဆယ်ချောင်းနှင့်တကွခေါင်းပေါ်မှာသ
၄ ရဖူခုနှစ်ဆူကိုဆောင်းလျက်ရှိ၏။ သူ့အမြီးသည်ကောင်းကင်ကြယ်
သုံးစုတစုကိုဆွဲငင်၍မြေကြီးသို့ချလိုက်လေ၏။ သားဖွားလုသောမိန်မ
သည်ဖွားသောအခါသားကိုစားမည်အကြံနှင့်နဂါးသည်မိန်မရှေ့၌
၅ ရပ်နေ၏။ သူသည်လည်းလူမျိုးတကာတို့ကိုသံလှံတံနှင့်အုပ်စိုးလ
တံ့သောသားယောကျ်ားကိုဖွားမြင်၏။ ထိုသားကိုဘုရားသခင်ဆီ
၆ သို့၎င်ပလ္လင်တော်ဆီသို့၎င်ချီယူတော်မူ၏။ မိန်မသည်အရက်တ
ထောင်နှစ်ရာခြောက်ဆယ်ပတ်လုံးတော၌ကျွေးမွေးခြင်းကိုခံရ
အောင်ဘုရားသခင်ပြင်ဆင်တော်မူသောအရပ်ဆီသို့ပြေးလေ၏။
၇ ထိုအခါကောင်းကင်၌စစ်ဖြစ်၏။ မိက္ခေလမှစ၍မိမိကောင်းကင်တ
မန်တို့သည်နဂါးနှင့်စစ်တိုက်၏။ နဂါးမှစ၍မိမိတမန်တို့သည်စစ်
၈။၉ တိုက်၍ မနိုင်သည်နှင့်ကောင်းကင်၌သူတို့နေစရာမရှိ။ ထိုအခါ၌
လောကတနိုင်ငံလုံးကိုလှည့်စား၍မာရ်နတ်စာတန်အမည်ရှိသော
ရှေးမြွေဟောင်းတည်းဟူသောနဂါးကြီးကို၎င်သူနှင့်အတူသူ၏
၁၀ တမန်တို့ကို၎င်မြေကြီးသို့ချလိုက်ကြ၏။ ကောင်းကင်ဘုံ၌ကြီး
သောအသံကား။ ယခုမှာကယ်တင်ခြင်းဖြစ်၏။ တန်ခိုးတော်လည်း
ဖြစ်၏။ ငါတို့ဘုရားသခင်၏နိုင်ငံတော်နှင့်သူ၏ခရစ်တော်၏အာ
ဏာတော်စက်လည်းဖြစ်၏။ အဘယ်ကြောင့်နည်းဟူမူကား။ ငါတို့ညီ
အစ်ကိုများကိုငါတို့ဘုရားသခင်ရှေ့တော်၌နေ့ညဉ့်မပြတ်အပြစ်
၁၁ တင်သောရန်သူကိုအောက်သို့ချလိုက်လေပြီ။ သူတို့သည်သိုးသ
ငယ်၏အသွေးအားဖြင့်၎င်မိမိတို့သက်သေခံချက်နှုတ်ကပတ်တရား
အားဖြင့်၎င်အောင်မြင်၍အသေခံသည်တိုင်အောင်ကိုယ်အသက်ကို
၁၂ ကိုယ်မနှစ်မြောကြ။ ထိုကြောင့်ကောင်းကင်နှင့်ကောင်းကင်သားတို့
ရွှင်လန်းကြလော့။ မြေကြီးပင်လယ်သည်အမင်္ဂလာရှိ၏။ အဘယ်ကြောင့်
နည်းဟူမူကား။ မာရ်နတ်သည်မိမိကာလခဏသာရှိသည်ကိုသိ၍
ပြင်းစွာသောဒေါသအမျက်နှင့်တကွသင်တို့ဆီသို့ဆင်းလေပြီဟုဆို
၁၃ ကြသည်ကိုငါကြား၏။ ။နဂါးသည်မြေကြီးသို့ကိုယ်ချ
သည်ကိုကိုယ်သိမြင်လေသော်သားယောကျ်ားကိုဖွားမြင်သော
၁၄ မိန်မကိုညှဉ်းဆဲ၏။ မိန်မသည်မြွေနှင့်လွတ်၍တကာလ။ နှစ်ကာလ။ ကာ

လတဝက် ပတ်လုံးကျွေး မွေး ခြင်း ကိုခံရာအရပ်တည်း ဟူသောတော
အရပ်ဆီသို့ပျံရအောင်လင်းယုန် ကြီး၏အတောင်နှစ်ဖက်ကိုသူအား
၁၅ ပေးလေ၏။ ထိုအခါမိမ္ဘကိုရေအဟုန်ဖြင့်မျောသွားစေခြင်းငှါနဂါး
သည်မိမိခံတွင်း ထဲကမြစ် စီးသကဲ့သို့ရေကိုမိမ္ဘနောက် ၌ ထုတ် ပြစ်
၁၆ လေ၏။ မြေကြီးသည် မိမ္ဘကိုမစ၍မိမိခံတွင်းကိုဖွင့်သဖြင့်နဂါး၏
၁၇ ခံတွင်းထဲကထုတ်ပြစ်သောမြစ်ရေကိုမျိုလေ၏။ နဂါးသည်မိမ္ဘကို
အငြိုးထား၏။ ဘုရားသခင်၏ ပညတ်တော်တို့ကိုကျင့်၍ ယေရှု၏
သက်သေခံတော်မူချက် ကို စွဲလမ်းသောသူတည်း ဟူသော ထိုမိမ္ဘ ၌
ကြွင်းသောအမျိုးအနွယ်နှင့်စစ်တိုက်ခြင်းငှါသွား၏။

❋❋

၁ ပင်လယ်နားသဲပေါ်မှာငါရပ်နေသည်ဖြစ်၍ သားရဲတကောင်သည်
ခေါင်းခုနှစ်လုံးချိုဆယ်ချောင်း နှင့်တကွချိုပေါ်မှာသရဖူဆယ်ဆူကို
ဆောင်း လျက် ခေါင်း ပေါ်မှာလည်း ဘုရားသခင်အသရေကိုရှုတ်ချ
၂ သောနာမရှိလျက်ပင်လယ်ထဲကတက်သည်ကိုငါမြင်လေ၏။ ထိုသို့
ငါမြင်သောသား ရဲသည်ကျား သစ် နှင့် တူ၏။ သူ့ခြေသည်ဝံခြေလို
ဖြစ်၏။သူ့နှုတ်သည်လည်းချင်သေ့နှုတ်လိုဖြစ်၏။နဂါးသည်မိမိတန်
ခိုးကိုငင်မိမိပလ္လင်ကိုငင်ကြီး စွာသောအာဏာစက်ကို ငင်သားရဲ၌
၃ အပ်ပေး၏။ သားရဲ၏ခေါင်းတဦး သည်သေအောင်ကွပ်မျက်ပြီးသ
ကဲ့သို့ဖြစ်၍သေစေသောဒါဏ်ချက်သည်ပျောက်လျက်ရှိ၏။မြေကြီး
၄ သားအားလုံးတို့သည်သား ရဲနောက် ၌ လိုက် ၍ အံ့ဩြာကြ၏။ ထို
သားရဲ၌အာဏာစက်ကိုအပ်ပေးသောနဂါးကိုကိုးကွယ်ကြ၏။သား
ရဲကို လည်းကိုး ကွယ် သည်ဖြစ် ၍အဘယ်သူသည်သားရဲ နှင့်တူသ
၅ နည်း။အဘယ်သူသည်စစ်ပြိုင် နိုင်သနည်း ဟုဆိုကြ၏။ ထိုသားရဲ
သည်လည်း အလုံး ကြီး သောစကားကိုငင် ဘုရား သခင်ကိုပြစ်မှား
သောစကားကို ငင် ပြောတတ် သောနှုတ် နှင့် ပြည့်စုံ ၍ လလေးဆယ်
၆ နှစ်လပတ်လုံးစီရင်ရသောအ ခွင့်ကိုရ၏။ ဘုရားသခင်ကိုပြစ်မှား
သောစကား အားဖြင့် နာမတော်ကိုငင် တဲတော်ကို ငင် ကောင်းကင်
၇ သားတို့ကိုငင်ပြစ်မှားခြင်းငှါနှုတ်ကိုဖွင့်ထား၏။ သန့်ရှင်းသူတို့ကို
စစ်တိုက် ၍ နိုင်ရသောအ ခွင့် ကိုရ၏။ အသီးအသီး ဘာသာစကားကို
ပြောသောလူအမျိုး အနွယ် ခပ်သိမ်းတို့ကို အုပ် စိုးရသောအ ခွင့် ကို
၈ လည်းရ၏။ ကွပ်မျက်သောသိုးသငယ်၏အသက်စာစောင်၌ကဲ့သို့

ဦးမှစ၍ စာရင်းမဝင်သောမြေကြီးသားအားလုံးတို့သည်သားရဲကို
၉ ကိုးကွယ်ကြ၏။နားရှိသောသူမည်သည်ကားကြားပါလေစေ။ သူတ
၁၀ ပါးကိုဖမ်းဆီးယူသွားသောသူသည်ကိုယ်တိုင်ဖမ်းဆီးယူသွားခြင်း
ကိုခံလိမ့်မည်။ဓားဖြင့်သတ်တတ်သောသူသည်လည်းကိုယ်တိုင်ဓား
ဖြင့်သေရမည်။ဤအရာ၌သန့်ရှင်းသူတို့သည်ယုံးခံစရာအကြောင်း။
၁၁ ရုံကြည့်စရာအကြောင်းရှိ၏။ ။အခြားသားရဲတကောင်သည်
သိုးသငယ်၏ချိုနှင့်တူသောချိုနှစ်ချောင်းရှိ၍နဂါးကဲ့သို့စကား
၁၂ ပြောလျက်မြေကြီးထဲကထွက်သည်ကိုငါမြင်၏။ ထိုသားရဲသည်
သူ့အရင်ဖြစ်သောပဌမသားရဲ၏အာဏာစက်အားလုံးကိုသုံးစွဲ၏။
သေစေသောဒဏ်ချက်ပျောက်ခဲ့ပြီးသောပဌမသားရဲကိုမြေကြီးမှ
၁၃ စ၍မြေသားတို့သည်ကိုးကွယ်စေခြင်းငှါပြု၏။ ကြီးသောနိမိတ်လ
က္ခဏာတို့ကိုပြု၏။လူတို့မျက်မှောက်၌ကောင်းကင်ကမြေကြီးအပေါ်
၁၄ သို့မီးကိုဆင်းစေ၏။ ပဌမသားရဲရှေ့၌ပြုပိုင်သောနိမိတ်လက္ခဏာ
တို့အားဖြင့်မြေကြီးသားတို့ကိုလှည့်စား၏။ဓားချက်သောဒဏ်ချက်
ကိုခံ၍အသက်ရှင်သေးသောသားရဲ၏ရုပ်တုကိုလုပ်စေခြင်းငှါမြေ
၁၅ ကြီးသားတို့ကိုပညတ်ထား၏။ သားရဲ၏ရုပ်တုသည်စကားပြော
နိုင်အောင်ငင်မိမိကိုမကိုးကွယ်သောသူရှိသမျှတို့ကိုသတ်ခြင်းငှါပြု
၁၆ နိုင်အောင်ငင် ရုပ်တု၌အသက်ကိုသွင်းပေးရသောအခွင့်ကိုလည်း
ရ၏။ငွေရတတ်သောသူ။ဆင်းရဲသောသူ။ကျွန်ခံသောသူ။လွတ်သော
သူ။အကြီးအငယ်အားလုံးတို့သည်လက်ျာလက်၌ဖြစ်စေ။နဖူး၌ဖြစ်
၁၇ စေ။တံဆိပ်လက်မှတ်ကိုခံစေရအောင်ငင် ထိုတံဆိပ်လက်မှတ်တည်း
ဟူသောသားရဲ၏နာမဖြစ်စေ။နာမ၏အရေအတွက်ဖြစ်စေ။တခုခု
ကိုမခံသောသူတယောက်မျှမရောင်းမဝယ်နိုင်ရအောင်ငင်စီရင်၏။
၁၈ ဤအရာ၌ပညာရှိ၏။ညာဏ်ရှိသောသူသည်သားရဲ၏အရေအတွက်
ကိုရေတွက်ပါလေစေ။လူ၏အရေအတွက်ဖြစ်၏။၆၆၆လည်းဖြစ်၏။

**

၁ ထိုနောက်မှာငါကြည့်၍သိုးသငယ်သည်ဇိအုန်တောင်ပေါ်မှာရပ်နေ
၏။သူ၏နာမနှင့်ခမည်းတော်၏နာမကိုနဖူး၌အက္ခရာတင်သောသူ
၂ တသိန်းလေးသောင်းလေးထောင်လည်းသူနှင့်အတူရှိကြ၏။ သမုဒ္ဒ
ရာရေသံ။ကြီးသောမိုဃ်းကြိုးသံကဲ့သို့သောကောင်းကင်အသံကိုငါ
ကြားလေ၏။ထိုသို့ငါကြားသောအသံသည်စောင်းသွားများစောင်း

၃ တီးသောအသံကဲ့သို့ဖြစ်၏။ ပလ္လင်တော်ရှေ့၌ဇင်သတ္တဝါလေးပါး
နှင့်အသက်ကြီး သူတို့ရှေ့၌ ဇင်သူတို့သည် အသစ်သောသီချင်းကိုဆို
ကြ၏။မြေကြီး မှရွေး သောသူတသိန်း လေးသောင်းလေးထောင်မှတ
၄ ပ းအဘယ်သူမျှသိုသီချင်းကိုသင်၍ မရနိုင်ကြ။ ထိုသူတို့သည်က
ညာဖြစ်၍မေရန် အမှု နှင့် မညစ်ညူးသောသူဖြစ် ကြ၏။သိုးသငယ်
သွားလေရာရာနောက်တော် ၌ လိုက်သောသူဖြစ် ကြ၏။လူတို့အထဲက
ရွေး၍ဘုရားသခင် နှင့်သိုးသငယ်၏ အဦးသီးသောအသီးဖြ ်ကြ၏။
၅ အပြစ်နှင့်ကင်းလွတ်သည်ဖြစ်၍သူတို့နှုတ်၌မုသာစကားမရှိ။
၆ ။မြေကြီးပေါ်မှာနေသောသူတည်းဟူသောအသီးအသီးဘာ
သာစကားကိုပြောသောလူအမျိုးအနွယ်ခပ်သိမ်းတို့အားထာဝရဧဝံ
၇ ဂေလိတရားကိုဟောရသောကောင်းကင်တမန်တပါးက ဘုရားသခင်
ကို ကြောက်ရွံ့ ၍ ချီးမွမ်း ကြလော့။ တရား စီရင် တော်မူ သောအချိန်
ရောက်လာပြီး။ ကောင်းကင်။ မြေကြီး။ သမုဒ္ဒရာနှင့်စမ်းရေတွင်းတို့ကို
ဖန်ဆင်း တော်မူသောသူ ကိုကိုး ကွယ် ကြလော့ဟု ကြီး သော အသံ
နှင့်ပြောဆို၍ကောင်းကင်ပြင်ဝယ်ပျံလျက်ရှိသည်ကိုငါမြင်လေ၏။
၈ ကောင်း ကင်တမန် တပါး ကဗာဗုလုန် မြို့ကြီး ပြိုလဲပြီး။ မိမိမတရား
သောမေရန်၏အဆိတ်အတောက်စပျ ်ရ ည် ကိုလူမျိုးအပေါင်းတို့အား
၉ တိုက်လေပြီးသောဗာဗုလုန်မြို့ကြီးပြိုလဲပြီးဟုလိုက်၍ဆိုလေ၏။ ထိုမှ
တပါး။ တတိယကောင်းကင်တမန်ကအကြင်သူသည်သားရဲနှင့်သူ့ရုပ်
တုကိုကိုးကွယ်၍သူ့တံဆိပ်လက်မှတ်ကိုနဖူး၌ခံသည်ဖြစ်စေ။လက်၌ခံ
၁၀ သည်ဖြစ်စေ။ ထိုသူသည်ဘုရားသခင် ၏ဒေါသဖလား၌လောင်းသော
အမျက်တော်စပျ ်ရည် စစ် ကို သောက် ရလိမ့်မည်။ သန့် ရှင်း သော
ကောင်းကင် တမန်တို့ရှေ့။ သိုးသငယ်ရှေ့တွင်ကန့်နှင့်ရော သောမီးထဲ
မှာပြင်းစွာညှဉ်းဆဲခြင်း ကိုခံရလိမ့်မည်။ ထိုညှဉ်း ဆဲခြင်း၏မီးခိုး
သည်ကမ္ဘာအဆက်ဆက် တက်လျက်ရှိ၏။ သားရဲ နှင့် သူ့ရုပ်တုကိုကိုး
ကွယ် ၍ သူ့နာမတံဆိပ် လက်မှတ် ကို ခံသောသူတို့သည် နေ့ညဉ့်မ
၁၂ ပြတ်သက် သာမရကြဟုလိုက် ၍ ကြီးသောသသံ နှင့်ဆိုလေ၏။ ဘု
ရားသခင်၏ပညတ်တို့ကိုဇင်ယေရှု၏ဂုဏ်ကြည်ခြင်းကိုဇင်စောင့်ရှောက်
သောသန့်ရှင်းသူတို့သည်ဤအရာ၌သည်းခံစရာအကြောင်းရှိ၏။
၁၃ တဖန်တုံ။ကောင်းကင်အသံကား။သခင်ဘုရား၌သေလွန်သောသူတို့
သည်ယခုမှစ ၍ မင်္ဂလာရှိကြ၏ဟုရေးထား တော့ဟုဆို သည် ကိုငါ

ကြွားလေ၏။ ၀ိညည် တော်ကလည်း ထိုသို့မှန်ပေ၏။ သူတို့သည်ပင်
ပန်းခြင်းညှိမ်း မည်အကြောင်း တည်း။ သူတို့၏အကျင့်အမှုတို့သည်
၁၄ သူတို့နှင့်အတူလိုက်ကြ၏ဟုမိန့်တော်မူ၏။ ။တဖန်ငါ
ကြည့်လျှင်ဖြူသောမြင်းတိမ်ရှိ၏။လူသားတော်နှင့်တူသောသူသည်
ခေါင်းပေါ်မှာရွှေသရဖူကိုဆောင်း လျက်ထက် သောတံစည် ကိုကိုင်
၁၅ လျက်မြင်းတိမ်ပေါ်မှာထိုင်လေ၏။ ကောင်းကင်တမန် တပါးသည်
ဗိတ်မှာန်တော်ထဲကထွက် ၍ကိုယ်တော်၏တံစည်ကိုလွှတ်၍ စပါးကို
ရိတ်ပါတော့။ရိတ်ရသောအချိန်ရောက်ပါပြီ။ မြေကြီး၌ရိတ်စရာစ
၁၆ ပါးမှည့်ပြီးဟု မြင်းတိမ်ပေါ်မှာထိုင်သောသူကိုကြီးသောအသံနှင့်
ဟစ်လေ၏။မြင်းတိမ်ပေါ်မှာထိုင် သောသူသည် မိမိတံစည် ကိုမြေ
၁၇ ကြီး၌သွင်း၍မြေကြီးစပါးကိုရိတ်၏။ ကောင်းကင်တမန်တပါးသည်
ကောင်းကင်ဘုံ၌ရှိသောဗိတ်မှာန်တော်ထဲကထွက်၍သူ၌လည်းထက်
၁၈ သောတံစည် ပါ၏။ မီးကို အစိုး ရသောကောင်း ကင် တမန် တပါး
သည်ယဇ်ပလ္လင်ထဲကထွက် ၍ ထက်သောတံစည်ပါသောသူကို ကြီး
စွာသောကျွေး ကျော်ခြင်း နှင့် ခေါ်လျှင် သင်၏ထက် သောတံစည် ကို
လွှတ်၍မြေကြီးစပျစ်သီးပြွတ်တို့ကိုရိက်တော့။အသီးမှည့်ပြီးဟုဆိုလေ
၁၉ ၏။ ကောင်းကင်တမန်သည်လည်း မိမိတံစည်ကိုမြေကြီး၌သွင်း၍
မြေကြီး၏စပျစ်သီးကိုရိက် ပြီးမှဘုရားသခင်၏အမျက်တော်တည်း
၂၀ ဟူသောနယ်ရာတန်ဆာ ကြီးထဲ၌ ချလေ၏။ မြို့ပြင်၌နယ်ရာတန်ဆာ
ကိုဖိနင်း၍တဆယ်ခြောက်ယူဇနာခရီးတလျှောက်လုံး အသွေးသည်
မြင်းဇက်ကြိုးကိုမှီအောင်နယ်ရာတန်ဆာထဲကထွက်လေ၏။

**

၁ တဖန်တုံ၊ ဘုရားသခင် အမျက်တော်ကို ပြီးစီးသောနောက် ဘုံးဘေး
ဥါဏ်ခုနှစ်ပါးရှိသောကောင်းကင်တမန်ခုနှစ်ပါးတည်းဟူသောကော
၂ င်းကင်၌အံ့ဖွယ်သောနိမိတ် ကြီးအချားတပါးကိုငါမြင် ရ၏။ မီးနှင့်
ရောသောဖန်ရေကန်ကဲ့သို့သောအရာကိုလည်း မြင်ရ၏။သားရဲ နှင့်
၎င်သူရုပ်တုနှင့်၎င်သူနာမအရေအတွက်နှင့် ၎င် လွှတ် ၍ အောင်မြင်
သောသူတို့သည် ဘုရားသခင် ၏စောင်း တော်တို့ကို ကိုင်လျက် ဖန်
၃ ရေကန် ပေါ်မှာရပ်နေကြသည်ကိုမြင်ရ၏။ ထိုသူတို့သည်ဘုရားသ
ခင်၏ကျွန်မောရှေ၏သီချင်း နှင့် သိုးသငယ်၏သီချင်းကိုသီ ၍ အနန္တ
တန်ခိုး နှင့်ပြည့်စုံတော် မူသောထာ ဝရအရှင် ဘုရား သခင်။ ကိုယ်

တော်၏အပြုအမူတို့သည်ကောင်းမြတ်၍အံ့ဩဘွယ်ဖြစ်ပါ၏။လူ
အမျိုးမျိုးတို့၏ဘုရင်။ ကိုယ်တော်၏အကျင့်ဓလေ့တို့သည်ဖြောင့်မတ်
၄ ဟုတ်မှန်ပါ၏။ ထာဝရဘုရား။ကိုယ်တော်ကိုအကြောက်ရှိဘဲ။နာမ
တော်ကိုမချီးမွမ်းဘဲအဘယ်သူနေရပါအံ့နည်း။ ကိုယ်တော်တပါးတည်း
သန့်ရှင်းတော်မူ၏။တရားသဖြင့်စီရင်တော်မူခြင်းအရာတို့သည်ထင်
ရှားသည်ဖြစ်၍လူမျိုးအပေါင်းတို့သည်လာ၍ရှေ့တော်၌ကိုးကွယ်ကြ
၅ ပါလိမ့်မည်ဟုပြောဆိုကြ၏။ ။ထိုနောက်ငါကြည့်ရှု၍ကောင်း
ကင်ဘုံ၌သက်သေခံတော်မူချက်ဌာပနာရာတဲတော်ရှိသေါဗိတ်မှာန်
၆ တော်ဖွင့်ထားလျက် ရှိ၏။ ဘေးဒါဏ်ခုနှစ်ပါး ရှိသောကောင်းကင်
တမန်ခုနှစ်ပါးတို့သည်စင်ကြယ်ပြောင်လက်သောပိုက်ဆံအဝတ်ကို
ဝတ်လျက်ရင်ပတ်ကိုရွှေခါးပန်းနှင့်စည်းလျက် ဗိတ်မှာန်တော်ထဲက
၇ ထွက်လာကြ၏။ သတ္တဝါလေးပါးတွင်တပါးသည်ကမ္ဘာအဆက်ဆက်
အသက်ရှင်တော်မူသောဘုရားသခင်၏အမျက်တော်နှင့်ပြည့်သော
ရွှေဖလားခုနှစ်လုံးကိုကောင်းကင်တမန်ခုနှစ်ပါးတို့အားပေးလေ၏။
၈ ဘုရားသခင်၏ဘုန်းတန်ခိုးအာနုဘော်တော်အားဖြင့်ဗိတ်မှာန်
တော်သည်မီးခိုးနှင့်ပြည့်၍ကောင်းကင်တမန်ခုနှစ်ပါး၏ဘေးဒါဏ်
ခုနှစ်ပါးမကုန်မှီတိုင်အောင်ဗိတ်မှာန်တော်ထဲသို့အဘယ်သူမျှမဝင်
၁ နိုင်ကြ။ ဗိတ်မှာန်တော်တဲကကြီးသောအသံကား။သွားကြ
တော့။ဘုရားသခင်၏အမျက်တော်ဖလားခုနှစ်လုံးကိုမြေကြီးပေါ်
သို့သွန်းကြတော့ဟုကောင်းကင်တမန်ခုနှစ်ပါးတို့အားဆိုသည်ကိုငါ
၂ ကြားလေ၏။ ပဌမသူသည်သွား၍မိမိဖလားကိုမြေကြီးပေါ်သို့သွန်း
ပြီးလျှင်သားရဲ၏တံဆိပ်လက်မှတ်ကိုခံ၍သူရုပ်တုကိုကိုးကွယ်သော
၃ လူတို့၌အလွန်ဆိုးသောအနာစိမ်းပေါက်လေ၏။ ဒုတိယကောင်းကင်
တမန်သည်မိမိဖလားကိုပင်လယ်ပေါ်သို့သွန်းလျှင်ပင်လယ်သည်လူ
သေ၏အသွေးကဲ့သို့သောအသွေးဖြစ်၏။ အသက်ရှိသောပင်လယ်သ
၄ တ္တဝါအားလုံးသေကြ၏။ တတိယကောင်းကင်တမန်သည်မိမိဖလား
ကိုမြစ်ပေါ်သို့၎င်စမ်းရေတွင်းပေါ်သို့၎င်သွန်းလျှင်သူတို့သည်အ
၅ သွေးဖြစ်ကြ၏။ ကောင်းကင်တမန်ကလည်းပစ္စုပ္ပန်။အတိတ်။အနာ
ဂတ်ကာလအစည်ရှိသောသခင်။ ကိုယ်တော်သည်ဤသို့တရားစီရင်
၆ တော်မူသည်အမှုမှာဖြောင့်မတ်တော်မူ၏။ ထိုသူတို့သည်သန့်ရှင်း
သူအသွေး။ ပရောဖက်အသွေးကိုသွန်းကြသည်ဖြစ်၍ သူတို့အားအ

သွေးကို တိုက် တော်မူပြီ။ သူတို့လည်း ခံထိုက် ကြ၏ဟုဆိုသည်ကိုငါ
၇ ကြား၏။ ယဇ်ပလ္လင်ကလည်းမှန်ပါ၏။ အနန္တတန်ခိုးနှင့်ပြည့်စုံတော်
မူသောထာဝရအရှင် ဘုရားသခင်။ ကိုယ်တော် စီရင်တော်မူခြင်း အ
ရာတို့သည်ဟုတ်မှန်ဖြောင့်မတ်ပါပြီဟုဆိုသံကိုငါကြား၏။

**

၈ စတုတ္ထကောင်းကင်တမန်သည် မိမိဖလားကိုနေပေါ်သို့သွန်းလျှင်နေ
၉ သည်လူတို့ကိုမီးလောင် စေရသောအခွင့်ကိုရ၏။ ပူအားကြီးသော
အရှိန်ဖြင့်လူတို့သည်လောင်ကြသည်ဖြစ်၍ ထိုဘေးဒဏ် တို့ကိုအစိုး
ပိုင်တော်မူသောဘုရား သခင်၏နာမတော်ကိုကျိန် ဆဲကြ၏။ ဘုရား
၁၀ သခင်ကိုချီးမွမ်းခြင်းအလိုငှါနောင်တမရကြ။ ပဉ္စမကောင်းကင်တ
မန်သည် မိမိဖလားကို သားရဲ၏ပလ္လင်ပေါ်သို့သွန်းလျှင် သူ၏နိုင်ငံ
သည်မှောင်မိုက်အတိဖြစ်လေ၏။ နိုင်ငံသားတို့သည်ပင်ပန်းအားကြီး
၁၁ သည်နှင့်မိမိတို့လျှာကိုကိုက်ခဲကြ၏။ မိမိတို့ခံရသောဝေဒနာ နှင့်အ
နာစိမ်းများကြောင့်ကောင်းကင်ဘုံရှင်ဘုရားသခင်ကိုကျိန်ဆဲကြ၏။
၁၂ မိမိတို့အကျင့်ကိုလည်းနောင်တမရကြ။ ။ဆဋ္ဌမကောင်း
ကင် တမန် သည် မိမိဖလားကို ဥဖရတ်မြစ်ကြီးပေါ်သို့သွန်း လျှင်အ
ရှေ့မျက်နှာရှင် ဘုရင် တို့သွားရာလမ်း ကိုပြင်ဆင် စေခြင်း အလိုငှါထို
၁၃ မြစ်ရေသည်ခန်း ခြောက်လေ၏။ ထိုအခါနဂါးခံတွင်းထဲကရင်သား
ရဲခံတွင်းထဲက ရင် မိစ္ဆာပရောဖက်ခံတွင်း ထဲကရင် ဖား ကောင်ကဲ့သို့
၁၄ ညစ်ညူး သောဝိညာဉ် သုံးပါး ထွက်သည်ကိုငါမြင်၏။ နိမိတ်လက္ခ
ဏာပြသောနတ်ဆိုးဝိညာဉ် ဖြစ် သတည်း။ ထိုဝိညာဉ်တို့သည် လော
ကီနိုင်ငံလုံးတွင်ရှိသောရှင်ဘုရင်တို့ဆီသို့ထွက်သွား၍ အနန္တတန်ခိုး
နှင့်ပြည့်စုံတော်မူသောဘုရားသခင်၏နေ့ကြီး၌ စစ်တိုက် ခြင်းအလို
၁၅ ငှါစုဝေးစေကြ၏။ ဟေဗြဲဘာသာအားဖြင့်အာမဂေဒုန်အမည်ရှိသော
၁၆ အရပ် ၌ စုဝေးစေကြ၏။ အသံတော်ကား။ သူခိုး ကဲ့သို့ငါလာ၏။ အ
ဝတ်အချည်း စည်း သွားလာ ၍ သူတပါးရှေ့ ၌ ရှက် ခြင်းမထင်ရှားရ
အောင်နိုး လျက် နေ၍မိမိအဝတ် ကိုစောင့်သော သူသည် မင်္ဂလာရှိ၏။
၁၇ ။သတ္တမကောင်းကင်တမန်သည်မိမိဖလားကိုအာကာ
သကောင်းကင် ၌ သွန်း လျှင်ပြီးပြီဟုကြီး သောအသံသည်ကောင်း
၁၈ ကင်ဗိမာန် တော် ၌ ရှိသောပလ္လင်တော်ထဲကထွက်၏။ လျှပ်စစ်
ပြက်ခြင်း။ အသံမြည်ခြင်း။ မိုးကြိုးချုန်းခြင်း။ ကြီးစွာသောမြေလှုပ်ခြင်း

ဖြစ်ကြ၏။ မြေကြီး အပေါ်မှာလူတို့ဖြစ်ကတည်းကထိုသို့သောလကျ
ဏာ နှင့်ထို မျှလောက် ပြင်းထံစွာသောမြေလှုပ် ခြင်းမဖြစ် စဖူး။
၁၉ မြို့ကြီးသည် သုံးပြားကွဲပြား၍ လူအမျိုး မျိုး နေသောမြို့တို့သည် ပြိုလဲ
ကြ၏။ ဘုရား သခင်သည်ပြင်း စွာသော ဒေါသအမျက် တော်၏ စပျစ်
ရည်ဖလားကိုတိုက်ခြင်းငှါဗာဗုလုန်မြို့ကြီးကိုအောင်းမေ့တော်မူ၏။
၂၀ ကျွန်းအား လုံးလွင့် ပြေးကြ၏။ တောင်များကွယ် ပျောက်ကြ၏။ အ
၂၁ ခွက်တဆယ်အချိန် ရှိသောမိုဃ်းသီးသည်ကောင်း ကင်ကလူတို့အပေါ်
သို့ကျလေ၏။ထိုမိုဃ်း သီးဘေးဒဏ်အလွန်ကြီး သည် ဖြစ်၍ လူများ
တို့သည်မိုဃ်းသီးဘေးဒဏ်ကြောင့်ဘုရားသခင်ကိုကျိန်ဆဲကြ၏။

**

၁ ဖလား ခုနှစ်လုံး ရှိသော ကောင်းကင်တမန်ခုနှစ်ပါးတွင်တပါးသည်
လာ၍ငါနှင့်နှုတ်ဆက်လျှင်လာခဲ့ပါ။ ရေအပေါ်မှာထိုင်သောပြည်တန်
၂ ဆာကြီး ၌စီရင်ခြင်း အမှုကိုငါပြမည်။ လောကီရှင် ဘုရင်တို့သည်
မတရားသောမေထုန် ကိုသူနှင့် ပြုကြ ပြီး။မြေ ကြီးသား တို့သည်သူ၏
၃ မတရားသောမေထုန်စပျစ်ရည်နှင့်ရစ်မူးကြပြီးဟုဆို၍ ငါကိုဝိညာဉ်
တော်အား ဖြင့် တောသို့ဆောင် သွားလေ၏။ခေါင်း ခု နှစ်လုံး နှင့်ချို
ဆယ် ချောင်းရှိ ၍ ဘုရားသခင်အသရေကို ရှုတ်ချသောနာမတို့နှင့်
ပြည့် သောသားရဲနီအပေါ်မှာထိုင် လျက် ရှိသောမိန်မတဦး ကို ငါမြင်
၄ ၏။ ထိုမိန်မသည် အဝတ်နီ။ အဝတ်မောင်းကိုဝတ် လျက် ရွှေကန် ဆာ။
ကျောက် မြတ်တန် ဆာ။ ပုလဲတန်ဆာဆင်လျက်ရှိ၏။ စက်ဆုပ် ရွံရှာ
ဘွယ်အရာနှင့်ဇင်မိမိမတရားသောမေထုန်အညစ်အညမ်းနှင့်ဇင်ပြည့်
၅ သောရွှေဖလားကို ကိုင်လျက်ရှိ၏။ နဖူး ၌ အကျွရာတင်သောဘွဲ့မူ
ကားနက် နဲ သောအရာ။ဗာဗုလုန် မြို့ကြီး။ ပြည်ကန် ဆာတို့အမိ။မြေ
၆ ကြီး ၌ စက် ဆုတ် ရွံရှာဘွယ် အရာ တို့အမိပေတည်း။ မိန်မသည် သန့်
ရှင်းသူတို့အသွေး။ ယေရှု၏သက်သေခံတို့အသွေးနှင့် ရစ်မူးသည် ကို
ငါမြင်၏။ထိုသို့မြင်သောအခါအလွန်အံ့ဩြာမိန်းမော၍နေ၏။
၇ ။ကောင်းကင်တမန်ကလည်းအဘယ် ကြောင့် အံ့ဩြာသ
နည်း။ မိန်မ၏ နက် နဲ သောအရာ ကိုဇင် ခေါင်းခု နှစ် လုံး နှင့် ချိုဆယ်
ချောင်းရှိ၍ မိန်မကိုဆောင်သောသားရဲ၏ နက် နဲ သောအရာကိုဇင်ငါ
၈ ပြောမည်။ ယခုမြင် သောသားရဲသည် ဖြစ်ဘူးပြီး။ ဖြစ်ဆဲမရှိ။ အ
နက်ဆုံးတွင်းထဲကတက်၍ဖျက်ဆီးခြင်း သို့ရောက်လိမ့်မည်။ကမ္ဘာဦး

မှ၍ အသက်စာစောင် ၌ စာရင်းမဝင်သောမြေကြီး သားတို့သည်
ဖြစ်ဘူး၍ ဖြစ် ဆဲမရှိ။ ဖြစ်လတ္တံ့သောသားရဲကို မြင် သောအခါအံ့
၉ ဩကြလိမ့်မည်။ ဤအရာ ၌ ပညာရသောညာဏ် ရှိ၏။ ခေါင်းခု
၁၀ နှစ်လုံးကား။ မိန်းမထိုင် နေသောတောင်ခုနှစ်လုံး ဖြစ်၏။ ရှင်ဘုရင်ခု
နှစ်ပါးလည်းဖြစ်၏။ငါးပါးကျပြီး။တပါးရှိသေး၏။တပါးဖြစ်ဦးမည်။
၁၁ ဖြစ်သောအခါခဏသာတည်လိမ့်မည်။ ဖြစ်ဘူး၍ဖြစ်ဆဲမရှိသော
သားရဲသည် ရှစ်ပါးမြောက် သောရှင်ဘုရင် ဖြစ်၏။ ခုနှစ်ပါးအဝင်
၁၂ လည်းဖြစ်၏။ ပျက်ဆီးခြင်းသို့ရောက်ရ၏။ ယခုမြင်သောချိုဆယ်
ချောင်းကားမင်းအာဏာစက်ကို မရသေးသောရှင်ဘုရင် ဆယ်ပါး
ဖြစ်၏။ရှင်ဘုရင်အာဏာစက်ကိုသားရဲနှင့်အတူတချက်တည်းရကြ
၁၃ လိမ့်မည်။ ထိုသူတို့သည်သဘောတူ၍ မိမိတို့တန်ခိုးအာဏာစက်
၁၄ ကိုသားရဲ ၌ အပ်ပေးကြလိမ့်မည်။ သူတို့သည် သိုးသငယ် နှင့်စစ်
တိုက်၍သိုးသငယ်သည်နိုင်တော်မူမည်။ အဘယ်ကြောင့် ခုည်းဟူမူ
ကား။ သိုးသငယ် သည် သခင်တို့၏ သခင်။ ဘုရင်တို့၏ ဘုရင်ဖြစ်
တော်မူ၏။ ကိုယ်တော် နှင့်အတူ ရှိသောသူတို့သည်လည်းခေါ်သော
၁၅ သူ။ရွေးချယ်သောသူ။ သစ္စာရှိသောသူဖြစ်ကြ၏။ ယခုမြင်၍ပြည်
တန်ဆာထိုင်သောရေကားအသီးအသီးဘာသာစကားကိုပြောသော
၁၆ လူအမျိုးမျိုးအရပ်ရပ်ဖြစ်သတည်း။ ယခုမြင်သောချိုဆယ်ချောင်းနှင့်
သားရဲသည်ပြည်တန်ဆာကိုမုန်း၍ သူ၏စည်းစိမ်ကိုဖျက်ဆီးလိမ့်
မည်။သူ့အဝတ်တန်ဆာကိုချွတ် ၍ သူ့အသားကိုကိုက်စားလိမ့်မည်။
၁၇ သူ့ကိုယ်ကိုလည်းမီးရှို့လိမ့်မည်။ အဘယ်ကြောင့်ခုည်းဟူမူကား။သူ
တို့သည်ဘုရားသခင်၏အလိုတော်ကို ပြုခြင်းငှါဒင်နှုတ်ကပတ်တော်
မပြည့်စုံမှီတိုင်အောင်သဘောတူ၍မိမိတို့နိုင်ငံများကိုသားရဲ၌အပ်
၁၈ ပေးခြင်းငှါဘုရားသခင်သည်သူတို့ ၌ အကြံပေးတော်မူ၏။ ယခု
မြင်သောမိန်းမသည်လည်းလောကီရှင်ဘုရင်တို့ကိုအုပ်စိုးသောမြို့ကြီး
ဖြစ်သတည်းဟုကောင်းကင်တမန်ဆို၏။

❋❋

၁ ထိုနောက်မှာကောင်းကင်တမန်တပါးသည် ကြီးစွာသောတန်ခိုး နှင့်
ပြည့်စုံ၍ကောင်းကင်ကဆင်းသက်သည်ကိုငါမြင်၏။သူ၏ရောင်ခြည်
၂ အားဖြင့်မြေကြီးထွန်းလင်းလျက် ရှိ၏။ သူသည် ကျယ်သောအသံ
နှင့်ကြွေးကြော်၍ဗာဗုလုန် မြို့ကြီး ပြိုလဲပြီး။ ပြိုလဲပြီး။ နတ်ဆိုးနေရာ

ဖြစ်လေပြီ။ညစ်ညူးသောဝိညာဉ်မျိုး၏တွင်း ဖြစ်လေပြီ။ညစ်ညူး၍
၃ စက်ဆုတ်ဖွယ်သော ငှက်မျိုး၏ မှီခိုရာဖြစ်လေပြီ။ အဘယ်ကြောင့်
ဖြစ်သနည်းဟူမူကား။ လူမျိုးအပေါင်းတို့သည် သူ၏မတရားသော
မေ့ရန်အဆိပ်အတောက်စပျစ်ရည်ကိုသောက်ကြပြီ။လောကီရှင်ဘု
ရင်တို့သည် မတရားသောမေထုန်ကိုသူနှင့် ပြုကြပြီ။ လောကီကုန်
သည်တို့သည် သူ၏ကာမဂုဏ်စည်းစိမ်လွန်ကျူးခြင်း အားဖြင့်ဥစ္စာ
၄ ရတတ်ကြပြီးဟုဆို၏။ ။အချားသောကောင်းကင်
အသံကား။ငါလူမျိုး။သူ၏အပြစ်တို့နှင့် မဆက်ဆံရအောင်၎င် သူ၏
၅ ဘေးဒါဏ်များကို မခံရအောင်၎င် သူ့အထဲကထွက်ကြလော့။ သူ့အ
ပြစ်တို့သည်ကောင်းကင်ဘုံတိုင်အောင်မှီသည်ဖြစ်၍ သူ၏မတရား
၆ သောအမှုတို့ကိုဘုရားသခင်သတိရတော်မူပြီ။ သူသည်အကျိုးအ
ပြစ်ကိုဆပ်ပေးသည်နည်းတူသူ၌ဆပ်ပေးကြလော့။ သူ၏အကျင့်အ
တိုင်းနှစ်ဆထပ်၍စီရင်ကြလော့။ သူလောင်းရာဖလား၌ သူ့အို့နှစ်ဆ
၇ တိုး၍လောင်းကြလော့။ သူသည်ကိုယ်ကိုကိုယ်ချီးမြှောက်၍ ကာမ
ဂုဏ်ပျော်မွေ့လွန်းသည်အတိုင်းသူ၌ ပြင်းစွာဆုမ္ဘခြင်း။ဝမ်းနည်း
ညည်းတွားခြင်းကိုဖြစ်စေကြလော့။ ငါကားမိဘုရားဖြစ်၏။မုတ်ဆိုး
မမဟုတ်။ညည်းတွားခြင်းကို မသိရဟုသူသည်အောင်းမေ့တတ်၏။
၈ ထိုကြောင့်သေခြင်း။ညည်းတွားခြင်း။အစာမွတ်သိပ်ခြင်းတည်းဟူ
သောသူ့ဘေးဒါဏ်များတို့သည်တနေ့ချင်း တွင်ရောက် လိမ့်မည်။ မီး
ဖြင့်လည်း ကျွမ်းလောင်လိမ့်မည်။ သူ့ကိုစီရင်တော်မူသောထာဝရအ
ရှင်။ဘုရားသခင်သည် ခွန်းအားဗလကြီးတော်မူ၏။ ။
၉ မတရားသောမေထုန်ကိုသူနှင့်ပြု၍ ကာမဂုဏ်ပျော်မွေ့လွန်းသော
လောကီရှင်ဘုရင်တို့သည် သူကျွမ်းလောင်ရာမီးခိုးကို မြင်သောအခါ
၁၀ သူခံရသောဝေဒနာကြီးကိုကြောက်၍အဝေးကရပ်နေလျက်အလိုလေ့။
အလိုလေ့။ဗာဗုလုန်မြို့ကြီး။ မြို့စွမ်း။ သင်သည်တနာရီချင်းတွင်အပြစ်
စီရင်ခြင်းသို့ရောက်ပါပြီ တကားဟူ၍ သူ့ကြောင့်ငိုကြွေး မြည်တမ်
၁၁ ကြလိမ့်မည်။ လောကီကုန်သည်တို့သည်ထိုအတူငိုကြွေးညည်းတွား
ကြလိမ့်မည်။ အဘယ်ကြောင့်နည်း ဟူမူကား။ သူတို့ကုန် သွယ်ဥစ္စာ
၁၂ တည်းဟူသော ရွှေ။ငွေ။ကျောက်ကောင်း။ပုလဲ။ပိတ်ချော။ကတ္တီပါ။ပဲ။
ပုဆိုးနီ။အမျိုးမျိုးသောနံ့သာသစ်။ အမျိုးမျိုး သောဆင်စွယ်တန်ဆာ။
၁၃ အမျိုးမျိုးသောသစ်ကောင်းကြေးဝါသံကျောက်ဖြင့်တန်ဆာ။ သစ်ကြံ

ဖိုး။ချင်းစိမ်း။နံ့သာပျောင်း။ဆီမွှေး။လေဝြပန်။စပျစ်ရည်။ဆီ။မုန့်ညက်။
ဂျုံဆံ။နွား။သိုး။ မြင်း။ရထား။ အစေခံကျွန်။ လူဝိညာဉ်တို့ကိုအဘယ်
၁၄ သူမျှနောက်တဖန်မဝယ်ရ။ သင်သည်အယွှန်တပ်မက်သောသစ်သီး
မျိုးပျောက်ကုန်ပြီ။ ဆူပျိုးသောအရာ။တင့်တယ်သောအရာအားလုံး
၁၅ တို့လည်းပျောက်ကုန်ပြီ။နောက်တဖန်မတွေ့ရ။သူကိုအမှီပြု၍ထိုအရာ
များကိုရောင်းဝယ်သဖြင့် ငွေရတတ်သောကုန် သည်တို့သည်သူခံရ
၁၆ သောဝေဒနာကြီးကိုကြောက်၍အဝေးကရပ်နေလျက်အလိုလေ့။ အလို
လေ့။ပိတ်ချော။အဝတ်နီ။အဝတ်မောင်းကိုဝတ်၍ရွှေတန်ဆာ။ကျောက်
၁၇ မြတ်တန်ဆာ။ပုလဲတန်ဆာဆင်သောမြို့ကြီး။ တခဏချင်းတွင်ဤမျှ
လောက်ကြီးသောစည်းစိမ်ပျက်စီးပါပြီ တကားဟူ၍ငိုကြွေးညည်း
တွားကြလိမ့်မည်။ခပ်သိမ်းသောသင်္ဘောသူကြီး။အရပ်ရပ်သွင့်ကူး
တတ်သောသူအားလုံး။ သင်္ဘောသား ပင်လယ်ကုန် သည် ရှိသမျှတို့
၁၈ သည်အဝေးကရပ်နေ၍ သူကျွမ်းလောင်ခြင်း၏မီးခိုးကိုမြင်လျှင်ထို
၁၉ မြို့နှင့်အဘယ်မြို့တူလနည်းဟူ၍ငင် အလိုလေ့။အလိုလေ့။ပင်လယ်
၌ သင်္ဘောရှိသောသူအား လုံးတို့အားကိုယ် စည်း စိမ်ကိုပေး၍ငွေရ
တတ်စေသောမြို့ကြီး။တခဏချင်းတွင်ပျက်စီးပါပြီ တကားဟူ၍ ငင်
မိမိတို့ခေါင်းပေါ်မှာဖုတ်ကိုပြစ်တင်လျက်အော်ဟစ်၍ ငိုငကြွေးညည်း
၂၀ တွားကြလိမ့်မည်။ ကောင်းကင်မှစ၍သန့်ရှင်းသူ။တမန်တော်။ပရော
ဖက်တို့။သူကိုကြည့်၍ဝမ်းမြောက်ကြလော့။ဘုရားသခင်သည်သင်တို့
ဘက် ၌ နေ၍သူကိုဘရားစီရင်တော်မူ ပြီး ဟုဆိုသည်ကိုငါကြားသေ
၂၁ ၏။ ။ခွန်အားကြီးသောကောင်းကင်တမန်တပါးသည်
ကြီး စွာသောကြိတ်ဆုံကျောက် ပျားကဲ့သို့သောကျောက်ကို ချီယူ၍
ပင်လယ်ထဲသို့ချပြစ်ပြီးလျှင်ထိုနည်း တူဗာဗုလုန်မြို့ကြီး ကိုပြင်းထံ
၂၂ စွာချပြစ် ၍ နောက်တဖန်မပေါ်မရှိရ။ စောင်းသွား။အညီမ့်သွား။
မလွေသွား။တံပိုးသွားများတီးမှုတ်သောအသံလည်းသင်ထဲ၌နောက်
တဖန် မကြည့်ရ။အမျိုးမျိုး သောလက်တတ်သွား တို့တွင် တယောက်မျှ
သင်ထဲ၌နောက်တဖန်မပေါ်မရှိရ။ကြိတ်ဆုံသံလည်းသင်ထဲ၌နောက်
၂၃ တဖန်မကြည့်ရ။ ဆီမီးအလင်း လည်း သင်ထဲ ၌ နောက်တဖန်မထွန်း
မလင်း ရ။ မင်္ဂလာဆောင်သတို့သား သတို့သမီး အသံလည်း သင် ထဲ၌
နောက်တဖန်မကြည့် ရ။ အဘယ် ကြောင့်နည်း ဟူမူကား။ လောကီမူး
ဆော်တို့သည်သင်၏ကုန်သည်ဖြစ် ကြပြီ။ လူအမျိုး မျိုးတို့သည် သင်

၏ ပြုစား ခြင်း မရိယာယ် အားဖြင့် လှည့် စား ခြင်း ကို ခံကြပြီး ဟု
၂၄ ကောင်းကင်တမန်ဆိုလေ၏။ ပရောဖက်အသွေး။သန့်ရှင်းသူအသွေး။
မြေကြီးပေါ်မှာကွပ်မျက်သောသူအားလုံးအသွေးကို ထိုမြို့၌တွေ့လေ
သတည်း။

**

၁ ထိုနောက် မှာကောင်းကင်ဘုံ ၌ များ စွာသော သူအစည်းအဝေး၏အ
သံကြီးကဲ့သို့သောအသံကား။အာ လေလုယ။ ငါတို့ဘုရား သခင်၏
ကယ် တင် တော်မူခြင်း ချမ်းသာ။ ဘုန်း တန် ခိုး အာနုဘော်တော်ပေ
၂ တည်း။ စီရင်တော်မူခြင်းအရာ တို့သည် ဟုတ်မှန် ဖြောင့်မတ်ပေ၏။
မိမိမတရားသောမေ ရန်အားဖြင့်မြေကြီးကိုဖျက်ဆီး သောပြည်တန်
ဆာကြီးကိုစစ် ကြော စီရင် တော်မူပြီး။ သူလက်ဖြင့်သွန်းသောကိုယ်
တော်၏ကျွန်ရင်းတို့အသွေးဘက်၌ခြေ၍တရားစီရင်တော်မူပြီးဟုဆို
၃ ကြသည်ကိုငါကြား ၏။ တဖန်တုံ။အာလေလုယဟူ၍ ဧင်သူ၏မီး ခိုး
၄ သည်ကမ္ဘာအဆက်ဆက်တက်သည် ဟူ၍ ဧင် ဆိုကြ၏။ အသက်ကြီး
သူ နှစ်ဆယ်လေးပါး နှင့် သတ္တဝါလေးပါး တို့သည် ပျပ်ဝပ် ၍ ပလ္လင်
တော်ပေါ် မှာထိုင်တော် မူသောဘုရားသခင်ကိုကိုး ကွယ် လျက် အာ
၅ မင်။အာလေလုယဟုဆိုကြ၏။ ပလ္လင်တော်မှထွက်သောအသံကား။
ကျွန်တော်ရင်း အစ ရှိသောဘုရားသခင် ကို ကြောက် ရွံ့သော သူအ
ကြီးအငယ်အားလုံးတို့။ ငါတို့ဘုရားသခင် ကို ချီးမွမ်းကြလော့ဟုဆို
၆ ၏။ ။တဖန်တုံ။အာလေလုယ။အနန္တတန်ခိုးနှင့်ပြည့်စုံတော်
၇ မူသောထာဝရအရှင်။ငါတို့ဘုရားသခင်သည် စိုးစံတော်မူ ၏။ ဝမ်း
သာရွှင်လန်း ကြစို့။ဂုဏ်တော်ကိုချီး မွမ်းကြစို့။အကြောင်းမူကား။ သိုး
သငယ်၏မင်္ဂလာဆောင်ချိန်ကာလရောက်လာပြီး။ သူ့မိမ္ဗသည်ကိုယ်
ကိုကိုယ် ဆင်ပြင်ပြီးဟုများ စွာသော သူအစည်းအဝေးသံ။သမုဒ္ဒရာ
၈ သံ။ပြင်း စွာသောမိုဃ်းကြိုး သံကဲ့သို့ငါကြား လေ၏။ ထိုမိမ္ဗသည်
စင်ကြယ်ပြောင်လက်သောပိတ်ချောကိုဝတ်ဆင်ရအောင်အခွင့်ရ၏။
ထို ပိတ်ချောမူကား သန့်ရှင်း သူတို့၏ဖြောင့်မတ် ခြင်း ပါရမီဖြစ်သ
၉ တည်း။ ကောင်းကင် တမန်ကလည်း သိုးသငယ်၏မင်္ဂလာဆောင်ပွဲ
သို့ခေါ် ဖိတ်သောသူတို့သည်မင်္ဂလာရှိ၏ဟုရေးထား လော့ဟူ၍ဧင်၍
စကားသည်ဘုရားသခင်၏နှုတ်တော်ထွက် စင်စစ်ဖြစ်၏ ဟူ၍ ဧင်ငါ
၁၀ အားဆိုလေ၏။ ငါသည်သူကိုကိုးကွယ်ခြင်းငှါသူ့ခြေရင်း၌ပျပ်ဝပ်

၏။သူကလည်းမပြုပါနှင့်။ငါကားသင်၏လုပ်ဖော်ဆောင်ဖက်ဖြစ်၏။
ယေရှု၏သက်သေခံတော်မူချက်ကိုဆောင်သောသင်၏ညီအစ်ကိုတို့
၏လုပ်ဖော်ဆောင်ဖက်လည်းဖြစ်၏။ဘုရားသခင်ကိုကိုးကွယ်လော့။
အကြောင်း။မူကား။ပရောဖက်ဟောချက်သဘောသည်ယေရှု၏သက်
၁၁ သေဖြစ်သတည်းဟုငါအားဆိုလေ၏။ ။ထိုအခါကောင်းကင်
ဘုံဖွင့်လှစ်သည်ကိုငါမြင်လျှင်မြင်းဖြူရှိ၏။မြင်းစီးသောသူသည်သစ္စာ
ဟူသောအမည်။သမ္မာဟူသောအမည်ရှိသတည်း။ သူသည်တရားသ
၁၂ ဖြင့်စီရင်တတ်၏။တရားသဖြင့်စစ်တိုက်တတ်၏။ သူမျက်စိသည်မီး
လျှံကဲ့သို့ဖြစ်၏။ ခေါင်းပေါ်မှာသရဖူများကိုဆောင်း၏။ ကိုယ်တိုင်မှ
၁၃ တပါးအဘယ်သူမျှမသိသောနာမရေးထားလျက်သူ၌ရှိ၏။ အသွေး
၌နှစ်ပြီးသောအဝတ်ကိုဝတ်၏။ဘုရားသခင်၏နှုတ်ကပတ်တော်ဟူ
၁၄ သောအမည်ရှိ၏။ ကောင်းကင်ဗိုလ်ပါတို့သည်မြင်းဖြူကိုစီးလျက်စ
င်ကြယ်သောပိတ်ချောဖြူကိုဝတ်လျက်နောက်တော်သို့လိုက်ကြ၏။
၁၅ လူအမျိုးတို့ကိုဒဏ်ခတ်စရာဘို့ထက်သောသံလျက်သည်ခံတွင်းတော်
ထဲကထွက်၏။ သူတို့ကိုသံလှံတံနှင့်အုပ်စိုးတော်မူမည်။ အနန္တတန်ခိုး
နှင့်ပြည့်စုံတော်မူသောဘုရားသခင်၏ဒေါသအမျက်တော်စပျစ်သီး
၁၆ နယ်ရာတန်ဆာကိုဖိနင်းတော်မူမည်။ ဘုရင်တို့၏ဘုရင်။ သခင်
တို့၏သခင်ဟုဘွဲ့နာမတော်သည် အဝတ်တော်၌ ရင်ပေါင်တော်၌ရင်
၁၇ ရေးထားလျက်ရှိ၏။ ။ကောင်းကင်တမန်တပါးသည်
၁၈ နေ့ထဲမှာရပ်လျက်ရှိသည်ကိုငါမြင်၏။သူသည် မိုဃ်းကောင်းကင်အ
လယ်၌ ပျံတတ်သောငှက်အားလုံးတို့ကို ကြီးသောအသံနှင့်ခေါ်၍
လာကြလော့။ ရှင်ဘုရင်အသား။ စစ်သူကြီးအသား။ သူရဲအသား။
မြင်းအသား။မြင်းစီးသောသူအသား။ အစေခံကျွန်။ လူလွတ်။ အကြီး
အငယ်အမျိုးမျိုးသောလူ၏အသားကိုစားရအောင်ကြီးမြတ်တော်
မူသော ဘုရားသခင်၏ ပွဲတော်ဆီသို့စည်းဝေးကြလော့ဟုဟစ်
၁၉ ကျော်လေ၏။ သားရဲမှစ၍လောကီရှင်ဘုရင်တို့နှင့်သူဗိုလ်ပါများတို့
သည်မြင်းစီးတော်မူသောသူနှင့်ရင်ဗိုလ်ပါတော်နှင့်ရင်စစ်တိုက်ခြင်း
၂၀ ငှါစည်းဝေးကြသည်ကိုငါမြင်လေ၏ သားရဲကိုဖမ်းမိကြ၏။သားရဲ
တံဆိပ်လက်မှတ်ကိုခံ၍သူရုပ်တုကိုကိုးကွယ်သောသူတို့ကိုလှည့်
စား၍သားရဲရှေ့၌နိမိတ်များကိုပြတတ်သောမိစ္ဆာပရောဖက်ကို
လည်းဖမ်းမိကြ၏။ ထိုသူနှစ်ပါးကိုအသက်ရှင်လျက်နှင့်ပင်ကန့်နှင့်

၂၁ လောင်သောမီးကန်ထဲသို့ချပြစ်ကြ၏။ ကြွင်းသောသူတို့သည်မြင်း
စီးတော်မူသောသူ၏ခံတွင်း ထဲကထွက်သောသန်လျက်ဖြင့် သေကြ
၏။သူတို့အသားကို ငှက်အားလုံးတို့သည်ဝအောင်စားကြ၏။

**

၁ တဖန်ကောင်းကင်ကဆင်းသည်အနက်ဆုံးတွင်း၏သော့နှင့်ကြီးသော
သံကြိုးကိုကိုင်လျက်ကောင်းကင်ကဆင်းသက်သည်ကိုငါမြင်လေ
၂ ၏။ ရှေးမြွေဟောင်း။ မာရ်နတ်စာတန်တည်းဟူသောနဂါးကိုကိုင်
၃ ဖမ်း၍အနှစ်တထောင်ဘို့ချည်နှောင်လေ၏။ အနှစ်တထောင်မကုန်မှီ
တိုင်အောင်လူအမျိုးတို့ကိုမလှည့်စားရသည်အကြောင်း။အနက်ဆုံးတွင်း
ထဲသို့ချပြစ်လှောင်ထား၍တံဆိပ်ခတ်လေ၏။အနှစ်တထောင်ကုန်ပြီး
၄ မှတဖန်ခဏလွှတ်ရလိမ့်မည်။ ။ပလ္လင်များကိုလည်းငါမြင်
၏။ပလ္လင်ပေါ်မှာထိုင်သောသူတို့သည် တရားစီရင်သောအခွင့်ကိုရ
ကြ၏။သားရဲနှင့်သူရုပ်တုကိုမကိုးကွယ်ဘဲသူတံဆိပ်လက်မှတ်ကိုခ
ပုံး၌၎င်းလက်၌၎င်းမခံဘဲနေ၍ယေရှု၏သက်သေခံတော်မူချက်နှင့်ဘုရား
သခင်၏နှုတ်ကပတ်တော်ကြောင့်လည်ပင်းဖြတ်ခြင်းကိုခံသောသူတို့
၏ဝိညာဉ်များကိုငါမြင်လေ၏။သူတို့သည်အသက်ရှင်၍အနှစ်တထောင်
၅ ပတ်လုံးခရစ်တော်နှင့်အတူစိုးစံကြ၏။ ကြွင်းသောလူသေတို့သည်ထို
အနှစ်တထောင်မကုန်မှီအသက်မရှင်ကြ။ ဤထမြောက်ခြင်းကားပဌမ
၆ ထမြောက်ခြင်းဖြစ်သတည်း။ ပဌမထမြောက်ခြင်းကိုဝင်စားသော
သူသည်မင်္ဂလာရှိသောသူ။သန့်ရှင်းသောသူဖြစ်၏။ထိုသို့သောသူတို့
သည် ဒုတိယသေခြင်း၏လက်နှင့် ကင်းလွတ်လျက်ဘုရားသခင်၏
ယဇ်ပရောဟိတ်။ ခရစ်တော်၏ ယဇ်ပရောဟိတ် ဖြစ်၍ အနှစ်တ
ထောင်ပတ်လုံးခရစ်တော်နှင့်အတူစိုးစံကြလိမ့်မည်။
၇ ထိုအနှစ်တထောင်ကုန်ပြီးမှစာတန်သည်ထောင်ထဲကလွတ်သောအ
၈ ခွင့်ကိုရ၍ အရေအတွက်အားဖြင့်သမုဒ္ဒရာသဲလုံးနှင့်အမျှဖြစ်သော
ဂေါဂ။မာဂေါဂတည်းဟူသောမြေကြီးလေးမျက်နှာပေါ်မှာနေသော
လူအမျိုးတို့ကိုလှည့်စားခြင်း ၎ါရင်စစ်တိုက်ဘို့စည်းဝေးစေခြင်း၎ါ
၉ ရင်တက်လိမ့်မည်။ ထိုသူများတို့သည်မြေကြီးမျက်နှာပေါ်သို့တက်၍
သန့်ရှင်းသူတို့၏တပ်ကိုရင်ချစ်ဖွယ်မြို့တော်ကိုရင်ဝိုင်းကြ၏။ထိုအခါ
ဘုရားသခင်အထံတော်မှကောင်းကင်မီးဆင်း၍သူတို့ကိုမျိုလေ၏။
၁၀ သူတို့ကိုလှည့်စားသောမာရ်နတ်ကိုလည်းသားရဲနှင့်မိစ္ဆာပရောဖက်

ရှိရာကန့်နှင့်ရောနှောသောမီးကန် ထဲသို့ချပြစ် လျှင် သူတို့သည်နေ့
ညဉ့်မပြတ်ကမ္ဘာအဆက်ဆက်ပြင်းစွာသောဝေဒနာကိုခံရကြလတ္တံ့။
၁၁ ။တဖန်တုံ။ဖြူသောပလ္လင်ကြီးကိုရှင်ပလ္လင်ပေါ်မှာထိုင်
သောသူကိုရှင်ငါမြင်လေ၏။ကောင်းကင်။မြေကြီးသည်မျက်နှာတော်
၁၂ မှပြေး လွင့် ၍ သူတို့နေစရာအရပ်မရှိ။ သေလွန်သောသူအကြီးအ
ငယ် တို့သည် ပလ္လင်တော်ရှေ့မှာရပ်နေကြသည် ကိုငါမြင်လေ၏။စာ
စောင် တို့သည် ဖွင့် ထား လျက် ရှိကြ၏။ အသက် စာစောင် တည်းဟူ
သောအခြားတပါးသောစာစောင်ကိုလည်း ဖွင့်လေ၏။သေလွန်သော
သူတို့သည်မိမိတို့အကျင့်အတိုင်းစာစောင်တို့၌ရေးထားချက်များ နှင့်
၁၃ အညီတရားစီရင်ခြင်းကိုခံကြ၏။ သမုဒ္ဒရာသည်မိမိ၌ရှိသောလူသေ
တို့ကိုအပ်ပေး၏။မရဏာနှင့်မရဏာနိုင်ငံသည်လည်းမိမိတို့၌ ရှိသော
လူသေတို့ကိုအပ်ပေးကြ၏။ လူအသီးအသီးတို့ သည် မိမိတို့အကျင့် အ
၁၄ တိုင်းတရားစီရင်ခြင်းကိုခံကြ၏။ ထိုအခါမရဏာနှင့်မရဏာနိုင်ငံကို
မီးကန် ထဲသို့ချပြစ်လေ၏။ ထိုသေခြင်း ကား ဒုတိယသေခြင်း ဖြစ်သ
၁၅ တည်း။အသက်စာစောင်၌စာရင်းမဝင်သော်သူ ရှိသမျှကိုလည်းမီးကန်
၁ ထဲသို့ချပြစ်လေ၏။ ။ကောင်းကင်သစ်။မြေကြီးသစ်ကို
လည်းငါမြင်၏။အဘယ်သို့နည်းဟူမူကား။ ရှေးကောင်းကင်။ရှေးမြေ
၂ ကြီးသည်ရွေ့သွားကြပြီး။ထိုအခါမှစ၍သမုဒ္ဒရာမရှိ။ သန့်ရှင်းသော
မြို့။ယေရုရှလင်မြို့သစ်သည်မိမိခင်ပွန်းအို့တန်ဆာဆင်သောမင်္ဂလာ
ဆောင် သတို့သမီး ကဲ့သို့ပြင်ဆင်လျက် နှင့်ဘုရားသခင်အထံတော်မှ
၃ ကောင်းကင် အုံထဲကဆင်း သက် သည် ကိုငါ မြင် လေ ၏။ ကောင်း
ကင် မှ ကြီး သော အသံကား။ ဘုရား သခင် ၏တဲတော်သည် လူတို့အထံ
မှာရှိ၏။လူတို့နှင့်အတူကျိန်းဝပ်တော်မူမည်။ သူတို့သည်ကိုယ်တော်
၏လူဖြစ်ကြလိမ့်မည်။ဘုရားသခင်ကိုယ် တိုင်လည်း သူတို့နှင့်အတူ
၄ ရှိနေ၍သူတို့ဘုရားသခင်ဖြစ်တော်မူလိမ့်မည်။ သူတို့မျက်စိ၌မျက်
ရည်အားလုံးကို သုတ်တော်မူလိမ့်မည်။နောက် တဖန်သေဘေးမရှိရ
ပြီး။ညည်းတွားခြင်း။အော်ဟစ်ခြင်း။ပင်ပန်းခြင်းလည်းမရှိရပြီး။အ
ဘယ်ကြောင့် နည်း ဟူမူကား။ ရှေးဖြစ်ဘူး သောအရာတို့သည် ရွေ့
၅ သွားကြပြီး။ ပလ္လင် တော်ပေါ်မှာထိုင် တော်မူသောသူကလည်း ငါ
သည်ခပ် သိမ်း သောအရာတို့ ကို အသစ်ဖန်ဆင်းမည်ဟုမိန့် တော်မူ
၏။ တဖန်တုံ။ ရေးထား တော့။ ဤစကားသည်သစ္စာစကား။ယုတ်မှန်

၆ သော်စကားဖြစ်၏ ဟူ၍ ငါအမှူပြီးပြီ။ ငါသည် အာလဖဖြစ်၏။
ဩမေဃလည်းဖြစ်၏။ အစနှင့်အဆုံး လည်းဖြစ်၏။ ရေငတ်သောသူ
၇ အားအသက် စမ်းရေ ကိုအဖိုးမယူဘဲ ငါပေးမည်။ အောင် မြင်သော
သူသည် ဤအရာတို့ကို အမွေခံလိမ့်မည်။ ငါသည် သူ၏ဘုရား သခင်
၈ ဖြစ်မည်။သူသည်လည်း ငါ့သား ဖြစ်လိမ့်မည်။ ကြောက်တတ်သော
သူ။ မရိုကြည် သောသူ။စက် ဆုတ် ရွံ့ရှာ ဖွယ်သော သူ။ လူ့အသက်ကို
သတ်သောသူ။မတရားသော မေထုန် ၌ မှီဝဲသော သူ။ပြုစားတတ်သော
သူ။ရုပ်တုကိုကိုးကွယ်သောသူ။ မုသာစကား ကို ပြောသောသူအား
လုံးတို့သည်ဒုတိယသေခြင်းတည်း ဟူသောကန့် နှင့် လောင်သောမီး
ကန်တဲ၌မိမိတို့အဖို့ကိုရကြလိမ့်မည်ဟူ၍ငါအားမိန့်တော်မူ၏။

❋❋

၉ နောက်ဆုံးဘေးဒဏ်ခုနှစ်ပါးနှင့်ပြည့်သောဖလားခုနှစ်လုံးကိုဆောင်
သောကောင်းကင်တမန်ခုနှစ်ပါးတွင်တပါးသည်လာ၍ငါနှင့်စကား
ပြောလျှင် လာခဲ့ပါ။ သိုး သငယ် ၏ခင်ပွန်း တည်း ဟူသောမင်္ဂလာ
၁၀ ဆောင်သတို့သမီးကိုငါပြမည်ဟုဆိုပြီးမှ မြင့်လှသောတောင်ကြီးဆီ
သို့ဝိညာဉ်တော်အားဖြင့် ငါကိုဆောင်သွား၍ သန့်ရှင်းသောယေရုရှ
လင်မြို့သည်ဘုရားသခင်၏ဘုန်းတော်နှင့်ပြည့်စုံလျက်ဘုရားသခင်
အထံတော်မှကောင်း ကင်ဘုံထဲကဆင်းသက် သည် ကိုငါ့အားပြလေ
၁၁ ၏။ ထို မြို့၏အရောင်အဝါသည် ကျောက်သလင်းနှင့်တူသော
၁၂ မြတ်ဆုံးသောကျောက်မျက်မှုန်နှင့်တူ၏။ ကြီးမြင့်သောမြို့ရိုး လည်း
၁၃ ရှိ၏။အရှေ့ဘက်တံခါးသုံးပေါက်။မြောက်ဘက်သုံးပေါက်။တောင်ဘ
က်သုံးပေါက်။အနောက်ဘက်သုံးပေါက်။တံခါးဆယ်နှစ်ပေါက်ရှိ၏ထို
တံခါးဆယ်နှစ်ပေါက်၌ကောင်းကင်တမန်ဆယ်နှစ်ပါးရှိ၏။ဣသရေ
လအမျိုးသားဆယ်နှစ်မျိုး၏နာမတို့သည်တံခါးပေါ်မှာရေးထားလျက်
၁၄ ရှိ၏။ မြို့ရိုးအမြစ်ဆယ်နှစ်ထပ်ရှိ၏။သိုးသငယ်၏တမန်တော်ဆယ်
နှစ်ပါး၏နာမတို့သည်မြို့ရိုးအမြစ်ပေါ်၌ရေးထားလျက်ရှိ၏။
၁၅ ငါနှင့်စကားပြောသောသူသည်မြို့ကိုင်တံခါးတို့ကိုငင်မြို့ရိုးကိုင်တိုင်း
၁၆ ရအောင်တိုင်းစရာရွှေကျူလုံးပါ၏။မြို့သည်စတုရန်းလေးထောင့်ဖြစ်
၏။သူသည်ကျူလုံး နှင့် မြို့ကိုတိုင်း၍ ယူဇနာတရာ နှစ်ဆယ်ရှိ၏။မြို့
၁၇ ၏အနံ့။အလျား။အမြင့်။အတူတူရှိ၏။ မြို့ရိုးဒုကိုတိုင်း၍လူအတောင်
တည်းဟူသောကောင်းကင်တမန်အတောင်အားဖြင့်တရာလေးဆယ်

၁၇ လေးတောင်ရှိ၏။ မြို့ရိုးကိုယ်သည်နဂါးသွဲ့ကျောက်ဖြစ်၏။မြို့သည်
၁၈ လည်းကြည်လင်သောဖန်နှင့်တူသောရွှေစင်ဖြစ်၏။ မြို့ရိုးအမြစ်တို့သည်
ကျောက်မြတ်အမျိုးမျိုးနှင့်ပြည့်စုံသည်ဖြစ်၍ပဌမအမြစ်ကားနဂါး
သွဲ့ဖြစ်၏။ဒုတိယအမြစ်ကားနီလာ။ တတိယအမြစ်ကားမဟူရာ။ စ
၂၀ တုတ္ထအမြစ်ကားမြ။ ပဉ္စမအမြစ်ကားကြောင်။ဆဋ္ဌမအမြစ်ကား
ကျောက်နီ။ သတ္တမအမြစ်ကားခရုသုလိတ်။ အဋ္ဌမအမြစ်ကားမျက်
ရွဲ။ နဝမအမြစ်ကားဥဿဘုရား။ ဒသမအမြစ်ကားခရုသုပြတ်။ ဧ
ကာဒသမအမြစ်ကားဇါကိန္တ။ ဒွါဒသမအမြစ်ကားဂေါမိတ်ဖြစ်သ
၂၁ တည်း။ တံခါးဆယ်နှစ်ပေါက် အသီးအသီး တို့သည်ပုလဲတပျားစီ
ဖြင့်ပြီး၍ပုလဲဆယ်နှစ်ပျားဖြစ်သတည်း။မြို့လမ်းမသည်ကြည်လင်
၂၂ သောဖန်ကဲ့သို့သောရွှေစင်ဖြစ်၏။ မြို့ထဲ၌ဗိမ်မှာန်တော်ကိုငါမမြင်။
အဘယ်ကြောင့်နည်းဟူမူကား။အနန္တတန်ခိုးနှင့်ပြည့်စုံတော်မူသော
ထာဝရအရှင်။ဘုရားသခင်နှင့်သိုးသငယ်သည် မြို့၏ဗိမ်မှာန် ဖြစ်
၂၃ တော်မူ၏။ ထိုမြို့သည် နေ၏အရောင်။လ၏အရောင်ကိုအလိုမရှိ။အ
ဘယ်ကြောင့်နည်းဟူမူကား။ ဘုရားသခင်၏ဘုန်းတော်သည်ထိုမြို့
၂၄ ကိုလင်းစေ၏။သိုးသငယ်သည်လည်းထိုမြို့၏ဆီမီးဖြစ်၏။ လူအမျိုးတို့
သည်ထို မြို့၏အလင်းကိုအမှီပြု၍ သွားလာကြလိမ့်မည်။ လောကီရှင်
ဘုရင်တို့သည်လည်းမိမိတို့ဘုန်း အသရေကိုထိုမြို့ထဲသို့ဆောင်ခဲ့ကြ
၂၅ လိမ့်မည်။ တံခါးတို့ကိုနေ့အချိန်၌အလျှင်းမပိတ်တတ်။ညဉ့်အချိန်မူ
၂၆ ကားမရှိ။ လူအမျိုးတို့၏ဘုန်းအသရေကို မြို့ထဲသို့ဆောင်ခဲ့ကြလိမ့်
၂၇ မည်။ ညစ်ညူးသောအရာ။စက်ဆုတ်ဖွယ်သောအရာ။မုသာနှင့်စပ်
ဆိုင်သောအရာတစုံတခုမျှမဝင်ရဘဲသိုးသငယ်၏အသက်စာစောင်
၁ ၌စာရင်းဝင်သောသူတို့သာလျှင်ဝင်ရကြ၏။ ။ကောင်း
ကင်တမန်သည်ကျောက်သလင်းကဲ့သို့ကြည်လင်လျက်ဘုရားသခင်
နှင့်သိုး သငယ်၏ပလ္လင်တော်ထဲကထွက်သောအသက်ရေစီးရာမြစ်
၂ ကိုငါ့အားပြလေ၏။ မြို့လမ်းမတွင်ထိုမြစ်နှစ်ဘက်၌အသက်ပင်ရှိ၏။
ထိုအပင်သည်အသီးဆယ်နှစ်မျိုးကိုသီးတတ်၏။မိမိအသီးကိုလည်း
လတိုင်းပေးတတ်၏။ အရွက်သည်လည်း လူအမျိုးတို့၏အနာရောဂါ
၃။၄ ညိမ်းစရာဘို့ဖြစ်၏။ ဘေးဥပါဒ်တစုံတခုမျှနောက်တဖန်မရှိရ
ပြီ။အဘယ်ကြောင့်နည်းဟူမူကား။ ထိုမြို့၌ဘုရားသခင်နှင့်သိုးသ
ငယ်၏ပလ္လင်တော်ရှိ၍ ကျွန်တော်ရင်းတို့သည်ဘုရားဝတ်ကိုပြုကြ

လိမ့်မည်။မျက်နှာတော်ကိုမြင်ရ၍ သူတို့နဖူး၌ လည်း နာမတော်ရေး
၅ ထားလျက်ရှိလိမ့်မည်။ နောက်တဖန်ညဉ့်မရှိရပြီး။ဆီမီးကိုအလိုမ
ရှိ။နေ၏အရောင်ကိုလည်းအလိုမရှိ။ အဘယ်ကြောင့်နည်းဟူမူကား။
ထာဝရအရှင်။ ဘုရား သခင်သည် သူတို့ ၌ ရောင်ခြည်တော်ကိုသွန်း
တော်မူ၍သူတို့သည်ကမ္ဘာအဆက်ဆက်စိုးစံကြလိမ့်မည်။

❋❋

၆ ကောင်းကင်တမန်ကလည်း ဤ စကား သည် သစ္စာစကား။ ဟုတ်မှန်
သောစကားဖြစ်၏။ပရောဖက်ဝိညာဉ်တို့၏ထာဝရအရှင်။ ဘုရားသ
ခင်သည် ကာလမကြာမမြင့် ဖြစ် ရမည် အမှုအရာများကို မိမိအစေခံ
ကျွန်တို့အားပြစေခြင်းငှါကောင်း ကင်တမန်တော်ကိုစေလွှတ်တော်မူ
၇ ပြီး။ ငါသည် မြန် မြန် လာ၏။ ဤ စာစောင် ၏အနာဂတ္တိစကား ကို
၈ စောင့်ရှောက်သောသူသည်မင်္ဂလာရှိ၏ဟုဆို လေ၏။ ငါယောဟန်
သည်ဤအရာများကိုကြား မြင်ရသောသူဖြစ်၏။ ကြား မြင်ပြီးလျှင်
ထိုအရာများကိုပြသောကောင်းကင်တမန်၏ခြေရင်း၌ကိုးကွယ်ခြင်း
၉ ငှါငါပျပ်ဝပ်၏။ သူကလည်း မပြုပါ နှင့်။ ငါကားသင် ၏လုပ်ဖော်
ဆောင်ဖက်ဖြစ်၏။ သင်၏အစ်ကိုပရောဖက်တို့နှင့် ဤစာစောင်၏စ
ကားကိုစောင့်ရှောက်သောသူတို့၏လုပ်ဖော်ဆောင်ဖက်လည်းဖြစ်၏။
၁၀ ဘုရားသခင်ကိုကိုးကွယ်တော့ဟုဆို၏။ ။တဖန်တုံငါအားမိန့်
တော်မူသည်ကား။ဤစာစောင်၏အနာဂတ္တိစကားကိုတံဆိပ်မခတ်နှင့်။
၁၁ ကာလအချိန်ရောက်လုနီးပြီး။ မတရားသောသူသည်မတရားသဖြင့်ပြု
ပါလေစေဦး။ညစ်ညူးသောသူသည်ညစ်ညူးပါလေစေဦး။ ဖြောင့်မတ်
သောသူသည်ဖြောင့် မတ်ပါလေစေဦး။သန့်ရှင်း သောသူသည် သန့်
၁၂ ရှင်းပါလေစေဦး။ ငါသည်မြန် မြန်လာ၏။ငါသည် အကျိုးအပြစ်ကို
ဆောင်ခဲ့သည်ဖြစ်၍လူအသီးအသီးတို့အါးမိမိတို့အကျင့်အတိုင်းဆပ်
၁၃ ပေးမည်။ ငါသည်အာလဖ နှင့် ဩမေဃဖြစ်၏။ အဦးဆုံးသောသူ၊
၁၄ နောက်ဆုံးသောသူဖြစ်၏။ အစနှင့်အဆုံးလည်းဖြစ်၏။ အသက်ပင်
ကို ပိုင်၍ မြို့ထဲသို့ဝင် ရအောင် ပညတ်တော်တို့ကိုကျင့် သောသူတို့
၁၅ သည်မင်္ဂလာရှိကြ၏။ ပြင်၌ကားခွေးဖြစ်သောသူ။ပြုစားတတ်သော
သူ။မတရားသောမေထုန်၌မှိဝဲသောသူ။ လူအသက်ကို သတ်သောသူ။
ရုပ်တုကိုကိုးကွယ်သောသူ။မုသာစကားကို အလိုရှိ၍ သုံးသောသူ
၁၆ အားလုံးတို့သည် ရှိကြ၏။ ငါယေရှုသည် အသင်းတော်တို့အဖို့ဤအ

ရာများကို သင်တို့အား သက်သေခံစေခြင်းငှါငါကောင်းကင်တမန်
ကိုငါစေလွှတ်ပြီး။ငါသည်ကားဒါဝိဒ်၏အမြစ်ဖြစ်၏။အနွယ်လည်းဖြစ်
၁၇ ၏။ထွန်းတောက်သောရှိုးသောက်ကြယ်လည်းဖြစ်၏။ ဝိညာဉ်တော်
နှင့် မင်္ဂလာဆောင်သတို့သမီး ကလာခဲ့ပါဟုဆိုကြ၏။ ကြားသောသူက
လည်းလာခဲ့ပါဟုဆိုပါလေစေ။ ရေငတ်သောသူသည်လာပါလေစေ။အ
လိုရှိသောသူသည်အဖိုးမပေးဘဲအသက်ရေကိုယူပါလေစေ။
၁၈ ။ဤစာစောင်၏အနာဂတ္တိစကားကိုကြားသောသူအားလုံးတို့
အား ငါသက်သေခံသည်ကား။ အကြင်သူသည် ဤ အရာတို့၌အသစ်
သွင်းထား၏။ထိုသူအပေါ်မှာဤစာစောင်၌ရေးထားသောဘေးဒဏ်
၁၉ တို့ကိုဘုရားသခင်သက်ရောက်စေတော်မူမည်။ အကြင်သူသည်ဤစာ
စောင်၏ အနာဂတ္တိစကားအချို့ကို နှုတ်ပယ်၏။ ဤစာစောင်၌ရေး
ထားသောအသက်ပင်နှင့်ဝင်သန့်ရှင်းသောမြို့နှင့် ဝင်ထိုသူစပ်ဆိုင်
၂၀ သောအခွင့်ကိုဘုရားသခင် နှုတ် ပယ်တော်မူမည်။ ငါမြန်မြန်လာ
သည်မှန်ပေ၏ဟု ဤ အရာများကိုသက်သေခံသောသူမိန့်တော်မူ၏။
၂၁ ။မှန်ပါ၏။သခင်ယေရှု။ကြွလာတော်မူပါ။ငါတို့သခင်ယေ
ရှုခရစ်၏ကျေးဇူးတော်သည်သန့်ရှင်းသူအားလုံး၌ဖြစ်စေသတည်း။

။ဗျာဒိတ်ကျမ်းပြီး၏။



 